ပြည်ထောင်စုမြန်မာနိုင်ငံတော်
သာသနာရေးဝန်ကြီးဌာန

သာသနာရေးဦးစီးဌာန

# ဗုဒ္ဓဘာသာလက်စွဲကျမ်း

## ပထမတွဲ

သာသနာ - ၂၅၅၂ ကောဇာ - ၁၃၇၀ ၂၀၀၈

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ
သာသနာရေးဝန်ကြီးဌာန

သာသနာရေးဦးစီးဌာန

# ဗုဒ္ဓဘာသာလက်စွဲကျမ်း

(ပထမတွဲ)

သာသနာ-၂၅၅၂ ကောဇာ-၁၃၇၀ ၂၀၀၈

# ဗုဒ္ဓဘာသာလက်စွဲကျမ်း

# နိဒါန်း

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

ဘုရား တရား သံဃာ ရတနာသုံးပါးအား ကြည်ညိုဝပ်တွား ရှိခိုးကန်တော့ပါ၏။

မိဘနှစ်ပါးနှင့်ဆရာသမားများအား ရိုသေဝပ်တွား ရှိခိုးကန်တော့ပါ၏။

**ခေတ်ဆန်းချိန်ခါ ဗုဒ္ဓဘာသာ**

နိုင်ငံတော် ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့သည် (၁၈-၉-၈၈) နေ့မှစ၍ နိုင်ငံတော်ကို တာဝန်ယူ အုပ်ချုပ်လာခဲ့ပြီး သမိုင်းဝင် ရှေးဟောင်းစေတီပုထိုးများ ဘက်စုံမွမ်းမံပြုပြင်တည်ဆောက်ခြင်း၊ စေတီအသစ်များ တည်ထားကိုးကွယ်ခြင်း၊ ရှေးဟောင်း သိမ်၊ ကျောင်း၊ ဇရပ်များ ပြုပြင်မွမ်းမံခြင်း၊ ကျောင်းသစ်၊ ကန်သစ်များ တည်ဆောက်ခြင်းဖြင့် သာသနိက အဆောက်အအုံများကို ခံ့ညားထည်ဝါစွာ သစ်လွင်တောက်ပစေလျက် ကြည်ညိုဖွယ်ဖြစ်အောင် ဖန်တီးခဲ့လေပြီ။ ပြည်သူအပေါင်းအား ကောင်းမှုကုသိုလ်တရား၌ ပျော်မွေ့နိုင်စေရန် ဦးဆောင်မှု ပေးခဲ့လေပြီ။ ပရိယတ် ပဋိပတ် သာသနာ့တာဝန်ကို ထမ်းဆောင်တော်မူနေကြသော သာသနာပြု ပုဂ္ဂိုလ်များ၊ စာချဆရာတော်ကြီးများ၊ စာအောင်သံဃာတော်များအား လှူဒါန်းထောက်ပံ့ငွေများကို ခြောက်ဆတိုးမြှင့်၍ လှူဒါန်းခဲ့လေပြီ။ ထို့ကြောင့် ဤခေတ်ချိန်ခါသည် ဗုဒ္ဓသာသနာတော်အတွက် တခေတ်ဆန်းချိန်ဟု ဆိုနိုင်ပေသည်။ ဗုဒ္ဓသာသနာတော်အတွက် မကြုံစဖူး ထူးကဲလှသဖြင့် "ရွှေခေတ်"ဟု ဆိုရပေမည်။

သို့ရာတွင် ဤကဲ့သို့ သာသနိက အဆောက်အအုံများကို သစ်လွင်ခံ့ညားထည်ဝါအောင် ပြုပြင်မွမ်းမံခြင်း၊ သာသနာ့ဝန်ဆောင် ပုဂ္ဂိုလ်များအား ချီးမြှောက်ထောက်ပံ့ခြင်း ပြုရုံမျှဖြင့် ဗုဒ္ဓသာသနာတော် အရှည် တည်တံ့ခိုင်မြဲရန်အတွက် စိတ်မချရသေး။ ဤခေတ် လူငယ်များ၏ နှလုံးသားအတွင်းဝယ် ဗုဒ္ဓဘုရားရှင်၏ အဆုံးအမ တရားတော်များ စွဲမြဲစွာ ကိန်းဝပ်တည်ရှိနေမှသာလျှင် ဗုဒ္ဓသာသနာတော် အရှည်တည်တံ့ခိုင်မြဲရေးအတွက် စိတ်အေးရပေလိမ့်မည်။ ဤသို့ တွေးခေါ် မြော်မြင်ကြသော နိုင်ငံ့ခေါင်းဆောင်ကြီးအကဲများသည် (၂၀-၆-၈၉)နေ့တွင် ကျွန်ုပ်ကို ခေါ်ယူ၍ အောက်ပါအတိုင်း တာဝန်တစ်ရပ် ပေးအပ်ခဲ့ပါသည်—

ဗုဒ္ဓဘာသာလက်စွဲကျမ်း (က)—ပ·မ·သ·စ

"ဤခေတ် လူငယ် လူရွယ် လူလတ်များသည် ဗုဒ္ဓဘာသာဘုန်းကြီး ကျောင်းများ၌ မနေခဲ့ရခြင်း၊ ဗုဒ္ဓဘာသာစာပေနှင့် ယဉ်ကျေးမှုကို မသင်ယူခဲ့ရခြင်းတို့ကြောင့် ကမ္ဘာ့အလယ်တွင် ရှက်စဖွယ် ဖြစ်လောက် အောင် ရိုင်းစိုင်းရက်စက်မှုများကို လူပုံအလယ်၌ အတင့်ရဲစွာ ကျူးလွန် ပြခဲ့ကြကြောင်း၊ ထို့ကြောင့် လူငယ်လူရွယ်လူလတ်များ၏ စိတ်ဓာတ် ယဉ်ကျေးသိမ်မွေ့လာစေရန်၊ ဗုဒ္ဓယဉ်ကျေးမှုများ တစိမ့်စိမ့် ပြန်သွင်း ပေးရန် လိုအပ်နေကြောင်း၊ မင်္ဂလာသုတ်ကို အခြေခံ၍ ကိုယ်ကျင့်တရား ကောင်းမွန်လာစေရန် အပတ်စဉ် ဆောင်းပါးများကို ကလေး လူကြီး ဖတ်ချင်စဖွယ်ဖြစ်အောင် ရေးသားပေးရန် လိုအပ်ကြောင်း၊ ဓမ္မပဒနှင့် ဇာတ်တော်(၅၅၀) သုတ္တန်များမှ ဝတ္ထုဇာတ်ကြောင်းများဖြင့် တန်ဆာ ဆင်၍ လောကကြောင်း ဓမ္မကြောင်း စုံလင်စွာ ရေးရမည်ဖြစ်ကြောင်း"

ကျွန်ုပ်သည် ပေးအပ်သော တာဝန်နှင့် ဝတ္တရားကို ကျေပွန်စွာ ထမ်းဆောင် ခဲ့ပါကြောင်းကို "မင်္ဂလာနိဒါန်း" စာဖတ်ပရိသတ်များ သိရှိပြီး ဖြစ်ပါသည်။

တဖန်(၃၀-၆-၇၉)နေ့တွင် နိုင်ငံတော် ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့ ဒုတိယဥက္ကဋ္ဌဒုတိယတပ်မတော်ကာကွယ်ရေးဦးစီးချုပ်နှင့်ကာကွယ်ရေးဦးစီးချုပ် (ကြည်း)ဗိုလ်ချုပ်ကြီးသန်းရွှေသည် ကျွန်ုပ်အား ခေါ်ယူ၍ ဗုဒ္ဓဘာသာဝင်များ အတွက် မွေးသည်မှ သေသည်အထိ တစ်သက်တာအတွင်း အရွယ်အလိုက်၊ အချိန်အခါအလိုက် လိုက်နာကျင့်သုံး ဆောင်ရွက်ရမည့် ဘာသာရေးဆိုင်ရာ လုပ်ငန်းတာဝန်များကို တစ်ကျမ်းတည်းဖြင့် ပြည့်ပြည့်စုံစုံ ရေးသားပြုစုပေးစေ လိုကြောင်း၊ ဩကာသကန်တော့ခန်း၊ ဆွမ်းကပ်၊ ပန်းကပ်၊ ရေချမ်းကပ်နည်းမှ စ၍ ဒါနပြုနည်း၊ သီလဆောက်တည်နည်း၊ ပုတီးစိပ်နည်း၊ သမထဘာဝနာ ပွားများနည်း၊ ဝိပဿနာရှုနည်း၊ ဈာန်၊ မဂ်၊ ဖိုလ်၊ နိဗ္ဗာန် ရနိုင်သည်အထိ ကျင့်ကြံအားထုတ်နည်းများ စုံစုံလင်လင် ပါဝင်စေလိုကြောင်း၊ စကားအသုံး အနှုန်းနှင့် ဝါကျအရေးအသားများမှာ လူပြန်တော်ပညာရှိများသာ နားလည် နိုင်သည့် အသုံးအနှုန်းရေးထုံးများကို ရှောင်ရှား၍ ပါဠိစာပေ အခြေခံမရှိသည့် သာမန်လူတိုင်း ဖတ်၍ နားလည်နိုင်အောင် ကျမ်းတစ်စောင်တစ်ဖွဲ့ ရေးပေး စေလိုကြောင်း ညွှန်ကြား၍ အောက်ဖော်ပြပါအတိုင်း မာတိကာခေါင်းစဉ်များ ချမှတ်ပေးပါသည်—

## အပိုင်း (၁)

### ယုံကြည်ကိုးကွယ်မှု

မိဘာတာဝန်၊ ဩကာသကန်တော့ခန်း၊ ထိခြင်းငါးပါးဖြင့် ရှိခိုးခြင်း၊ ဆွမ်း၊ ရေချမ်း၊ ပန်း၊ ဆီမီးကပ်လှူနည်း၊ ဆုတောင်းခြင်း၊ အမျှဝေခြင်း၊ ဘုရားဂုဏ်တော်ကိုးပါး၊ တရားဂုဏ်တော်ခြောက်ပါး၊ သံဃာ့ဂုဏ်တော်ကိုးပါး၊ ဘုရားရှိခိုးအမျိုးမျိုး၊ သရဏဂုံတည်ခြင်းနှင့် ပျက်ခြင်း။

## အပိုင်း (၂)

### ပါရမီခန်း

ဘုရားဖြစ်ရန် ပါရမီတော်များ ဖြည့်ကျင့်ခြင်း၊ အသင်္ချေ ၄-မျိုး၊ လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်းရေတွက်ပုံ၊ ဘုရားလောင်း ၃-မျိုး၊ ပါရမီ ၁၀-ပါး အပြား (၃၀)၊ စွန့်ခြင်းကြီး ငါးပါး၊ စရိယ ၃-ပါး၊ နှစ်ဆယ့်လေးဆူသော ဘုရားရှင်တို့ထံ ဗျာဒိတ်ခံယူခြင်း။

## အပိုင်း (၃)

### ဒါနခန်း

ဒါနပြုနည်းများ၊ ဒါန၏ အကျိုးတရားများ၊ ပုဗ္ဗ မုဉ္စ အပရ စေတနာသုံးတန်အကြောင်း၊ ဒါနအမျိုးမျိုး၊ ဒါနကို ပြန်လည်ဆင်ခြင် အောက်မေ့ခြင်း စာဂါနုဿတိ၊ အလှူခံပုဂ္ဂိုလ်ရွေးချယ်နည်း၊ ဗုဒ္ဓလက်ထက်တော်က အလှူ့ဒါယကာ၊ အလှူ့ဒါယိကာမများ အကြောင်း။

## အပိုင်း (၄)

### သီလခန်း

သီလအဓိပ္ပာယ်နှင့် သီလ၏ အကျိုးတရားများ၊ သီလ ခံယူဆောက်တည်နည်းများ၊ ငါးပါးသီလ၊ ရှစ်ပါးသီလ၊ ဆယ်ပါးသီလ၊ အာဇီဝဋ္ဌမက သီလ၊ ဥပုသ်စောင့်ပုံ အစီအစဉ်၊ စာရိတ္တသီလနှင့် ဝါရိတ္တသီလ စသော သီလအမျိုးမျိုး။

## အပိုင်း (၅)

### သမာဓိခန်း

သမာဓိထူထောင်နည်း၊ ဈာန်သမာဓိများ၊ ဥပစာရသမာဓိ၊ ရူပဈာန်သမာဓိ၊ အရူပဈာန်သမာဓိ၊ကသိုဏ်း(၁၀)ပါး၊ အသုဘ(၁၀)ပါး၊ အနုဿတိ(၁၀)ပါး စသော သမထကမ္မဋ္ဌာန်း(၄၀) ပွားများ အားထုတ်နည်းများ၊ ပါဠိတော် အဋ္ဌကထာ ဋီကာကျမ်းဂန်လာ အားထုတ်နည်းများနှင့် အာစရိယဝါဒနည်းများ၊ ဈာန်ဝင်စားနည်းများ။

## အပိုင်း (၆)

### ပညာခန်း

သတိပဋ္ဌာန် (၄)ပါး သတိပဋ္ဌာန် အားထုတ်နည်းများ၊ ခန္ဓာ အာယတန ဓာတ် သစ္စာ တရားများ ရှင်းလင်းချက်၊ ပဋိစ္စသမုပ္ပါဒ်နည်း,ပဋ္ဌာန်းနည်းတို့ဖြင့် ကြောင်းကျိုးဆက်စပ်နည်း၊ အာသဝေါတရား၊ သြဃတရား၊ ယောဂတရား၊ ဥပါဒါန် (၄)ပါး၊ အနုသယ (၇)ပါး၊ နီဝရဏ (၆)ပါး၊ သံယောဇဉ် (၁၀)ပါး၊ ကိလေသာ (၁၀)ပါး၊ သဿတဒိဋ္ဌိ၊ ဥစ္ဆေဒဒိဋ္ဌိ၊ ဗောဓိပက္ခိယတရား (၃၇)ပါး၊ ဝိသုဒ္ဓိ(၇)ပါး၊ ဝိပဿနာဉာဏ်စဉ် (၁၀)ပါး၊ ဝိပဿနုပက္ကိလေသတရား (၁၀)ပါး၊ သမာပတ် (၈)ပါး၊ အဘိညာဉ် (၆)ပါး၊ ကိလေသာပယ်ခြင်း၊ အရိယာပုဂ္ဂိုလ်(၈)ယောက်၊မဂ်ဖိုလ်နိဗ္ဗာန်အဓိပ္ပာယ်ရှင်းလင်းချက်များ၊

## အပိုင်း (၇)

### ဂါထာမန္တန်များ

"နမော တဿ" အနက်ရယ်ကင်းဂါထာ၊ သဝေ မပါ ကိုးဂါထာ၊ "ဣတိပိ သော ဘဂဝါ" ဂါထာ၊ သမ္ဗုဒ္ဓေကပ်ကျော်မန္တန်တော်ကြီး၊ လာဘာသိဒ္ဓိ ရှင်သီဝလိဂါထာ စသော ဗုဒ္ဓမန္တန်တော်များ။

## အပိုင်း (ဂ)

### အထွေထွေ

အပါယ်လေးဘုံ၊ လူ့ဘုံ၊ နတ်ဘုံ စသော (၃၁)ဘုံ၌ သံသရာ လည်ခြင်းနှင့် ဘဝကူးပုံများ၊ ကံ၊ ကံ၏အကျိုး၊ ကံအမျိုးမျိုး၊ သေခါနီး အာရုံနိမိတ်ထင်ပုံ၊ သေပြီးနောက် သုဂတိဘဝရောက်စေရန် လိုက်နာပြုကျင့်ဖွယ်များ၊ ဩကာသ မှူကွဲများ၊ ပါဠိပါဌ်ဆင့် ရေးနည်း ဖတ်နည်းများ။

## အပိုင်း (ဃ)

နက်နဲ ခက်ခဲသည့် ခက်ဆစ်ဝေါဟာရ ရှင်းလင်းချက်များ၊ မှတ်သားဖွယ် အက္ခရာစဉ်များ။

ကျွန်ုပ်သည် ဗိုလ်ချုပ်ကြီးချမှတ်ပေးသည့် မာတိကာခေါင်းစဉ်များအတိုင်း အချက်အလက်များ ရှာဖွေစုဆောင်းပေးရန် (၂၇-၇-၇၉)နေ့တွင် အောက်ဖော်ပြပါ ပုဂ္ဂိုလ်များအား တာဝန်များ ခွဲခြား သတ်မှတ်ပေးခဲ့ပါသည်—

| | အမည် | တာဝန် |
|---|---|---|
| (က) | ဦးစိုးအောင် (သုတေသနမှူး) | ယုံကြည်ကိုးကွယ်ဆည်းကပ်မှု |
| (ခ) | ဦးထွန်းရွှေ (စာပေစိစစ်ရေးမှူး) | ဒါနခန်း |
| (ဂ) | ဦးသိန်းအောင် (လက်ထောက်ညွှန်ကြားရေးမှူး) | သီလခန်း |
| (ဃ) | ဒေါ်ခင်နွဲ့ဟန်ကြည် (လက်ထောက်ပေစာမှူး) | သမာဓိခန်း |
| (င) | ဦးဝင်းအောင် (ကျမ်းပြုမှူး) | ပညာခန်း |
| (စ) | ဦးအောင်သိန်းညွှန့် (သုတေသနမှူး) | အထွေထွေခန်း |
| (ဆ) | ဦးလှဆန်းဝင်း (လက်ထောက်ကျမ်းပြုမှူး) | ပါဠိပါဌ်ဆင့်ဖတ်နည်းနှင့် ခက်ဆစ်ဝေါဟာရများ |

ထိုကဲ့သို့ တာဝန်အသီးသီး ခွဲဝေပေးခဲ့ရာ (၁၀-၇-၉၀)နေ့တွင် လိုအပ်သည့် အချက်အလက်များ စုံလင်စွာ စုဆောင်းပြုစု ရေးသားတင်ပြခဲ့ကြပါသည်။ နိုင်ငံတော် သံဃမဟာနာယကအဖွဲ့သို့ စာမူများကို တင်ပြခဲ့ရာ တတိယအကြိမ် နိုင်ငံတော် သံဃမဟာနာယကအဖွဲ့ (ဒုတိယအဖွဲ့ခွဲ) ပညာရေးအဖွဲ့ငယ် ဆရာတော်များက စိစစ်ဝေဖန် တည်းဖြတ်၍ (၂၄-၈-၉၀) နေ့တွင် ပုံနှိပ် ထုတ်ဝေခွင့် ပြုခဲ့ပါသည်။

စာမူများကို အမှန်တကယ် စက်တင်ပုံနှိပ်သည့်အခါ အပိုင်း(၅)သမာဓိခန်းနှင့် အပိုင်း(၆) ပညာခန်းတို့ကို ဤကျမ်း (ပထမတွဲ)၌ မပြဘဲ ချန်လှပ်ခဲ့ရပါသည်။ အကြောင်းမှာ ယင်းအခန်းများသည် တစ်ကျမ်းတစ်ဖွဲ့ စီစဉ်မှသာ ပြည့်စုံနိုင်ဖွယ် ရှိ၍ (ဒုတိယတွဲ)အဖြစ် ထုတ်ဝေရန် အစီအစဉ်ရှိသောကြောင့် ဖြစ်ပါသည်။

## ကျမ်းပြုနည်း

သို့ရာတွင် ယင်းရှာဖွေ စုစည်းထားသော အချက်အလက်များမှာ ကုန်ကြမ်း သဘောမျှသာ ဖြစ်၍ အမှန်စင်စစ် ကျမ်းတစ်စောင် တစ်ဖွဲ့ ဖြစ်မလာနိုင် သေးပါ။ ယင်းကုန်ကြမ်းအတိုင်း ပုံနှိပ်ထုတ်ဝေလိုက်ပါက ရှေ့စကား နောက်စကား အကြောင်းအကျိုး ဆက်စပ်မှု မရှိ၊ ကပေါက်တိကပေါက်ချာ အစီအစဉ် မကျသဖြင့် စာဖတ်ပရိသတ်မှာ နားမလည်ဘဲ မျက်စိလည်သွားပေ လိမ့်မည်။ အကြောင်းအကျိုးဆီလျော်၍ ရှေ့နောက် အဆီအငေါ် တည့်စေရန် ရှာဖွေစုဆောင်း ရရှိထားသည့် အချက်အလက်များကို အခန်းကဏ္ဍအလိုက် မျိုးတူရာ တစ်သန့်စီ တစ်သန့်စီ ရွေးထုတ်ရသည်။ မိမိရေးသားတော့မည့် အခန်း ကဏ္ဍအတွက် မျိုးတူရာ အချက်အလက်များကို အကြိမ်ကြိမ် အဖန်ဖန် အပြန်ပြန် အလှန်လှန် စဉ်းစားကြံစည် တွေးတော၍ စိတ်ကူးဖြင့် အစမ်းရေးရသည်။ ဤသို့ နိဒါန်းအစချီ၍ ဤသို့ နိဂုံးအုပ်မည်၊ အလယ်၌ ဤသို့ ဝမ်းစာရိုက်မည်၊ ဤဥပမာ ဝတ္ထုကြောင်းကို ဤသို့ တန်ဆာဆင် ထည့်သွင်း အသုံးပြုမည် စသည်ဖြင့် ဇာတ်ကွက်ရိုက် ပုံကြမ်းလောင်းရသည်။ ထို့နောက် အဓိပ္ပါယ် ရှင်းလင်းလွယ်ကူသည့် ဝေါဟာရ၊ ပေါ်လွင်ထင်ရှားသည့် ဝေါဟာရ၊ သိမ်မွေ့ နက်နဲသည့် ဝေါဟာရ၊ ပြောင်မြောက်သည့် ဝေါဟာရ စသည်ဖြင့် လိုအပ်သည့် နေရာ၌ လိုအပ်သလို သုံးနှုန်းဖွဲ့ဆိုနိုင်ရန် ဝေါဟာရ စကားလုံးများ အဆင်သင့် စိစစ်ရွေးချယ်ရပါသည်။

ထိုကဲ့သို့ မိမိစိတ်ကြိုက် အခြေအနေအားလုံး ပြည့်စုံလာသော အခါ ဈာန်ဝင်၍ ရေးသားနိုင်ပါပြီ။

### နောက်ဆုံးအခက်အခဲ

နောက်ဆုံး တွေ့ရှိရသည့်အခက်အခဲမှာ စာရေးရန် ရှာန်ဝင်ခြင်းဖြစ်သည်။ ဤအခက်အခဲကို စာရေးဖူးသူတို့သာလျှင် နားလည်နိုင်ပေမည်။ ရေးရင်း ရေးရင်းနှင့် ကလောင်ကို မနိုင် ဘေးချော်သွားတတ်သည်။ နှုတ်ခမ်းသပ်၍ မရ၊ အိုင်သွား တတ်သည်၊ လိုအပ်သလောက် အတိုင်းအတာဖြင့် ကျစ်လျစ်စွာ ရေးသားဖွဲ့ဆို နိုင်ဖို့ လိုပါသည်။ စာရေးသူ၏ မနောအာရုံတွင် အကြောင်းအရာ အချက်အလက်များ စည်းစည်းလုံးလုံးမရှိ၊ တောင်က တစ်စထွက်လာ၊ မြောက်က တစ်စထွက်လာ၊ စာပေါင်းသိုက်ကဲ့သို့ ရှုပ်ထွေးပွေလီစွာ ဘယ်က စ၍ ဘယ်ဆုံး ရမည်မသိ ဖြစ်နေတတ်သည်။ ထို့ကြောင့် စာရေးသူသည် မိမိရေးသားမည့် အကြောင်းအရာကို အကြိမ်ကြိမ် အဖန်ဖန် ကြံစည်စဉ်းစား ဖေဖန်သုံးသပ်၍ နှစ်ခြိုက်လာသည့်အခါ ကြည်လင်သော မနောဓာတ်မှ စကားလုံး အချက် အလက်နှင့် ဝါကျအဖွဲ့အနွဲ့များ လျှံတက် အန်ထွက်လာတတ်သည်။ ထိုအချိန် အခါမျိုးတွင် စာရွက်ပေါ် ကလောင်သွား ထင်လိုက်ရုံမျှဖြင့် စာကြောင်းများ မှရပ်မနား ပေါ်ထွက်လာတတ်သည်။ စာရေးသူသည် အရသာရှိရှိ မြိန်ရှက်စွာ ရေးလိုက်ရ၍ စာဖတ်သူမှာလည်း ယင်းစာမျိုးကို ဖတ်လိုက်ရသည့်အခါ အရသာတွေ့နေ၍ လက်မလွှတ်နိုင်၊ တပင်တပန်း ကြိုးစားဖတ်မနေရတော့ဘဲ စာကြောင်းများက မျက်စိကို ဆွဲခေါ်သွားတော့သည်။ မဆုံးမချင်း စာအုပ်ကို မလွှတ်ချင် ဖြစ်သွားတော့သည်။ ထို့ကြောင့် စာရေးသူက ရှာန်ဝင်ပြီး ရေးလျှင် စာဖတ်သူမှာလည်း ရှာန်ဝင်သွားတော့သည်။ ဤသို့ ရှာန်ဝင်နိုင်ရန် စာရေးသူ၏ စိတ်ပိုင်းဆိုင်ရာအခြေအနေနှင့် ရုပ်ပိုင်းဆိုင်ရာ အခြေအနေများကို ပြုပြင်ဖန်တီး ပြောင်းလဲယူရသည်မှာ အခက်ဆုံး ဖြစ်ပါသည်။

### စိတ်ပါမှ ကောင်းမည်

ဘာကိုပဲ လုပ်လုပ် စိတ်ပါလက်ပါလုပ်မှ ကောင်းသည်၊ စာပေကျမ်းဂန် ရေးသားပြုစုသည့် လုပ်ငန်းကြီးများကို မဆိုထားဘိ နေ့စဉ် ချက်ပြုတ်နေသည့် ဟင်းလျာတစ်ခွက်သည်ပင် အရသာရှိသော ဟင်းတစ်ခွက် ဖြစ်လာရန် မလွယ် ကူချေ၊ ဆီ ဆား ငရုတ် ကြက်သွန် အဆာပလာ မည်မျှ စုံလင်ပါစေ၊ စိတ်မပါဘဲ ချက်လျှင် ရေလုံပြုတ်သာ ဖြစ်မည်။ ငရုတ်သီးအရသာက တခြား၊ ကြက်သွန်အရသာက တခြား၊ ဆားအရသာက တခြား၊ အသားငါးအရသာက တခြား အရသာများ တခြားစီ ပေါ်နေသော ဟင်းသည် ဟင်းကောင်း တစ်ခွက်ဟု မဆိုနိုင်၊ ငရုတ် ဆီ ဆား ကြက်သွန် သား ငါး အရသာ အားလုံးသည် ခွဲခြား၍မရ၊ အရသာတစ်ခုတည်းအဖြစ် စုစည်းထွက်ပေါ် လာမှ သာလျှင် ဟင်းကောင်းတစ်ခွက် ဖြစ်နိုင်ပေမည်။ ထိုကဲ့သို့ ဟင်းကောင်း

တစ်ခုက် ဖြစ်လာစေရန် အိမ်ရှင်မသည် ငရုတ်သီး ထောင်းခြင်း၊ ကြက်သွန် လှီးခြင်း၊ အသား ငါးခုတ်ခြင်း၊ နယ်ခြင်း၊ မီးအလျော့အတင်း စသည်ဖြင့် အစမှ အဆုံးတိုင် စိတ်ပါဝင်စားစွာ ချက်မှသာလျှင် ဟင်းကောင်းတစ်ခွက် ဖြစ်လာနိုင်မည်။ သို့ရာတွင် မည်မျှ ဟင်းချက်ကောင်းသော အိမ်ရှင်မပင်ဖြစ်ပါစေ ရံခါလက်ရာကျ၍ ရှော်ရှတ်ကြီး ဖြစ်သွားတတ်သည်ကို သူတို့ကိုယ်တိုင် သိကြသည်။ ထို့ကြောင့် ဟင်းကောင်းတစ်ခွက်ဖြစ်ပေါ် လာရန် ကိစ္စမှာပင် ဈာန်ဝင်ဖို့ လိုအပ်ကြောင်း ထင်ရှားပေသည်။ စာပေကျမ်းဂန် ရေးသားပြုစုရာ၌ ဈာန်ဝင်မှုကိစ္စသည် မည်မျှ အရေးကြီးသည်ကို ဖော်ပြရန် လိုမည်မထင်တော့ချေ။

## ကြာညောင်း၍ အခါနှောင်းရခြင်း

ဤဗုဒ္ဓဘာသာလက်စွဲကျမ်းကို ရေးသားပြုစုရာ၌ ဤမျှအချိန်ကြာညောင်းခဲ့ရခြင်းမှာ သတ်မှတ်ပေးထားသည့် အရည်အချင်းများနှင့် ပြည့်မီစေရန် ကြိုးပမ်းအားထုတ်နေခဲ့ရမှုကြောင့် ဖြစ်ပေသည်။ ကုန်ကြမ်းအတိုင်းစုဆောင်း ပုံနှိပ်လိုက်ပါက သုံးလေးလဖြင့် ပြီးနိုင်ပါသည်။ သို့သော် ဖတ်မည့်သူ ရှိမည် မဟုတ်ချေ၊ လိုချင်သည့် အရည်အသွေးမှာ လွယ်ကူရမည်၊ ရှင်းလင်းရမည်၊ စုံလင်ရမည်၊ ရှေ့နောက်အကြောင်းအကျိုး ဆီလျော်၍ အဆီအငေါ် တည့်ရမည်၊ စာဖတ်သူအား ဆွဲဆောင်နိုင်ရမည်။ ဤအရည်အသွေးများ ပြည့်မီစေရန် ကျွန်ုပ်က တာဝန်ခံရသည်။ ထိုသို့ တာဝန်ခံဖြစ်သည့်အလျောက် စာမူကြမ်းများကို တည်းဖြတ်ရသည်၊ ပြင်ဆင် ရေးသားရသည်၊ ပင်မရုံးလုပ်ငန်း တာဝန်များ လေးလံစွာ ဖိစီးခြင်းခံနေရသဖြင့် များသောအားဖြင့် ညကိုးနာရီ နောက်ပိုင်းမှအချိန်ယူ ရေးသားရသည်။ နေ့လယ်နေ့ခင်းတွင် ပုံနှိပ်စာမူပရူဖ ဖတ်ခြင်း၊ ကျမ်းကိုး ကျမ်းကား ရှာဖွေခြင်း၊ ရှုံးအမှုတွဲများ လက်မှတ် ထိုးရခြင်း၊ အဆုံးအဖြတ်ပေးရခြင်း၊ တံခါးမရှိ ဓားမရှိ တရစပ်ဝင်လာနေသော ဘုန်းကြီးသည့်သည် လူသည့်သည်များကို လက်ခံတွေ့ဆုံခြင်းများ၏ကြားကာလ အချိန်တိုများအတွင်း၌ ကြားညှပ် ဆောင်ရွက်ရတော့သည်။ ရံခါ စာရေးရန် ကုန်ကြမ်းဖြစ်သောအချက်အလက်များသည် အစီအစဉ်တကျ ဖြစ်သွားကာ ရေအိုး တစ်ခုအတွင်း၌ အနယ်ထိုင်နေသော အခါ ရေကြည်လင်လာသကဲ့သို့ ဦးနှောက်ကြည်လင်လာသည်၊ ဉာဏ်ရှင်လာသည်။ ယင်းကဲ့သို့ အချိန်မျိုးတွင် အာဂန္တုသည့်သည်များ ဝင်ရောက်လာ၍ သူတို့ပြဿနာကို ဇွတ်အတင်းတင်ပြ ပြောဆိုလာသောအခါ အနယ်အမှုန်များ ထလာပြီး ရေကြည်မှ ရေနောက် ဖြစ်သွားသကဲ့သို့ ခေါင်းနောက်သွားတော့သည်၊ ရေးစရာအချက်အလက်များ ဖရိုဖရဲဖြစ်ကုန်တော့သည်၊ တဖန် ပြန်လည်၍ ဈာန်ပင်လာအောင် အချိန် ယူရပေဦးမည်။

စာရေးသူအနေဖြင့် စာရေးသားရန် အချက်အလက်များလည်း စုံလင်နေပါပြီ၊ ရေးလည်း ရေးတတ်ပါသည်၊ ရေးလည်းရေးနိုင်ပါသည်။ သို့ရာတွင်ရေးရန် အချိန်ကို ရှာ၍မရနိုင်ချေ၊ သံဃာ့အစည်းအဝေးပွဲကြီးများ၊နှစ်ပတ်လည်အစည်းအဝေး၊ လေးလပတ် အစည်းအဝေး၊ ခုနစ်ရက်တစ်ပတ် အစည်းအဝေးများ၊ ပရိယတ္တိစာမေးပွဲများနှင့်စာအောင်ဆုနှင်းသဘင်များ၊ဘွဲ့တံဆိပ်ဆက်ကပ်ပွဲများ၊ ဘက်စုံမွမ်းမံပြုပြင်တည်ဆောက်မှုများစသည်ဖြင့် ဒေါင်ချာစိုင်းအောင် ရှေ့ရော နောက်ရော အောက်ခြေရော အပေါ်ပိုင်းပါ ပြေးလိုက် လွှားလိုက် တက်လိုက် ဆင်းလိုက် တာဝန်များ ထမ်းဆောင်ရင်း ရေးသားရသည့် ကျမ်းစာ ဖြစ်၍ ဤကျမ်းစာ အချို့အစိတ်အပိုင်းတွင် ဗျာများနေသည့်ဟန်၊ တက်သုတ်ရိုက် ထားသည့်ဟန်များ တွေ့ရှိရပေမည်။ ဤကဲ့သို့ တွေ့ရှိရပါက စာရေးသူအား ခွင့်လွှတ်သည်းခံကြပါရန်နှင့် နောက်တစ်ကြိမ် ပြန်လည်ပုံနှိပ်သည့်အခါ ပြုပြင်နိုင်ရန် ဝေဖန်ထောက်ပြကြပါရန် မေတ္တာရပ်ခံအပ်ပါသည်။

အမှန်စင်စစ်အားဖြင့် ဤဗုဒ္ဓဘာသာလက်စွဲကျမ်း (ပထမတွဲ) စာမူပြုစုရန် ပညာရှင်များအား မာတိကာခေါင်းစဉ်အသီးသီးပေး၍ တာဝန်ခွဲဝေချမှတ်ခဲ့သော်လည်း ကျွန်ုပ်ကိုယ်တိုင် လက်တွေ့အချောရေးသားရာ၌မူ အောက်ပါ ပညာရှင်များ၏ အကူအညီကိုသာ ရယူခဲ့ပါသည်—

(၁) ဦးဝင်းအောင် (ကျမ်းပြုမှူး)
(၂) ဦးသိန်းအောင် (လက်ထောက်ညွှန်ကြားရေးမှူး)
(၃) ဦးတင်လှိုင် (စာပြင်မှူးချုပ်)
(၄) ဦးထွန်းရွှေ (စာပေစိစစ်ရေးမှူး)
(၅) ဦးလှဆန်းဝင်း (ဒုတိယကျမ်းပြုမှူး)

ကျွန်ုပ်သည် စာမျက်နှာ(၂၀၀)ကျော်ရှိ ဗုဒ္ဓဂါယာစာအုပ်ကို ၁၀-ရက်ဖြင့် အပြီးရေးခဲ့ဖူးပါသည်၊ စာမျက်နှာ(၇၀၀)ရှိ ဗုဒ္ဓသာသနာတော် ၂၅၀၀-ခရီး စာအုပ်ကို ၂-လဖြင့် အပြီး ရေးခဲ့ဖူးပါသည်။ ဤဗုဒ္ဓဘာသာလက်စွဲကျမ်း ရေးသားသည့် အခါကျမှ ၂-နှစ်ကျော် ကြာခဲ့ရသည့်အတွက် မိမိကိုယ် မိမိ အပြစ်တင်မဆုံး ဖြစ်မိပါသည်။ ထိုကျမ်းများ ရေးစဉ်က ည နာရီပြန် (၂)ချက်ထိ အချက်အလက် ရှာဖွေဖတ်ရှု ရေးသားခဲ့သည်။ ကိုယ်တိုင် လက်ရေးဖြင့် ရေးသားနိုင်၍ တစ်ညအတွင်း စာမျက်နှာ လေးငါးဆယ် ရေးနိုင်ခဲ့သည်။ ယခုအချိန်တွင်မူ ကျွန်ုပ်မှာ အသက် ၆၀-အရွယ်ဖြစ်၍ စိတ်သွားတိုင်း ကိုယ်မပါ လက်ချောင်းများမှာ လေးလံပြီး ဒရွတ်ဆွဲနေပြီ ဖြစ်၍

ကိုယ်တိုင်မရေးနိုင်ဘဲ နှုတ်တိုက်ချပေးပြီး ဇနီးတလှည့် သမီးတလှည့် လိုက်ရေးခိုင်းရသည်။ တစ်ည (၁၀)မျက်နှာ ရအောင် မနည်းကြိုးစားရတော့သည်။ ထို့ကြောင့် အချက်အလက် စုဆောင်းမှုကို (၁)နှစ်၊ အချောပြုပြင် မှမ်းမံ တန်ဆာဆင်ရေးသားမှုကို (၁)နှစ်အချိန်ယူ ဆောင်ရွက်ခဲ့ရသည်။ ဤကျမ်းစာသည် စိတ်မပါဘဲ ချက်ထားသည့် ရေလုံပြုတ်ဟင်းလား၊ စိတ်ထည့်ပြီးချက်ထားသည့် ဟင်းကောင်းတစ်ခွက်လား ဖတ်ရှု၍ အကဲဖြတ်နိုင်ရန် ဤဗုဒ္ဓဘာသာလက်စွဲကျမ်း(ပထမတွဲ)ကို စာဖတ်ပရိသတ်လက်သို့ အပ်လိုက်ပါပြီ။(ဒုတိယတွဲ)ကိုလည်း မကြာမီ ထုတ်ဝေနိုင်ရန် ဆက်လက် ပြုစုလျက် ရှိပါသည်။

**စာရေးသူ၏ ဆန္ဒမွန်**

ဤကျမ်းစာဖြင့် နိုင်ငံတော် အကြီးအကဲများအား ဂါရဝပြုပူဇော်ကန်တော့ပါသည်၊ အမိမြန်မာနိုင်ငံတော်အား ဗုဒ္ဓယဉ်ကျေးမှု လွှမ်းမိုးပါစေသောဟု ဆန္ဒပြုပါသည်။

**ကျေးဇူးတင်လွှာ**

ဤဗုဒ္ဓဘာသာလက်စွဲကျမ်းကို ပါဝင်ရေးသားပြုစုကြသည့်အထက်ဖော်ပြပါကျမ်းပြု သုတေသီပညာရှင်များအားလည်းကောင်း၊ သာသနာရေးဦးစီးဌာန ပုံနှိပ်တိုက် စာစီ စာပြင် စက်ရိုက် စာအုပ်ချုပ် ဝန်ထမ်းများအားလည်းကောင်း၊ အဖက်ဖက်မှ အကူအညီပေးကြသည့် သုတေသနမှူး ဦးဘစိန်၊ လက်ထောက်သုတေသနမှူး ဦးမြင့်နိုင်နှင့် လက်နှိပ်စက် ဝန်ထမ်းများအားလည်းကောင်း၊ ကျွန်ုပ်က နှုတ်တိုက်ချပေးသည်ကို ရေးသားပေးကြသည့် ဇနီးဖြစ်သူ ဒေါ်တင်တင်ဝေ၊ သမီးဖြစ်သူ မမေသက်ထွန်း၊ မစုစုတင်၊ မခင်ဆွေတင့်တို့အားလည်းကောင်း ကျေးဇူးတင်ပါကြောင်း မှတ်တမ်းတင်အပ်ပါသည်။

မောင်အုံ့
မဟာဝိဇ္ဇာ (ဘုံဘေ)

၁၃၅၃-ခုနှစ်၊ သီတင်းကျွတ်လဆန်း (၁)ရက်။

၁၉၉၁-ခုနှစ်၊ အောက်တိုဘာလ (၉)ရက်။

# ထောင်းပန်လွှာ

နိုင်ငံတော် ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့ ဒုတိယဥက္ကဋ္ဌ၊ ဒုတိယ တပ်မတော် ကာကွယ်ရေးဦးစီးချုပ်နှင့် ကာကွယ်ရေးဦးစီးချုပ် (ကြည်း) ဗိုလ်ချုပ်ကြီးသန်းရွှေက သာသနာရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်အား—

> ဗုဒ္ဓဘာသာဝင်တစ်ဦးအနေဖြင့် မွေးသည်မှ သေသည်အထိ ဗုဒ္ဓဘာသာနှင့် စပ်၍ ကျင့်ကြံ လိုက်နာ ပွားများရမည့် အချက်များကို တစ်ကျမ်းတင်ဖွဲ့တည်းဖြင့် အပြည့်အစုံ ပါဝင်အောင် ရေးသားပြုစုရန် တာဝန်ပေးကြောင်း သိရှိရပါသည်။

ယင်းတာဝန်ပေးချက်အရ ညွှန်ကြားရေးမှူးချုပ် ဆရာဦးအုံ့မောင်သည် ဤကျမ်းနိဒါန်းတွင် ဖော်ပြထားသော ပညာရှင်ဝန်ထမ်းများအား ခေါ်ယူ တွေ့ဆုံပြီး ဗုဒ္ဓဘာသာလက်စွဲကျမ်းကြီး ရေးသားပြုစုရေးအတွက် အပိုင်းကဏ္ဍ အလိုက် အချက်အလက်များ စုဆောင်းတင်ပြကြရန် အသီးသီး တာဝန် ပေးအပ်ခဲ့ပါသည်။

ပညာရှင်များသည် မိမိတို့တာဝန်ကျရာ အပိုင်းကဏ္ဍအလိုက် အချက်အလက် များ စုဆောင်းပြီး ညွှန်ကြားရေးမှူးချုပ်ထံ တင်ပြကြရပါသည်။ ညွှန်ကြား ရေးမှူးချုပ်က အချို့အပိုင်းများကို ပြန်လည်ပြင်ဆင်ရေးသား၍ အချို့အပိုင်း များကို အနည်းငယ်မျှ ပြင်ဆင်မွမ်းမံပြီး ကျမ်းစာမူကို ပုံနှိပ်ရန်အတွက် စာပြင်မှူးချုပ်အား တာဝန်ပေးခဲ့ပါသည်။

စာပြင်မှူးချုပ်သည် ကျမ်းစာအုပ်ကောင်း တစ်အုပ်ဖြစ်ရန် အင်္ဂါညီညွတ်ရေး အတွက် ရရှိသော စာမူများကို ပထမဦးစွာ စာမူကြမ်း ပြင်ဆင်ပါသည်။ ထို့နောက် စာစီစေပြီး ပထမဂယ်လီ ဒုတိယဂယ်လီမှ စ၍ ဒုတိယဖောင်အထိ အဆင့်ဆင့် ဖတ်ရှုပြင်ဆင်၍ တတိယဖောင်ကို ရိုက်မိန့်အတည်ပြုနိုင်ရန် ညွှန်ကြားရေးမှူးချုပ်အား တင်ပြခဲ့ပါသည်။ စာပြုသူ ပညာရှင်များလည်း အကြိမ်ကြိမ် အထပ်ထပ် ဖတ်ရှုပြင်ဆင်ကြပါသည်။

ဗုဒ္ဓဘာသာလက်စွဲကျမ်း ဖြစ်ပေါ်လာရေးအတွက် ပုံနှိပ်ရန် တာဝန် ယူထား ရသော စာပြင်မှူးချုပ်အနေဖြင့် ယင်းကျမ်းစာ၏ စာမူနှင့် စာဖောင်ကိစ္စ စာပေရေးဆာကိစ္စများကို ညွှန်ကြားရေးမှူးချုပ်ထံ နေ့စဉ် သွားရောက်၍

တင်ပြ အစီရင်ခံရပါသည်။ တခါတရံ ညွှန်ကြားရေးမှူးချုပ်မှာ ရုံးလုပ်ငန်းများ အပြင် အာဂန္တုညွှေ့သည်များဖြင့် မအားလပ်၍ အခွင့်မသာသည့် အခါမျိုးတွင် ရုံးချိန်ကုန်သည်အထိ စောင့်ဆိုင်းရတတ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်အနေဖြင့်လည်း ရုံးချိန်ဟူ၍လည်းကောင်း၊ ရုံးချိန် ပြင်ပဟူ၍လည်းကောင်း၊ အချိန်အပိုင်းအခြား မထားဘဲ လက်ခံတွေ့ဆုံ၍ စာပေရေးရာ တင်ပြအစီရင်ခံချက်များကို နားထောင်ကာ ည (၈)နာရီအထိ ထိုနေ့ကိစ္စကို ထိုနေ့ပင် အပြီးရှင်းလင်းပေးတတ်ပါသည်။ စာပေပညာရှင်များ စုစည်းတင်ပြသည့် အချက်များကို ညွှန်ကြားရေးမှူးချုပ်အနေဖြင့် တိုက်ရိုက် သုံး၍ ရသည့် အချို့အပိုင်းများကို တိုက်ရိုက် အသုံးပြုပြီး အချို့အပိုင်း များကိုမူ စုဆောင်းထားသည့် အချက်အလက်များအပေါ် မူတည်၍ ကိုယ်တိုင် အချောပြန်လည် ရေးသားသည်လည်း ရှိပါသည်။

ညွှန်ကြားရေးမှူးချုပ်သည် များပြားလှသော တာဝန်များကြားမှ အပိုင်း အားဖြင့် (၇)ပိုင်း၊ အခန်းကဏ္ဍအားဖြင့် (၂၇)ခန်း စာမျက်နှာအားဖြင့် ( ၈၀၆ )ရှိသော ကျမ်းစာအုပ်ကြီး တစ်အုပ်အဖြစ် ရောက်ရှိအောင် ဦးစီးခေါင်းဆောင် ကြပ်မတ် ဆောင်ရွက်ပေးနိုင်သည်မှာ အပြောလွယ် သလောက် လက်တွေ့အားဖြင့် မလွယ်ကူလှပါ။ ညွှန်ကြားရေးမှူးချုပ်သည် ရရှိသော အချိန်ကို အနားမပေးဘဲ ပင်ပင်ပန်းပန်း ကြိုးစားအားထုတ် ဆောင်ရွက်ခဲ့သဖြင့် ယခုကဲ့သို့ ကျမ်းစာတစ်စောင်တစ်ဖွဲ့ ပြီးမြောက်အောင်မြင် ခဲ့ခြင်းအပေါ် နှစ်ထောင်းအားရ ရှိလှပါတော့သည်။

ဤမျှလောက် အလုပ်တာဝန်တွေ ရှုပ်ယှက်ခတ် များပြားနေသည့် အကြားမှ ရေးသားပြုစုရသော ကျမ်းစာမှာ တူတူတန်တန် ဖြစ်လာမည် မထင်ခဲ့ပါ။ သို့ရာတွင် ပုံနှိပ်ပြီးစာမူများကို အစအဆုံး ပြန်လည် ဖတ်ကြည့်ရာ မှတ်သားဖွယ်ရာ အချက်အလက်ကလည်း စုံလင်သည့်အပြင် အရေးအသား အဖွဲ့အနွဲ့ကလည်း လွယ်ကူ ရှင်းလင်းပေါ်လွင်ထင်ရှားသည်။ အစီအစဉ် အဆီအငေါ်တည့်၍မဆုံးမချင်းလက်မှ ချ၍ မရသော စာအုပ်ကောင်းတစ်အုပ် ဖြစ်နေသည်ကို တွေ့ရ၍ ဝမ်းသာမဆုံး ဖြစ်မိပါသည်။

ယခုအခါ စာရှုသူ ဓမ္မမိတ်ဆွေ၏ လက်ဝယ်သို့ ဤကျမ်းစာအုပ် (ပထမတွဲ) ကို အရောက်ပို့နိုင်ခဲ့ပြီ ဖြစ်ပါသည်၊ ဤကျမ်းစာအုပ်၌ ပါရှိသော အချက် အလက်နှင့် အကိုးအကားများတွင် သတိပေါ့ကင်း ချွတ်ယွင်းမှု တစုံတရာ ပါရှိကောင်း ပါရှိနိုင်ပါသည်၊ ယင်းချွတ်ယွင်းမှုများမှာ ကျွန်ုပ်တို့ စာပြုအဖွဲ့နှင့် စာပြင်မှူးချုပ်တို့၏ သတိပေါ့လျော့မှုသာ ဖြစ်ပြီး ကျွန်ုပ်တို့မှာလည်း သီးသန့် အချိန်မရရှိဘဲ ပုံမှန်ရုံးလုပ်ငန်းများကြားမှ ရှာဖွေစုဆောင်း ပြုစုခဲ့ရသဖြင့်

## တောင်းပန်လွှာ

ကျွန်ုပ်တို့အား မေတ္တာ စေတနာ ကရုဏာရှေ့ထား၍ ခွင့်လွှတ်ကြစေလိုပါသည်။ အကယ်၍ ထိုချွတ်ယွင်းချက်များကို ထောက်ပြ အကြံဉာဏ်ပေးမည်ဆိုပါက နောက်တစ်ကြိမ် ပြန်လည်ရိုက်နှိပ်သည့်အခါ အတိထား ပြင်ဆင်နိုင်မည် ဖြစ်သဖြင့် ကျေးဇူးအထူးတင်ရှိနေမည် ဖြစ်ပါကြောင်းဖြင့် ကျွန်ုပ်၏ တောင်းပန်လွှာကို နိဂုံးချုပ်အပ်ပါသတည်း။

ဓမ္မာစရိယ ဦးအောင်မှိုင်
ဝေမြိုဒ်ထူးချက်
၂၉-၁၀-၂၁

မုဒ္ဒဘာသာလက်စွဲကျမ်း

# မာတိကာ

အကြောင်းအရာ　　　　　　　　　　　　　　　　　　　စာမျက်နှာ

## အပိုင်း ( ခ )

### အခန်း ( ၁ )

### မိဘဆောဝန်


သရဏဂုံတည်စ ပင္ဍိသန္တေမှ .... .... .... ၁

ဖါနပြုစ ကလေးဘဝမှ .... .... .... ၄

ကင်ပွန်းတပ်ခြင်း .... .... .... ၅

ဘာဝနာအစ ကလေးဘဝ .... .... .... ၆

ယုံကြည်မှု၏ အခြေခံအုတ်မြစ် .... .... ၇

(က) သုံးနှစ်အရွယ် .... .... ၁၁

(ခ) ငါးနှစ်အရွယ် .... .... .... ၁၁

(ဂ) ခုနစ်နှစ်အရွယ် .... .... .... ၁၁

(ဃ) ကိုးနှစ်အရွယ် .... .... .... ၁၁

(င) တစ်ဆယ့်ငါးနှစ်အရွယ် .... .... ၁၂

(စ) နှစ်ဆယ်အရွယ် .... .... .... ၁၂

အကြောင်းအရာ | စာမျက်နှာ

## အခန်း ( ၂ )

### ကိုးကွယ်မှုကဏ္ဍ


နေရာဖြင့် အရိုးအသေပြုခြင်း .... .... .... ၁၄
ဝတ်စားဆင်ယင်မှုဖြင့် အရိုအသေပြုခြင်း ... .... ၁၅
ကိုယ်ဟန်အနေအထားဖြင့် အရိုအသေပြုခြင်း .... ၁၆
ရှိခိုးဦးချခြင်း .... .... .... ၁၇
တည်ခြင်းငါးပါး ဒုတိယနည်း .... .... .... ၁၈
တည်ခြင်းငါးပါး တတိယနည်း.... .... .... ၁၈
ရပ်လျက် ရှိခိုးခြင်း .... .... .... ၂၀
စေတနာ ပဓာန .... .... .... ၂၀


## အခန်း ( ၃ )

### ဝတ်တက်ဝတ်ကပ် အရကျက်ရန်


ရတနာသုံးပါးကို ရှိခိုးခြင်း .... .... .... ၂၁
ကန်တော့ခန်း .... .... .... ၂၁
ဆုတောင်း .... .... .... ၂၁
သရဏဂုံနှင့် ငါးပါးသီလတောင်းခြင်း .... .... ၂၂
ဘုရားရှိခိုးခြင်း .... .... .... ၂၂
သရဏဂုံဆောက်တည်ခြင်း .... .... .... ၂၂
သရဏဂုံနှင့် ရှစ်ပါးသီလတောင်းခြင်း .... .... ၂၃
ငါးပါးသီလဆောက်တည်ခြင်း .... .... .... ၂၃
ရှစ်ပါးသီလဆောက်တည်ခြင်း .... .... .... ၂၃
သရဏဂုံနှင့် ကိုးပါးသီလတောင်းခြင်း .... .... ၂၄
ကိုးပါးသီလဆောက်တည်ခြင်း .... .... ၂၄
ဆွမ်းတော်ကပ် .... .... .... ၂၅
ရေချမ်းတော်ကပ် .... .... .... ၂၅
ပန်းတော်ကပ် .... .... .... .... ၂၆
ဆီမီးတော်ကပ်.... .... .... .... ၂၆
ဆွမ်း၊ ရေချမ်း၊ ပန်း၊ ဆီမီးကပ်လှူပုံအကျဉ်း .... ၂၇
ဘုရားဂုဏ်တော်ကိုးပါး .... .... .... ၂၈

| အကြောင်းအရာ | စာမျက်နှာ |
|---|---|
| တရားဂုဏ်တော်ခြောက်ပါး .... .... .... | ၂၈ |
| သံဃာ့ဂုဏ်တော်ကိုးပါး .... .... .... | ၂၈ |
| မေတ္တာဘာဝနာပွားများပုံ .... .... .... | ၂၉ |
| (က) ဒိသာဖရဏ မေတ္တာပွားနည်း .... .... | ၂၉ |
| (ခ) မေတ္တသုတ်လာ မေတ္တာပွားနည်း (၁၁)နည်း .... | ၃၁ |
| ရတနာမြတ်သုံးပါးတို့ကို ကျင့်ဝတ်ဖြင့် ပူဇော်နည်း .... | ၃၂ |
| ဆုတောင်းရန် .... .... .... .... | ၃၃ |
| အမျှဝေရန် .... .... .... .... | ၃၃ |


## အခန်း (၄)

### အဓိပ္ပါယ်ရှင်းချက်များ


| | |
|---|---|
| ကန်တော့ခန်း ရှင်းလင်းချက် .... .... | ၃၅ |
| သရဏဂုံနှင့် သီလတောင်းခံခြင်း ရှင်းလင်းချက် .... | ၄၁ |
| သရဏဂုံ ရှင်းလင်းချက် .... .... .... | ၄၁ |
| သရဏဂုံနှင့် သရဏဂုံတည်သူ .... .... | ၄၁ |
| သရဏဂုံဆောက်တည်ခြင်း .... .... .... | ၄၁ |
| လူ့သရဏဂုံနှင့် ရှင့်သရဏဂုံ .... .... | ၄၁ |
| သရဏဂုံပါဠိ၏အနက် .... .... .... | ၄၂ |
| သရဏဂုံဆောက်တည်နည်း ၄-မျိုး .... .... | ၄၃ |
| သရဏဂုံပျက်သော ရှိခိုးခြင်းနှင့် မပျက်သော ရှိခိုးခြင်း .... | ၄၄ |
| သရဏဂုံမြောက်မှု အလေးပြုဖွယ် .... .... | ၄၅ |
| သရဏဂုံအထပ်ထပ် ဆောက်တည်ခြင်း .... .... | ၄၆ |
| သရဏဂုံညစ်နွမ်းကြောင်းတရားများ .... .... | ၄၇ |
| ပျက်တတ်သော သရဏဂုံနှင့် မပျက်တတ်သော သရဏဂုံ.... | ၄၈ |
| သရဏဂုံပျက်မှုနှင့် အလောင်းကို သရဏဂုံတင်ခြင်း .... | ၄၈ |
| သရဏဂုံပုတီးစိပ်ခြင်း .... .... .... | ၅၀ |
| သရဏဂုံ တည်ခြင်းအကျိုးများ .... | ၅၁ |
| သာဓကဝတ္ထုများ .... .... .... | ၅၂ |
| သေသောက်ကြူး "သရဏဥပါသကာ" အကြောင်း .... | ၅၂ |
| သရဏဂုံတည်သော အမျိုးသားတစ်ယောက်အကြောင်း .... | ၅၄ |
| တံငါသည် တစ်ဦးအကြောင်း .... .... | ၅၅ |
| သရဏဂုံမတည်က လူမမည်ခြင်းအကြောင်း.... .... | ၅၇ |

အကြောင်းအရာ                                              စာမျက်နှာ

(၆) ပစ္စတ္တံဝေဒိတဗ္ဗဂုဏ်တော် .... .... .... ၁၆၀
ကိုယ်ပိုင်အစစ်တရားတော် ဖြစ်ခြင်း .... .... .... ၁၆၁
အဖော်မလို တစ်ဦးချင်း ခံစားနိုင် .... .... ၁၆၁
ကလေးများပင် တွေ့မြင်နိုင်သောတရား .... .... ၁၆၂
လှည့်စား၍ မရနိုင်တော့ခြင်း .... .... .... ၁၆၃
တရားအလှူ တရားပူဇော်နည်း .... .... .... ၁၆၅
တရားတော်ကို ဘုရားရှင်ကိုယ်တိုင် ပူဇော်တော်မူခဲ့ခြင်း .... ၁၆၇
ဘုရားရှင်ကိုယ်စား တရားတော်များအပေါ်
အလေးထား ပူဇော်သင့်ခြင်း.... .... .... ၁၆၈
တရားတော်၏ အကျိုးရ သာဓကများ .... .... ၁၇၀
တရားတော်အလှူ၏ မြင့်မြတ်ပုံအကြောင်း .... .... ၁၇၁
တရားတော်နာရ၍ သောကအပူမီးများ
ငြိမ်းပျောက်ရသော မင်းတစ်ပါး .... .... ၁၇၂
တရားတော်နာရ၍ နတ်သားဖြစ်ရသော
ဖားတစ်ကောင် အကြောင်း .... .... .... ၁၇၄

## သံဃာ့ဂုဏ်တော်ကိုးပါး

(၁) သုပ္ပဋိပန္နဂုဏ်တော် .... .... .... ၁၇၆
ကောင်းစွာ ကျင့်တော်မူခြင်း .... .... .... ၁၇၇
ဘုရားရှင်၏ အမိန့်တော်ကို လွန်ဆန်တော်မမူခြင်း .... ၁၇၇

(၂) ဥဇုပ္ပဋိပန္နဂုဏ်တော် .... .... .... ၁၈၀
လမ်းဖြောင့်လမ်းမှန်အတိုင်း ကျင့်တော်မူခြင်း .... .... ၁၈၀
ရိုးသားဖြောင့်မတ်စွာ ကျင့်တော်မူခြင်း .... .... ၁၈၁
မရိုးမသား ကျင့်သူများအကြောင်း .... .... ၁၈၂
အိုးစရည်းရဟန္တာ .... .... .... ၁၈၃
ညောင်မြစ်ရဟန္တာ .... .... .... ၁၈၃
ဥဇုပ္ပဋိပန္နဂုဏ်ကို အာရုံပြုကာ ရိုးရိုးကျင့်သူဖြစ်ပါစေ .... ၁၈၄

အကြောင်းအရာ | စာမျက်နှာ

(၃) ဉာယပဋ္ဌိပန္နဂုဏ်တော် .... .... .... ၁၇၅
နိဗ္ဗာန်ရရေးကို ဦးစားပေးကျင့်တော်မူခြင်း .... .... ၁၇၅
နိဗ္ဗာန်ရလိုရေးကြောင့် မီးဘေးကို မရှောင်
အလောင်ခံတော်မူခဲ့သော ရဟန်းတော်တစ်ပါး .... ၁၇၆
ဉာယပဋ္ဌိပန္နဂုဏ်တော်ကို အာရုံပြုကာ နိဗ္ဗာန်ကို
သိမြင်နိုင်အောင် ကြိုးစားပါ .... .... .... ၁၇၇

(၄) သာမီစိပဋ္ဌိပန္နဂုဏ်တော် .... .... .... ၁၇၇
ရိုသေလေးစားမှုနှင့် ထိုက်တန်အောင် ကျင့်တော်မူသော
"အယျမိတ္တမထေရ်"အကြောင်း .... .... ၁၇၇
ဘာဝနာပွားရ၍ ဆွမ်းကို အကျိုးရှိအောင်စားခြင်း .... ၁၇၉
"သာမီစိပဋ္ဌိပန္န"ဂုဏ်တော်ကို အာရုံပြုကာ
ရိုသေစွာ ကျင့်ပါ .... .... .... ၁၈၀

(၅) အာဟုနေယျဂုဏ်တော် .... .... ၁၈၁
သာသနာပ ဒါနထက် သာသနာတွင်း ဒါနက
အဆရာလွန်ကဲ .... .... .... ၁၈၁
သမီးမရွေးဘဲ ဆွမ်းအလှူပေးခဲ့သော
"မဟာတိဿ"ထင်းရောင်းသမားအကြောင်း .... ၁၈၂
ရပ်ဝေးမှရိက္ခာထုပ်ဖြင့် လာရောက်ဖူးမြော်ထိုက်ခြင်း .... ၁၈၃
ပညာရှိသူတော်စင်တို့၏ထုံးကို နှလုံးမူကာ ကြိုးစားပါ .... ၁၈၄

(၆) ပါဟုနေယျဂုဏ်တော် .... .... .... ၁၈၄
ဦးစားပေး ဧည့်ဝတ်ပြုရမည့် ကမ္ဘာ့ဧည့်သည်တော်ကြီးများ ၁၈၅
ရဟန်းသံဃာ အိမ်ကြွလာ များစွာလာဘ်ကောင်းမွန် .... ၁၈၆
အရောဝင်လွန်းလျှင် မကောင်း .... .... .... ၁၈၇

(၇) ဒက္ခိဏေယျဂုဏ်တော် .... .... .... ၁၈၈
မြတ်သောအလှူကို ခံတော်မူထိုက်ခြင်း .... .... ၁၈၈
အတ္တကျိုးနှင့် ပရကျိုး အလှူနှစ်မျိုး .... .... ၁၉၉
ပေးကားပေး၏ မရဖြစ်ခြင်း .... .... .... ၂၀၀
အလှူရှိသော်လည်း မွဲသူမရှိနိုင်ကြောင်း .... .... ၂၀၂

အကြောင်းအရာ　　　　　　　　　　　　　　　　　　　စာမျက်နှာ

(၃) နီရောဓသေစ္စာ .... .... .... ၁၀၃
(၄) မဂ္ဂသစ္စာ .... .... .... ၁၀၄
မဂ္ဂင် ရှစ်ပါး .... .... .... ၁၀၅
ဗုဒ္ဓဂုဏ်တော်ကို အာရုံပြု၍ ကိုယ်စိတ်နှစ်ပါးချမ်းသာမှုကို ရယူပါ ၁၀၇

(၉) ဘဂဝါဂုဏ်တော် .... .... .... ၁၀၉
ဘုန်းတော်ခြောက်ပါး .... .... ၁၀၉
(၁) ဣဿရိယဘုန်းတော် ... .... ၁၁၀
ဣဿရိယဘုန်းတော် ရှစ်ပါး .... .... ၁၁၀
(၂) ဓမ္မဘုန်းတော် .... .... .... ၁၁၂
(၃) ယသဘုန်းတော် .... .... ၁၁၂
(၄) သိရီဘုန်းတော် .... .... ၁၁၃
(၅) ကာမဘုန်းတော် .... .... ၁၁၄
(၆) ပယတ္တဘုန်းတော် .... .... ၁၁၅
အဆင်းရော အချင်းပါ ပြည့်စုံပါစေ .... .... ၁၁၅
ကမ္ဘာကုန်သော်လည်း မကုန်နိုင်သော ဂုဏ်တော်များ .... ၁၁၆
လက်တွေ့ဂုဏ်တော် ပွားများနည်း .... .... ၁၁၇
အတုမရှိသော ဘာဝနာ .... .... ၁၂၂
အမြတ်ဆုံး ပုဂ္ဂိုလ်ဖြစ်နိုင်ခြင်း .... .... ၁၂၂
လက်ငင်းရနိုင်သောဂုဏ်တော်ပွားကျိုး .... .... ၁၂၃
ဂုဏ်တော်ပွားကျိုး ၁၇-မျိုး .... .... ၁၂၅
ဂုဏ်တော်အကျိုးရ သာဓကများ .... .... ၁၂၆
ဘုရားရှိခိုးကို ယောင်ယမ်းရွတ်ဆိုမိကာမျှဖြင့်
ဘီလူးဘေးမှ လွတ်ခဲ့ရသော မိစ္ဆာသူငယ်လေးအကြောင်း ၁၂၇
ဘုရားရှင်အား ကြည်ညိုကာမျှ စိတ်ကြောင့်
နတ်ပြည်ရောက်ရသော "မဋ္ဌကုဏ္ဍလီ" အကြောင်း .... ၁၂၉
ဂုဏ်တော်ပွား၍ မီးများကို ငြိမ်းစေခဲ့သော
မိဖုရားစောလုံအကြောင်း .... .... .... ၁၃၀

| အကြောင်းအရာ | စာမျက်နှာ |
|---|---|

## တရားဂုဏ်တော် ခြောက်ပါး


(၁) သွာက္ခာတ ဂုဏ်တော် .... .... .... ၁၃၃
ဆယ်ပါးသောတရား .... .... .... ၁၃၃
အစစ်အမှန်တရားတော် .... .... .... ၁၃၄
အကောင်းဆုံးတရား ဖြစ်တော်မူခြင်း .... .... ၁၃၄
ကြားနာရုံမျှဖြင့် အပူစင် (အစ၏ ကောင်းခြင်း) .... ၁၃၆
ချီးမွမ်းသံမစဲ ချီးမွမ်းဆဲ .... .... .... ၁၃၇
ကျင့်လျှင် ချမ်းသာ(အလယ်၏ ကောင်းခြင်း) .... .... ၁၃၉
ကျင့်ပြီးခါလည်း လွန်စွာငြိမ်းချမ်း (အဆုံး၏ ကောင်းခြင်း) ၁၄၂
အကြိတ်အနယ်ခံနိုင်သော တရားဖြစ်ခြင်း .... .... ၁၄၃

(၂) သန္ဒိဋ္ဌိကဂုဏ်တော် .... .... .... ၁၄၅
ကိုယ်တိုင်သိမြင်နိုင်သော တရားဖြစ်ခြင်း .... .... ၁၄၆
ကိုယ်တိုင်တရားမမြင်လျှင် ဘုရားရှင်အပေါ် သံသယဝင် .... ၁၄၇
တရားမြင်၍ တရားရှင်ဘုရားအပေါ် အကြွင်းမဲ့
ယုံကြည်လေးစားခြင်း .... .... .... ၁၄၈

(၃) အကာလိကဂုဏ်တော် .... .... .... ၁၄၉
အကောင်းဆုံး အကျိုးရ၍ အမြန်ဆုံး အကျိုးပေးသော
တရားတော် .... .... .... ၁၅၀
လက်ငင်း အကျိုးရနိုင်သော "အကာလိက" တရားများ .... ၁၅၁

(၄) ဟေိပဿိက ဂုဏ်တော် .... .... .... ၁၅၁
တကယ်ရှိ၍ အဟုတ်စင်ကြယ်သောတရား ဖြစ်တော်မူခြင်း ၁၅၂
ဖိတ်ခေါ် ထိုက်၍ ဖိတ်ခေါ်တော်မူခြင်း .... .... ၁၅၂
"ဟေိပဿိက" ဂုဏ်ထူး ရထိုက်သော တရားများ .... ၁၅၄
ကိုးကွယ်ရာမှ ဘေးမဖြစ်အောင် သတိပြုသင့်ကြောင်း .... ၁၅၅

(၅) ဩပနေယျိက ဂုဏ်တော် .... .... .... ၁၅၆
စိတ်ထဲ၌ ကပ်၍ ဆောင်ထိုက်သော တရားဖြစ်ခြင်း .... ၁၅၆
အသက်ကို ပဓာနမထားဘဲ မဂ်ဖိုလ်တရားအလေးထား
ခဲ့သော တိဿမထေရ်အကြောင်း .... .... .... ၁၅၈
"ဩပနေယျိက" ဂုဏ်ထူး ရထိုက်သော တရားများ .... ၁၅၉

အကြောင်းအရာ — စာမျက်နှာ

## အခန်း (၅)

### ရတနာသုံးပါး ဂုဏ်တော်ဖွင့်

### ဘုရားဂုဏ်တော်ကိုးပါး


(၁) အရဟံဂုဏ်တော် .... .... .... ၆၀
ပူဇော်အထူးကို ခံထိုက်၍ ပူဇော်ခဲ့ကြပုံများ .... ၆၃
ပူဇော်နည်း နှစ်မျိုးဖြင့် ပူဇော်ခြင်း .... .... ၆၄
သူတော်ကောင်းဖြစ်အောင် "အရဟံ" ဂုဏ်ကိုဆောင် .... ၆၅

(၂) သမ္မာသမ္ဗုဒ္ဓဂုဏ်တော် .... .... ၆၆
ဥေယျဓမ်တရား ငါးပါး .... .... .... ၆၇
သိနိုင်ခဲသော အရာကို သိတော်မူခြင်း .... .... ၆၈
မေးသမျှကို မတွေးမဆ ဖြေဆိုတော်မူနိုင်ခြင်း .... ၆၉
သမ္ဗုဒ္ဓ .... .... .... .... ၇၀
သမ္မာဗုဒ္ဓ .... .... .... .... ၇၀
သမ္မာသမ္ဗုဒ္ဓ .... .... .... ၇၀
ရှင်သီဝလိမယ်တော် ဆင်ခြင်အောက်မေ့သည့်ဂုဏ်တော် ၇၁
ဉာဏ်ပညာကြီးသူဖြစ်အောင် "သမ္မာသမ္ဗုဒ္ဓ" ဂုဏ်ကိုဆောင် .... .... .... ၇၂

(၃) ဝိဇ္ဇာစရဏသမ္ပန္နဂုဏ်တော် .... .... ၇၂
ဝိဇ္ဇာသုံးပါး၊ ဝိဇ္ဇာရှစ်ပါး . .... .... ၇၃
စရဏတရား ၁၅-ပါး .... .... .... ၇၄
ဝိဇ္ဇာ, စရဏနှစ်ပါးနှင့် ပြည့်စုံတော်မူခြင်း .... ၇၅
အကြီးမားဆုံး ဝိဇ္ဇာနှင့် အမြင့်မြတ်ဆုံး စရဏရှင် ဖြစ်တော်မူခြင်း .... .... ၇၆
ဆရာရော တပည့်ပါ ဝိဇ္ဇာ, စရဏနှင့် ပြည့်စုံတော်မူခြင်း ၇၆
အသိရောအကျင့်ပါ နှစ်ဖြာပြည့်အောင် "ဝိဇ္ဇာစရဏသမ္ပန္န" ဂုဏ်ကိုဆောင် .... .... ၇၇

| အကြောင်းအရာ | စာမျက်နှာ |
|---|---|
| (၄) သုဂတဂုဏ်တော် | ၇၇ |
| စကားခြောက်ခွန်း | ၇၇ |
| စကားခြောက်ခွန်းမှတ်ဖွယ်လင်္ကာ | ၇၈ |
| သူတပါးမနှစ်သက်သောစကားကို ဘုရားရှင်ပြောသလော | ၇၉ |
| ဗုဒ္ဓ၏ လမ်းစဉ်တော် | ၈၁ |
| သုဂတဂုဏ်တော်ကို အာရုံပြုကာ မနှောင့်ယှက်ဘဲ အမြဲကူညီပါ | ၈၁ |
| (၅) လောကဝိဒူဂုဏ်တော် | ၈၃ |
| သတ္တလောကကို သိတော်မူခြင်း | ၈၄ |
| ဩကာသလောကကို သိတော်မူခြင်း | ၈၅ |
| သင်္ခါရလောကကို သိတော်မူခြင်း | ၈၇ |
| အများမသိသော်လည်း ဘုရားသိသည် | ၈၉ |
| (၆) အနုတ္တရောပုရိသဒမ္မသာရထိ ဂုဏ်တော် | ၈၉ |
| ဆုံးမ၍ မရလျှင် သတ်ပစ်ခြင်း | ၉၀ |
| တုဖက်ကင်းအောင် ဆုံးမတော်မူနိုင်ခြင်းအကြောင်း | ၉၁ |
| ဘုရားရှင်၏အဆုံးအမကြောင့် ယဉ်ကျေးလိမ္မာပုံ သာဓကများ | ၉၂ |
| ယခုဘဝမှ စ၍ ပါရမီ ဖြည့်ဆည်း | ၉၄ |
| (၇) သတ္ထာဒေဝမနုဿာနံဂုဏ်တော် | ၉၅ |
| လောကီဆရာနှင့် လောကုတ္တရာဆရာ | ၉၅ |
| ဆရာချင်းမတူ | ၉၆ |
| ပညာချင်းခြားနား | ၉၆ |
| သင်ပြပုံချင်း ကွဲပြား | ၉၆ |
| ဘုရားရှင်သာ တို့ဆရာ | ၉၇ |
| တလောကလုံး၏ အကြီးအမှူး ဦးစီးခေါင်းဆောင် | ၉၈ |
| တရားမြင်မှ ဘုရားမြင်မည် | ၉၈ |
| (၈) ဗုဒ္ဓဂုဏ်တော် | ၉၉ |
| "ဗုဒ္ဓ" ဟူသော အမည်ကို ရတော်မူခြင်း | ၁၀၁ |
| သစ္စာလေးပါး အမှန်တရား | ၁၀၁ |
| (၁) ဒုက္ခသစ္စာ | ၁၀၁ |
| (၂) သမုဒယသစ္စာ | ၁၀၂ |

အကြောင်းအရာ　　　　　　　　　　　　　　　　　စာမျက်နှာ


(၈) အင္ဂုလိကရဏီယဂုဏ်တော် .... .... .... ၂၀၃
ရှိခိုးခံထိုက်သူတို့အား ရှိခိုးခြင်း .... .... .... ၂၀၃
ရှိခိုးခံထိုက်သူ မဟုတ်ဘဲ ရှိခိုးခံခြင်း .... .... ၂၀၅
ရှိခိုးခြင်းကြောင့် လက်ငင်းရသော အကျိုးများ .... ၂၀၆

(၉) အနုတ္တရပုညက္ခေတ္တဂုဏ်တော်.... .... .... .... ၂၀၈
လယ်ယာမြေကောင်းသဖွယ် ဖြစ်တော်မူခြင်း .... .... ၂၀၈
ရှာဦးကျောင်းဘုန်းကြီးရှိ၍ အကျိုးရပုံအကြောင်း .... ၂၀၉
ညောင်စေ့လောက်လှူ၍ ညောင်ပင်ကြီးလောက်အကျိုးရ ၂၁၀
ကျွန်ဘဝမှ လွတ်မြောက်၍ သေဌေးဘဝရောက်လာသော
သေဌေးကြီး ပုဏ္ဏအကြောင်း .... .... .... ၂၁၁
သံဃာ့ဂုဏ်တော်ကိုးပါးနှင့် လေးစုံ=ရှစ်ပါး
အရိယာသံဃာတော်များ .... .... .... ၂၁၂
မဂ်ပုဂ္ဂိုလ် ၄-မျိုးနှင့် ဖိုလ်ပုဂ္ဂိုလ် ၄-မျိုး .... .... ၂၁၂
ပရမတ္ထသံဃာနှင့် သမ္မုတိသံဃာ .... .... = ၂၁၃
ဘုရားရှင်ကိုယ်တော်စား သာသနာပြုပုဂ္ဂိုလ်များ .... ၂၁၄
သာသနာတော် အရှည်ခံ၍ တည်တံ့ရေးအတွက်
သံဃာတော်အား အလေးထားသင့်ပုံ .... .... ၂၁၆
ရတနာသုံးပါး ဂုဏ်တော်များ ရွတ်ဖတ်ပွားများကျိုး .... ၂၁၈


## အခန်း (၆)

### ဆုတောင်းခြင်းနှင့် အမျှဝေခြင်း


ဆုတောင်းခြင်းအကြောင်း .... .... .... ၂၂၁
သေသူကို နတ်ပြည်ရောက်အောင် ဆုတောင်းပေး၍
ရနိုင်ပါသလော .... .... .... .... ၂၂၂
တောင်းသောဆုနှင့် တန်အောင် ပြုရမည် .... .... ၂၂၃
ဘုရားမကြိုက်သည့် အဓိဋ္ဌာန်ဆုကို တောင်းခဲ့သော
လူသွားစား ပေါရိသာဒ .... .... .... ၂၂၅
ဘတပြန် ကျားတပြန် သတ်ရန် ဆုကိုတောင်းခဲ့ကြသော
မယားကြီး မယားငယ် .... .... .... ၂၂၆
ဆုတောင်းနှစ်မျိုး .... .... .... ၂၂၈

အကြောင်းအရာ — စာမျက်နှာ

(၁) ဝဋ္ဋနိဿိတဆုတောင်း .... .... .... ၂၂၈
(၂) ဝိဝဋ္ဋနိဿိတဆုတောင်း .... .... .... ၂၂၉
ဝဋ္ဋ, ဝိဝဋ္ဋ နှစ်မျိုးရောဆုတောင်း .... .... ၂၃၀
ဝဋ္ဋ, ဝိဝဋ္ဋဆုတောင်း လင်္ကာကြီး .... .... ၂၃၀
ဝဋ္ဋ, ဝိဝဋ္ဋ "သော"ငါးချက် ဆုတောင်း .... .... ၂၃၁
အမျှဝေခြင်းအကြောင်း .... .... .... ၂၃၃
အမျှရ၍ ပြိတ္တာဘဝမှ လွတ်မြောက်ကြရသော
ပြိတ္တာရှစ်သောင်းလေးထောင် .... .... .... ၂၃၄
ရေစက်ချခြင်းအကြောင်း .... .... .... ၂၃၆
မြန်မာသက်သက်ရေစက်ချစာတမ်း .... .... ၂၃၇

# အပိုင်း (၂)

## အခန်း (၇)

### ဘုရားဖြစ်ရန် ပါရမီတော်ဖြည့်ကျင့်ခြင်း

အသင်္ချေနှစ်ဆယ် .... .... .... .... ၂၄၀
၁။ ဂဏနအသင်္ချေ .... .... .... .... ၂၄၂
၂။ အနုမာနအသင်္ချေ .... .... .... ၂၄၂
၃။ ကပ္ပအသင်္ချေ .... .... .... ၂၄၃
(က) အာယုကပ် .... .... .... .... ၂၄၃
(ခ) အန္တရကပ် .... .... .... ၂၄၃
(ဂ) အသင်္ချေယျကပ် (ကပ္ပအသင်္ချေ) .... .... ၂၄၄
(၁) သံဝဋ္ဋကပ် (ကမ္ဘာပျက်ချိန်) .... .... ၂၄၅
ဇာတိခေတ် .... .... .... .... ၂၄၆
ရေဖျက်သောကမ္ဘာ .... .... .... .... ၂၄၆
လေဖျက်သောကမ္ဘာ .... .... .... .... ၂၄၇

အကြောင်းအရာ | စာမျက်နှာ


ဓမ္မိက ဒါန ၃-ပါး .... .... .... ၃၀၁
လေးပါးတွဲ ဒါနစုများ .... .... .... ၃၀၁

ငါးပါးတွဲဒါနစုများ

ကာလဒါနငါးပါး .... .... .... ၃၀၂
အသပ္ပုရိသဒါန ငါးပါး
(သူတော်ကောင်း မဟုတ်သူတို့၏ လှူခြင်းငါးမျိုး) .... ၃၀၂
သပ္ပုရိသဒါနငါးပါး (သူတော်ကောင်းတို့၏ လှူခြင်းငါးမျိုး) ၃၀၃
(တနည်း) သပ္ပုရိသဒါနငါးပါး .... .... ၃၀၃
ယင်းဒါနငါးမျိုး၏ အကျိုးတရားများ .... .... ၃၀၄
မဟာဒါန ငါးပါး .... .... .... ၃၀၆

ခြောက်ပါးတွဲဒါနစုများ

အချိန်မရွေး ကုသိုလ်တိုးသော အလှူ ၆-မျိုး .... ၃၀၇
ခုနစ်ပါးတွဲ ဒါနစုများ .... .... ၃၀၇

ရှစ်ပါးတွဲဒါနစုများ

(တနည်း) ဒါန ၈-ပါး .... .... ၃၀၉
သပ္ပုရိသဒါန ၈-ပါး .... .... ၃၁၀
အသပ္ပုရိသဒါန ၈-ပါး .... .... ၃၁၀

ကိုးပါးတွဲဒါနစုများ

အဓမ္မိကဒါန ၉-ပါးနှင့် စပ်၍ မှတ်သားဖွယ် အချက်များ .... ၃၁၂

ဆယ်ပါးတွဲဒါနစုများ

အပါယ်ချမည့် ဒါန ၁၀-မျိုး .... .... ၃၁၄
အလှူခံတစ်ကျိပ်လေး .... .... ၃၁၅


## အခန်း (၁၂)

ဒါနအကျိုးတရားများ


သောတာပန်မှမာ လားရာဂတိမြဲစေနိုင်သည့် အလှူဒါနများ ၃၁၈
ဆွမ်းတော်ကြမ်း၍ လှူရန် .... .... ၃၁၉
ဒါန၏ မျိုးမြောက်အကျိုး ငါးပါး .... .... ၃၁၉
သက်နှံလှူရကျိုး .... .... .... ၃၂၀

| အကြောင်းအရာ | စာမျက်နှာ |
| --- | --- |
| ထင်ရှားသော သက်န်းအလှူရှင်များ .... .... | ၃၂၀ |
| ဆွမ်းလှူရကျိုး .... .... | ၃၂၂ |
| ထင်ရှားသော ဆွမ်းအလှူရှင်များ .... .... | ၃၂၂ |
| ကျောင်းလှူရကျိုး .... .... | ၃၂၃ |
| ထင်ရှားသော ဇရပ် တန်ဆောင်း ကျောင်းအလှူရှင်များ .... | ၃၂၄ |
| ဆေးလှူရကျိုး .... .... | ၃၂၆ |
| ထင်ရှားသော ဆေးအလှူရှင်များ .... .... | ၃၂၇ |
| အလှူဒါနအမျိုးမျိုး၏ အကျိုးတရားများ .... .... | ၃၂၈ |
| ဆွမ်းလှူရကျိုး ၄-ပါး .... .... | ၃၂၈ |
| ဆွမ်းလှူရကျိုး ၅ ပါး .... .... | ၃၂၈ |
| အဝတ်ပုဆိုးလှူရကျိုး ၆-ပါး .... .... | ၃၂၉ |
| ထီးလှူရကျိုး ၈-ပါး .... .... | ၃၂၉ |
| သပိတ်လှူရကျိုး ၈-ပါး .... .... | ၃၂၉ |
| ပါကွပ်လှူရကျိုး ၇-ပါး .... .... | ၃၃၀ |
| ခြားငယ်လှူရကျိုး ၅-ပါး .... .... | ၃၃၀ |
| လက်သည်းလှီးဓားလှူရကျိုး ၅-ပါး .... .... | ၃၃၁ |
| အပ်လှူရကျိုး ၇-ပါး .... .... | ၃၃၁ |
| နှီး ထန်းရွက်ယပ်တောင် လှူရကျိုး ၃-ပါး .... .... | ၃၃၁ |
| ဓမ္မကရိုဏ်ရေစစ်လှူရကျိုး ၄-ပါး .... .... .... | ၃၃၂ |
| ဆီကျည်တောက် ဆီဘူးလှူရကျိုး ၅-ပါး .... .... .... | ၃၃၂ |
| အပ်ကျည်အပ်ဘူးလှူရကျိုး ၃-ပါး .... .... .... | ၃၃၂ |
| ပခုံးလွယ်ကြိုး(အံသကိုဋ္ဌ)လှူရကျိုး ၃-ပါး .... .... | ၃၃၂ |
| ခါးပန်းကြိုးလှူရကျိုး ၆-ပါး .... .... .... | ၃၃၃ |
| သပိတ်ခြေလှူရကျိုး ၅-ပါး .... .... .... | ၃၃၃ |
| အိုးလှူရကျိုး ၇-ပါး .... .... .... | ၃၃၃ |
| ခွက်လှူရကျိုး ၂-ပါး .... .... .... | ၃၃၄ |
| ဖိနပ်လှူရကျိုး ၄-ပါး .... .... .... | ၃၃၄ |
| ခြေနင်းလှူရကျိုး ၁-ပါး .... .... .... | ၃၃၄ |
| ရေသုတ်ပဝါလှူရကျိုး ၆-ပါး .... .... .... | ၃၃၄ |
| တောင်ဝှေးလှူရကျိုး ၆-ပါး .... .... .... | ၃၃၅ |
| မျက်စဉ်းလှူရကျိုး ၈-ပါး .... .... .... | ၃၃၅ |
| သော့လှူရကျိုး ၁-ပါး .... .... .... | ၃၃၅ |

အကြောင်းအရာ　　စာမျက်နှာ

# အပိုင်း (၃)

## အခန်း (၉)

### ဒါနပြုရန် တိုက်တွန်းခြင်း


ပေးကမ်းခြင်းအောင်စေရာ .... .... .... ၂၇၇

မေတ္တာ၏ ရှပ်သွင် .... .... .... ၂၇၇

ဒါနပြုရန် ခက်ခဲခြင်း .... .... .... ၂၇၈

ဒါနကို လေ့ကျင့်ခြင်း .... .... .... ၂၇၉

မိမိကိုယ်တိုင် လေ့ကျင့်ခြင်း .... .... .... ၂၇၉

အိမ်တွင်းဒါန .... .... .... ၂၈၀

အလှူခံရှိပါစေ .... .... .... ၂၈၁


## အခန်း (၁၀)

### ဒါနအစီပွါယ်ဖွင့်ဆိုခြင်း


ဒါန၏ အမည်ခွဲများ .... .... .... ၂၈၃

ကျမ်းဂန်လာ ဒါန၏ ဥပမာများ .... .... ၂၈၄

ဒါန၏ လက္ခဏာ, ရသ, ပစ္စုပဋ္ဌာန်, ပဒဋ္ဌာန် .... .... ၂၈၅

ဒါနသည် ပုဂ္ဂိုလ်တိုင်းအတွက် အရေးကြီး .... .... ၂၈၆

ဒါနအတွက် အခက် ၄-ပါး .... .... ၂၈၆

ပေးလှူလိုသည့်စိတ်ကို ဟန့်တားတတ်သည့် တရားများ .... ၂၈၇

မလှူဒါန်းနိုင်ခြင်း အကြောင်းရင်း .... .... ၂၈၇

အငတ်ဘေးကြောက်သူ များများလှူ .... .... ၂၈၇

ဒါနမြောက်အောင် အလှူရှင်များ ဆင်ခြင်ဖွယ် .... ၂၈၈

အကြောင်းအရာ — စာမျက်နှာ

## အခန်း (၁၁)

### ဒါနအမျိုးမျိုး

#### နှစ်ပါးတွဲဒါနစုများ


| | |
|---|---|
| အာမိသဒါန၊ ဓမ္မဒါန .... .... .... | ၂၉၂ |
| အဇ္ဈတ္တိကဒါန၊ ဗာဟိရဒါန .... .... | ၂၉၃ |
| ဝတ္ထုဒါန၊ အဘယဒါန .... .... .... | ၂၉၃ |
| ဝဋ္ဋနိဿိတဒါန၊ ဝိဝဋ္ဋနိဿိတဒါန .... .... | ၂၉၃ |
| သာဝဇ္ဇဒါန၊ အနဝဇ္ဇဒါန .... .... .... | ၂၉၃ |
| သာဟတ္ထိကဒါန၊ အာဏတ္တိကဒါန .... .... | ၂၉၄ |
| သက္ကစ္စဒါန၊ အသက္ကစ္စဒါန .... .... | ၂၉၄ |
| ဉာဏသမ္ပယုတ္တဒါန၊ ဉာဏဝိပ္ပယုတ္တဒါန .... .... | ၂၉၄ |
| သသင်္ခါရိကဒါန၊ အသင်္ခါရိကဒါန .... .... | ၂၉၅ |
| သောမနဿဒါန၊ ဥပေက္ခာဒါန .... .... | ၂၉၅ |
| ဓမ္မိယဒါန၊ အဓမ္မိယဒါန .... .... .... | ၂၉၅ |
| ဒါသဒါန၊ ဘုဇိဿဒါန .... .... .... | ၂၉၅ |
| ထာဝရဒါန၊ အထာဝရဒါန.... .... .... | ၂၉၅ |
| သပရိဝါရဒါန၊ အပရိဝါရဒါန .... .... | ၂၉၅ |
| နိဗဒ္ဓဒါန အနိဗဒ္ဓဒါန .... .... | ၂၉၆ |
| ပရာမဋ္ဌဒါန၊ အပရာမဋ္ဌဒါန .... .... | ၂၉၆ |
| ဥဒ္ဒိဿဒါန၊ အနုဒ္ဒိဿဒါန .... .... | ၂၉၆ |
| သဝိဓဒါန၊ အစ္စယဒါန .... .... .... | ၂၉၆ |
| ပုဂ္ဂလိကဒါန၊ သံဃိကဒါန.... .... .... | ၂၉၇ |
| ကာလဒါန၊ အကာလဒါန.... .... .... | ၂၉၇ |
| ပစ္စက္ခဒါန၊ အပစ္စက္ခဒါန .... .... .... | ၂၉၇ |
| သဒိသဒါန၊ အသဒိသဒါန.... .... .... | ၂၉၈ |


#### သုံးပါးတွဲဒါနစုများ


| | |
|---|---|
| ဣဏပယောဇနဒါန၊ ဣဏမောက္ခဒါန၊ နိဓိဒါန .... | ၂၉၈ |
| ဟီနဒါန၊ မဇ္ဈိမဒါန၊ ပဏီတဒါန .... .... | ၂၉၈ |
| ဒါနဒါသ၊ ဒါနသဟာယ၊ ဒါနသာမိ .... .... | ၂၉၉ |
| ဒုက္ခုဒါန၊ မဟာဒါန၊ သာမညဒါန .... .... | ၃၀၀ |

| အကြောင်းအရာ | စာမျက်နှာ |
| --- | --- |
| (၂) သံဝဋ္ဋဋ္ဌာယီကပ် .... .... .... .... | ၂၄၇ |
| (၃) ဝိဝဋ္ဋကပ် .... .... .... .... | ၂၄၇ |
| (၄) ဝိဝဋ္ဋဋ္ဌာယီကပ် .... .... .... .... | ၂၄၈ |
| (ဃ) မဟာကပ်ကမ္ဘာ .... .... .... .... | ၂၄၉ |
| (၄) ဗုဒ္ဓအသင်္ချေ .... .... .... .... | ၂၄၉ |
| ကမ္ဘာ ၆-မျိုး .... .... .... .... | ၂၅၀ |
| လေးအသင်္ချေနှင့် ကမ္ဘာတစ်သိန်းရေတွက်ပုံ .... .... | ၂၅၂ |
| နိယတဗျာဒိတ်ခံယူခြင်း .... .... | ၂၅၄ |
| ဘုရားလောင်း ၃-မျိုး .... .... | ၂၅၄ |
| နိယတဗျာဒိတ် ခံယူထိုက်သော အင်္ဂါ ၈-ပါး .... .... | ၂၅၅ |
| ရှင်းလင်းချက် .... .... | ၂၅၅ |
| သုမေဓာရှင်ရသေ့နိယတဗျာဒိတ်ခံယူခြင်း .... | ၂၅၇ |
| ပါရမီ ၁၀-ပါး .. .... | ၂၅၉ |
| ပါရမီ ၁၀-ပါး အပြား ၃၀ .... .... | ၂၆၀ |
| ၁။ ဒါနပါရမီ ဖြည့်ကျင့်ခြင်း .... .... | ၂၆၁ |
| သီလပါရမီ ဖြည့်ကျင့်ခြင်း .... .... | ၂၆၁ |
| ၃။ နေက္ခမ္မပါရမီ ဖြည့်ကျင့်ခြင်း .... .... | ၂၆၁ |
| ၄။ ပညာပါရမီ ဖြည့်ကျင့်ခြင်း .... .... | ၂၆၂ |
| ၅။ ဝီရိယပါရမီ ဖြည့်ကျင့်ခြင်း .... .... | ၂၆၂ |
| ၆။ ခန္တီပါရမီ ဖြည့်ကျင့်ခြင်း .... .... | ၂၆၃ |
| ၇။ သစ္စာပါရမီ ဖြည့်ကျင့်ခြင်း .... .... | ၂၆၄ |
| ၈။ အဓိဋ္ဌာနပါရမီ ဖြည့်ကျင့်ခြင်း .... .... | ၂၆၅ |
| ၉။ မေတ္တာပါရမီ ဖြည့်ကျင့်ခြင်း .... .... | ၂၆၅ |
| ၁၀။ ဥပေက္ခာပါရမီ ဖြည့်ကျင့်ခြင်း .... .... | ၂၆၆ |
| ဘဝဆက်တိုင်း ပါရမီစုံလင်စွာ ဖြည့်ကျင့်ခြင်း .... .... | ၂၆၇ |
| စွန့်ခြင်းကြီး ၅-ပါး .... .... | ၂၆၇ |
| စရိယ ၃-ပါး .... .... | ၂၆၈ |

အကြောင်းအရာ — စာမျက်နှာ

## အခန်း ( ၈ )

### နှစ်ကျိပ်လေးဆူသော ဘုရားများထံ၌ ဗျာဒိတ်ခံယူခြင်း


၁။ ဒီပင်္ကရာ မြတ်စွာဘုရား .... .... ၂၄၀
၂။ ကောဏ္ဍည မြတ်စွာဘုရား .... .... ၂၄၀
၃။ မင်္ဂလ မြတ်စွာဘုရား .... .... ၂၄၀
၄။ သုမန မြတ်စွာဘုရား .... .... ၂၄၀
၅။ ရေဝတ မြတ်စွာဘုရား .... .... ၂၄၁
၆။ သောဘိတ မြတ်စွာဘုရား .... .... ၂၄၁
၇။ အနောမဒဿီ မြတ်စွာဘုရား .... .... ၂၄၁
၈။ ပဒုမ မြတ်စွာဘုရား .... .... ၂၄၁
၉။ နာရဒ မြတ်စွာဘုရား .... .... ၂၄၂
၁၀။ ပဒုမုတ္တရ မြတ်စွာဘုရား .... .... ၂၄၂
၁၁။ သုမေဓ မြတ်စွာဘုရား .... .... ၂၄၂
၁၂။ သုဇာတ မြတ်စွာဘုရား .... .... ၂၄၃
၁၃။ ပိယဒဿီ မြတ်စွာဘုရား .... .... ၂၄၃
၁၄။ အတ္ထဒဿီ မြတ်စွာဘုရား .... .... ၂၄၃
၁၅။ ဓမ္မဒဿီ မြတ်စွာဘုရား .... .... ၂၄၃
၁၆။ သိဒ္ဓတ္ထ မြတ်စွာဘုရား .... .... ၂၄၄
၁၇။ တိဿ မြတ်စွာဘုရား .... .... ၂၄၄
၁၈။ ဖုဿ မြတ်စွာဘုရား .... .... .... ၂၄၄
၁၉။ ဝိပဿီ မြတ်စွာဘုရား .... .... .... ၂၄၄
၂၀။ သိခီ မြတ်စွာဘုရား .... .... .... ၂၄၅
၂၁။ ဝေဿဘူ မြတ်စွာဘုရား .... .... .... ၂၄၅
၂၂။ ကကုသန္ဓ မြတ်စွာဘုရား .... .... .... ၂၄၅
၂၃။ ကောဏာဂမန မြတ်စွာဘုရား .... .... ၂၄၅
၂၄။ ကဿပ မြတ်စွာဘုရား .... .... .... ၂၄၆

အကြောင်းအရာ — စာမျက်နှာ


သော့အိမ်, သော့ခလောက်လှူရကျိုး ၂-ပါး .... .... ၃၃၆
အာယောဂပတ်လှူရကျိုး ၅-ပါး .... .... .... ၃၃၆
ဆေးလိပ်,ဆေးတံလှူရကျိုး ၃-ပါး .... .... .... ၃၃၆
ဆီမီးတိုင်လှူရကျိုး ၃-ပါး .... .... .... ၃၃၆
ဘူးနှင့်ကြုတ်လှူရကျိုး ၁၀-ပါး .... .... .... ၃၃၇
လက်သုတ်ပဝါလှူရကျိုး ၅-ပါး .... .... .... ၃၃၇
သင်တုန်းဓားလှူရကျိုး ၁-ပါး .... .... .... ၃၃၇
မွေးညှပ်လှူရကျိုး ၁-ပါး .... .... .... ၃၃၈
နှာနှုပ်တံလှူရကျိုး ဂ-ပါး .... .... .... ၃၃၈
အင်းပျဉ်လှူရကျိုး ၅-ပါး .... .... .... ၃၃၈
ဘုံလျှိုမွေ့ရာလှူရကျိုး ၆-ပါး .... .... .... ၃၃၉
ခေါင်းအုံးလှူရကျိုး ၆-ပါး .... .... .... ၃၃၉
ပျဉ်ချပ်အင်းပျဉ်လှူရကျိုး ၂-ပါး .... .... .... ၃၃၉
ခြေဆေးအင်းပျဉ်လှူရကျိုး ၂-ပါး .... .... .... ၃၄၀
ခြေနယ်ဆီလှူရကျိုး ၅-ပါး .... .... .... ၃၄၀
ထေပတ်ဆီလှူရကျိုး ၅-ပါး .... .... .... ၃၄၀
သွားတိုက်ဆေးလှူရကျိုး ၅-ပါး .... .... .... ၃၄၀
နို့ဓမ်းလှူရကျိုး ၂-ပါး .... .... .... ၃၄၁
ပျားရည်လှူရကျိုး ၁-ပါး .... .... .... ၃၄၁
အရသာရှိသော အာဟာရလှူရကျိုး ၁-ပါး .... .... ၃၄၁
ထမင်းအဖျော်လှူရကျိုး ၁၀-ပါး .... .... .... ၃၄၁
အမွှေးတိုင် အခိုးအလျှံလှူရကျိုး ၁၀-ပါး .... .... .... ၃၄၁
တံတားလှူရကျိုး ၁၀-ပါး .... .... .... ၃၄၂
ယာဂုလှူရကျိုး ၁၀-ပါး .... .... .... ၃၄၂
ယာဂုလှူရကျိုး ၅-ပါး (တနည်း) .... .... .... ၃၄၃
ဒါနပြုသူ မပြုသူတို့ ကွာခြားပုံ .... .... .... ၃၄၃
ထူးကဲသာလွန်ပုံ .... .... .... ၃၄၄

အကြောင်းအရာ　　　　　　　　　　　　　　　　　　　　　　　　　　စာမျက်နှာ

## အခန်း (၁၃)

### ဒါနစေတနာသုံးတန်


| | |
|---|---|
| ပုဗ္ဗစေတနာ .... .... .... | ၃၄၅ |
| မုဉ္စစေတနာ .... .... .... | ၃၄၅ |
| အပရစေတနာ .... .... .... | ၃၄၆ |
| စေတနာသုံးတန် ညီညွတ်ခြင်း၏ လက်ငင်းအကျိုး .... | ၃၄၇ |
| စေတနာသုံးတန် ပျက်ပြယ်လျှင် ဆက်နွယ်လာမည့် အပြစ်များ | ၃၄၇ |
| ဒွိဟိတ်, တိဟိတ် ကုသိုလ်ခွဲခြားပုံ .... .... | ၃၄၉ |
| ဒွိဟိတ်ကုသိုလ်စိတ် .... .... .... | ၃၅၀ |
| တိဟိတ်ကုသိုလ်စိတ် .... .... .... | ၃၅၀ |
| ဥက္ကဋ္ဌ, ဩမက ခွဲခြားပုံ | ၃၅၁ |


## အခန်း (၁၄)

### အလှူခံပုဂ္ဂိုလ်ရွေးချယ်နည်း


| | |
|---|---|
| အလှူခံရွေးချယ်မှုနှင့် စပ်၍ ဝါဒအမျိုးမျိုး .... | ၃၅၂ |
| အလှူခံပုဂ္ဂိုလ် ရွေးချယ်ရန် အရေးကြီးပုံ .... | ၃၅၃ |
| သံဃာသည် ဒုဿီလမဟုတ် .... | ၃၅၄ |
| သံဃိကဒါနမြောက်အောင် နှလုံးသွင်းပုံ .... .... | ၃၅၅ |
| မလွယ်ကူပုံ .... .... .... | ၃၅၆ |
| ကျောင်းဒါယကာတစ်ဦး၏ ဝတ္ထု .... .... | ၃၅၇ |


## အခန်း (၁၅)

### ဒါနအရာ စံထားထိုက်သည့် ဝတ္ထုသာဓကများ


| | |
|---|---|
| လှူဒါန်းပေးကမ်းမှုအရာ စံထားရမည့် အနာထပိဏ်သူဌေးကြီး | ၃၅၈ |
| ပါရမီဘုန်းကံနှင့် လာသောသူ .... .... | ၃၅၈ |
| အနာထပိဏ် အမည်ရခြင်း .... .... | ၃၅၈ |
| တောဒက်ဆွဲထူးဖြင့် ချီးမြှောက်ခံရခြင်း .... .... | ၃၅၉ |
| လှူဒါန်းပေးကမ်းမှုအရာ စံထားရမည့် ဝိသာခါကျောင်းအမကြီး | ၃၆၁ |
| ပဒုမုတ္တရဘုရားရှင်ထံ ဆုထူးပန် .... .... | ၃၆၁ |

| အကြောင်းအရာ | စာမျက်နှာ |
|---|---|
| ကီကီမင်းကြီး၏ သမီးထွေးဘဝ .... .... | ၃၆၁ |
| နောက်ဆုံးဘဝ ဝိသာခါဖြစ်လာခြင်း .... .... | ၃၆၁ |
| ဝိသာခါသာဝတ္ထိမြို့ပြောင်းပုံ .... .... | ၃၆၂ |
| ပုဗ္ဗာရုံကျောင်း ဆောက်လုပ်လှူဒါန်းခြင်း | ၃၆၂ |
| ကျောင်းရေစက်ချပွဲကြီး ၄-လကြာ ကျင်းပခြင်း .... | ၃၆၃ |
| တေဒဂ်ဘွဲ့ထူး ချီးမြှင့်ခံရခြင်း .... .... | ၃၆၃ |
| အလှူခံပုဂ္ဂိုလ်မရွေးလျှင် ဒါနအထမမြောက်နိုင် .... | ၃၆၄ |
| အလှူခံပုဂ္ဂိုလ် ရွေးချယ်ခြင်း | ၃၆၆ |

# အပိုင်း (၅)

## အခန်း (၁၆)

### သီလစောင့်ထိန်းခြင်း

| | |
|---|---|
| သီလ၏ အဓိပ္ပါယ် .... .... .... | ၃၆၉ |
| ကောင်းစွာ ထားရှိခြင်း .... .... .... | ၃၆၉ |
| ကောင်းစွာ လုပ်ဆောင်ခြင်း .... .... | ၃၆၉ |
| သီလ၏ တရားကိုယ် .... .... | ၃၇၀ |
| စေတနာသီလ .... .... .... | ၃၇၁ |
| ဝိရတီသီလ .... .... .... | ၃၇၁ |
| အနဘိဇ္ဈာ၊ အဗျာပါဒ၊ သမ္မာဒိဋ္ဌိသီလ .... | ၃၇၂ |
| သံဝရသီလ .... .... | ၃၇၃ |
| အဝီတိက္ကမသီလ .... .... .... | ၃၇၃ |
| ဝိရတီ ၃-မျိုး .... .... .... | ၃၇၃ |
| သမာဒါနဝိရတီ .... .... .... | ၃၇၄ |
| သမ္ပတ္တဝိရတီ .... .... .... | ၃၇၄ |
| သမုစ္ဆေဒဝိရတီ .... .... .... | ၃၇၅ |
| ပဟာန် ၄-ပါး .... .... .... | ၃၇၅ |
| တဒင်္ဂပဟာန် .... .... .... | ၃၇၆ |
| ဝိက္ခမ္ဘနပဟာန် .... .... .... | ၃၇၆ |
| သမုစ္ဆေဒပဟာန် .... .... .... | ၃၇၆ |
| ပဋိပဿဒ္ဓိပဟာန် .... .... .... | ၃၇၆ |

အကြောင်းအရာ စာမျက်နှာ


| | |
|---|---|
| သီလ၏ အကြောင်း .... .... .... | ၃၇၇ |
| သီလရန့် ကြိုင်သင်းပျံ့ .... .... .... | ၃၇၇ |
| သီကြွားမင်းက ရှိခိုးရသူ .... .... .... | ၃၇၈ |
| စာရိတ္တနှင့် ဝါရိတ္တ (ဆောင်ရန်နှင့် ရှောင်ရန်) .... | ၃၇၈ |
| စာရိတ္တသီလ (ဆောင်ရန်) .... .... | ၃၇၉ |
| ဝါရိတ္တသီလ (ရှောင်ရန်).... .... .... | ၃၇၉ |
| ငါးပါးသီလ .... .... .... | ၃၈၀ |
| သီလခံယူတည်ဆောက်ပုံ .... .... .... | ၃၈၀ |
| သိက္ခာပုဒ် တစ်ခုချင်း ဆောက်တည်ပုံ .... .... | ၃၈၂ |
| တစ်ပေါင်းတည်း ဆောက်တည်ပုံ .... .... | ၃၈၂ |
| ငါးပါးသီလဆောက်တည်ပုံ .... .... | ၃၈၃ |


## ပါဏာတိပါတအဖွင့်


| | |
|---|---|
| အပြစ်ကြီးမှု အပြစ်ငယ်မှု.... .... .... | ၃၈၄ |
| ကံကြီးငါးပါး (ပဉ္စာနန္တရိယကံ) .... .... | ၃၈၅ |
| မှတ်ချက် .... .... .... | ၃၈၅ |
| ပါဏာတိပါတ၏ အထူးမှတ်ဖွယ် .... .... | ၃၈၆ |
| ပါဏာတိပါတ၏ အပြစ်များ .... .... | ၃၈၈ |
| မှတ်ရန်လင်္ကာ .... .... .... | ၃၈၉ |
| စုန္ဒဝက်ထိုးသမား .... .... .... | ၃၉၂ |
| နန္ဒနွားသတ်သမား .... .... .... | ၃၉၂ |
| ဓမ္မဒိန္နာ .... .... .... | ၃၉၂ |
| ပုတိဂတ္တထေရ် .... .... .... | ၃၉၃ |
| မဏ္ဍူကဗျရသေ့ .... .... .... | ၃၉၃ |
| အဘာသတ်သော အဇာတသတ်မင်း .... .... | ၃၉၃ |
| ဒေဝဒတ် .... .... .... | ၃၉၃ |
| နာဠိကေရမင်း .... .... .... | ၃၉၃ |
| ရှင်မောဂ္ဂလ္လာန် .... .. .... | ၃၉၄ |
| ကလာဗုမင်း .... .... .... | ၃၉၄ |
| ပါဏာတိပါတမှ ရှောင်ကြဉ်ခြင်း၏အကျိုး .... | ၃၉၄ |

အကြောင်းအရာ စာမျက်နှာ

အဒိန္နာဒါနအာဖွင့်

ခိုးခြင်း ၂၅-ပါး .... .... .... ၃၉၆

၁။ မတရားအမှုဆင်၍ ရယူခြင်း .... .... ၃၉၆
၂။ ကိုယ်တိုင် သယ်ယူနေစဉ် ခိုးခြင်း .... .... ၃၉၇
၃။ ငြင်းကွယ်၍ ခိုးခြင်း .... .... .... ၃၉၇
၄။ သယ်ဆောင်သူကို လမ်းကြောင်းပြောင်းစေခြင်း .... ၃၉၇
၅။ နေရာရွှေပြောင်း၍ ခိုးခြင်း .... .... ၃၉၇
၆။ မတရားအမှုဆင်၍ ရယူခြင်း .... .... .... ၃၉၈
၇။ ကိုယ်တိုင် သယ်နေစဉ် ခိုးခြင်း .... .... ၃၉၈
၈။ ငြင်းကွယ်၍ ခိုးခြင်း .... .... .... ၃၉၈
၉။ သယ်ဆောင်သူကို လမ်းကြောင်းပြောင်းစေ၍ ခိုးခြင်း.... ၃၉၈
၁၀။ နေရာရွှေပြောင်း၍ ခိုးခြင်း .... .... ၃၉၉
၁၁။ ကိုယ်တိုင် ခိုးခြင်း .... .... .... ၃၉၉
၁၂။ သူတပါးအား ခိုးစေခြင်း .... .... ၃၉၉
၁၃။ ကိုယ်လွတ်လက်လွတ် ခိုးခြင်း (ကိုယ်နှင့် ကင်းလွတ်အောင် ပြု၍ခိုးခြင်း) .... .... .... ၃၉၉
၁၄။ ခိုးရန်အချိန်နှင့် နည်းလမ်းမသတ်မှတ်ဘဲ အခိုးခိုင်းခြင်း ၄၀၀
၁၅။ ပိုင်ရှင် လက်လျှော့အောင် ပြု၍ ခိုးခြင်း .... ၄၀၀
၁၆။ မခိုးမီက ခိုးမှုအထမြောက်ခြင်း .... .... ၄၀၁
၁၇။ ချက်ချင်း ခိုးမှုမြောက်ခြင်း .... .... ၄၀၁
၁၈။ တိုင်ပင်ညှိနှိုင်း၍ ခိုးခြင်း (ကြံရာပါ) .... .... ၄၀၂
၁၉။ သတ်မှတ်၍ အခိုးခိုင်းခြင်း .... .... ၄၀၂
၂၀။ အချက်ပြ၍ အခိုးခိုင်းခြင်း .... .... ၄၀၂
၂၁။ မသိအောင် ခိုးခြင်း .... .... .... ၄၀၂
မြို့သားလှူလည်နှင့် ကောသားမုဆိုး ပုံဝတ္ထု .... ၄၀၄
၂၂။ အနိုင်အထက် လုယက်ယူခြင်း .... .... ၄၀၄
၂၃။ ရည်ရွယ်သတ်မှတ်ရာ ခိုးခြင်း (သံသယစိတ်ဖြင့် ခိုးခြင်း) ၄၀၄
၂၄။ ဖိုးဖိုရက်ထား၍ ခိုးခြင်း .... .... ၄၀၅
၂၅။ စာအမှတ်တံဆိပ်ပြောင်းလဲ၍ ခိုးခြင်း .... .... ၄၀၅

အကြောင်းအရာ စာမျက်နှာ

အပြစ်ကြီးမှု အပြစ်ငယ်မှု .... .... ၄၀၆
အဒိန္နာဒါန၏အပြစ်များ .... .... ၄၀၇
မှတ်ရန်လင်္ကာ .... .... ၄၀၇
သတ္တိသူဒနငရဲ .... .... ၄၀၉
ဈေးသည်မ ၄-ယောက် .... .... ၄၀၉
နတ်သမီးတစ်ဦး .... .... ၄၀၉
ခုပ္ပိပါသပြိတ္တာ .... .... ၄၀၉

## ကာမေသုမိစ္ဆာစာရအဖွင့်

ယောကျ်ားများ ရှောင်ကြဉ်ရန် .... .... ၄၁၂
ကာမကျူးလွန်ခြင်း အင်္ဂါ ၄-ပါး .... .... ၄၁၃
ကာမကျူးလွန်ခြင်း၏ အပြစ်များ .... .... ၄၁၃
မှတ်ရန်လင်္ကာ .... .... ၄၁၄
ဒု-သ-န-သော .... .... ၄၁၄
ကာမဂုဏ်မှားယွင်းမှုအပြစ်များ .... .... ၄၁၅
ဣလ္လသိဒါသိထေရီ .... .... ၄၁၆
အရှင်အာနန္ဒာအလောင်း .... .... ၄၁၇
ကာမဂုဏ်ဖောက်ပြားမှုမရှိသော ပုဂ္ဂိုလ်များ .... ၄၁၇
အိမ်ထောင်စုံ ၄-မျိုး .... .... ၄၁၇

## မုသာဝါဒအဖွင့်

လူယုတ်မာတို့၏စကား ၈-ခွန်း .... .... ၄၁၉
ဘုရားအလောင်းတော်များ မုသားမဆို .... .... ၄၁၉
မုသားအင်္ဂါ ၄-ပါး .... .... ၄၂၀
မုသာဝါဒ၏ အပြစ်များ .... .... ၄၂၀
မှတ်ရန်လင်္ကာ .... .... ၄၂၁
ရှင်ဒေဝဒတ် .... .... ၄၂၃
မုသားအစ စေတိယမင်းက .... .... ၄၂၄
စိဉ္စမာဏ .... .... ၄၂၅
တရားသူကြီး .... .... ၄၂၆

အကြောင်းအရာ စာမျက်နှာ

## သုရာမေရယ အဖွင့်


သုရာငါးမျိုး .... .... ၄၂၇
မေရယ ငါးမျိုး .... .... ၄၂၈
သေရည်သေရက်သောက်မှုအမျိုးမျိုး .... .... ၄၂၈
ကံမြောက်မှုနှင့် မမြောက်မှု အယူအဆများ .... .... ၄၂၉
အကုသိုလ်ကံ မြောက်သည်ဟု ယူဆပုံ .... .... ၄၃၀
အကုသိုလ်ကံ မမြောက်ဟု ယူဆပုံ .... .... ၄၃၀
အရှင်ဇနကာဘိဝံသ၏ အယူအဆ .... .... ၄၃၁
ငှိပ်ယင်းဆရာတော်၏ အယူအဆ .... .... ၄၃၁
အရက်သေစာသောက်ခြင်း အပြစ် ၆-ပါး .... .... ၄၃၃
စီးပွားပျက်ခြင်း .... .... ၄၃၃
ခိုက်ရန်များခြင်း .... .... ၄၃၃
ရောဂါဖြစ်ခြင်းအကြောင်း .... .... ၄၃၄
ကျော်စောသတင်း ကင်းမဲ့ခြင်း .... .... ၄၃၄
အရှက်အကြောက်ကင်းခြင်း .... .... ၄၃၄
အသိပညာနည်းအောင် ပြုခြင်း .... .... ၄၃၄
သုရာမေရယ၏ အပြစ်များ .... .... ၄၃၆
မှတ်ရန်လင်္ကာ .... .... .... ၄၃၅
အရက်သောက်ခြင်း၏ အပြစ် .... .... ၄၃၇
ငါးပါးသီလ စောင့်ထိန်းမှု အတုယူရန် .... .... ၄၃၈
ငါးပါးသီလ၏ အကျိုးကျေးဇူးများ .... .... ၄၄၅
ပဉ္စသီလဆမာဒါနိယထေရ် .... .... ၄၄၅
ဆတ္တမာဏဝလုလင် .... .... .... ၄၄၆
ပဉ္စသီလကို လွန်ကျူးရာ၌ အပြစ်ကို ပြခြင်း .... ၄၄၇
ဗြဟ္မစရိယငါးပါး သီလ (အပျိုစင် လူပျိုစင်တို့၏ ကျင့်စဉ်) ၄၄၈
အဗြဟ္မစရိယ အဓိပ္ပာယ် .... .... .... ၄၄၈
ဥဒယဘဒ္ဒမင်းသားနှင့် မင်းသမီး .... .... ၄၄၉
ပိပ္ပလိလုလင်နှင့် ဘဒ္ဒါကာပိလာနီ .... .... ၄၄၉
ကိကီမင်းကြီး၏ သမီးတော် ၇-ယောက် .... .... ၄၄၉
ပုဏ္ဏ ဥပါသကာ .... .... .... ၄၅၀
ဂဝေသီ ဥပါသကာ .... .... .... ၄၅၀

| အကြောင်းအရာ | စာမျက်နှာ |
|---|---|

ဥဂ္ဂသူကြွယ် .... .... .... ၄၅၀
နကုလမာတာနှင့် နကုလပိတာ .... .... ၄၅၀

### ဗြဟ္မစရိယငါးပါးသီလ ခံယူဆောက်တည်ပုံ

သီလတော်င်း .... .... .... ၄၅၀
ကောဘတ္တိကဆက္ကသီလ (ညစာမစား ၆-ပါးသီလ) .... ၄၅၁

## အခန်း (၁၇)

### ရှစ်ပါးသီလ

သီလခံယူပုံ .... .... .... ၄၅၄
ရှစ်ပါးသီလ ဆောက်တည်ပုံ .... .... ၄၅၄
ရှစ်ပါးသီလအနက် .... .... .... ၄၅၅
မြန်မာပြန် .... .... .... ၄၅၅

### ဝိကာလဘောဇနအဖွင့်

နေလွဲညစာ စားခြင်းမှ ရှောင်ကြဉ်ခြင်း .... .... ၄၅၆
လယ်လုပ်သား ဥပုသ်သည်ဝတ္ထု .... .... ၄၅၇
ညစာ မစားခြင်းအကျိုး .... .... .... ၄၅၇

### နစ္စဂီတ သိက္ခာပုဒ်အဖွင့်

နစ္စ=ကခြင်း .... .... .... ၄၅၉
ဂီတ=သီဆိုခြင်း .... .... .... ၄၅၉
ဝါဒိတ=တီးမှုတ်ခြင်း .... .... .... ၄၅၉
ဝိသူကဒဿန=ဆန့်ကျင်ဘက်ကို ကြည့်ရှုခြင်း .... ၄၆၀
မာလာဓာရဏ=ပန်းပန်ခြင်း .... .... ၄၆၀
ဂန္ဓဓာရဏ=အမွှေးရနံ့ဆောင်ခြင်း .... .... ၄၆၀
ဂန္ဓဝိလေပနမဏ္ဍန—နံ့သာ, နံ့သာပျောင်းသုံးစွဲခြင်း .... ၄၆၀
မဏ္ဍန=အလှပြင်ခြင်း .... .... .... ၄၆၁
ဂန္ဓဝိလေပနဝိဘူသန .... .... .... ၄၆၁
ဝိဘူသန=တန်ဆာဆင်ခြင်း .... .... ၄၆၁
ဌာန=အကြောင်းတရား .... .... ၄၆၁
ဥစ္စာသယန မဟာသယနအဖွင့် .... .... ၄၆၁

| အကြောင်းအရာ | | | စာမျက်နှာ |
|---|---|---|---|

## ဥပုသ်စောင့်ပုံ အစီအစဉ်


| | | | |
|---|---|---|---|
| ဥပုသ်စောင့်ပုံ | .... | .... | ၄၆၂ |
| ဥပုသ်စောင့်ပုံအစီအစဉ် | .... | .... | ၄၆၂ |
| ဥပုသ်စောင့်ခြင်းအကျိုး | .... | .... | ၄၆၃ |
| ဥပုသ်အမျိုးမျိုး | .... | .... | ၄၆၄ |
| ဂေါပါလနွားကျောင်းသား ဥပုသ် | .... | .... | ၄၆၄ |
| နိဂဏ္ဌတက္ကတွန်းဥပုသ် | .... | .... | ၄၆၅ |
| အရိယာဥပုသ် | .... | .... | ၄၆၅ |
| ဗြဟ္မဥပုသ် | .... | .... | ၄၆၅ |
| ဓမ္မဥပုသ် | .... | .... | ၄၆၅ |
| သံဃာ့ဥပုသ် | .... | .... | ၄၆၅ |
| သီလဥပုသ် | .... | .... | ၄၆၆ |
| သီလကျိုးခြင်း | .... | .... | ၄၆၆ |
| မပေါက် | .... | .... | ၄၆၆ |
| မပြောက် | .... | .... | ၄၆၆ |
| မကျား | .... | .... | ၄၆၆ |
| နတ်ဥပုသ် | .... | .... | ၄၆၆ |
| နတ်တို့ကို သက်သေအရာထားပုံ | .... | .... | ၄၆၇ |
| အင္ဂကဥပုသ် | .... | .... | ၄၆၇ |
| ပကတိဥပုသ် | .... | .... | ၄၆၇ |
| ပကတိဥပုသ်နေ့ ၄-ရက် | .... | .... | ၄၆၇ |
| ပကတိဥပုသ်နေ့ ၆-ရက် | .... | .... | ၄၆၈ |
| ပကတိဥပုသ်နေ့ ၈-ရက် | .... | .... | ၄၆၈ |
| ပဋိဇာဂရ (အကြိုအပို့ဥပုသ်) | .... | .... | ၄၆၈ |
| ဥပုသ်ရက် (၂၀) | .... | .... | ၄၆၉ |
| ပါဋိဟာရိယဥပုသ် (နိဗဒ္ဓဥပုသ်) | | .... | ၄၆၉ |

အကြောင်းအရာ　　　　စာမျက်နှာ

## အခန်း (၁၈)

## ကိုးပါးသီလနှင့် ဆယ်ပါးသီလ

### ကိုးပါးသီလ


| | | | |
|---|---|---|---|
| သီလတောင်းပုံ | .... | .... | ၄၇၁ |
| ကိုးပါးသီလဆောက်တည်ပုံ | .... | .... | ၄၇၁ |
| အနက် | .... | .... | ၄၇၂ |
| မြန်မာပြန် | .... | .... | ၄၇၂ |
| နဝင်္ဂသီလအဓိပ္ပါယ် | .... | .... | ၄၇၂ |
| မေတ္တာကို သီလအဖြစ် ဆောက်တည်နေခြင်း | | .... | ၄၇၃ |
| မေတ္တာအကျိုး ၁၁-မျိုး | .... | .... | ၄၇၄ |


### ဆယ်ပါးသီလ


| | | | |
|---|---|---|---|
| သီလတောင်းပုံ | .... | .... | ၄၇၅ |
| ဆယ်ပါးသီလ | .... | .... | ၄၇၅ |
| အနက် | .... | .... | ၄၇၆ |
| မြန်မာပြန် | .... | .... | ၄၇၆ |


### ဆယ်ပါးသီလအဖွင့်


| | | | |
|---|---|---|---|
| နိစ္စဂီတနှင့် မာလာဂန္ဓခွဲရခြင်းအကြောင်း | | .... | ၄၇၇ |
| မာလာဂန္ဓသိက္ခာပုဒ်အရ | .... | .... | ၄၇၇ |
| သိက္ခာပုဒ်နှစ်ခု ခွဲခြင်း တွဲခြင်း | .... | .... | ၄၇၇ |
| ဇာတရူပသိက္ခာပုဒ်အဖွင့် | .... | .... | ၄၇၈ |
| ရှောင်ကြဉ်ဖွယ် ၅-မျိုး | .... | .... | ၄၇၈ |
| ဆယ်ပါးသီလ စောင့်ကောင်းသလော | .... | .... | ၄၇၉ |


## အခန်း (၁၉)

### အာဇီဝဋ္ဌမကသီလ


| | | | |
|---|---|---|---|
| အာဇီဝဋ္ဌမကသီလတောင်းပုံ | .... | .... | ၄၈၁ |
| အနက် | .... | .... | ၄၈၁ |
| သီလခံယူပုံ | .... | .... | ၄၈၂ |
| အနက် | .... | .... | ၄၈၂ |

အကြောင်းအရာ — စာမျက်နှာ

မြန်မာပြန် .... .... ၄၀၃
ပိသုဏာဝါစာအဖွင့် .... .... ၄၀၄

### ဖရုသဝါစာအဖွင့်

ဖရုသဝါစာကံ၏ အပြစ်များ .... .... ၄၀၆
နန္ဒိဝိသာလနွား .... .... .... ၄၀၇
သမ္ဖပ္ပလာပဝါစာအဖွင့် .... .... .... ၄၀၈

### မိစ္ဆာဇီဝအဖွင့်

မိစ္ဆာအာဇီဝ ၅-မျိုး .... .... ၄၁၀
သမ္မာအာဇီဝ ၂-မျိုး .... .... ၄၁၁
သမ္မာအာဇီဝ .... .... .... ၄၁၁
ကုက္ကုဋ္ဌမှုဆိုး .... .... .... ၄၁၂
ရဟန်းတော်များ၏ သမ္မာအာဇီဝ .... .... ၄၁၃
အာဒိဗြဟ္မစရိယ=အကျင့်မြတ်၏ အစ .... .... ၄၁၄
စောင့်ထိန်းရန် သင့်,မသင့် .... .... ၄၁၄

## အခန်း (၂၀)

### သီလအမျိုးမျိုး

### နှစ်ပါးစုသီလ

စာရိတ္တသီလနှင့် ဝါရိတ္တသီလ .... .... ၄၁၆
အာဘိသမာစာရိကသီလနှင့် အာဒိဗြဟ္မစရိယသီလ .... ၄၁၇
ဝိရတိသီလနှင့် အဝိရတိသီလ .... .... ၄၁၇
နိဿိတသီလနှင့် အနိဿိတသီလ .... .... ၄၁၇
ကာလပရိယန္တသီလနှင့် အာပါဏကောဋိကသီလ .... ၄၁၈
သပရိယန္တသီလနှင့် အပရိယန္တသီလ .... ၄၁၈
လောကိယသီလနှင့် လောကုတ္တရသီလ .... ၄၁၉
ဂဟဋ္ဌသီလနှင့် ပဗ္ဗဇိတသီလ .... .... ၄၁၉

အကြောင်းအရာ စာမျက်နှာ

## သုံးပါးစုံသီလ

ဟီနသီလ၊ မဇ္ဈိမသီလ၊ ပဏီတသီလ .... .... ၅၀၀
အတ္တာဓိပတေယျသီလ၊ လောကာဓိပတေယျသီလ၊
ဓမ္မာဓိပတေယျသီလ .... .... ၅၀၁
ပရာမဋ္ဌသီလ၊ အပရာမဋ္ဌသီလ၊ ပဋိပဿဒ္ဓိသီလ .... ၅၀၁
ဝိသုဒ္ဓသီလ၊ အဝိသုဒ္ဓသီလ၊ ဝေမတိကသီလ .... ၅၀၁
သေက္ခသီလ၊ အသေက္ခသီလ၊ နေဝသေက္ခနာသေက္ခသီလ ၅၀၂

## လေးပါးစုံသီလ

စွမ်းရည်အားဖြင့် (၄)မျိုး .... .... ၅၀၂
ပုဂ္ဂိုလ်အားဖြင့် (၄)မျိုး .... .... ၅၀၂
သဘာဝအားဖြင့် (၄)မျိုး .... .... ၅၀၂
ဝိနည်းကြောင်းအရ (၄)မျိုး .... .... ၅၀၃
ဟာန၊ ဋ္ဌိတိ၊ ဝိသေသ၊ နိဗ္ဗေဓဘာဂိယသီလ .... ၅၀၃
ဘိက္ခုသီလ၊ ဘိက္ခုနီသီလ၊ အနုပသမ္ပန္နသီလ၊ ဂဟဋ္ဌသီလ ၅၀၄
ပကတိသီလ၊ အာစာရသီလ၊ ဓမ္မတာသီလ၊ ပုဗ္ဗဟေတုကသီလ ၅၀၄
ပါတိမောက္ခသံဝရသီလ .... .... ၅၀၅
ဣန္ဒြိယသံဝရသီလ .... .... ၅၀၅
မဟာတိဿထေရ် .... .... ၅၀၅
အာဇီဝပါရိသုဒ္ဓိသီလ .... .... ၅၀၆
ပစ္စယသန္နိဿိတသီလ .... .... ၅၀၇
သီလစင်ကြယ်နည်း (၄)မျိုး .... .... ၅၀၇
အသက်ကိုပင် စွန့်လွှတ်၍ သီလကို ဖြည့်ကျင့်ကြသော
မထေရ်များ .... .... ၅၀၉
စိတ္တဂုတ္တမထေရ် .... .... ၅၀၉
မဟာမိတ္တထေရ် .... .... ၅၁၀
အရှင်သာရိပုတ္တရာမထေရ် .... .... ၅၁၀
အမ္ဗခါဒကမဟာတိဿမထေရ် .... .... ၅၁၁
မဟာသံဃရက္ခိတမထေရ် .... .... ၅၁၁
သီလညစ်ညူးခြင်း .... .... ၅၁၂
သီလစင်ကြယ်ခြင်း .... .... ၅၁၃

အကြောင်းအရာ စာမျက်နှာ

# အပိုင်း (၅)

## အခန်း (၂၁)

### ဗုဒ္ဓမန္တန်တော်များ


အန္တရာယ်ကင်းဂါထာများ .... .... ၅၁၅

၁။ "နမော တဿ" အန္တရာယ်ကင်းဂါထာ .... ၅၁၆

၂၂-ကမ္ဘာမှ ဘုရားရှိခိုး .... .... ၅၁၇

သိကြားမင်း၏ ဘုရားရှိခိုး .... .... ၅၁၇

ကောသလမင်းကြီး၏ ဘုရားရှိခိုး .... .... ၅၁၇

အာရာမဒတ္တပုဏ္ဏား၏ ဘုရားရှိခိုး .... .... ၅၁၈

ဓနဉ္စာနီ ပုဏ္ဏားမကြီး ရှိခိုးခြင်း .... .... ၅၁၈

ကာရဏပါလီပုဏ္ဏားကြီး ရှိခိုးခြင်း .... .... ၅၁၉

ဇာဏုသောဏိပုဏ္ဏားကြီး ရှိခိုးခြင်း .... .... ၅၂၀

ဗြဟ္မာယုပုဏ္ဏားကြီး ရှိခိုးခြင်း .... .... ၅၂၀

၂။ သဝေ မပါ ကိုးဂါထာ .... .... ၅၂၀

အရိယာသာဝိတ္တဂါထာတော် .... .... ၅၂၁

၃။ အစိန္တိယဂါထာ (အစိန္တေယျအကျိုးပြ) .... ၅၂၁

၄။ ဥဒါန်းဂါထာတော်နှစ်ပုဒ် (စိတ်တော်ဖြင့်ကျူး) .... ၅၂၂

၅။ ဥဒါန်းဂါထာတော်သုံးပုဒ် (နှုတ်တော်ဖြင့်ကျူး) .... ၅၂၃

၆။ သမ္ဗုဒ္ဓေမင်္ဂလာဂါထာ (တစ်ထောင်တန် "ဒီဝါ တပတိ" ဂါထာ) ၅၂၅

၇။ အချုပ်အနှောင်မှ လွတ်မြောက်စေသည့်ဂါထာ .... ၅၂၆

၈။ ရာဟုအသူရိန်နတ်ကြီး ကြောက်လန့်ထွက်ပြေးသောဂါထာ ၅၂၇

၉။ လက်နက်ကိုးဖြာ အောင်ဂါထာ .... .... ၅၂၇

၁၀။ အတွင်းအောင်ခြင်းရှစ်ပါး ဂါထာပါဌ်အနက် .... ၅၂၈

၁၁။ အပြင်အောင်ခြင်းရှစ်ပါး .... .... ၅၃၃

မာရ်နတ်သားကို အောင်ခြင်း .... .... ၅၃၃

အာဠဝက ဘီလူးကို အောင်ခြင်း .... .... ၅၃၄

နာဠာဂိရိဆင်ကို အောင်ခြင်း .... .... ၅၃၅

အင်္ဂုလိမာလကို အောင်ခြင်း .... .... ၅၃၆

စိဉ္စမာဏဝိကာကို အောင်ခြင်း .... .... ၅၃၆

သစ္စကပရိဗိုဇ်ကို အောင်ခြင်း .... .... ၅၃၇

အကြောင်းအရာ စာမျက်နှာ

နန္ဒောပနန္ဒနဂါးမင်းကို အောင်ခြင်း .... .... ၃၃၈
ဗကဗြဟ္မာကို အောင်ခြင်း .... .... ၃၃၉

၁၂။ အပြင်အောင်ခြင်းရှစ်ပါး အချုပ် ၂-ဂါထာ .... ၃၃၉
၁၃။ အောင်ဂါထာတော် .... .... ၃၄၁
၁၄။ သစ္စာပ်နှက်အောင်ရှစ်ချက်ဂါထာ .... .... ၃၄၁
၁၅။ မာရ်နတ်ကို အောင်မြင်ပြီးနောက် ပြဟ္မာ, နတ်, နဂါး, ဂဠုန်တို့၏ ကြွေးကြော်သည့် ဂါထာများ .... ၃၄၂
၁၆။ သမ္ဗုဒ္ဓေကပ်ဓကျော် မန္တန်တော်ကြီး .... ၃၄၄
သမ္ဗုဒ္ဓေဂါထာသုံးပုဒ်၏ အကျိုးကျေးဇူးများ .... ၃၄၄
လက်ာ၏ အဓိပ္ပာယ် .... .... ၃၄၅
၁၇။ ဖုဋ္ဌဿဂါထာ မန္တန်တော် .... .... ၃၄၆
၁၈။ ပဋ္ဌိစ္စသမုပ္ပါဒ် အနုလုံပါဠိတော် .... ၃၄၇
၁၉။ ပဋ္ဌိစ္စသမုပ္ပါဒ် ပဋိလုံပါဠိတော် .... .... ၃၄၇
၂၀။ ပထဝီဇယမန္တန် ၁၄-ဂါထာပါဌ် .... .... ၃၄၈
၂၁။ လာဘသိဒ္ဓိ ရှစ်သီဝလိဂါထာ .... .... ၃၅၃
၂၂။ ပဋ္ဌာန်းပစ္စယုဒ္ဒေသပါဠိတော် (ပဋ္ဌာန်း ၂၄-ပစ္စည်း) ၃၅၆
၂၃။ စက်ဝန်းပရိတ်ခေါ် အရပ်ဆယ်မျက်နှာ ကြိုဟ်ရှစ်လုံး စည်းချဂါထာများ .... .... ၃၅၇
၂၄။ အတွင်းစည်းချ သိရသွိ ဂါထာတော်ကြီး .... ၃၆၁
၂၅။ မြစ်ကူးချောင်းခြား ခရီးသွားအန္တရာယ်ကင်းဂါထာ ၃-ပုဒ် ၃၆၂
၂၆။ လေပ်မလိ ဆူးမငြိနိုင်သောဂါထာ .... .... ၃၆၄
၂၇။ သက်တော်မြဲဂါထာ .... .... ၃၆၅
၂၈။ အန္တရာယ်မပြုနိုင်သော ဂုဏ်တော် ၄-ပါး .... ၃၆၇
၂၉။ အာဝေဏိကဂုဏ်တော် ၁၈-ပါး .... .... ၃၆၈
၃၀။ နာညတြဂါထာ .... .... ၃၇၁
၃၁။ ကျည်မထွက် လက်နက်တုံးဂါထာ .... ၃၇၂
၃၂။ လက်နက် ရန်သူကွင်းဂါထာ .... .... ၃၇၃
၃၃။ ကပ်ဆိုးရောဂါဆိုး အမျိုးမျိုးတို့မှ ကင်းလွတ်စေနိုင်သောဂါထာ ၃၇၄
၃၄။ ရန်သူမမြင်နိုင်သောဂါထာ (ကိုယ်ပျောက်ဂါထာ).... ၃၇၆
၃၅။ အန္တရာယ်ကင်းဂါထာ .... .... ၃၇၇
၃၆။ အသက်အန္တရာယ်ကင်းဂါထာ .... .... ၃၇၈
၃၇။ ဘီလူးပြေးသောဂါထာ .... .... ၃၇၉

အကြောင်းအရာ — စာမျက်နှာ


၃၈။ သံ ဂ-ချက်ဂါထာ .... .... ၅၇၉
၃၉။ စမ ကြီးလေးလုံးဂါထာ .... .... ၅၈၀
၄၀။ "ဧ" ကိုးချက်ဂါထာ ... .... ၅၈၁
၄၁။ မနောမယိဒ္ဓိဂါထာ .... .... ၅၈၂
၄၂။ သဗ္ဗသိဒ္ဓိဂါထာ .... .... ၅၈၄
၄၃။ ဣစ္ဆန္တော ဂါထာ .... .... ၅၈၅
၄၄။ ဣစ္ဆိတဂါထာတော် .... .... ၅၈၆
၄၅။ ထွတ်ခေါင်ဆရာတော်ဘုရားကြီး၏ ရန်အောင်မြင်
ဂါထာတော် .... .... ၅၈၇
၄၆။ ဇလွန်ပြည်တော်ပြန် မြတ်စွာဘုရားကြီး၏ စမ္မခဏ်ဂါထာတော် ၅၈၇
၄၇။ ဆဒိသာပါလသုတ် .... .... ၅၈၉
၄၈။ ဇက္ကပရိတ္တ (စက်ပရိတ်) .... .... ၅၉၆
၄၉။ မဟာဝေဒဗ္ဗမန္တန်တော် .... .... ၆၀၂
၅၀။ စူဠဝေဒဗ္ဗ သစ္စမန္တန်တော် .... ... ၆၀၄


# အခပိုင်း (၆)

## ဘဝသံသရာနှင့် ကံကြမ္မာ

## အခန်း (၂၂)

### ဘဝသံသရာ


ဘဝ .... .... .... ၆၀၈
အာရုံသုံးမျိုး .... .... .... ၆၀၉
အာရုံက လွှမ်းမိုးခြင်း .... .... .... ၆၁၀
ဘုံဘဝများ .... .... .... ၆၁၂
အပါယ်လေးဘုံ .... .... .... ၆၁၂
ပြိတ္တာဘုံ .... .... .... ၆၁၂
အသူရကာယ်ဘုံ .... .... ... ၆၁၁
ငရဲဘုံ .... .... .... ၆၁၃
ငရဲကြီးရှစ်ထပ် .... .... .... ၆၁၄
သိဉ္ဇုဝ်းငရဲ .... .... .... ၆၁၄

| အကြောင်းအရာ | | | | စာမျက်နှာ |
|---|---|---|---|---|
| ကစ္စလသုတ်ငရဲ | .... | .... | .... | ၆၁၅ |
| သင်္ဃာတငရဲ | .... | .... | .... | ၆၁၆ |
| ရောရုဝငရဲ | .... | .... | .... | ၆၁၇ |
| မဟာရောရုဝငရဲ | .... | .... | .... | ၆၁၈ |
| တာပနငရဲ | .... | .... | .... | ၆၁၈ |
| မဟာတာပနငရဲ | .... | .... | .... | ၆၁၉ |
| အဝီစိငရဲ | .... | .... | .... | ၆၂၀ |
| ငရဲငယ်များ | .... | .... | .... | ၆၂၁ |
| ဘင်ပုပ်ငရဲ | .... | .... | .... | ၆၂၁ |
| ပြာမှုငရဲ | .... | .... | .... | ၆၂၂ |
| လက်ပံတောငရဲ | .... | .... | .... | ၆၂၂ |
| သန်လျက်တောငရဲ | .... | .... | .... | ၆၂၂ |
| အခြားငရဲငယ်များ | .... | .... | .... | ၆၂၃ |
| ငရဲသက်တမ်း | .... | .... | .... | ၆၂၄ |
| ကာမသုဂတိ ၇-ဘုံ | .... | .... | .... | ၆၂၅ |
| လူ့ဘုံ | .... | .... | .... | ၆၂၅ |
| စတုမဟာရာဇ်နတ်ဘုံ | .... | .... | .... | ၆၂၅ |
| စတုမဟာရာဇ် နတ်မျိုးများ | | .... | .... | ၆၂၆ |
| တာဝတိံသာ နတ်ဘုံ | .... | .... | .... | ၆၂၇ |
| ယာမာနတ်ဘုံ | .... | .... | .... | ၆၂၇ |
| တုသိတာနတ်ဘုံ | .... | .... | .... | ၆၂၇ |
| နိမ္မာနရတိနတ်ဘုံ | .... | .... | .... | ၆၂၈ |
| ပရနိမ္မိတဝသဝတ္တီနတ်ဘုံ | | .... | .... | ၆၂၈ |
| နတ်စည်းစိမ် | .... | .... | .... | ၆၂၈ |
| နတ်တို့၏ သက်တမ်း | .... | .... | .... | ၆၂၉ |
| နတ်သက်တမ်း ဇယားအကျဉ်းချုပ် | | .... | .... | ၆၃၀ |
| ဗြဟ္မာ (၂၀) | .... | .... | .... | ၆၃၁ |
| ရူပဗြဟ္မာဘုံ ၁၆-ဘုံ | .... | .... | .... | ၆၃၁ |
| ပထမစျာန် ၃-ဘုံ | .... | .... | .... | ၆၃၁ |
| (က) ဗြဟ္မပါရိသဇ္ဇာဘုံ | | .... | .... | ၆၃၁ |
| (ခ) ဗြဟ္မပုရောဟိတာဘုံ | | .... | .... | ၆၃၁ |
| (ဂ) မဟာဗြဟ္မာဘုံ | .... | .... | .... | ၆၃၂ |

| အကြောင်းအရာ | စာမျက်နှာ |
|---|---|
| ဒုတိယစျာန် ၃-ဘုံ .... .... .... | ၆၃၂ |
| (က) ပရိတ္တာဘာဘုံ .... .... .... | ၆၃၂ |
| (ခ) အပ္ပမာဏာဘာဘုံ .... .... .... | ၆၃၂ |
| (ဂ) အာဘဿရာဘုံ .... .... .... | ၆၃၃ |
| တတိယစျာန် ၃-ဘုံ .... .... | ၆၃၃ |
| (က) ပရိတ္တသုဘာဘုံ .... .... | ၆၃၃ |
| (ခ) အပ္ပမာဏသုဘာဘုံ.... .... | ၆၃၃ |
| (ဂ) သုဘကိဏှာဘုံ .... .... .... | ၆၃၃ |
| စတုတ္ထစျာန် ၇-ဘုံ .... .... .... | ၆၃၄ |
| (က) ဝေဟပ္ဖိုလ်ဘုံ .... .... .... | ၆၃၄ |
| (ခ) အသညသတ်ဘုံ .... .... .... | ၆၃၄ |
| (ဂ) သုဒ္ဓါဝါသ ၅-ဘုံ .... .... .... | ၆၃၅ |
| (က) အဝိဟာဘုံ .... .... .... | ၆၃၆ |
| (ခ) အတပ္ပါဘုံ .... .... .... | ၆၃၆ |
| (ဂ) သုဒဿာဘုံ .... .... .... | ၆၃၆ |
| (ဃ) သုဒဿီဘုံ .... .... .. | ၆၃၆ |
| (င) အကနိဋ္ဌဘုံ .... .... ... | ၆၃၆ |
| ပဉ္စဝေါကာရဘုံ .... .... .... | ၆၃၆ |
| သဟမ္ပတိဗြဟ္မာ .... .... .... | ၆၃၇ |
| ဗကဗြဟ္မာ .... .... .... .... | ၆၃၇ |
| ဗြဟ္မာ့စည်းစိမ် .... .... .... | ၆၃၈ |
| အရူပဗြဟ္မာ ၄-ဘုံ .... .... .... | ၆၃၉ |
| ဗြဟ္မာတို့၏ သက်တမ်း .... .... .... | ၆၄၁ |
| ၃၁-ဘုံ အကျဉ်း .... .... .... | ၆၄၂ |
| ၃၁-ဘုံ အထက်မှအောက် တည်နေပုံ .... .... | ၆၄၂ |
| ပုဂ္ဂိုလ် ၁၂-မျိုး .... .... .... | ၆၄၃ |

| အကြောင်းအရာ | စာမျက်နှာ |
|---|---|
| ပုထုဇဉ် ၅-ယောက် .... .... .... | ၆၄၃ |
| အရိယာ ၈-ယောက် .... .... .... | ၆၄၄ |
| ပုဂ္ဂိုလ် ၂၁၄-ယောက် .... .... .... | ၆၄၄ |
| မြဟ္မာ့ပြည် အခင်းဝင်း ဝက်စားကျင်း တရှုတ်ရှုတ် .... | ၆၄၆ |
| ဘဝကူးပုံ .... .... .... | ၆၄၆ |
| လောက်လမ်းသဖွယ် ဝိညာဉ်တွယ် .... .... | ၆၄၇ |
| ဘဝသံသရာ .... .... .... | ၆၄၉ |

## အခန်း (၂၃)

### ကံကြမ္မာ

| | |
|---|---|
| သမ္မာဒိဋ္ဌိနှင့် မိစ္ဆာဒိဋ္ဌိ .... .... .... | ၆၅၀ |
| ကမ္မသကတာသမ္မာဒိဋ္ဌိ .... .... .... | ၆၅၂ |
| နောက်ဘဝကြိုက်သူနှင့် ကြောက်သူ .... .... | ၆၅၂ |
| နောက်ဘဝရှိသူနှင့် မရှိသူ နှိုင်းယှဉ်ချက် .... .... | ၆၅၃ |
| နောင်ဘဝမရှိခဲ့သော် .... .... .... | ၆၅၄ |
| နောက်ဘဝရှိခဲ့သော် .... .... | ၆၅၅ |
| ကြောင်းကျိုးဆက်နည်းဖြင့် သက်သေပြပုံ .... | ၆၅၆ |
| သေသူက ပူးကပ်ပြောခြင်း .... .... | ၆၅၈ |
| လူဝင်စားကို အထောက်အထားပြု .... .... | ၆၅၉ |
| ကံတူ အကျိုးပေး .... .... .... | ၆၆၀ |
| ကံ၏ အကျိုးများ .... .... .... | ၆၆၁ |
| ကံကြောင့် ဖြစ်သော ကမ္မဇရုပ်များ .... .... | ၆၆၁ |
| ကံကြောင့် ဖြစ်သော ဥတုဇရုပ်များ .... .... | ၆၆၂ |
| တစ်ဘဝ၏ အပိုင်းသုံးပိုင်း .... .... | ၆၆၃ |
| ပဋိသန္ဓေအခါ .... .... .... | ၆၆၃ |
| စုတိအခါ .... .... .... | ၆၆၄ |
| ပဝတ္တိအခါ .... .... .... | ၆၆၅ |
| စွမ်းအင်အရ ကံ ၄-မျိုး .... .... | ၆၆၅ |
| ဇနကကံ .... .... .... | ၆၆၅ |
| ဥပတ္ထမ္ဘကကံ .... .... .... | ၆၆၅ |
| ဥပပီဠကကံ .... .... .... | ၆၆၆ |
| ဥပဃာတကကံ .... .... .... | ၆၆၇ |

အကြောင်းအရာ — စာမျက်နှာ

အခွင့်အခါအရ ကံ ၄-မျိုး .... .... ၆၆၇
ဂရုကံ .... .... .... .... ၆၆၈
အာသန္နကံ .... .... .... ၆၆၉
အာစိဏ္ဏကံ .... .... .... ၆၆၉
ကဋတ္တာကံ .... .... .... ၆၇၀
အကျိုးပေးရာကာလ အနီးအဝေးအရ ကံ ၄-မျိုး .... ၆၇၀
ဒိဋ္ဌဓမ္မဝေဒနီယကံ .... .... .... ၆၇၁
ဥပပဇ္ဇဝေဒနီယကံ .... .... .... ၆၇၁
အပရာပရိယဝေဒနီယကံ .... .... ၆၇၁
အဟောသိကံ .... .... .... ၆၇၁

## အခန်း (၂၄)

## သေပြီးနောက် သုဂတိဘဝရောက်လိုသော်

သေရမည့်ဘေး ပြေးမလွတ် .... .... ၆၇၂
သေပြီးနောက် ဘဝတွေ့ ဖြစ်ကြဦးမည်နည်း .... ၆၇၄
မယားချစ်သူတစ်ဦး .... .... .... ၆၇၄
၈၄၀၀၀-ကုသိုလ်ရှင်ဘဝမှ စပါးကြီးမြွေ ဖြစ်ရခြင်း .... ၆၇၆
မုဆိုးလုပ်သူ နတ်ပြည်ရောက်ခြင်း .... .... ၆၇၇
သေခါနီးဘုရားအာရုံ တရားအာရုံကြောင့် နတ်ပြည်ရောက်သူများ ၆၇၈
ညီို ရဲ့ဆန်တစ်စလယ် .... .... .... ၆၇၉
သေဖို့ရန်ပြင်ဆင်သူ၊ သို့မဟုတ် ယော မင်းကြီး ဦးဘိုးလှိုင် ၆၈၀
သေခါနီး အာရုံနိမိတ်ထင်မှု .... .... ၆၈၄
(က) ကံအာရုံ ထင်လာပုံ .... .... ၆၈၅
(ခ) ကမ္မနိမိတ်အာရုံထင်လာပုံ .... .... ၆၈၅
(ဂ) ဂတိနိမိတ်အာရုံ ထင်လာပုံ .... .... ၆၈၅
သေပြီးနောက် သုဂတိဘဝရောက်စေရန် .... ၆၈၆

## အခန်း (၂၅)

## အထွေထွေ

ဩကာသမှုကွဲများ .... .... .... ၆၈၉
မူလဩကာသ .... .... .... ၆၉၁
ဒွါရဩကာသ .... .... .... ၆၉၁

အကြောင်းအရာ စာမျက်နှာ

နှစ်မူပေါင်းစပ်ကြိယာ .... .... .... ၆၉၂
ပဏာမကြိယာ .... .... .... ၆၉၂
မှတ်ချက် .... .... .... ၆၉၃
ကြိယာသမူသစ် .... .... .... ၆၉၃
အများသုံးကြိယာ .... .... .... ၆၉၄
မဟာစည်ကြိယာ .... .... .... ၆၉၄
မှန်ကြိယာသကန်တော့ခန်း .... .... ၆၉၅
မှတ်ချက် .... .... .... ၆၉၅

## အခန်း (၂၆)

## ပါဠိပါဠ်ဆင့် ရေးနည်း ဖတ်နည်း

အက္ခရာ ၄၁-လုံး .... .... .... ၆၉၆
သရ ၈-လုံး=အ၊အာ၊ဣ၊ဤ၊ဥ၊ဦ၊ဧ၊ဩ .... ၆၉၆
သဒိသဒွေဘော်=အက္ခရာတူဆင့်ခြင်း .... .... ၆၉၈

(၁) ပထမအက္ခရာချင်း ဆင့်ပုံ .... .... ၆၉၈
(၂) တတိယအက္ခရာချင်း ဆင့်ပုံ .... .... ၆၉၈
(၃) ပဉ္စမအက္ခရာချင်း ဆင့်ပုံ .... .... ၆၉၈
(၄) အဝဂ်အက္ခရာတူချင်း ဆင့်ပုံ .... .... ၆၉၉

အသဒိသဒွေဘော်=အက္ခရာမတူဆင့်ခြင်း .... ၆၉၉

(၁) ပထမအက္ခရာက ဒုတိယအက္ခရာအပေါ်သို့ ဆင့်ခြင်း ၆၉၉
(၂) တတိယအက္ခရာက စတုတ္ထအက္ခရာအပေါ်သို့ ဆင့်ခြင်း ၆၉၉
(၃) ပဉ္စမအက္ခရာက ရှေ့လေးလုံးပေါ်သို့ ဆင့်ခြင်း .... ၆၉၉
(၄) "ယ"အပေါ်သို့ ဆင့်ခြင်း .... .... ၇၀၀
(၅) "ရ"ပေါ်သို့ ဆင့်ခြင်း .... .... ၇၀၁
(၆) "လ"ပေါ်သို့ ဆင့်ခြင်း .... .... ၇၀၁
(၇) "ဝ"ပေါ်သို့ ဆင့်ခြင်း .... .... ၇၀၂
(၈) "သ"ဆင့်ခြင်း .... .... ၇၀၂
(၉) "ဟ"ပေါ်သို့ ဆင့်ခြင်း .... .... ၇၀၂

အသတ်အသံထွက်နည်း .... .... ၇၀၃

အကြောင်းအရာ စာမျက်နှာ

## အပိုင်း (၅)

### အခန်း (၂၇)

### ဝေါဟာရအခပ်ပွါယ်

ဝေါဟာရအခပ်ပွါယ် .... .... .... ၇၀၉

### မှတ်သားဖွယ် အကျွရာစဉ်

မှတ်သားဖွယ် အကျွရာစဉ် .... .... ၇၂၅

---

# ဗုဒ္ဓဘာသာလက်စွဲကျမ်း

## အပိုင်း ( ၁ )

### အခန်း (၁)

### မိဘတာဝန်

**သရဏဂုံတည်စ ပဋိသန္ဓေမှ**

ဗုဒ္ဓဘာသာဝင် မိဘ (၂) ပါးမှ မွေးဖွားဆင်းသက်လာသော ကျွန်ုပ်တို့သည် အမိဝမ်းတွင်း၌ ရှိနေစဉ်ကပင် ရတနာ(၃)ပါးအား ဆည်းကပ် ပူဇော်ခဲ့ကြသည်။ ဗုဒ္ဓဘာသာဝင် မိခင်ဖြစ်သူသည် ရတနာ (၃)ပါးအား ဆည်းကပ်ပူဇော်သည့်အခါတိုင်း ဝမ်းတွင်း လွယ်ထားသော သားသမီးအတွက်လည်း ရှိခိုးပူဇော် ဆည်းကပ်လေ့ရှိကြသည်။ မြတ်စွာဘုရားအား ဆွမ်း၊ ရေချမ်း၊ ပန်း ဆက်ကပ်၍ လည်းကောင်း၊ ဝတ်တက်ဝတ်ကပ်ပြု၍လည်းကောင်း၊ သံဃာတော်များအား နေ့စဉ် ဆွမ်းလောင်းခြင်း၊ ရှိခိုးကန်တော့ခြင်းပြု၍ လည်းကောင်း သန္ဓေ သားငယ်အတွက် ဆုတောင်းဆုယူ ပြုလေ့ရှိကြသည်။ ထို့ကြောင့် ကျွန်ုပ်တို့သည် အမိဝမ်းတွင်းကပင် သရဏဂုံတည်လာသူများ ဖြစ်ကြသည်ဟု ဆိုနိုင်ပါသည်။

ဗုဒ္ဓဘာသာဝင်များသည် သားသမီး မွေးဖွားသည့်အချိန်ကို ထန်းဖူး၊ ထန်းရွက် တစ်ဖက်ချွန်ပေါ်တွင် ရေးမှတ်ထားရာ ယင်းထန်းရွက်ကို "သက်မှတ်"ဟု ခေါ်ကြသည်။ ကလေး (၁၂)နှစ် ပြည့်သောအခါမှ ဇာတာခွင် ဖွဲ့ကြရသည်။ ယင်းသက်မှတ်နှင့် ဇာတာခွင်ပေါ်တွင် "ရတနာ (၃)ပါး ဦးထိပ်ထားလျက် မာတာမိခင် ဖွားသန့်စင်သည့် အမည်သညာ ခေါ်စရာကား မောင်ဖြူ၊ အသက် (၁၂၀)ရှည်စေသော်"ဟု ရေးမှတ်လေ့ရှိကြသည်။

ထို့ကြောင့် မိရိုးဖလာ ဗုဒ္ဓဘာသာဝင်များသည် အမိဝမ်းတွင်း၌ရှိစဉ်ကပင် ရတနာ (၃)ပါးအား ဆည်းကပ်သူ သရဏဂုံတည်သူများ ဖြစ်လာခဲ့ကြသည်။ မြတ်စွာဘုရားရှင် လက်ထက်တော်အခါက ဥဒေနမင်း၏ သားတော် ဗောဓိမင်းသားသည် မြတ်စွာဘုရားရှင်အား အမေးပုစ္ဆာပြဿနာများကို မေးမြန်းလျှောက်ထားသည်။ မြတ်စွာဘုရားရှင်၏ ဖြေရှင်းဟောကြားတော်မူခြင်းကို

နှစ်သက်ကြည်ညိုသဖြင့် ချီးမွမ်းစကား လျှောက်ထားလေသည်။ ထိုအခါ အနီးအပါး၌ ရှိနေသော သဥ္စိကာပုတ္တလုလင်သည် ဗောဓိမင်းသားကို ကဲ့ရဲ့ ဖြစ်တင်စကား ပြောကြားပုံမှာ—

"ဤအရှင်ဗောဓိမင်းသားသည် —

'မြတ်စွာဘုရားသည် အံ့သြဖွယ်ကောင်းလှပါ၏၊ တရားတော်သည် အံ့သြဖွယ်ကောင်းလှပါ၏၊ တရားတော်၏ အစ၊ အလယ်၊ အဆုံး သုံးပါး အစုံ ကောင်းခြင်းဂုဏ်နှင့် ပြည့်စုံစွာ ဟောကြားထားအပ်သည်၏ အဖြစ်သည် အံ့သြဖွယ်ကောင်းလှပါ၏' —

ဟူ၍ ဤသို့သာလျှင် ချီးမွမ်းစကား လျှောက်ထား၏။ ထိုသို့ပင်လျှောက်ထား ငြားသော်လည်း—

'ထိုအရှင် ရဟန်းဂေါတမကို လည်းကောင်း၊ တရားတော်ကို လည်းကောင်း၊ ရဟန်း သံဃာကိုလည်းကောင်း ကိုးကွယ်ရာဟူ၍ကား မဆည်းကပ်ဘဲချေ' —

ဟူ၍ ပြောကြားလေ၏"။ ထိုအခါ ဗောဓိမင်းသားသည်—

"အချင်း သဥ္စိကာပုတ္တ.... ဤသို့ မပြောဆိုပါလင့်၊ အချင်း သဥ္စိ-ကာပုတ္တ.... ဤသို့ မပြောဆိုပါလင့်၊ အချင်း သဥ္စိကာပုတ္တ.... ငါသည် ဤဆိုလတ္တံ့သော အကြောင်းအရာစကားကို မယ်တော်၏ မျက်မှောက်မှ ကြားနာ မှတ်သား ခံယူထားအပ်ဖူးပါသည်—

အချင်း သဥ္စိကာပုတ္တ ...အခါတပါး၌ မြတ်စွာဘုရားသည် ကောသမ္ဗီ ပြည် ဃောသိတာရုံကျောင်းတိုက်၌ သီတင်းသုံးနေတော်မူ၏။ ထိုအခါ ငါ၏ မယ်တော်သည် ငါ့ကို ကိုယ်ဝန်ဆောင်ရှိနေစဉ် မြတ်စွာဘုရား ထံတော်မှောက်သို့ သွားရောက် ဝပ်လျှိုးရှိခိုး ထိုင်နေပြီးလျှင် မြတ်စွာ ဘုရားကို "ဘုန်းတော်ကြီးသော မြတ်စွာဘုရား–အကျွန်ုပ်၏ဝမ်းတိုက်၌ တည်ရှိသော ဤသတို့သားသည် (သို့မဟုတ်) ဤသတို့သမီးသည် မြတ်စွာဘုရားကိုလည်းကောင်း၊ တရားတော်ကို လည်းကောင်း၊ ရဟန်း သံဃာကိုလည်းကောင်း ကိုးကွယ်ရာဟူ၍ ဆည်းကပ်ပါ၏။ ဘုန်းတော် ကြီးသော မြတ်စွာဘုရားသည် ထိုသတို့သား (သို့မဟုတ်) သတို့သမီးကို ယနေ့ကစ၍ အသက်ရှည်သမျှ ကာလပတ်လုံး သရဏဂုံတည်သူ ဥပါသကာ, ဥပါသိကာ ဟူ၍ မှတ်တော်မူပါဘုရား"—

လျှောက်ခဲ့လေပြီ။

အချင်း သဋ္ဌိကာပုတ္တ...အခါတပါး၌ မြတ်စွာဘုရားသည် ဘဂ္ဂတိုင်း အဝင်အပါ ဤသုသုမာရဂိရိမြို့မှာပင် သားတို့အား ဆေးမွဲဝေးရာ ဘေသကဋ္ဌာတောအုပ်၌ သီတင်းသုံးနေတော်မူစဉ် အထိန်းတော်သည် ငါ့ကို ရင်ခွင်ဖြင့် ပိုက်ချီ၍ မြတ်စွာဘုရားထံတော်မှောက်သို့ သွားရောက် ဝပ်လျိုး ရှိခိုး ရပ်တည်ပြီးလျှင် "ဘုန်းတော်ကြီးသော မြတ်စွာဘုရား— ဤဗောဓိမင်းသားသည် မြတ်စွာဘုရားကိုလည်းကောင်း၊ တရားတော်ကို လည်းကောင်း၊ ရဟန်း သံဃာကို လည်းကောင်း ကိုးကွယ်ရာဟူ၍ ဆည်းကပ်ပါ၏။ ဘုန်းတော်ကြီးသော မြတ်စွာဘုရားသည် ဤဗောဓိ မင်းသားကို ယနေ့က စ၍ အသက်ရှည်သမျှ ကာလပတ်လုံး သရဏဂုံ တည်သူ ဥပါသကာ ဒါယကာဟူ၍ မှတ်တော်မူပါဘုရား"—

ဟု လျှောက်ထားခဲ့လေပြီ။

အချင်း သဋ္ဌိကာပုတ္တ.... (မယ်တော်နှင့် အထိန်းတော်တို့ ငါ၏ ကိုယ်စား နှစ်ကြိမ်တိုင်တိုင် အသီးအသီး သရဏဂုံခံယူခဲ့ပြီးသော) ထိုငါ သည် ဖားခုအခါ သုံးကြိမ်မြောက်လည်း မြတ်စွာဘုရားကို လည်းကောင်း၊ တရားတော်ကိုလည်းကောင်း၊ ရဟန်း သံဃာကိုလည်းကောင်း ကိုးကွယ် ရာဟူ၍ ဆည်းကပ်ပါ၏။ "ဘုန်းတော်ကြီးသော မြတ်စွာဘုရားသည် အကျွန်ုပ်ကို ယနေ့ကစ၍ အသက်ရှည်သမျှ ကာလပတ်လုံး သရဏဂုံ တည်သူ ဥပါသကာ ဒါယကာဟူ၍ မှတ်တော်မူပါဘုရား"—

ဟူ၍ သဋ္ဌိကာပုတ္တလုလင်ကို တိုင်တည်ကာ မြတ်စွာဘုရားအထံတော်၌ သရဏဂုံ ခံယူလေ၏။

ဤကဲ့သို့ မယ်တော်နှင့် အထိန်းတော်တို့က လျှောက်ထားရုံမျှဖြင့် ဗောဓိ မင်းသားအဖို့ သရဏဂုံခံယူဆောက်တည်ပြီး မဖြစ်နိုင်သော်လည်း မယ်တော်နှင့် အထိန်းတော်တို့ နှုတ်မြွက်လျှောက်ထား ဆောက်တည်အပ်သော သရဏဂုံသည် ထိုဗောဓိမင်းသားအတွက် သရဏဂုံတည်ရန် လမ်းကြောင်းဖွင့်ပေးပြီးဖြစ်သည်။ ယင်းလမ်းကြောင်းမှ သွေဖည်ပြောင်းလွဲမသွားစေရန် ကာကွယ်စောင့်ရှောက်ပြီး ဖြစ်လေသည်။ အမိဝမ်းတွင်း၌ ရှိစဉ်ကလည်းကောင်း၊ စကားနားမလည်မီက လည်းကောင်း မယ်တော်နှင့် အထိန်းတော်တို့က ဗောဓိမင်းသားကိုယ်စား လျှောက်ထားခဲ့ခြင်းသည် ဗောဓိမင်းသားကိုယ်တိုင် ကတ်သိ လိမ္မာသည့် အရွယ်သို့ ရောက်ရှိသောအခါ မိဘဆွေမျိုးမိတ်ဆွေတို့က ယင်းသရဏဂုံ ခံယူ ဆောက်တည်ခဲ့သည့်အကြောင်းကို ပြန်လည်ပြောပြ၍ သတိရအောက်မေ့စေကြ သောအခါ ဗောဓိမင်းသားသည် မိဘတို့၏ ပြောစကားကို ဆင်ခြင်စဉ်းစား ပြီးလျှင် "ငါကား—သရဏဂုံတည်သူ ဥပါသကာဒါယကာတစ်ယောက်ဖြစ်သည်"

ဟူ၍ သတိရအောက်မေ့သည်နှင့်တပြိုင်နက် သရဏဂုံ ခံယူဆောက်တည်ပြီးဖြစ်လေတော့သည်။ နှုတ်မြွက်၍ သရဏဂုံဆောက်တည်ရန် မလိုတော့ဘဲ စိတ်ဖြင့်ဆင်ခြင်အောက်မေ့ရုံမျှဖြင့် သရဏဂုံ ခံယူဆောက်တည်ပြီး ဖြစ်တော့သည်။

**ဒါနပြုစု ကလေးဘဝမှ**

မဟာဗုဒ္ဓဝင်ကျမ်းတွင် ဘုရားအလောင်းတော် ဖွားတော်မူပြီးနောက် (၅)ရက်မြောက်သောနေ့၌ ခေါင်းဆေးမင်္ဂလာပွဲနှင့် နာမည်မှည့်ခေါ်ခြင်း နာမကရဏမင်္ဂလာပြုကြောင်း ဖော်ပြထားသည်။

ဘုရားအလောင်းတော် ဖွားမြင်ပြီးနောက် (၅)ရက်မြောက်သောနေ့၌ ခမည်းတော် သုဒ္ဓေါဒနမင်းကြီးသည် သားတော် အလောင်းမင်းသားအား ဦးခေါင်းဆေးလျှော်ခြင်းမင်္ဂလာ ပြုလုပ်စေပြီးလျှင် အမည်မှည့်အံ့ဟု မိမိ၏ စံနန်းတော်ကို နံ့သာမျိုးလေးပါးတို့ဖြင့် ပွတ်လိမ်းထုံကုံစေပြီးသော် နေဇာမြက်၊ ဆန်ပန်း၊ ပေါက်ပေါက်ပန်း၊ မုန်ညင်းစေ့၊ မုလေးငုံဟူသော ပန်းငါးမျိုးတို့ကို နန်းတော်အနှံ့ ဖြန့်ကြဲစေပြီးလျှင် ရေမရောယှက် သက်သက်သော နို့ဃနာ ဘောဇဉ်ကို ချက်စေတော်မူ၍ ဗေဒင်သုံးပုံတို့၏ တစ်ဖက်ကမ်းရောက် တတ်မြောက်ကုန်သော ပုဏ္ဏားပညာရှိ (၁၀၈)ယောက်တို့ကို ပင့်ဖိတ်လျက် စံနန်းတော်အတွင်းခင်းထားအပ်သော နေရာကောင်းနေရာသန့်တို့၌ ထိုင်နေကြစေ၍ ကောင်းမွန်မြိန်မြတ်သော နို့ဃနာဘောဇဉ်တို့ကို ကျွေးမွေးတော်မူ၏။ ယင်းသို့ ကျွေးမွေးတော်မူပြီးသော် ကောင်းမွန်ကြီးမြတ်သော ပူဇော်သက္ကာရကို ပြုလျက် ထိုပုဏ္ဏားပညာရှိ (၁၀၈)ယောက်တို့အနက် (၈)ယောက်သော ပုဏ္ဏားပညာရှိတို့ကို တဖန် ရွေးနုတ်ပြီးလျှင် ဘုရားအလောင်းတော်၏ လက္ခဏာတို့ကို ဖတ်စေကုန်၏။

ပုဏ္ဏားပညာရှိတို့သည် ဘုရားအလောင်းတော်၏ လက္ခဏာတော်ကြီးငယ်တို့ကို စိစစ်စေ့ငု ကြည့်ရှုဆင်ခြင်ကြပြီးလျှင် "ဘုရားစင်စစ်ဖြစ်လတ္တံ့"ဟု နိမိတ်ဖတ်ကြား လျှောက်ထားကြပြီးနောက် အလောင်းတော်မင်းသား၏ အမည်တော်ကို အလုံးစုံသော လောက၏ အကျိုးစီးပွား ပြီးစီးအောင်မြင် ထမြောက်အောင် ဆောင်ရွက်တော်မူမည့်အကြောင်းနိမိတ်ကို အစွဲပြု၍ သိဒ္ဓတ္ထ (သိဒ္ဓ = ပြီးစီးခြင်း + အတ္ထ = အကျိုးစီးပွား )ဟု မှည့်ခေါ် သမုတ်ကြကုန်၏။ မြန်မာလူမျိုးများသည်လည်း မြတ်စွာဘုရား၏ ဆွေတော်မျိုးတော် သာကီဝင် အနွယ်များ ဖြစ်ကြသည်အားလျော်စွာ သာကီဝင်တို့၏ကျင့်စဉ် ခေါင်းဆေးမင်္ဂလာနှင့် နာမကရဏမင်္ဂလာကို မိမိတို့ စွမ်းနိုင်သမျှ လိုက်နာပြုလုပ်လေ့ ရှိကြသည်။

## ကင်ပွန်းတပ်ခြင်း

မြန်မာ့ရိုးရာအစဉ်အလာအရ သားသမီး မွေးဖွားပြီးနောက် (၇)ရက် မြောက်သောနေ့၌ မိခင်ဖြစ်သူသည် မီးနေခန်းမှ ထွက်နိုင်ခွင့်ရသည်၊ ထိုသို့ မီးနေခန်းမှ ထွက်ခြင်းကို မီးထွက်သည်ဟု ခေါ်ကြသည်။ မီးထွက်သည့်နေ့၌ မိခင်ရောကလေးပါ ခေါင်းလျှော်ရေ (တရော်ကင်ပွန်းရေ)တို့ဖြင့် ဦးခေါင်းဆေး လျှော်ခြင်း၊ ရေချိုးသန့်စင်ခြင်း ပြုရသည်၊ ခေါင်းလျှော်ရေ (တရော်ကင်ပွန်း ရေ)ကို အိမ်နီးချင်းများအားလည်း ပေးကမ်း ဝေငှရသည်။

[မှတ်ချက်။ ။တရော်ကို ခေါင်းလျှော်ရေအဖြစ် အသုံးပြုရခြင်းမှာ သရေခေတ္တရာပြည် ဒွတ္တဘောင် မင်းကြီးအား ပန်ထွာ မင်းသမီးက မသန့်စင်သော မီးနေထဘီမှ ချည်မျှင်များဖြင့် ပြန်လည် ရက်လုပ် ထားသည့် မျက်နှာသုတ်ပဝါကို ဆက်သည်။ မင်းကြီးသည် အမှတ်မဲ့ မဆင်မခြင် သုံးစွဲမိ၍ မျက်မှောင်နှစ်ခုအကြားရှိ မှဲ့ရှင်တော် ကွယ်လေ သည်။ မှဲ့ရှင်တော်မှာ ဘုန်းကျက်သရေ၏ အထိမ်းအမှတ်လက္ခဏာ ဖြစ်သည်။ မင်းကြီးသည် ဘုန်းနိမ့်ကြောင်း သိရှိ၍ ပန်ထွာပြည်မှ သရေခေတ္တရာပြည်သို့ ပြန်ခဲ့ရာ လမ်းခရီးတွင် မိုးရွာသဖြင့် တရော်ပင် အောက်၌ ဝင်ရောက် မိုးခိုလေသည်။ တရော်ပင်မှ စီးဆင်းကျလာသော မိုးရေများသည် မင်းကြီး၏ မျက်နှာထက်သို့ ကျရာ တရော်ရည်ဖြင့် မျက်နှာသစ်သကဲ့သို့ ဖြစ်၍ မင်္ဂလာကျက်သရေ အထိမ်းအမှတ် မှဲ့ရှင်တော် ပြန်လည် ပေါ်ထွက်လာကြောင်း အဆိုရှိသည်။

ထို့ပြင် ကင်ပွန်းသီးမှာ အပုပ်အစပ် အလွန်နိုင်သည်၊ ပုပ်စော် ညှီစော်နံနေသော အရာဝတ္ထုကို ကင်ပွန်းသီး ပြုတ်ရေဖြင့် ဆေးကြော သော်လည်းကောင်း၊ သို့မဟုတ် ကင်ပွန်းသီးကို မီးမြှိုက်၍ မီးခိုးမှိုင်း တိုက်သော်လည်းကောင်း ယင်း အနံ့အသက်များ ပျောက်ကွယ်၍ သန့်ရှင်း စင်ကြယ်စေနိုင်သည်။

ထို့ကြောင့် ရှေးမြန်မာ လူကြီးသူမများက တရော်ကင်ပွန်းရေကို ခေါင်းလျှော်ရေအဖြစ် သတ်မှတ်ပေးခဲ့ကြ၍ မိမိတို့၏ ဦးခေါင်းနှင့် မျက်နှာကို ကျက်သရေတိုးအောင် တရော်ကင်ပွန်းရေဖြင့် ဆေးလျှော် ကြရန် အစဉ်အလာကောင်း တစ်ရပ် ချမှတ်ခဲ့ကြသည်။]

ယင်းသို့ တရော်ကင်ပွန်းရေဖြင့် ခေါင်းလျှော်ခြင်း၊ ရေချိုးခြင်းကို ကင်ပွန်း တပ်သည်ဟု ခေါ်ကြသည်၊ ယင်း ခေါင်းဆေးမင်္ဂလာပြုသော နေ့မှာပင်

နာမည်ပေးလေ့ ရှိကြသောကြောင့် နာမည်ပေးခြင်းကို ကင်ပွန်းတပ်သည်ဟု ခေါ်ကြသည်။ ကင်ပွန်းတပ်သည့်နေ့၌ ဘုန်းကြီးကျောင်းသို့ ဆွမ်းအုပ်ပို့ခြင်း၊ ရပ်ရွာအတွင်း အိမ်နီးချင်းများသို့ ကောက်ညှင်းပေါင်း စသော မြန်မာမုန့်များ ဝေငှ ပေးပို့ခြင်း ပြု၍ တတ်သိနားလည် ဗဟုသုတကြွယ်ဝသော ရပ်မိရပ်ဖများက နေ့သင့် နံသင့် အမည်မှည့်ခေါ်မှု (နာမကရဏ) မင်္ဂလာပြုကြသည်။ အချို့ အရပ်ဒေသ၌ မိမိတို့ ဆရာဘုန်းတော်ကြီးက အမည် ရွေးချယ်ပေးသည်ကို မှည့်ခေါ်ကြသည်။ ဥစ္စာပစ္စည်းအင်အား ပြည့်စုံသူများအနေဖြင့်မူ ရပ်မိရပ်ဖ မိတ်ဆွေ အပေါင်းအသင်းများကို ဖိတ်ကြား ဧည့်ခံ ကျွေးမွေးခြင်းပြုလျက် ဝေဒပညာရှင်များက နေ့သင့် နံသင့် အက္ခရာ ရွေးချယ်ခြင်း၊ ဆန်းကိုက်အောင် ရွေးချယ်ခြင်းပြု၍ နာမည်ပေးခြင်း နာမကရဏမင်္ဂလာ ပြုလေ့ရှိကြသည်။

ဗုဒ္ဓဘာသာဝင်များသည် သရဏဂုံ ဆောက်တည်မှုကို အမိဝမ်းတွင်း ပဋိသန္ဓေမှ စတင်ခဲ့၍ ဒါနပြုမှုကို (၇) ရက်သားမှ စတင်ခဲ့သည်၊ လသား အရွယ်မှ စ၍ ဘုရားရှိခိုးခြင်း၊ သံဃာရှိခိုးခြင်းကို အစပျိုးခဲ့သည်မှာ ထင်ရှား လှပေသည်။

## အာဝဇ္ဇနာအစ ကလေးဘဝ

ဗုဒ္ဓဘာသာဝင် မိဘများသည် သားငယ်သမီးငယ်များကို ရင်ခွင်တွင် ချီပိုး ပွေ့ပိုက်ရသည့် အရွယ်မှာပင် ဘုရားရှိခိုးစေအင်သင်ကြား လေ့ကျင့်ပေးကြသည်။ ကလေး၏ လက်နှစ်ဖက်ကို ပူးကိုင်၍ မိဘဖြစ်သူက "ဦးမတော်" (ဦးခေါ်)ဟူ၍ လည်းကောင်း၊ "ကြာကာ"ဟူ၍လည်းကောင်း၊ "ဖြူဖြူ"ဟူ၍လည်းကောင်း ရှိခိုးခြင်း အလေ့အကျင့် ပြုလုပ်ပေးလေ့ရှိကြသည်။ ကလေးငယ်အနေနှင့် အဓိပ္ပာယ် ကာစိုကာရ နားလည်မှု မရှိသေးသော်လည်း ပြုလုပ်ဖန်များသော အခါ အလေ့အကျင့်ရလာ၍ ရုပ်ပွားတော် စေတီပုထိုးနှင့် ဘုန်းကြီးရဟန်းများ တွေ့မြင်လျှင် ထိုကလေးငယ်သည် အလိုအလျောက် "ကြာကာ"ဟု ဆိုတတ် လာသည်။ လက်အုပ်ချီတတ်၊ ဦးချတတ်လာသည်။ မိခင်ကောင်း၊ ဖခင်ကောင်း တို့က လေ့ကျင့်သင်ပြပေးထားချက်အရ ကလေးငယ်မှာ အလိုအလျောက် ကောင်းသော အလေ့အကျင့် တစ်ခု ရရှိသွားလေသည်။ ကာယပဏာမ၊ ဝစီပဏာမရှိခိုးခြင်း မဟာကုသိုလ်ကံကို ပြုလုပ်ဆည်းပူးခွင့် ရရှိလေတော့သည်။

ဤသည်မှာ ဗုဒ္ဓဘာသာ မိခင်ဖခင်တို့ထံ၌ လူဖြစ်ခွင့်ရရှိသော ကလေးငယ် အတွက် လူ့ဘဝတွင် ပထမဦးဆုံး လူဖြစ်ကျိုးနပ်ခြင်း ဖြစ်ပေသည်။ ဤအပြု အမူကို စာသံ ပေသံဖြင့် ဒေသနာတော်နှင့်အညီဆိုပါက "ဗုဒ္ဓါနုဿတိဘာဝနာ၊ သံဃာနုဿတိဘာဝနာ"ကို လူမှန်းသူမှန်း မသိမီက အစပျိုးခဲ့သည်ဟု ဆိုရ

ပေမည်။ ဤကဲ့သို့ သားငယ်သမီးငယ်များကို လေ့ကျင့်ပြုစုပျိုးထောင်ပေးသော မိခင် ဖခင်များသည် အလွန်မြင့်မြတ်သည့် ဗြဟ္မာကြီးနှင့် တူသောကြောင့် ဗြဟ္မာဟု အခေါ် ခံထိုက်သည်၊ လူ့ဘဝ၏ အစဦးဆုံး ဆရာဖြစ်၍ လက်ဦးဆရာ (ပုဗ္ဗာစရိယ)ဟု အခေါ် ခံထိုက်ပေသည်။

ထို့နောက် ကလေးငယ် စကားမပီကလာပီကလာအရွယ် ရောက်ရှိလာသော အခါ လူကြီးမိဘများက "ဗုဒ္ဓံ ပူဇေမိ၊ ဓမ္မံ ပူဇေမိ၊ သံဃံ ပူဇေမိ" ဟူ၍လည်းကောင်း၊ "ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊ ဓမ္မံ သရဏံ ဂစ္ဆာမိ၊ သံဃံ သရဏံ ဂစ္ဆာမိ" ဟူ၍လည်းကောင်း၊ "နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ" ဟူ၍လည်းကောင်း နှုတ်တိုက်ချပေး၍ ကလေးငယ်ကို လိုက်ဆိုစေသည်။ အချို့ မိခင်များမှာ ကလေးငယ်ကို ညအိပ်ရာဝင် သားချော့သီချင်း မဆိုတော့ဘဲ ကလေးငယ်ကို "ဗုဒ္ဓံ ပူဇေမိ"စသည် နှုတ်တိုက်ချ လိုက်ဆိုစေခြင်းဖြင့် ကလေးငယ်မှာ "ဗုဒ္ဓံ ပူဇေမိ"စသည်ရွတ်ဆိုရင်း တဖြည်းဖြည်း အိပ်ပျော်သွားခဲ့သည်။ အလွန်ကောင်းမြတ်သော အစဉ်အလာဖြစ်၍ မိခင်တိုင်း အတုယူ လိုက်နာသင့်လှပေသည်။

ဤနည်းအားဖြင့် မှတ်ဉာဏ်ကောင်းသော ကလေးများမှာမူ ဘုရားဂုဏ်တော်ကိုးပါး၊ တရားဂုဏ်တော်ခြောက်ပါး၊ သံဃာဂုဏ်တော်ကိုးပါးတို့ကို စကားအဓိပ္ပာယ် နားမလည်မီ အရွယ်ကပင် အလွတ် ရွတ်ဆိုနိုင်ကြသည်ကို တွေ့ရှိရပေသည်။

**ယုံကြည်မှု၏ အခြေခံ အုတ်မြစ်**

လူ့စကား နားလည်ကာစ အရွယ်တွင် လူကြီး မိဘများသည် ကလေးငယ်ကို ပုံတိုပတ်စ ပြောပြလေ့ရှိကြသည်။ ကလေးငယ်များ အိပ်ရာဝင်ချိန်တွင် ပြောရသောကြောင့် "အိပ်ရာဝင်ပုံပြင်"ဟု ခေါ်ကြသည်။ အညာဒေသတွင် ဆောင်းရာသီ၌ ညဦးပိုင်း နံနက်စောစောပိုင်း မီးလှုံလေ့ရှိကြသည်။ ယင်းသို့ မီးလှုံရင်း လူကြီးသူမများက ပုံဝတ္ထု ပြောလေ့ရှိကြသည်။ ရိုးရာ အစဉ်အလာအားဖြင့် "ရွှေယုန်နှင့် ရွှေကျား သက်ငယ်ရိတ်သွား" စသော ဒဏ္ဍာရီပုံပြင်များကို ပြောမည့်အစား ဓမ္မပဒဝတ္ထုလာ ဗုဒ္ဓလက်ထက်တော်က တကယ့်အဖြစ်အပျက် ဝတ္ထုကြောင်းများနှင့် ငါးရာ့ငါးဆယ် ဇာတ်ကြီးဆယ်ဘွဲ့တို့မှ ကလေးငယ်နှင့် လိုက်လျောညီထွေဖြစ်စေမည့် ဝတ္ထုတိုများကို ပြောပြခြင်းဖြင့် ကလေးငယ်များအတွက် အလိမ္မာတိုး၍ အသိဉာဏ် ဖွံ့ဖြိုးလာနိုင်ပေမည်။

ထို့ကြောင့် ရှေးယခင်က ဗုဒ္ဓဘာသာဝင်များသည် ဓမ္မပဒနှင့် ဇာတ်နိပါတ်တော်လာ လူဆိုးများကို "စံ" အဖြစ် သတ်မှတ်ထား၍ မိဘကို ကလန်ကဆန်လုပ်သူအား "အဇာတသတ်"၊ မိဘရှိသေသူကို "သုဝဏ္ဏသျှမ်"၊ ယုတ်ညံ့သူကို "ဒေဝဒတ်"၊ စိတ်ကောင်းရှိသူကို "ဘုရားအလောင်း"၊ ပညာဉာဏ်ကြီးသူကို "မဟောသဓာ" စသည်ဖြင့် ခေါ်ဝေါ်သုံးနှုန်းလေ့ရှိကြသည်။ စိတ်ကူးသည့်အခါ ယှဉ်၍ ဇာတ်နိပါတ်တော်လာ ဘုရားအလောင်းတော်ကို အတုယူ စံနမူနာထား၍ စိတ်ကူးလေ့ရှိကြသည်။ ပြောဆို ပြုမူသည့်အခါတွင်လည်း ဘုရားအလောင်းတော်ကို အတုယူ စံပြု၍ ပြောဆို ပြုမူလေ့ရှိကြသည်။

ယခုခေတ်တွင် ယင်းအစဉ်အလာများ ပျက်သုဉ်းခဲ့သဖြင့် လူငယ်များ၏ စိတ်အစဉ်တွင် မဟောသဓာလည်း မရှိတော့၊ မဟာဇနကမင်းသားလည်း မရှိတော့၊ သုဝဏ္ဏသျှမ်လည်း မရှိတော့ချေ။ ဤခေတ်လူငယ်များသည် ရုပ်ရှင်ဇာတ်လိုက်များကို အတုယူကြသည်။ နိုင်ငံခြားရုပ်ရှင်များ၏ ဩဇာလွှမ်းမိုးမှုခံနေကြရသည်။ ဗုဒ္ဓဘာသာ အစဉ်အလာ ယဉ်ကျေးမှုများ ပျောက်ကွယ်၍ ကျောက်ခေတ် လူရိုင်းဝါဒများကို "ခေတ်မီသည်၊ ခေတ်ဆန်သည်" ဟူ၍ အထင်ကြီး အတုယူ မှားနေကြပေသည်။ ဤအချက်ကို လူကြီးမိဘများ အနေဖြင့် အချိန်မနှောင်းမီ ပြုပြင်သင်ကြား လမ်းညွှန်မှု ပေးသင့်ကြပေသည်။ မျိုးရိုးဖလာ ဗုဒ္ဓဘာသာယဉ်ကျေးမှုမကွယ်ပျောက်ရလေအောင် သတိကြီးစွာဖြင့် ထိန်းသိမ်းကာကွယ်စောင့်ရှောက် သင့်ကြပေသည်။

သားငယ် သမီးငယ်များကို အသိအလိမ္မာ ဉာဏ်ပညာတိုးပွားစေရန် ရည်ရွယ်ချက်ဖြင့် ဇာတ် နိပါတ် ဝတ္ထုကြောင်းများကို ရွေးချယ်ပြောကြားရန် ဖြစ်သည်။ ရဲရင့်စွာ စွန့်စားသွားလာမှု၊ လုံ့လ ဝီရိယကြီးမားမှု အတုယူနိုင်စေရန် မဟာဇနကဇာတ်တော်ကို လည်းကောင်း၊ ရာထူးအာဏာ မမက်မောခြင်း၊ အဓိဋ္ဌာန်ခိုင်မြဲခြင်းတို့ကို အတုယူနိုင်စေရန် တေမိယဇာတ်တော်ကို လည်းကောင်း၊ မိဘကျေးဇူးသိတတ်ခြင်း မိဘကို ရိုသေစွာပြုစုလုပ်ကျွေးခြင်း အတုယူနိုင်စေရန် သုဝဏ္ဏသာမဇာတ်တော်ကို လည်းကောင်း၊ ငရဲခန်းနှင့် ဘုံခန်းကို ဖော်ပြ၍ ကုသိုလ်ကံ၏ အကျိုးတရား၊ အကုသိုလ်ကံ၏ အကျိုးတရားများကို မှန်ကန်စွာ သိရှိနားလည်စေရန်အတွက် နေမိဇာတ်တော်နှင့် နာရဒဇာတ်တော်ကို လည်းကောင်း၊ ဆင်ခြင်တုံတရား ရင့်သန်စေရန်အတွက် မဟောသဓာဇာတ်တော်နှင့် ဝိဓူရဇာတ်တော်ကို လည်းကောင်း၊ ကိုယ်ကျင့်တရား ကောင်းမွန်ရေးနှင့် သီလစောင့်ထိန်းမှု အတုယူနိုင်စေရန် အတွက် ဘူရိဒတ်ဇာတ်တော်ကိုလည်းကောင်း၊ အမှန်နှင့်အမှား ခွဲခြားတတ်စေရန်အတွက် စန္ဒကုမာရဇာတ်တော်ကို လည်းကောင်း၊ အလှူဒါနအရာ၌

တွန်းတို့မှ ဖူးကိုရ ရက်ရောစွာ ပေးလှူတတ်စေရန် ဝေဿန္တရာဇာတ်တော်ကိုလည်းကောင်း၊ ကလေးငယ်များ စိတ်ပါဝင်စားလာအောင် တိုတိုကျဉ်းကျဉ်းလိုရင်းကို ရှင်းလင်းစွာ ပြောပြရန် ဖြစ်သည်။ မြတ်စွာဘုရား လက်ထက်တော်က ဖြစ်ပျက်ခဲ့သည့် အဖြစ်အပျက်များကို ဓမ္မပဒဝတ္ထုအဖြစ် ရေးသား ဖော်ပြထားခဲ့ရာ ယုတ်ညံ့မှု၌ စံပြနမူနာအဖြစ် စိဥ္စမာန, ဒေဝဒတ် စသော ပုဂ္ဂိုလ်များ၊ မြင့်မြတ်သော စံပြပုဂ္ဂိုလ်များအဖြစ် အရှင်သာရိပုတ္တရာ, အရှင်မောဂ္ဂလ္လာန်, အရှင်အာနန္ဒာ, ဝိသာခါ, အနာထပိဏ် စသော ပုဂ္ဂိုလ်တို့၏ အတ္ထုပ္ပတ္တိများကို ကလေးငယ်နှင့် သင့်လျော်ရုံ တိုတိုကျဉ်းကျဉ်း လိုရင်းကို ရှင်းလင်းစွာပြောပြရန် ဖြစ်သည်။

ဤကဲ့သို့ ဇာတ်နိပါတ်၊ ပုံပြင်၊ ရာဇဝင် ဝတ္ထုကြောင်းများ ပြောပြခြင်းဖြင့် သားငယ် သမီးငယ်များ၏ အသည်း နှလုံးထဲသို့ ဗုဒ္ဓဒေသနာတော် အခြေခံသည့် စိတ်ကူးစိတ်သန်းများ, အယူအဆများ, အတွေးအခေါ်များသည် မသိမသာ တဖြည်းဖြည်း အနယ်ထိုင်စွဲကပ်သွားလေသည်။ ဗုဒ္ဓဘာသာ အယူဝါဒသည် သွေးထဲ၌ ဝင်ရောက်ကိန်းဝပ်နေ၍ ကာယဗလမာန်, ဉာဏဗလမာန်, ဘောဂဗလမာန်, တေဇဗလမာန်တို့ အရှိန်အဟုန် မြင့်တက်နေချိန်၌ မှေးမှိန်တိမ်မြုပ်နေသော်လည်း ယင်းမာန်များ လျော့ကျသွားချိန်တွင်မူ သွေးကပြောသည့် ဗုဒ္ဓဘာသာတရားသည် ထိုသူ၏ စိတ်သန္တာန်ကို ပြန်လည်လွှမ်းခြုံကာ ဗုဒ္ဓယဉ်ကျေးမှုဆီသို့ ပြန်လည်တွန်းပို့လေတော့သည်။

သားငယ် သမီးငယ်များကို "အတုမြင် အတတ်သင်" "ငှက်ပျောပင်စိုက် မိလိုက်ဖသာ" ( ဒိဋ္ဌာနုဂတိ ) ဖြစ်လာစေရန် နေ့စဉ် ညအိပ်ရာဝင်ချိန်၌လည်းကောင်း၊ နံနက်စောစော အိပ်ရာထ (အရုဏ်တက်ချိန်)၌ လည်းကောင်း ဆွမ်း၊ ပန်း၊ ရေချမ်း၊ ဆီမီးကပ်လှူခြင်း၊ ဘုရားဝတ်တက်ခြင်း၊ အခါကြီးရက်ကြီးများနှင့် ဝါတွင်း ဥပုသ်နေ့များတွင် ကျောင်းကန်ဘုရားသွား၍ ဥပုသ်သီတင်း သီလဆောက်တည်ခြင်းများကို မိဘများကိုယ်တိုင် စံပြအဖြစ် ပြုလုပ်ကြရမည့်အပြင် သားငယ်သမီးငယ်များကို ဖြစ်နိုင်သမျှ အတူတကွ ပါဝင်ဆောင်ရွက်စေသင့်သည်။ သားငယ် သမီးငယ်များကို ဘုရားသွားလျှင်လည်း ခေါ်သွားရမည်၊ ဘုန်းကြီးကျောင်းသွားလျှင်လည်း ခေါ်သွားရမည်၊ ကျောင်းကန်ဘုရားနှင့် ရင်းနှီးအောင် ပြုလုပ်ထားရမည်ဖြစ်သည်။

ရှေးမြန်မာများသည် တစုံတခု ထိမိခိုက်မိ၍ လန့်ဖျပ်ယောင်ယမ်း မြည်တမ်းရာ၌ပင် အယုတ္တာအနတ္တ စကားလုံးများဖြင့် ယောင်ယမ်းမှု မပြုကြဘဲ "ဗုဒ္ဓေါ မြတ်စွာဘုရား" "အနိစ္စ အနိစ္စ"စသည်ဖြင့် ယောင်ယမ်းဆိုမြည်လေ့ရှိကြသည်။

ထိုသို့ယောင်မိစေရန်အတွက် ယင်းစကားလုံးများကို မကြာခဏကြိမ်ဖန်များစွာ ရွတ်ဆိုထားကြရသည်။ အညာဒေသတွင် ကလေးများ စိန်ပြေးတမ်းကစား ရာ၌ လွတ်အောင်မပြေးနိုင်လျှင် "ဗုဒ်တေး" "ဗုဒ်၊ ဗုဒ်" (ဘုရား ဘုရား)ဟု ဆိုလိုက်ရုံမျှဖြင့် ကင်းလွတ်ခွင့်ရရှိနိုင်သည်။ အင်ဒိုနီးရှား နိုင်ငံသား တစ်ဦး ဦးကို အမှတ်မဲ့ ကျောပုတ်လိုက်ပါက "ဗုဒ်၊ ဗုဒ်"ဟု ယောင်လေ့ရှိကြသည်ဟု ဆိုသည်။ ဤကား ရှေးခေတ်လူကြီးများအနေဖြင့် မိမိတို့သားစဉ်မြေးဆက်ကို ဘာသာသွေး သွင်းထားခဲ့ပုံကို အတုယူနိုင်ရန် ပြဆိုခြင်းဖြစ်ပါသည်။

ထို့ကြောင့် စကားပြောတတ်ကာစ ကလေးငယ်များကို ဘုရား တရားနှင့် စပ်လျဉ်းသည့် စကားလုံးများကို နှုတ်တိုက်ချပေးရာ၌ မှတ်မိလွယ်စေရန် ရှေးဦးစွာ "ဗုဒ္ဓေါ၊ ဗုဒ္ဓေါ"ဟု ပါဠိ စကားလုံး အတိုအထွာများ သင်ပေးကြရန် ဖြစ်သည်။ ရှေ့တစ်ဆင့်တက်၍ ရှိခိုးတတ်စေရန်—

(က) ဗုဒ္ဓံ ပူဇေမိ၊

(ခ) ဓမ္မံ ပူဇေမိ၊

(ဂ) သံဃံ ပူဇေမိ—

ဟူ၍ တပိုဒ်ချင်း နှုတ်တိုက်ချပေးရမည်။ ထို့နောက် အနန္တော အနန္တငါးပါး ဂုဏ်ကျေးဇူးကို သိတတ်စေရန်—

(က) ဗုဒ္ဓဂုဏော အနန္တော၊

(ခ) ဓမ္မဂုဏော အနန္တော၊

(ဂ) သံဃဂုဏော အနန္တော၊

(ဃ) မာတာပိတုဂုဏော အနန္တော၊

(င) အာစရိယဂုဏော အနန္တော—

ဟူ၍ တပိုဒ်ချင်း နှုတ်တိုက်ချပေးရန်ဖြစ်သည်။

တဖန် တစ်ဆင့်တက်၍ သရဏဂုံ (၃)ပါး ဆည်းကပ်နည်းကို—

(က) ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊

(ခ) ဓမ္မံ သရဏံ ဂစ္ဆာမိ၊

(ဂ) သံဃံ သရဏံ ဂစ္ဆာမိ—

ဟူ၍ နှုတ်တိုက်ချပေးရန် ဖြစ်သည်။

ထို့ထက် ပိုမို၍ ဉာဏ်ထက်မြက်သော ကလေးငယ်များဖြစ်ပါက "နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ"ကို လည်းကောင်း၊ သမ္ဗုဒ္ဓေ ဂါထာကို လည်းကောင်း အလွတ်ရသည်အထိ နှုတ်တိုက်ချပေးနိုင်ပါသည်။

ကလေးငယ်အား ဤပါဠိစကားလုံးများ၏ အနက်အဓိပ္ပါယ်ကို ရှင်းပြရန် မလိုသေးပါ။ ဤဖော်ပြပါ ဗုဒ္ဓဘာသာဆိုင်ရာ ပါဠိစကားလုံးများ နှုတ်တက် ဖနေစေရန်သာ ဖြစ်ပါသည်။

ဗုဒ္ဓဘာသာဝင် မိဘများသည် "လက်ဦးဆရာ၊ မည်ထိုက်စွာ၊ ပုဗ္ဗာစရိယ မိနှင့်ဘ"ဟူသည်နှင့်အညီ မိမိတို့၏ သားသမီးများကို ငယ်စဉ်ကပင် စနစ်တကျ အချိုးကျကျ ဘာသာရေး အခြေခံအုတ်မြစ် ခိုင်မြဲစေရန် အသက်အရွယ် အလိုက် လေ့ကျင့်သင်ကြားပေးသင့်သည်။ သားသမီးများ၏ အသက်အရွယ်ကို လိုက်၍ ပြုသင့်ပြုထိုက်သော မိဘတာဝန်များကို အကျဉ်းအားဖြင့် ဖော်ပြ အပ်ပါသည်——

(က) သုံးနှစ်အရွယ်

ဇာတကဝတ္ထု၊ ဓမ္မပဒဝတ္ထုများကို အတိုချုပ်ပြောကြားခြင်း၊ ဗုဒ္ဓံ ပူဇေမိ— စသည်ကို နှုတ်တိုက်ချပေးခြင်း၊

(ခ) ငါးနှစ်အရွယ်

ယမ်းဝတ္ထုများကိုပင် အနည်းငယ်ချဲ့၍ ပြောခြင်း၊ သြကာသ ကန်တော့ခန်း၊ ငါးပါးသီလ ခံယူဆောက်တည်ခြင်း၊ သမ္ဗုဒ္ဓေ ဂါထာ စသည်တို့ကို နှုတ်တိုက်သင်ပေးခြင်း၊ စာသင်ကျောင်းသို့ မအပ်မီ ကကြီး ခခွေး သင်ပုန်းကြီး အရေးအဖတ်သင်ပေးခြင်း၊ စာသင်ကျောင်းသို့ အပ်နှံခြင်း၊

(ဂ) ခုနစ်နှစ်အရွယ်

စာရေးစာဖတ်အတော်အသင့် တတ်လာပြီ ဖြစ်၍ ဘုရားရှိခိုး အမျိုးမျိုးနှင့် ဆွမ်းကပ်၊ ပန်းကပ်၊ ရေချမ်းကပ်၊ မေတ္တာပို့၊ အမျှဝေ စသည်တို့ကို ဉာဏ်ရည်ဉာဏ်သွေးလိုက်၍ အရကျက်မှတ် စေခြင်း၊ ဝတ်တက်ဝတ်ကပ် မှန်မှန်ပြုလုပ်စေခြင်း၊ ဆွမ်းလောင်း စေခြင်း၊ ဆွမ်းဆန်လောင်းစေခြင်း၊

(ဃ) ကိုးနှစ်အရွယ်

ညစဉ် အိပ်ရာမဝင်မီ ဇာတကဝတ္ထု၊ ဓမ္မပဒဝတ္ထု၊ ဗုဒ္ဓဝင်ကျမ်း များကို သားငယ်သမီးငယ်များအား အလှည့်ကျဖတ်ကြားစေ၍

မိသားစု စုပေါင်း၍ စာနာခြင်း၊ လိုအပ်သည့်နေရာ၌မိဘများက ရှင်းလင်းပြောပြခြင်း၊ အခါကြီးရက်ကြီးများ၌ ဥပုသ်သီလ စောင့်သုံးစေခြင်း၊ ပုတီးစိပ်နည်း သင်ပေးခြင်း၊ ရှင်သာမဏေ ဝတ် (ရှင်ပြု) ပေးခြင်း၊ သီလရှင်ဝတ်ပေးခြင်း၊

## ( င ) တစ်ဆယ့်ငါးနှစ်အရွယ်

ကိုးနှစ်အရွယ်တွင် ပြုလုပ်ပေးရမည့် ဘာသာရေးလုပ်ငန်းတာဝန် များကိုပင် ဆက်လက်ဆောင်ရွက်စေခြင်း၊ ကျေးရွာရပ်ကွက် အဖွဲ့ရှိ ဘာသာရေးအသင်းအဖွဲ့များ၌ ပါဝင်စေခြင်း၊ ဆလှူပွဲ၊ မင်္ဂလာပွဲများ၌ ပါဝင် ကူညီဆောင်ရွက်စေခြင်း၊ ကမ္မဋ္ဌာန်း ဘာဝနာ ပွားများအားထုတ်နည်းများကို ဆရာကောင်းထံ နည်းခံသင်ယူအားထုတ်စေခြင်း၊

## ( စ ) နှစ်ဆယ်အရွယ်

အသက်ဆယ့်ငါးနှစ်မှ နှစ်ဆယ်အရွယ်အထိ သားသမီးများကို ဘုန်းကြီးကျောင်း သီလရှင်ကျောင်းများသို့ စေလွှတ်၍ ဘာသာရေးအသိပညာရယူစေခြင်း၊ ဘာသာခြားများနှင့် ထိထိ ဝင်ဝင် မရောနှောမိစေရန် ထိန်းသိမ်းခြင်း၊ ဘာသာရေးလုပ်ငန်း များ၌ ပါဝင်ဆောင်ရွက်လာစေရန် ကြီးကြပ်တိုက်တွန်းပေးခြင်း ပြုကြရန် ဖြစ်ပါသည်။ မိဘများအနေဖြင့် ဤမျှဆောင်ရွက် ပေးပြီးပါက ဘာသာရေးပိုင်းဆိုင်ရာ မိဘတာဝန် ကျေပွန်ပြီဟု ဆိုရပေမည်။ အသက်နှစ်ဆယ်ကျော်လာပါက သားသမီးများ အနေဖြင့် မိမိခြေထောက်ပေါ် မိမိရပ်နိုင်ပြီဖြစ်သည်။ ဤအရွယ် ရောက်မှ မယဉ်ကျေးသေးပါက မိဘပြုပြင်၍ မရနိုင်တော့ပြီ။

မိဘများအနေဖြင့် သားသမီးများအား အမွေခံသားကောင်း သမီးကောင်း ဖြစ်လာအောင် စနစ်တကျ သင်ကြားပြသနိုင်ရေးအတွက် မိမိတို့ကိုယ်တိုင်က ဘာသာရေး ဗဟုသုတ ကြွယ်ဝရမည်။ မိမိ မသင်ကြား မဆုံးမတတ်ပါက သင်ကြားဆုံးမတတ်သော ဘကြီး ဘထွေး ဦးကြီး ဦးလေး မိကြီး မိထွေး များထံ သေချာစွာ အပ်နှံပေးရမည်။ သို့မဟုတ် သဘောတူရာ မိဘများ စုပေါင်း၍ ဘာသာရေးသင်တန်းပြ ဆရာများအား ဉာဏ်ပူဇော်ခပေး၍ သင်ကြားစေရန် စီစဉ်သင့်ကြပေသည်။

## အခန်း (၂)

### ကိုးကွယ်မှုကဏ္ဍ

လူ့ဘဝ လူ့ဘောင်သည် သဘာဝဘေးရန် အန္တရာယ်များ၊ လူကြောင့်ဖြစ်သော ဘေးရန်အန္တရာယ်များဖြင့် ပြည့်လျှမ်းနေသည်။ ယင်းဘေးရန်အန္တရာယ်များမှ လွတ်ကင်းစေရန်နှင့် ကောင်းကျိုးချမ်းသာ စီးပွားဥစ္စာတိုးပွားစေရန် တစုံတခု ကိုးကွယ်မှုပြုကြသည်။

မိမိတို့ရိုးရာ မိဆိုင်ဖဆိုင်နတ်များ၊ မြစ်စောင့်နတ်၊ တောင်စောင့်နတ်၊ ပင်လယ်သမုဒ္ဒရာစောင့်နတ်၊ ရုက္ခစိုးနတ်၊ ဘုမ္မစိုးနတ်၊ အာကာသစိုးနတ်စသော နတ်အမျိုးမျိုးကို ရှိခိုးပူဇော်ကြသည်။ အားကိုးအားထားပြုလုပ်၍ပူဇော်ပသကြသည်။ ယင်းနတ်များအပေါ် လွှမ်းမိုးအုပ်ချုပ်သည့် နတ်မင်းကြီးများ၊ သိကြားမင်း၊ ဗြဟ္မာမင်းတို့ကို ကိုးကွယ်ကြပြန်သည်။ တန်ခိုးရှင်များ၏ အကြီးအကဲ အချုပ်ဖြစ်သော နတ်မင်းကြီး, ဗြဟ္မာမင်းကြီးကိုပင်တစ်ဦးတည်းရှိကြောင်း သတ်မှတ်၍ အရာခပ်သိမ်းကို သိတတ်သူ (သဗ္ဗညူ)၊ အရာခပ်သိမ်းကို မြင်တတ်သူ (သဗ္ဗဒဿာဝီ)၊ အရာခပ်သိမ်းအတွင်း၌ ပျံ့နှံ့စိမ့်ဝင်တည်နေသူ (သဗ္ဗဗျာပီ)၊ ဘာကိုမဆို လုပ်နိုင်သူ (ကတ္တာ)၊ သက်ရှိသက်မဲ့အပါအဝင် ဤလောကဓာတ်ကြီး တစ်ခုလုံးကို ဖန်ဆင်းသူ (နိမ္မာတာ)၊ အနန္တတန်ခိုးတော်ရှင် (မဟိဒ္ဓိက၊ မဟာနုဘာဝ)အဖြစ် ဂုဏ်ပြုချီးကျူးကြသည်။ ပူဇော်ပသ ကိုးကွယ်ဆည်းကပ်ကြသည်။

ယင်းနတ်အမျိုးမျိုး ကိုးကွယ်မှုသည်လည်းကောင်း၊ နတ်များ၏ အချုပ်နတ်ဘုရင်၊ နတ်မင်းကြီး တစ်ပါးတည်းကို အနန္တတန်ခိုးတော်ရှင်အဖြစ်ကိုးကွယ်မှု သည်လည်းကောင်း လက်ငင်းတွေ့ကြုံနေကြရသော ဘေးရန်ဒုက္ခများမှ လည်းကောင်း၊ သံသရာ ဝဋ်ဆင်းရဲမှ လည်းကောင်း ကင်းလွတ်ထွက်မြောက်နိုင်သည့် အကျင့်လမ်းစဉ်မဟုတ်ချေ။ ထို့ကြောင့် ယင်းကိုးကွယ်မှုများသည် မှန်ကန်သော ကိုးကွယ်မှုများ မဟုတ်ကြချေ။

မြတ်စွာဘုရားရှင်ကိုလည်းကောင်း၊ ထိုမြတ်စွာဘုရား ဟောကြားတော်မူသည့် တရားတော်ကိုလည်းကောင်း၊ ထိုတရားတော်နှင့် အညီ လိုက်နာကျင့်သုံးလျက်ရှိကြသော သံဃာတော်ကိုလည်းကောင်း ကိုးကွယ်ဆည်းကပ်မှုသည်သာလျှင် ပစ္စုပ္ပန်ဆင်းရဲ, သံသရာဝဋ်ဆင်းရဲမှ ထုတ်ဆောင်နိုင်သောကြောင့်မှန်ကန်တည့်မတ် ကောင်းမြတ်သော ကိုးကွယ်ဆည်းကပ်ခြင်း မည်၏။ ယင်းမှန်ကန်သော ကိုးကွယ်ဆည်းကပ်မှုကို ပြုလုပ်ရာ၌—

(က) ရှေးဦးစွာ ကာယကံဖြင့် ရှိခိုးပူဇော်တတ်ရမည်၊

(ခ) ထို့နောက် ဝစီကံဖြင့် ရှိခိုးပူဇော်တတ်ရမည်၊

(ဂ) ဆက်လက်၍ လှူဒါန်းပေးကမ်းမှု ဒါနပြုတတ်ရမည်၊

(ဃ) ဆက်လက်၍ ကိုယ်ကျင့်သီလစောင့်ထိန်းမှု ပြုတတ်ရမည်၊

(င) ဆက်လက်၍ မေတ္တာဘာဝနာ အနုဿတိဘာဝနာ ပွားတတ်ရမည်၊

(စ) နောက်ဆုံးတွင်မှ ရုပ်နာမ်မှ သင်္ခါရတို့ကို လက္ခဏာရေး သုံးချက် တင်၍ ဝိပဿနာရှုပြီး အနုပါဒိသေသနိဗ္ဗာန်တိုင်ရောက် ကျင့်သုံး တတ်ရမည်။

အထက်ဖော်ပြခဲ့သော (၆)ရပ်အနက် ရှေးဦးစွာ ကာယကံဖြင့် အရိုအသေပြုခြင်း ရှိခိုးပူဇော်ခြင်းများမှာ—

(က) နေရာဖြင့် အရိုအသေပြုခြင်း၊

(ခ) စတီစားဆင်ယင်မှုဖြင့် အရိုအသေပြုခြင်း၊

(ဂ) ကိုယ်ဟန်အနေအထားဖြင့် အရိုအသေပြုခြင်း—

ဟူ၍ သုံးမျိုးအားစားရှိနိုင်ပါသည်။

**နေရာဖြင့် အရိုအသေပြုခြင်း**

နေရာဖြင့် အရိုအသေ ပြုမှုမှာ— ဘုရားပုံများ၊ ဘုရားကားချပ်များ၊ ရုပ်ပွားတော်များနှင့် တရားစာအုပ်များ၊ ရဟန်းပုံတော်များကို မိမိအောက် နိမ့်ကျသည့် နေရာ၌သော်လည်းကောင်း၊ ခြေရင်းဘက်၌သော်လည်းကောင်း မထားရ။ အလားတူပင် မိဘ ဆရာသမားတို့၏ ပုံတူများ၊ ၎င်းတို့၏ အသုံးအဆောင်များကိုလည်း နိမ့်ကျသောနေရာနှင့် ခြေရင်းဘက်တို့၌ မထားရ။ ထိုကဲ့သို့ထားမိပါက မလေးမစားပြုလုပ်ရာရောက်၍ စော်ကားရာရောက်နိုင်သည်။ ဤသို့ မလေးမစားပြုလုပ်မိခြင်းကို "ဂိုဏ်းသင့်သည်"ဟု ဆိုကြသည်။

ဘုရား၊ တရား၊ သံဃာ၊ ဆရာ၊ မိဘတို့မှာ အနန္တောအနန္တဂိုဏ်းဝင်များ ဖြစ်ကြ၍ ယင်းအနန္တငါးပါးကို မရိုမသေ မလေးမစား ပြုမိခြင်းကို အနန္တ ငါးပါး(ဂိုဏ်း)ကို မြစ်မှားမိသည့်အပြစ် သင့်ရောက်သည်ဟု ဆိုလိုသည်။ ထို့ကြောင့် အနန္တငါးပါးနှင့် စပ်ဆိုင်သည့် ပစ္စည်းဝတ္ထုများကို နိမ့်ကျရာအရပ်၌ မထားကြဘဲ မြင့်သောနေရာ မြတ်သောနေရာ၌ ထားသင့်ကြသည်။

အထူးသတိပြုရန်မှာ ဤခေတ်တွင် ဈေးသည့်အချို့သည် အနန္တဂါးပါးနှင့် စပ်ဆိုင်သည့် ပစ္စည်းဝတ္ထုများကို လမ်းဘေးခြေနင်းဖတ်ပေါ်တွင် ချထား၍ ရောင်းချလေ့ရှိကြသည်။ ဤအပြုအမူမျိုးကို သတိပြုရှောင်ကြဉ်သင့်ကြသည်။ မဟာဇနကဇာတ်တော်၌ သီဝလိဒေဝီနှင့် မဟာဇနကမင်းသား အတူထိုင်လျက်ရှိသော ရာဇပလ္လင်ကို ခြေရင်း ခေါင်းရင်း ခွဲခြားစိုင်းသည့် အမေးပုစ္ဆာကို မဖြေဆိုနိုင်ဖြစ်နေစဉ် မဟာဇနကမင်းသားသည် ဘောင်းတော်ကို ချွတ်၍ သီဝလိဒေဝီအား ပေးလိုက်သည်။ သီဝလိ ဒေဝီသည် ဘောင်းတော်ကို ရာဇပလ္လင်၏ ခေါင်းရင်းဘက်၌ ချထားလိုက်သည်၊ ယင်းဘောင်းတော်ထားသည့်ဘက်မှာ ခေါင်းရင်းဘက်ဖြစ်ကြောင်းကို မဟာဇနကမင်းသား သိရှိသွားလေသည်။ ဤအချက်ကို ကြည့်ပါက ရှေးခေတ်အမျိုးသမီးများသည် မိမိအိမ်ရှင်လင်ယောကျ်ား၏ အသုံးအဆောင်ပစ္စည်းကိုပင် နိမ့်ကျသည့်နေရာ၌ ထားခြင်းမှ ရှောင်ကြဉ်ကြောင်း တွေ့ရှိရသည်။

အလားတူပင် နှစ်ကျိပ်ရှစ်ဆူ လှည့်လည်အပူဇော်ခံပွဲ၊ ရှင်ဥပဂုတ်လှည့်လည်အပူဇော်ခံပွဲများ၌ နိမ့်ရာသို့ ဆင်း၍ အရိုအသေ ပေးကြရန် ဖြစ်သည်။ မကျန်းမာသူ ဖြစ်ပါမူ မိမိနေရာမှပင် လက်အုပ်ချီ၍ အရိုအသေပြုနိုင်ပါသည်။

တဖန် ကျောင်းကန်ဘုရားများသို့ ယာဉ်ဖြင့် သွားလာရာ၌ ကျောင်းဝင်း၊ ဘုရားဝင်းအတွင်းတိုင်အောင် ယာဉ်မစီးသင့်၊ ကျောင်းဝင်း၊ ဘုရားဝင်းအနီးအနား သင့်လျော်ရာဌာနတစ်ခုတွင် ယာဉ်မှ ဆင်းသက်သွားလာသင့်ကြသည်။ မြတ်စွာဘုရားလက်ထက်တော်က ဗိမ္ဗိသာရမင်းကြီးနှင့် ကောသလမင်းကြီးတို့သည် ကျောင်းတော်ပရိဝုဏ်ပြင်ပတွင် ယာဉ်မှ သက်ဆင်း၍ ခြေကျင်သွားရောက်လေ့ရှိကြသည်။

ထို့ပြင် အတူတကွ ယာဉ်စီး၍ သွားလာရာ၌လည်းကောင်း၊ ခြေကျင်သွားလာရာ၌လည်းကောင်း ယင်းအနန္တဂိုဏ်းဝင်များကို ရှေ့မှာထားလျက် မိမိက နောက်မှ လိုက်ရမည်။ ခရီးသည်ကားများပေါ်တွင် မိမိက အလျင်နေရာရရှိထား၍ အနန္တဂိုဏ်းဝင်များက နေရာမရဖြစ်နေပါလျှင် မိမိနေရာကိုကြွရောက် လာရောက်ထိုင်ရန် ဖိတ်ခေါ်ပေးအပ်ရမည်။ ခရီးရင်ဆိုင်ဖြစ်နေပါက အနန္တဂိုဏ်းဝင်များကို လမ်းဖယ်ပေးရမည်။ အလားတူပင် နေရာယူရာ၌ အနန္တဂိုဏ်းဝင်များကို ဦးစားပေး၍ မိမိက နိမ့်သောနေရာ ညံ့သောနေရာကို ယူရမည်။

### ဝတ်စားဆင်ယင်မှုဖြင့် အရိုအသေပြုခြင်း

ဘုရား၊ တရား၊ သံဃာ၊ ဆရာသမား၊ မိဘဟူသော အနန္တဂိုဏ်းဝင်များ၏ ရှေ့မှောက်တွင် ဝတ်စားဆင်ယင်မှုကို အရှက်အကြောက် လုံလုံခြုံခြုံရှိစေရမည်။

ဘောင်းဘီတို့, လုံချီတို့, အင်္ကျီလက်ပြတ် ဝတ်ဆင်ခြင်း၊ အချို့ယောကျ်ားများ လုံးဝအင်္ကျီမဝတ်ဘဲ နေခြင်းများသည် မရှိသေရာရောက်သည်။ အဝတ်အစားကို သတ်မှတ်ထားသည့်အတိုင်း ပြည့်ပြည့်စုံစုံ လုံလုံခြုံခြုံ ဝတ်ဆင်လာပါက ကျက်သရေ မင်္ဂလာရှိ၍ သက်ဆိုင်ရာ ပုဂ္ဂိုလ်အား ဂုဏ်ပြုရာ ရောက်သည်ကို သတိပြုသင့်ကြပေသည်။ ဘုရားထဲ, ကျောင်းထဲ ရောက်သည့်အခါနှင့် ရဟန်း သံဃာအနီးသို့ ရောက်ရှိဆည်းကပ်သည့်အခါများတွင်——

- ထီးကို ရုပ်(ပိတ်)သိမ်းခြင်း၊
- ဦးထုပ်ကို ချွတ်ခြင်း၊
- ခေါင်းဆောင်း၊ သို့မဟုတ် ပေါင်းထုပ်ကို ချွတ်ခြင်း၊
- ခေါင်းပေါ်တွင် အဝတ်တင်ထားပါက ယင်းအဝတ်ကို ပခုံးထက်သို့ ပြောင်းရွှေ့တင်ပေးခြင်း၊
- ခေါင်းမြီးခြုံထားပါက ယင်းအဝတ်ကို ပခုံးပေါ်သို့လျှောချပေးခြင်း၊
- ဖိနပ်နှင့် ခြေအိတ်ကို ချွတ်ခြင်း၊
- ပခုံးထက်တွင် တဘက်စ တင်ခြင်း၊
- တဘက်စကို စံပယ်တင်ခေါ် လက်ဝဲပခုံးထက်တင်၍စလွယ်သိုင်းခြင်း၊ လက်ကန်တော့ထိုးခြင်းတို့ကို–

ပြုလုပ်ခြင်းဖြင့် ရိုသေမှုကို ဖော်ပြကြရသည်။

ခေါင်းပေါင်း၊ သို့မဟုတ် ပေါင်းထုပ်မှာ ဆံပင်အားလုံးကို လုံးဝ ဖုံးအုပ် ခြင်းမျိုး မဟုတ်ဘဲ ဆံစများ ပေါ်နေပါက ချွတ်ရန် မလိုချေ။

**ကိုယ်ဟန်အနေအထားဖြင့် အရိုအသေပြုခြင်း**

ရတနာ့သုံးပါးနှင့် မိဘဆရာသမားပျားထံသို့ ဆည်းကပ်သည့်အခါ——

(က) လက်အုပ်ချီခြင်း၊

(ခ) ဦးညွှတ်ခြင်း၊

(ဂ) ဒူးတုပ်ခြင်း၊

(ဃ) ရှိခိုးဦးချခြင်းဖြင့် ရိုသေမှုဖော်ပြကြရသည်။

ယင်းအမူအရာ လေးမျိုးတို့အနက် လက်အုပ်ချီခြင်းကို လမ်းခရီး အခိုက် အတန့်ကြုံတွေ့ရာ၌ မတ်တပ်ရပ်လျက်ပင် လက်အုပ်ချီ၍ အရိုအသေပြုနိုင်ပါသည်။ ထို့ပြင် ဆရာတော်သံဃာတော်များ တရားဟောကြားနေရာ၌ တရားတော်ကို

ရှိသေသမှု ပြုသောအားဖြင့် လက်အုပ်ချီထားလျက် တရားနာယူကြရမည်။ သံဃာတော်များ ကြွသွားသည်ကို မြင်ရလျှင် မျက်စိတဆုံးအထိ လက်အုပ်ချီထားရမည်။ ဘုရားရှေ့မှောက်နှင့် သံဃာတော်များ ရှေ့မှောက်မှ ထွက်ခွါသွားရာ၌ ချက်ချင်း ကျောပေး၍ နောက်ပြန် မလှည့်ရ၊ လက်အုပ်ချီလျက် ခြေငါးလှမ်းခန့် နောက်ဆုတ်သွားပြီးမှ နောက်ပြန်လှည့်ထွက်သင့်သည်။

လက်အုပ်ချီရာ၌ လက်အုပ်ကို နဖူး၌ ထားခြင်း၊ မေးစေ့အောက်၌ ထားခြင်း၊ ရင်ညွန့်၌ ထားခြင်းဟူ၍ သုံးမျိုးရှိရာ လက်အုပ်ကို နဖူး၌ ထားခြင်းသည် အမြင့်ဆုံး ရှိသေနည်းဖြစ်သည်။ လက်အုပ်ကို နှိမ့်ထားပါက အရိုအသေ ပေါ့မှုကို ဖော်ပြရာရောက်သည်။ အထူးအားဖြင့် မတ်ရပ် အနေအထားတွင် နဖူးပေါ် သို့ လက်အုပ်ချီမိုးရာ၌ တံတောင်ဆစ်နှစ်ဘက်ကို ပခုံးနှင့် တပြေးညီ ထားသင့်သည်။

ဦးညွှတ်အရိုအသေပြုခြင်း, ခါးကုန်း၍ အရိုအသေပြုခြင်းများမှာ မိဘဆရာ သမားများ၊ လူကြီးသူမများအား အရိုအသေပေးနည်း ဖြစ်သည်။ အချို့မှာ ဦးညွှတ်မှုနှင့်တွဲဖက်၍ ဒူးကို ကွေးညွှတ်ခြင်းပြုလျက် အရိုအသေပြုကြသည်လည်း ရှိပါသည်။

အနန္တငါးပါးကို အရိုအသေပြုချိန်၌ ဆောင့်ကြောင့်ထိုင်ခြင်း၊ ဒူးနှစ်ဘက်စုံ ကွေးလျက် ပုဆစ်တုပ် ထိုင်ခြင်းနှင့် တင်ပါးလွှဲ ထိုင်ခြင်းဟူ၍ သုံးမျိုး ရှိရာ သင့်လျော်ရာ တစ်မျိုးမျိုးဖြင့် ထိုင်နိုင်ပါသည်။ သို့ရာတွင် ဆောင့်ကြောင့်ထိုင် နည်းမှာ အမျိုးသားများအတွက်သာ သင့်လျော်၍ အမျိုးသမီးများအတွက် ပုဆစ်တုပ် ထိုင်နည်းနှင့် တင်ပါးလွှဲ ထိုင်နည်းများသာ သင့်လျော်ပါသည်။ ဆောင့်ကြောင့်ထိုင်နည်းမှာ ဗိုက်ရွှဲသူများ လုံးဝ မထိုင်နိုင်သဖြင့် တင်ပါးလွှဲ ထိုင်နည်းကို အသုံးများကြသည်။ ပုဆစ်တုပ်ထိုင်နည်းမှာလည်း အလေ့အကျင့် မရှိသူများ မထိုင်နိုင်ကြချေ။ ထို့ကြောင့် မိမိအတွက် သက်သာမည့် ထိုင်နည်းကို သုံးနိုင်ကြသည်။

**ရှိခိုးဦးချခြင်း**

ရှိခိုးဦးချသည့် နေရာတွင် မြေပြင်၊ သို့မဟုတ် ကြမ်းပြင်ပေါ်၌ ကိုယ်အင်္ဂါ အစိတ်အပိုင်း ငါးမျိုးကို တည်စေလျက် ဦးခိုက်ဝပ်တွားခြင်းကို တည်ခြင်း ငါးပါးဖြင့် ရှိခိုးခြင်းဟု ခေါ်ကြသည်။ ထိခြင်းငါးပါးဟုလည်း ခေါ် ဆိုနိုင်သည်။ မြေပြင်၊ သို့မဟုတ် ကြမ်းပြင်ပေါ်၌—

(က) ဒူးနှစ်ဘက်တည်စေရမည်၊

(ခ) တံတောင်ဆစ်တိုင်အောင် လက်နှစ်ဘက်ကို တည်စေရမည်၊

(ဂ) နဖူးကို တည်စေရမည်၊

ဤကိုယ်အင်္ဂါငါးမျိုးကို အညီအညွတ်ပြု၍ ရှိခိုးမည့်ဘက်သို့ ရှေ့ရှုညွတ်သောအားဖြင့် ဝပ်တွားဦးခိုက်ရမည်။ အစီအစဉ်အားဖြင့် ဖော်ပြရပါက အမျိုးသားများအနေဖြင့်—

(က) ရှေးဦးစွာ ရှိခိုးမည့်ဘက်သို့ မျက်နှာမူပြီး ဆောင့်ကြောင့်ထိုင်ရမည်၊

(ခ) လက်အုပ်ကို နဖူးအထိ မြှောက်ချီရမည်၊

(ဂ) ထို့နောက် ဒူးထောက်ချလိုက်ရမည်၊

(ဃ) လက်အုပ်ကို မြေပြင်၊ ကြမ်းပြင်သို့ ချ၍ လက်ဝါးဖြန့်လျက် လက်ထောက်ရမည်၊

(င) တံတောင်ဆစ်နှစ်ဘက်ကို မြေပြင်၊ ကြမ်းပြင်သို့ ထိအောင် လက်ဝါး နှစ်ဘက်ကို ရှေ့သို့ လျှောထုတ်ရမည်၊ ထိုအခါ ဦးခေါင်းနှင့် ပခုံးသည် အလိုအလျောက် ရှေ့သို့ ငိုက်သွားမည်၊

(စ) နဖူးကို လက်ဖမိုးပေါ်၊ သို့မဟုတ် ကြမ်းပြင်ပေါ် သို့ ထိအောင် နှိမ့်ချပါ၊

ဤသို့ ဝပ်တွားဦးခိုက်ခြင်းဆည် တည်ခြင်း(ထိခြင်း) ငါးပါးဖြင့် ရှိခိုးသည် မည်၏။ ဤနည်းအတိုင်း သုံးကြိမ်ရှိခိုးကြရမည်။ အမျိုးသမီးများအနေဖြင့် တည်ခြင်း (ထိခြင်း) ငါးပါးဖြင့် ရှိခိုးနည်းမှာ—

(က) ရှေးဦးစွာ ရှိခိုးမည့်ဘက်သို့ မျက်နှာမူပြီး တင်ပါးလွှဲထိုင်ရမည်၊

(ခ) လက်အုပ်ကို နဖူးအထိ မြှောက်ချီရမည်၊

(ဂ) ထို့နောက် လက်အုပ်ကို မြေပြင်၊ ကြမ်းပြင်သို့ ချ၍ လက်ဝါးဖြန့်ရမည်၊

(ဃ) တံတောင်ဆစ်နှစ်ဘက်ကို မြေပြင်၊ ကြမ်းပြင်သို့ ထိအောင် လက်ဝါးနှစ်ဘက်ကို ရှေ့သို့ လျှောထုတ်ရမည်၊

(င) နဖူးကို လက်ဖမိုး၊ သို့မဟုတ် ကြမ်းပြင်သို့ ထိအောင် နှိမ့်ချဦးခိုက်ပါ၊

ဤနည်းအတိုင်း သုံးကြိမ် ရှိခိုးရမည်။

တည်ခြင်းငါးပါး ဒုတိယနည်း

သီလက္ခန်ဋီကာသစ်နည်းအရ တည်ခြင်း ငါးပါးဖြင့် ရှိခိုးရာ၌ တည်ရမည့် အင်္ဂါငါးပါးကို ဖော်ပြလတ္တံ့ပါအတိုင်း ရေတွက်ရသည်။ ရှိခိုးဦးချသည့် မြေပြင်၊ သို့မဟုတ် ကြမ်းပြင်၌—

(က) လက်ဝါးနှစ်ဘက် တည်ရှိရမည်၊
(ခ) ခြေဖဝါးနှစ်ဘက် တည်ရှိရမည်၊
(ဂ) တံတောင်ဆစ်နှစ်ဘက် တည်ရှိရမည်၊
(ဃ) ဒူးနှစ်ဘက် တည်ရှိရမည်၊
(င) နဖူး တည်ရှိရမည်၊

တည်ခြင်းငါးပါး တတိယနည်း

တောင်ဖီလာဆရာတော်၏ တည်ခြင်းငါးပါးရှိခိုးနည်း ရေတွက်ပုံမှာ—

(က) တဘက်, ပဝါကို လက်ဝဲပခုံးထက်၌ တင်ထားခြင်း၊ (ကိုယ်ဝတ်စံပယ်တင်ခြင်း)
(ခ) လက်အုပ်ချီမိုး ရှိခိုးခြင်း၊
(ဂ) ရှိခိုးခံ ပုဂ္ဂိုလ်၏ ခြေတို့ကို လက်ဖဝါး နှစ်ဘက်ဖြင့် ဆုပ်နယ်ကိုင်တွယ်ခြင်း၊
(ဃ) ကြည်ညိုသော မေတ္တာစိတ်ရှေ့သွားပြုခြင်း၊
(င) ရိုသေလေးမြတ်သော စိတ်ထားရှိခြင်း၊

ဤတတိယနည်းဖြင့် ရှိခိုးခြင်းမှာ အဝေးမှ နေ၍ ရှိခိုးရာ၌ ခြေတို့ကို ကိုင်ခြင်းဟူသော အင်္ဂါ (၁)ချက် မရနိုင်ချေ။ ပထမနည်းအတိုင်း တည်ခြင်းငါးပါး ရေတွက်နည်းသည် သင့်လျော်ကောင်းမြတ်သည်ဟု လယ်တီဆရာတော်ဘုရားကြီးမိန့်ကြားတော်မူခဲ့သည်။

**ရပ်လျက်ရှိခိုးခြင်း**

ထိုင်၍ ရှိခိုးရန် မဖြစ်နိုင်သည့် အခြေအနေတွင် မတ်တတ်ရပ်လျက်ပင် ရှိခိုးနိုင်ပါသည်။ ရှိခိုးပုံမှာ——

(က) ရှိခိုးမည့်ပုဂ္ဂိုလ်ဘက်သို့ မျက်နှာမူထားရမည်၊

(ခ) ခြေနှစ်ဘက်ကို စုံရပ်ရမည်၊

(ဂ) လက်အုပ်ချီ၍ နဖူးပေါ်တင်ထားရမည်၊

(ဃ) ထို့နောက် ကိုယ်ကို ညွတ်ကိုင်း၍ ဦးခေါင်းညွတ်ပြီး ရှိခိုးရမည်။

**စေတနာပဓာန**

ပြဆိုခဲ့သည့်အတိုင်း ဝပ်တွားရှိခိုးပုံ၊ ဦးခိုက်ပုံ အမျိုးမျိုးရှိသော်လည်း အရှိအသေ အလေးအမြတ်ပြုသော အမူအရာကို ဖော်ပြခြင်းဖြစ်၍ ယင်းအမူအရာကို ဖြစ်စေသည့် အတွင်းဓာတ်ခံစေတနာ၏ လေးနက်မှုသာ ပဓာနဖြစ်သည်။ စိတ်စေတနာ မပါခဲ့သော်၊ပါသော်လည်း ပေါ့ဆခဲ့သော် လိုအပ်သော အကျိုးမကြီးနိုင်ဟူ၍သာ မှတ်သားသင့်ပါသည်။

## အခန်း (၃)

### ဝတ်တက်ဝတ်ကပ်အရကျက်ရန်

ဤနေရာ၌ ဗုဒ္ဓဘာသာဝင်တစ်ဦးအနေဖြင့် နေ့စဉ် ညအိပ်ရာဝင် အိပ်ရာထ ဘုရားရှိခိုး၊ ပန်း၊ ရေချမ်း၊ ဆီမီး၊ ဆွမ်းကပ်၊ မေတ္တာပို့၊ အမျှဝေ ဘာသာရေး ကျင့်စဉ်လုပ်ငန်း တာဝန်များကို ပြုလုပ်တတ်စေရန် ရတနာ သုံးပါး ရှိခိုးခြင်းမှ စ၍ အမျှဝေခြင်း အဆုံးထိ အရအမိကျက်ထားရန် အစဉ် အတိုင်း ဖော်ပြအပ်ပါသည်။ လူကြီးမိဘများအနေဖြင့် မိမိတို့၏ သားသမီး များကို အရကျက်ထားစေရန် ကြီးကြပ်တိုက်တွန်းသင့်လှပေသည်။

**ရတနာသုံးပါးကို ရှိခိုးခြင်း**

ဘုရား တရား သံဃာ ရတနာသုံးပါးကို ရှိခိုးရာ၌ ပြဆိုခဲ့ပြီးသည့်အတိုင်း ဘည်ခြင်း (ထိုင်ခြင်း) ငါးပါးဖြင့် သုံးကြိမ် ရှိခိုးဦးချရာ၌ နှုတ်မှလည်း—

ဗုဒ္ဓံ ပူဇေမိ=မြတ်စွာဘုရားကို ရှိခိုးပူဇော်ပါ၏၊

ဓမ္မံ ပူဇေမိ=တရားတော်မြတ်ကို ရှိခိုးပူဇော်ပါ၏၊

သံဃံ ပူဇေမိ=သံဃာတော်မြတ်ကို ရှိခိုးပူဇော်ပါ၏—

ဟူ၍ တစ်ကြိမ်စီဆို၍ ဦးချရမည်။ ထို့နောက် **လက်အုပ်**ချီ၍ ထိုင်လျက် ဖော်ပြ လတ္တံ့ ပါ ကန်တော့ခန်းနှင့် ဆုတောင်းကို နှုတ်မှ **ဆိုရန်** ဖြစ်သည်—

**ကန်တော့ခန်း**

ဩကာသ ဩကာသ ဩကာသ၊ ကာယကံ ဝစီကံ မနောကံ သဗ္ဗဒေါသ ခပ်သိမ်းသော အပြစ်တို့ကို ပျောက်ပါစေခြင်း အကျိုးငှာ ပထမ ဒုတိယ တတိယ တစ်ကြိမ် နှစ်ကြိမ် သုံးကြိမ်မြောက်အောင် ဘုရားရတနာ တရားရတနာ သံဃာ ရတနာ ရတနာမြတ်သုံးပါးတို့ကို အရိုအသေ အလေးအမြတ် လက်အုပ်မိုး၍ ရှိခိုးပူဇော် ဖူးမြော်မာန်လျှော့ ကန်တော့ပါ၏ အရှင်ဘုရား။

**ဆုတောင်း**

ကန်တော့ရသော အကျိုးအားကြောင့် အပါယ် လေးပါး၊ ကပ် သုံးပါး၊ ရပ်ပြစ် ရှစ်ပါး၊ ရန်သူမျိုး ငါးပါး၊ ဝိပတ္တိတရား လေးပါး၊ ဗျသနတရား ငါးပါး တို့မှ အခါခပ်သိမ်း ကင်းလွတ်ငြိမ်းသည်ဖြစ်၍ မဂ်တရား ဖိုလ်တရား နိဗ္ဗာန် တရားတော်မြတ်ကို ရပါလို၏ အရှင်ဘုရား။

**သရဏဂုံနှင့် ငါးပါးသီလတောင်းခြင်း**

အဟံ ဘန္တေ တိသရဏေန သဟ ပဉ္စသီလံ ဓမ္မံ ယာစာမိ၊
အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။

ဒုတိယမ္ပိ အဟံ ဘန္တေ တိသရဏေန သဟ ပဉ္စသီလံ ဓမ္မံ ယာစာမိ၊
အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။

တတိယမ္ပိ အဟံ ဘန္တေ တိသရဏေန သဟ ပဉ္စသီလံ ဓမ္မံ ယာစာမိ၊
အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။

အာမ ဘန္တေ။

**ဘုရားရှိခိုးခြင်း**

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

**သရဏဂုံဆောက်တည်ခြင်း**

ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ။
ဓမ္မံ သရဏံ ဂစ္ဆာမိ။
သံဃံ သရဏံ ဂစ္ဆာမိ။

ဒုတိယမ္ပိ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ။
ဒုတိယမ္ပိ ဓမ္မံ သရဏံ ဂစ္ဆာမိ။
ဒုတိယမ္ပိ သံဃံ သရဏံ ဂစ္ဆာမိ။

တတိယမ္ပိ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ။
တတိယမ္ပိ ဓမ္မံ သရဏံ ဂစ္ဆာမိ။
တတိယမ္ပိ သံဃံ သရဏံ ဂစ္ဆာမိ။

အာမ ဘန္တေ။

ဝတ်တက်ဝတ်ကပ် အရကျက်ရန်

**ငါးပါးသီလဆောက်တည်ခြင်း**

၁။ ပါဏာတိပါတာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၂။ အဒိန္နာဒါနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၃။ ကာမေသု မိစ္ဆာစာရာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၄။ မုသာဝါဒါ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၅။ သုရာမေရယမဇ္ဇပမာဒဋ္ဌာနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

သာဓု ဘန္တေ။

**သရဏဂုံနှင့် ရှစ်ပါးသီလတောင်းခြင်း**

အဟံ ဘန္တေ တိသရဏေန သဟ အဋ္ဌင်္ဂသမန္နာဂတံ ဥပေါသထသီလံ ဓမ္မံ ယာစာမိ၊ အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။

ဒုတိယမ္ပိ အဟံ ဘန္တေ တိသရဏေန သဟ အဋ္ဌင်္ဂသမန္နာဂတံ ဥပေါသထ-သီလံ ဓမ္မံ ယာစာမိ၊ အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။

တတိယမ္ပိ အဟံ ဘန္တေ တိသရဏေန သဟ အဋ္ဌင်္ဂသမန္နာဂတံ ဥပေါသထ-သီလံ ဓမ္မံ ယာစာမိ၊ အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။

သာဓု ဘန္တေ။

[နမော တဿ-ဘုရားရှိခိုးနှင့် ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ –စသည်ဖြင့် သရဏဂုံဆောက်တည်ခြင်းတို့ကား ငါးပါးသီလ၌ ဖော်ပြခဲ့သည့်အတိုင်း ဖြစ်၏။]

**ရှစ်ပါးသီလဆောက်တည်ခြင်း**

၁။ ပါဏာတိပါတာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၂။ အဒိန္နာဒါနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၃။ အဗြဟ္မစရိယာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၄။ မုသာဝါဒါ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၅။ သုရာမေရယမဇ္ဇပမာဒဋ္ဌာနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၆။ ဝိကာလဘောဇနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၇။ နစ္စ ဂီတ ဝါဒိတ ဝိသူက ဒဿန မာလာ ဂန္ဓ ဝိလေပန ဓာရဏ မဏ္ဍန-ဝိဘူသနဋ္ဌာနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၈။ ဥစ္စာသယနမဟာသယနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

သာဓု ဘန္တေ။

**သရဏဂုံနှင့် ကိုးပါးသီလတောင်းခြင်း**

အဟံ ဘန္တေ တိသရဏေန သဟ နဝင်္ဂသမန္နာဂတံ ဥပေါသထသီလံ ဓမ္မံ ယာစာမိ၊ အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။

ဒုတိယမ္ပိ အဟံ ဘန္တေ တိသရဏေန သဟ နဝင်္ဂသမန္နာဂတံ ဥပေါသထ-သီလံ ဓမ္မံ ယာစာမိ၊ အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။

တတိယမ္ပိ အဟံ ဘန္တေ တိသရဏေန သဟ နဝင်္ဂသမန္နာဂတံ ဥပေါသထ-သီလံ ဓမ္မံ ယာစာမိ၊ အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။

အာမ ဘန္တေ။

[နမော တဿ-ဘုရားရှိခိုးနှင့် ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ-စသည်ဖြင့် သရဏဂုံဆောက်တည်ခြင်းတို့ကား ငါးပါးသီလ၌ ဖော်ပြခဲ့သည့်အတိုင်း ဖြစ်၏။]

**ကိုးပါးသီလဆောက်တည်ခြင်း**

၁။ ပါဏာတိပါတာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၂။ အဒိန္နာဒါနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၃။ အဗြဟ္မစရိယာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၄။ မုသာဝါဒါ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၅။ သုရာမေရယမဇ္ဇပမာဒဋ္ဌာနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၆။ ဝိကာလဘောဇနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၇။ နစ္စ ဂီတ ဝါဒိတ ဝိသူက ဒဿန မာလာ ဂန္ဓ ဝိလေပန ဓာရဏ မဏ္ဍန-ဝိဘူသနဋ္ဌာနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၈။ ဥစ္စာသယနမဟာသယနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၉။ မေတ္တာသဟဂတေန စေတသာ သဗ္ဗပါဏဘူတေသု ဖရိတွာ ဝိဟရဏံ သမာဒိယာမိ။

အာမ ဘန္တေ။

**ဆွမ်းတော်ကပ်**

အရဟာတာဒိ နဝဂုဏောဟိ၊ အရဟံ-အစရှိသော ကိုးပါးသော ဂုဏ်တော်တို့နှင့်။ သမန္နာဂတံ၊ ပြည့်စုံတော်မူသော။ နာထံ၊ လူနတ်တို့၏ ကိုးကွယ်ရာဖြစ်တော်မူသော။ ဗုဒ္ဓံ၊ သက်တော်ထင်ရှား သဗ္ဗညုမြတ်စွာဘုရားကို။ ဥဒ္ဒိဿ၊ ရည်မှတ်၍။ စေတိယဿ၊ ဓာတုစေတီ, ဓမ္မစေတီ, ဥဒ္ဒိဿစေတီ, ပရိဘောဂစေတီတော်မြတ်အား။ (ဝဏ္ဏ ဂန္ဓ ရသ သမ္ပန္နံ၊ အဆင်း, အနံ့, အရသာနှင့်ပြည့်စုံသော။ ဣမံ ပိဏ္ဍပါတခါဒနီယဘောဇနီယံ၊ ဤဆွမ်း ခဲဖွယ် ဘောဇဉ်ချိုချဉ် အရသာကို။) သက္ကစ္စံ၊ ရိုရိုသေသေ။ ဒေမိ၊ နိဗ္ဗာန်ရည်မှန်း လှူဒါန်းပါ၏ အရှင်ဘုရား။ ပူဇေမိ၊ နိဗ္ဗာန်ကိုမျှော် ပူဇော်ပါ၏ အရှင်ဘုရား။

မေ၊ အကျွန်ုပ်၏။ ဣဒံ ပုညံ၊ ဤကောင်းမှုသည်။ အာသဝက္ခယာဝဟံ၊ အာသဝေါတရား လေးပါးတို့၏ ကုန်ရာကုန်ကြောင်းဖြစ်သော မဂ်ဉာဏ်, ဖိုလ်ဉာဏ်, မြတ်နိဗ္ဗာန်ကို ကေန်ရောက်အောင် ရွက်ဆောင်နိုင်သည်။ ဟောတု၊ ဖြစ်ပါစေသတည်း။

**ရေချမ်းတော်ကပ်**

အရဟာတာဒိ နဝဂုဏောဟိ၊ အရဟံ-အစရှိသော ကိုးပါးသော ဂုဏ်တော်တို့နှင့်။ သမန္နာဂတံ၊ ပြည့်စုံတော်မူသော။ နာထံ လူနတ်တို့၏ ကိုးကွယ်ရာဖြစ်တော်မူသော။ ဗုဒ္ဓံ၊ သက်တော်ထင်ရှား သဗ္ဗညုမြတ်စွာဘုရားကို။ ဥဒ္ဒိဿ၊ ရည်မှတ်၍။ စေတိယဿ၊ ဓာတုစေတီ, မမ္မစေတီ, ဥဒ္ဒိဿစေတီ, ပရိဘောဂစေတီတော်မြတ်အား။ (သုဒ္ဓ သီတလ ပါနီ၊ သန့်ရှင်းအေးမြ ကြည်လင်လှသော။ ဣမံ ပါနီယပရိဘောဇနီယံ၊ ဤသောက်တော်ရေ, သုံးဆောင်တော်ရေကို။) သက္ကစ္စံ၊ ရိုရိုသေသေ။ ဒေမိ၊ နိဗ္ဗာန်ရည်မှန်း လှူဒါန်းပါ၏ အရှင်ဘုရား။ ပူဇေမိ၊ နိဗ္ဗာန်ကိုမျှော် ပူဇော်ပါ၏ အရှင်ဘုရား။

မေ၊ အကျွန်ုပ်၏။ ဣဒံ ပုညံ၊ ဤကောင်းမှုသည်။ အာသဝက္ခယာဝဟံ၊ အာသဝေါတရား လေးပါးတို့၏ ကုန်ရာကုန်ကြောင်းဖြစ်သော မဂ်ဉာဏ် ဖိုလ်ဉာဏ်, မြတ်နိဗ္ဗာန်ကို ကေန်ရောက်အောင် ရွက်ဆောင်နိုင်သည်။ ဟောတု၊ ဖြစ်ပါစေသတည်း။

ဖော်ပြပါ အဆိုးခေတ်သဘာဝ ကိလေသာများသည် ဘုရား၊ ရဟန္တာတို့၏ သန္တာန်၌ကား အရဟတ္တမဂ်ဖြင့် အလျှင်းပယ်သတ်ပြီးဖြစ်သောကြောင့် အကြွင်းအကျန် မရှိကြတော့ပါ။ အလုံးစုံ ကုန်ခန်းပြီးဖြစ်ပါသည်။ သို့ရာတွင် ရဟန္တာများသန္တာန်၌ အရဟတ္တမဂ်ဖြင့် ပယ်သတ်၍ ကိလေသာတွေ ကုန်သွားသော်လည်း ဘဝဆက်တိုင်းက ပါလာသော အထုံဝါသနာမှာ မကုန်ဘဲ ကျန်ရှိနေတတ်ပါသည်။

အရက်ကို သွန်လိုက်သော်လည်း အရက်နံ့မှာ အရက်အိုး၌ စွဲကျန်နေရစ်သကဲ့သို့ ရဟန္တာများသန္တာန်၌ ကိလေသာများကုန်သွားသော်လည်း အထုံဓလေ့ ဝါသနာအငွေ့ (ကိလေသာတို့၏ သတ္တိ)များမှာ ကျန်ရစ်နေပါသည်။ ဘုရားရှင်လက်ထက်တော်က ရဟန္တာအရှင်မြတ်ကြီးဖြစ်သော အရှင်ပိလိန္ဒဝစ္ဆမထေရ်၏ တွေ့သူတိုင်းအား "သူယုတ်"ဟူ၍ ခေါ်ဝေါ် ပြောဆိုလေ့ရှိပုံမှာ ရဟန္တာများအဖို့ ကိလေသာကုန်သော်လည်း ဝါသနာအထုံ ကျန်ရစ်ပုံသာဓကများပင် ဖြစ်ပါသည်။ ပစ္စေကဗုဒ္ဓါ (ဘုရားငယ်) များ၏ သန္တာန်၌လည်း ရဟန္တာများနည်းတူ ဝါသနာအထုံ ကျန်ရစ်ပုံချင်း အတူတူပင် ဖြစ်ပါသည်။ ဘုရားရှင်ကား ထိုသို့မဟုတ်၊ ကိလေသာအားလုံးတို့ကို အလျှင်းပယ်သတ်နိုင်ရုံမျှမက ဝါသနာအထုံကိုပါ အကုန်အစင် မကျန်ရစ်အောင် အလျှင်းပယ်သတ်တော်မူနိုင်ပါသည်။ ထို့ကြောင့် ဘုရားရှင်၏ စိတ်တော်အစဉ်သည် အမြဲထာဝရ မြင့်မြတ်ကောင်းမွန်၍ အေးမြသန့်စင် ကြည်လင်ဝင်းပတော်မူလျက် ရှိပါသည်။

အချုပ်သဘောအားဖြင့် ဘုရားရှင်၏ သန္တာန်တော်၌ အဆိုးခေတ်သဘာဝ ကိလေသာများကို အငွေ့အသက် အထုံဝါသနာမျှ မကျန်ရအောင် အကြွင်းမဲ့ ပယ်လှန်ပြီး ဖြစ်သဖြင့် အကောင်းခေတ်သဘာဝ အကောင်းစိတ်များသာ ရှိနေသည်ဖြစ်သောကြောင့် ထာဝစဉ် မြင့်မြတ်ကောင်းမွန်၍ အေးမြသန့်စင်ကာ လောကတွင် အမြင့်ဆုံး အမြတ်ဆုံး အအေးမြဆုံး အသန့်ရှင်း အစင်ကြယ်ဆုံး ပုဂ္ဂိုလ်မြတ်ကြီး ဖြစ်တော်မူလျက်ရှိကြောင်း ကြည်ညိုသဒ္ဓါ ပွားနိုင်ကြပါသည်။

(ခ) အရဟံ = (အ + ရဟံ။ အ = မရှိ+ရဟံ = ဆိတ်ကွယ်ရာ၊ မကောင်းမှုပြုခြင်း၌ ဆိတ်ကွယ်ရာ ရှိတော်မမူသော မြတ်စွာဘုရား၊ ဆိတ်ကွယ်ရာ၌ မကောင်းမှုပြုတော်မမူသော မြတ်စွာဘုရား။)

လောကဆန်ဆန် ပညာရှိ သူတော်ကောင်းအမည်ခံ အချို့ပုဂ္ဂိုလ်ကြီးတို့သည် သူတပါးရှေ့မှောက်၌ မကောင်းမှုမပြုသော်လည်း ဆိတ်ကွယ်ရာ၌ကား ပြုထတ်

ကြသေး၏။ ဘုရားရှင်ကား ဆိတ်ကွယ်ရာ၌ပင် မပြု။ (သူတပါးရှေ့မှောက်၌ မူဖြင့်ကား အထူးဝေးလေတော့သည်။) မကောင်းမှုအကုသိုလ် ပြုမှုသည် အဆိုးဓာတ်သဘာဝ ကိလေသာ မကင်းသေးသူများ၌သာ ပြုလေ့ ပြုထရှိသော်လည်း အဆိုးဓာတ်သဘာဝ ကိလေသာ လုံးဝ မရှိအောင် ပယ်ရှားပြီး ဖြစ်သော ရှင်တော်မြတ်ဘုရားမှာ ဘယ်အခါ ဘယ်ဒေသမှာမှ မကောင်းမှုပြုခြင်း မရှိတော့ပြီ။ အချို့ပုဂ္ဂိုလ်တို့မှာ ကိုယ်နှင့် နှုတ်၌ ကာယကံပြစ်မှု ဝစီကံပြစ်မှု မဖြစ်အောင် ထိန်းသိမ်းနိုင်သော်လည်း စိတ်၌ကား မကောင်းကြံစည်သော မနောကံပြစ်မှု ဖြစ်တတ်ကြသေး၏။ ဘုရားရှင်ကား စိတ်၌ပင် မကောင်း ကြံစည်မှု မဖြစ်တော့ပါ။ ဘုရားဖြစ်တော်မူပြီးရာ အခါကို မဆိုထားဘိ အလောင်းတော်ဘဝ ဒုက္ကရစရိယာ ကျင့်ဆဲအခါကပင် စိတ်ဓာတ်တော်မှာ အလွန်စင်ကြယ်လျက် ရှိခဲ့ပါသည်။ ဤ၌ ဘုရားနှင့် ယှဉ်တု၍ ပလ္လင်လုခဲ့သော မာန်နတ်ကြီးသည် ဘုရားရှင်အပေါ် အပြစ်အနာရှာရန် ခုနစ်နှစ်ပတ်လုံး (ဘုရားမဖြစ်မီ ဒုက္ကရစရိယာကျင့်စဉ် ခြောက်နှစ်နှင့် ဘုရားဖြစ်ပြီး နောက် တစ်နှစ်) ခြေရာချင်းကပ် ထက်ကြပ်မကွာ လိုက်ပါစုံစမ်းခဲ့ရာ မကောင်းမှုပြုမှုကို မဆိုထားဘိ ဘုရားမြတ်အပေါ် အပြစ်ဟူ၍ မှုမှုန်မျှပင် ရှာမရခဲ့ကြောင်း ဝန်ခံပြောဆိုခဲ့ပုံမှာ ဘုရားရှင်၏ စိတ်တော် စင်ကြယ်မှုအတွက် ထင်ရှားသော သာဓကပင် ဖြစ်ပါသည်။

အချုပ်သဘောအားဖြင့် ဘုရားရှင်၏ သန္တာန်တော်၌ အဆိုးဓာတ်သဘာဝ ကိလေသာများကို အငွေ့အသက် အထုံဝါသနာမျှ မကျန်ရအောင် အကြွင်းမဲ့ ပယ်သုန်ပြီးဖြစ်သဖြင့် အကောင်းဓာတ်သဘာဝ အကောင်းစိတ်များသာ ရှိနေသည်ဖြစ်သောကြောင့် ဘုရားရှင် ပြုသမျှ ပြောသမျှ ကြံသမျှတို့သည် မျက်မှောက်၌ဖြစ်စေ၊ မျက်ကွယ်၌ဖြစ်စေ အကောင်းချည်းသာ ဖြစ်လျက် ရှိကြောင်း ကြည်ညိုအပ်ပါ ပူဇော်နိုင်ကြပါသည်။

(၈) အရဟံ = (အရဟံ = ပူဇော် အထူးကို ခံတော်မူထိုက်သော မြတ်စွာဘုရား။)

ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ ရဟန္တာဟူသမျှ အရဟတ္တမဂ်ဖြင့် အဆိုးဓာတ်သဘာဝ ကိလေသာများကို အကြွင်းမဲ့ ပယ်သတ်၍ ရှင်းပြီးဖြစ်သောကြောင့် အမြတ်ဆုံးအလှူကို ခံထိုက်သော ပူဇော်ထိုက်သူအရှင်များချည်း ဖြစ်ကြပါသည်။ ယင်းသို့ ပူဇော်ထိုက်သူ အရှင်များအဖြစ် တူညီကြသော်လည်း အထူးခြားဆုံး ပူဇော်ထိုက်သူ (ဝါ) ပူဇော်မှုကို အထူးခြားဆုံး ခံထိုက်သူကား ဘုရားရှင်သာလျှင် ဖြစ်ပါသည်။

ဘုရားရှင်၏ သန္တာန်တော်၌ အဆိုးဓာတ်သဘာဝ ကိလေသာများကို အငွေ့ အသက် အထုံ ဝါသနာမျှ မကျန်ရအောင် အကြွင်းမဲ့ ပယ်လှန်ပြီး ဖြစ်သဖြင့် အပြစ်ဟူသမျှ မှုမျှမရှိဘဲ အကောင်းဓာတ်သဘာဝ အကောင်း စိတ်များသာ အမြဲရှိနေခြင်း၊ ဆိတ်ကွယ်ရာ အရပ်၌ မကောင်းမှုဟူသမျှတို့ကို ပြုတော်မမူ၊ ပြောတော်မမူ၊ ကြံစည်တော်မမူ၊ ဝါသနာအလျောက်ပင် ပြုမူ ပြောဆိုကြံစည်ခြင်း ရှိတော်မမူဘဲ ကောင်းသော အမှုတို့ကိုသာ အမြဲပြုလုပ်, ပြောဆို, ကြံစည်တော်မူလျက် ရှိခြင်း၊ အရဟတ္တမဂ်ဖိုလ်ရပြီးသည်နှင့် တပြိုင်နက် ပဋိသမ္ဘိဒါ အဘိညာဉ်သမာပတ်စသော ဉာဏ်တန်ခိုးများကိုပါ (တစိတ်တဒေသ အကန့်အသတ်ဖြင့် မဟုတ်ဘဲ) တပါတည်း အပြည့်အစုံ ရတော်မူသည့်အပြင် သိစရာမှန်က တစမကျန် ကေန်သိစွမ်းနိုင်သော သဗ္ဗညုတဉာဏ်တော်ကြီးကိုပါ ထူးထူးခြားခြား ရတော်မူခြင်း၊ ထို့ပြင် "အာသယာနုသယဉာဏ်=သတ္တဝါတို့၏ အတွင်းဓာတ်ခံ ကိလေသာအငုပ်ဓာတ်တို့ကို သိသော ဉာဏ်"စသော တပါးသူ တို့နှင့်မဆိုင် ဘုရားရှင်တို့သာ ရနိုင်သော ဉာဏ်တော်များကို ရခြင်း၊ ဘုရားရှင် တို့သာ ရနိုင်သော "အာဝေဏိက"ခေါ် သီးခြားဂုဏ်တော်များကို ရခြင်းနှင့် တန်ခိုးအရာ၌ အကန့်အသတ်မရှိ အဆုံးမရှိ သိနိုင်မြင်နိုင်ခြင်း စသည်တို့မှာ လူနတ်ဗြဟ္မာ မည်သူတစ်ဦးတစ်ယောက်မျှ အတူမပြုနိုင်သော အတုမဲ့ဂုဏ်ရည် တော်အစွမ်းသတ္တိများ ဖြစ်ပါသည်။ ထို့ကြောင့် ဘုရားရှင်သည် ပူဇော်ထိုက်သူ တို့တွင် အထူးခြားဆုံး ပူဇော်ထိုက်သူ (ဝါ) ပူဇော်မှုကို အထူးခြားဆုံး ခံထိုက်သူ ဖြစ်တော်မူပါသည်။

## ပူဇော်အထူးကို ခံထိုက်၍ ပူဇော်ခဲ့ကြပုံများ

ဘုရားရှင်သည် ပူဇော်ထိုက်သူတို့တွင် အထူးခြားဆုံး ပူဇော်ထိုက်သူ (ဝါ) ပူဇော်မှုကို အထူးခြားဆုံး ခံထိုက်သူဖြစ်သောကြောင့် ဘုရားရှင်ပွင့်တော်မူလာ သောအခါ ရန့်သင်း၍ အဆင်းလှသော ပန်းကို လူတိုင်းလူတိုင်း မြတ်နိုးယုံဆင် လိုသကဲ့သို့ သာမန် လူနတ်ဗြဟ္မာတို့ကို မဆိုထားဘိ တန်ခိုးကြီးသော လူမင်း နတ်မင်း ဗြဟ္မာမင်းကြီးတို့ကိုယ်တိုင်ပင် အခြားတပါး၌ ပူဇော်မှုမပြုကြတော့ဘဲ ဘုရားရှင်အပေါ်၌သာ သူထက်ငါ ဦးအုံ၍ ပူဇော်မှုပြုခဲ့ကြပါသည်။

ဘုရားရှင်လက်ထက်တော်အခါ၌ "သဟမ္ပတိ" ဗြဟ္မာမင်းကြီးက မြင်းမိုရ် တောင်မျှ ပမာဏရှိသော ရတနာပန်းကုံးကြီးဖြင့် ဘုရားရှင်အား ပူဇော်ဖူး လေပြီ။ မင်း, အမတ်, သူဌေး, သူကြွယ် စသည်တို့က မွန်မြတ်သော ခဲဖွယ် ဘောဇဉ်တို့ဖြင့် ဆက်ကပ်ပူဇော်ဖူးလေပြီ။ "မိထွေးတော်ဂေါတမီ"က ကိုယ်တိုင် ကြပ်မတ် ရက်လုပ်အပ်သော သင်္ကန်းလျာဖြင့် ရှင်လောင်းမှာ ပူဇော်မှုလေပြီ။

"အနာထပိဏ်"သူဌေးကြီးက"ဇေတဝန်"ကျောင်းတော်ကြီးဖြင့်လည်းကောင်း၊ "ဝိသာခါ" ဒါယိကာမကြီးက "ပုဗ္ဗာရုံ"ကျောင်းတော်ကြီးဖြင့်လည်းကောင်း၊ "ဗိမ္ဗိသာရ"မင်းကြီးက "ဝေဠုဝန်" ကျောင်းတော်ကြီးဖြင့်လည်းကောင်း အသီးသီး ပူဇော်ဖူးလေပြီ။ "ဗိမ္ဗိသာရ"မင်းကြီးနှင့် "ကောသလ"မင်းကြီး စသည်တို့က ထောပတ်, ဆီဦး, ပျား, သကာ စသော ဆေးပစ္စည်းတို့ဖြင့် ပူဇော်ဖူးလေပြီ။ ပရိနိဗ္ဗာန် စံတော်မူပြီးမှလည်း "ဓမ္မာသောက" မင်းကြီးသည် စေတီပေါင်း ရှစ်သောင်းလေးထောင်, ကျောင်းပေါင်း ရှစ်သောင်းလေးထောင်, ရေတွင်း ရေကန်ပေါင်း ရှစ်သောင်းလေးထောင်တို့ဖြင့် ဘုရားရှင်အား ရည်မှန်း၍ လှူဒါန်းပူဇော်ဖူးလေပြီ။ ဘုရားအဖြစ်သို့ ရောက်သောအခါမှသာ လူနတ်ဗြဟ္မာများက လှူဒါန်းပူဇော်ကြသည် မဟုတ်ပါ၊ ဘုရားအဖြစ်သို့ မရောက်မီ သုမေဓာရှင်ရသေ့ဘဝမှ စ၍ သိဒ္ဓတ္ထမင်းသားဘဝ ဘုရားဖြစ်တော်မူချိန် ကျအောင် လူနတ်ဗြဟ္မာတို့၏ ပူဇော်မှုကို အခါခါ အထပ်ထပ် ခံယူခဲ့ရပါသည်။ ဤသို့ ဤပုံ အဖုံဖုံသော ပူဇော်မှုများကို ရှေးအခါကသာ ခံယူခဲ့ရသည်မဟုတ်၊ ယခုတိုင်အောင်လည်း ကမ္ဘာ့အနှံ့ဖွယ်တစ်ပါး အပါအဝင် ရွှေတိဂုံစေတီတော် မြတ်ကြီးနှင့် အခြားသော စေတီတော်, ရုပ်ပွား ဆင်းတုတော်များအား ဘုရားရှင်ကို ရည်မှန်း၍ လှူဒါန်းဖွယ်ရာ အဖြာဖြာ ပူဇော်ဖွယ်ရာ အမျိုးမျိုး တို့ဖြင့် တိုး၍တိုး၍သာ အံ့ဖွယ်သရဲ ပူဇော်နေကြဆဲပင် ဖြစ်ပါသည်။

**ပူဇော်နည်း နှစ်မျိုးဖြင့် ပူဇော်ခြင်း**

အရဟံ-ဂုဏ်တော်ရှင် မြတ်စွာဘုရားအား ပူဇော်ရာ၌ အာမိသပူဇာဖြင့် ပူဇော်ခြင်း, ဓမ္မပူဇာဖြင့် ပူဇော်ခြင်းဟူ၍ ပူဇော်နည်း နှစ်မျိုးရှိပါသည်—

၁။ **အာမိသပူဇာ**=ဆွမ်း, သင်္ကန်း, ကျောင်း, ဆေးပစ္စည်းလေးပါး (အသုံး အဆောင်များ)ဖြင့် ပူဇော်ရာ၌ အရဟံ-ဂုဏ်တော်ရှင် မြတ်စွာဘုရား၏ စိတ်တော်အစဉ်၌ ကိလေသာ အညစ်အထေး အနှောက်အယှက်တို့မှ ကင်းသဖြင့် သန့်ရှင်း ကြည်လင်လျက် ရှိတော်မူပုံ, ဆိတ်ကွယ်ရာ အရပ်၌ပင် မကောင်းမှုဟူသမျှတို့ကို ကိုယ်ဖြင့် ပြုတော်မမူ, နှုတ်ဖြင့် ပြောတော်မမူ, စိတ်ဖြင့် ကြံစည်တော်မမူပုံနှင့် အတုမရှိသောသီလဂုဏ်, သမာဓိဂုဏ်, ပညာဂုဏ်တို့နှင့် ကုံလုံပြည့်ဝ၍ ပူဇော်မှုကို အထူးခံထိုက်ပုံ စသော ဂုဏ်ရည်တို့ကို ယုံကြည်စွာ မှန်းမျှော်၍ လက်အုပ်ချီ ရှိခိုးလျက် ပန်း, ရေချမ်း, ဆွမ်း, ဆီမီး အသီးသီးတို့ကို ကပ်လှူ ပူဇော်ရမည်။ (သရဏဂုံ သီလ ခံယူဆောက်တည်၍ လှူခဲ့လျှင်ကား အာမိသပူဇာ, ဓမ္မပူဇာ နှစ်မျိုးလုံးပင် ဖြစ်နိုင်သည်။)

၂။ ဓမ္မပူဇာ=တရားဖြင့် ပူဇော်ရာ၌ မိမိတို့၏ စိတ်အစဉ်ကို ကိလေသာ အညစ်အထေး အနောက်အကျုတ္တို့မှ ကင်းစင်နိုင်သမျှ ကင်းစင်အောင် ဆေးလျှော်သုတ်သင်၍ ဆိတ်ကွယ်ရာ အရပ်၌ပင် မကောင်းမှုဟူသမျှတို့ကို ကိုယ်ဖြင့် ပြုခြင်း, နှုတ်ဖြင့် ပြောခြင်း,စိတ်ဖြင့် ကြံစည်ခြင်းတို့မှ ရှောင်ကြဉ်လျက် သီလ, သမာဓိ, ပညာတရားတို့ကို တိုးပွားသည်ထက် တိုးပွားအောင် ကြိုးစားအားထုတ်ကျင့်သုံးရမည်။ ဤသို့ ကြိုးစားအားထုတ် ကျင့်သုံးခြင်းသည်ပင် အရဟံ-ဂုဏ်တော်ရှင် မြတ်စွာဘုရားအား တရားဖြင့် ပူဇော်သည် မည်ပါသည်။ လောကုတ္တရာတရား ကိုးပါးအား လျော်သော ကျင့်ဝတ်ပဋိပတ် အကျင့်မြတ် (ဓမ္မာနုဓမ္မပဋိပတ်)ဖြင့် ပူဇော်ခြင်းဟူသည် ဤနည်းဖြင့် ပူဇော်ခြင်းပင်တည်း။

အာမိသပူဇာနှင့် ဓမ္မပူဇာ နှစ်ပါးတွင် ဓမ္မပူဇာသည် အာမိသပူဇာထက် အဆ ရာထောင်မက မြတ်ကြောင်း၊ အမြတ်ဆုံး ဖြစ်ကြောင်း ကျမ်းဂန်တို့၌ ပြဆိုထားပါသည်[၁]။

## သူတော်ကောင်းဖြစ်အောင် "အရဟံ"ဂုဏ်ကိုဆောင်

ဘုရားရှင်၏ ဂုဏ်တော်များသည် အနန္တ (အဆုံးမရှိ) ဖြစ်သော်လည်း ဂုဏ်တော်အားလုံးသည် အကျဉ်းအားဖြင့် ဂုဏ်တော်ကိုးပါး၌ အကျုံးဝင်၏။ ဂုဏ်တော်ကိုးပါးတွင်လည်း ကိလေသာများကို ဝါသနာအငွေ့အသက်မျှ မကျန်ရအောင် အကြွင်းမဲ့ ပယ်သတ်နိုင်သော အရဟံ-ဂုဏ်တော်သည် ပထမဆုံး ဖြစ်၍ မူရင်းပဓာန အကျဆုံးလည်း ဖြစ်၏။ ကိလေသာအားလုံးကိုသာ မပယ်သတ်ရသေးလျှင် "ဘုရား"ဟု ခေါ်ဝေါ်သတ်မှတ်နိုင်မည် မဟုတ်ပါ။ ဘုရားဟု မသတ်မှတ်နိုင်က "အရဟံ" ဂုဏ်ကိုလည်း မရနိုင်၊ အခြား "သမ္မာသမ္ဗုဒ္ဓ"စသော ဂုဏ်တော်များလည်း ရှိလာနိုင်တော့မည် မဟုတ်ပါ။ ဘုရားဟု သတ်မှတ်နိုင်သော ဂုဏ်ဖြစ်၍ အရဟံ-ဂုဏ်သည် ဂုဏ်အားလုံးကို ခြုံမိ၏။ ဤဂုဏ်တစ်ခုတည်းဖြင့်ပင် တလောကလုံး၏ ကိုးကွယ်ပူဇော်မှုကို ခံထိုက်ပါလေပြီ။

"အရဟံ"ဂုဏ်တော်ကို အောက်မေ့ကြည်ညိုသူသည် ဘုရားရှင်၏ စိတ်တော်အစဉ်၌ ကိလေသာ အနောက်အကျုတ္တို့မှ ကင်းသဖြင့် သန့်ရှင်းကြည်လင်တော်မူပုံကို ထင်မြင်အောင် အာရုံပြုပါ၊ ထိုကြည်လင်သော စိတ်တော်အစဉ်ကို အတုယူကာ မိမိစိတ်၌လည်း လောဘ, ဒေါသ, မာန-စသော ကိလေသာ

---

၁။ အံ၊၁။၉၀၊၉၁။ ဣတိဝုတ်။၂၆၀။

အနောက်အကျူးများ ကင်းစင်၍ အမြဲကြည်လင် သန့်ရှင်းအောင် သတိပြုပါ။ တဖန် စိတ်တော်အစဉ် သန့်ရှင်းကြည်လင်နေသည့်အတွက် ဘုရားရှင်သည် ဆိတ်ကွယ်ရာ၌ပင် မကောင်းမှု ဟူသမျှတို့ကို မပြု, မပြော, မကြံစည်ပုံတို့ကို ထင်မြင်အောင် အာရုံပြုပါ၊ ထိုအပြုအမူကို အတုယူကာ မကောင်းမှုဟူသမျှ တို့ကို ဆိတ်ကွယ်ရာ၌ပင် မပြု, မပြော, မကြံစည်ဘဲ ရှောင်ကြဉ်နိုင်အောင် သတိပြုပါ၊ ကောင်းသော အမှုတို့ကိုသာ ပြုလုပ်, ပြောဆို, ကြံစည်နိုင်အောင် ကြိုးစားပါ။ ဤသို့ အာရုံပြုဖန်များလာလျှင် ထို သန့်ရှင်းကြည်လင်သော စိတ်နှင့် အပြုအမူစေတသိကမျာ းသည် သူတော်ကောင်းနှင့် ပေါင်းသူသည် သူတော်ကောင်းဖြစ်လာသကဲ့သို့ မိမိ၌ ကူးစက်၍ သန့်ရှင်းသော စိတ်စေတ်နှင့် အပြုအမူများ တိုးပွားလာပါလိမ့်မည်။ အရဟံ-ဂုဏ်တော်ကို အာရုံပြုကာ မကောင်းသော စိတ်ထားနှင့် မကောင်းသော အပြုအမူများ ရှောင်ရှားပြီး ကောင်းသော စိတ်ထားနှင့် ကောင်းသော အပြုအမူများကို ပြုလုပ်ကာ အရဟံ ဂုဏ်ကို ဆောင်၍ သူတော်ကောင်းဖြစ်အောင် ကြိုးစားသင့်ကြပါသည်။

၂။ သမ္မာသမ္ဗုဒ္ဓဂုဏ်တော်

> သမ္မာသမ္ဗုဒ္ဓ=(သမ္မာ+သံ+ဗုဒ္ဓ။ သမ္မာ=မဖောက်မပြန်(အမှန်)+သံ=ကိုယ်တိုင်၊ ကိုယ်ပိုင် (ထိုးထွင်း၍)+ဗုဒ္ဓ=သိမြင်တော်မူသော မြတ်စွာဘုရား။)

ဘုရားရှင်သည် "သစ္စဓမ္မ"ခေါ် သစ္စာလေးပါးတရားနှင့် "ဉေယျဓမ္မ"ခေါ် ဉေယျဓံတရား ငါးပါးတို့ကို မဖောက်မပြန် သိ၏၊ အမှားမရှိ အမှန် အတိုင်း သိတော်မူ၏။ မည်သည့်ဆရာ တစ်ဦးတစ်ယောက်ကမျှ သိနိုင်အောင် နည်းပြညွှန်ကြားရခြင်း မရှိ၊ ပါရမီတော် အစွမ်းကြောင့် မိမိဘာသာ ရှာဖွေ တွေ့ရှိ သိတော်မူ၏၊ ကိုယ်တော်တိုင် ထိုးထွင်း၍ သိမြင်တော်မူ၏။ သိရာ မြင်ရာ၌ သေးငယ်သော မှုန့်မှုန်ကို မျက်စိမှုန်သူတို့ကြည့်သောအခါ မှုန်ဝါးဝါး မထင်မရှားမြင်သကဲ့သို့ မှုန်ဝါးဝါးနှင့် မထင်မရှားသိခြင်း, မြင်ခြင်းမျိုးမဟုတ်၊ လင်းလင်းကျင်းကျင်း ထင်ထင်ပေါ်ပေါ် သိမြင်တော်မူ၏၊ မသိသော အရာ ဟူ၍ မရှိ၊ အားလုံး သိမြင်တော်မူပါသည်။

ဤသို့ သိမြင်တော်မူခြင်းကား "သဗ္ဗညုတဉာဏ်တော်"၏ အစွမ်းတည်း။ ဘုရားရှင်သည် "သဗ္ဗညုတဉာဏ်တော်"ကို ရဖို့ရန် လေးသင်္ချေနှင့် ကမ္ဘာ တစ်သိန်း ကာလကြာအောင် ကောင်းမှုပါရမီများကို ဖြည့်ကျင့်ဆည်းပူးခဲ့ရ၏။ ယင်းသို့ ပါရမီများကို ဖြည့်ကျင့်ဆည်းပူးခဲ့သည့်အတွက် ဘဝအဆင့်ဆင့် ရင့်၍ရင့်၍ လာသော ပညာသည် ဘုရားအဖြစ်သို့ ရောက်သည့်အခါ "သဗ္ဗညုတ

ဉာဏ်တော်”အဖြစ်သို့ ရောက်ကာ လွန်စွာ အစွမ်းသတ္တိ ထက်မြက်ခြင်း ရှိလာပါတော့သည်။ ဘုရားရှင်သည် ဤ “သဗ္ဗညုတဉာဏ်တော်”ဖြင့် သိသင့်သိဖွယ် သိစရာ အသွယ်သွယ်ကို မည်သူနှင့်မျှ ယှဉ်မရအောင် ရှင်းရှင်းလင်းလင်း သိမြင်တော်မူပါသည်။

ဥေယျဓံတရား ငါးပါး

ဥေယျဓံ=(ဥေယျ+ဓမ်။ ဥေယျ=သိသင့်သိထိုက်သော+ဓမ်=တရား။) သိသင့်သိထိုက် သိစရာမှန်သမျှ တရားအားလုံးကို “ဥေယျဓံ”ဟု ခေါ်၏။ ယင်းတရားသည် အမျိုးအစားအားဖြင့် ခွဲခြားလျှင် ငါးမျိုးရှိသည်—

၁။ သင်္ခါရ (ရုပ်, နာမ်)တရား=ဥပါဒ်, ဌီ, ဘင် (ဖြစ်, တည်, ပျက်) မကင်းသော စိတ်စေတသိက် နာမ်တရားများနှင့် နိပ္ဖန္နရုပ် တရားများ၊

၂။ ဝိကာရ (ရုပ်) တရား=နိပ္ဖန္န ရုပ်အစစ်တရားများ၏ အမူအရာထူး (ဝိကာရ) ရုပ်တရား ငါးပါး၊

၃။ လက္ခဏ (ရုပ်) တရား=နိပ္ဖန္န ရုပ်အစစ်တရားများ၏ ဥပါဒ်, ဌီ, ဘင် (ဖြစ်,တည်,ပျက်) ဖြစ်သော (လက္ခဏ)ရုပ်တရား လေးပါး၊

၄။ ပညတ်တရား=လူ, နတ်, ဗြဟ္မာ, ဆင်, မြင်း, ကျွဲ, နွား, တော, တောင်, ရေ, မြေ စသော (သဒ္ဒ၊ အတ္ထ) ပညတ်တရားများ၊

၅။ နိဗ္ဗာန်တရား = သင်္ခါရ, ဝိကာရ, လက္ခဏ, ပညတ်မှ တပါး ငြိမ်းအေးသော (အသင်္ခတ) နိရောဓဓာတ်တရား။

ဤလောကတခုလုံးတွင် အထက်၌ ဖော်ပြခဲ့သော သိသင့်သိဖွယ် သိစရာ အသွယ်သွယ်သော (ဥေယျဓံ) တရားငါးမျိုးမှတပါး အခြားသိစရာ တရား ဟူ၍ မရှိတော့ပြီ။

[ဤ၌ “ဝိကာရရုပ်”နှင့် “လက္ခဏရုပ်”တို့ကို ရုပ်ချင်း တူပါလျက် ခွဲခြားထားခြင်းသည် ပရမတ်ရုပ်အစစ်မဟုတ်သောကြောင့် ခွဲခြားထားခြင်းဖြစ်၏။ ပရိစ္ဆေဒ(အကြားအလပ်)ရုပ်ကား ပညတ်တရား၌ ပါဝင်လေပြီ။ အချုပ်အားဖြင့်ကား ဥေယျဓံတရားဟူသည် ပရမတ္ထတရား လေးပါးနှင့် ပညတ်တရားတို့ပင်တည်း။ ဤဥေယျဓံတရား ငါးပါးသည် ဇိနာလင်္ကာရဋီကာ အဿာဒရဏကထာ၌ အကျယ်လာရှိသည်။]

ဤခြေ ယျခံတရားငါးပါးကို ဘုရားရှင် သိတော်မူရာ၌ ဖောက်ပြန်မှားယွင်းသွားသည်ဟူ၍ မရှိ၊ နည်းပေးလမ်းပြသည့် ဆရာသည်း မရှိ၊ ကိုယ်တော်တိုင် သိတော်မူပါသည်။ ဘုရားရှင်၏ ကြည်လင်နေသော စိတ်တော် အစဉ်ဝယ် အလွန်ထက်မြက်၍ အလုံးစုံကို သိသော သဗ္ဗညုတဉာဏ်တော်ကြီး တည်ရှိပုံကို အာရုံယူကာ ဗုဒ္ဓါနုဿတိဘာဝနာကို ပွားများနိုင်ကြပါသည်။

[သစ္စာလေးပါးတရားကို ဗုဒ္ဓဂုဏ်တော်ဖွင့်သို့ ရောက်သောအခါ တွေ့ရပါလိမ့်မည်။]

**သိနိုင်ခဲသော အရာကို သိတော်မူခြင်း**

လောက၌ အလွန်နက်သော တောကြီးသို့ မရောက်ဖူးသူများသည် ထိုတော၏ အခြေအနေကို မသိနိုင်၊ မခန့်မှန်းနိုင်ကြပါ။ တောကြီးသို့ ရောက်ဖူးသူများအနေဖြင့်သာ တော၏ အလွန်နက် ရှိုင်းပုံကိုလည်းကောင်း၊ ပန်းမျိုးစုံ၊ သစ်သီးမျိုးစုံ ဝေဝေဆာဆာနှင့် သာယာနေပုံကိုလည်းကောင်း သိနိုင်ကြ၏။ ထို့အတူ ပိဋကနယ်တွင်းသို့ ဝင်ရောက်၍ မကျင်လည်ဖူးသော သူများသည် ဘုရားရှင်၏ ဉာဏ်တော်ကို (အပြည့်အစုံ သိရန် မဆိုထားဘိ) ခန့်မှန်းနိုင်ရန်ပင် မလွယ်ကူလှပါ၊ ပိဋကနယ်တွင်းသို့ ဝင်ရောက်ကျင်လည်ဖူးသော ပညာရှိ ပုဂ္ဂိုလ်တို့ကား ဘုရားရှင်၏ ဉာဏ်တော်ကို (အပြည့်အစုံ မဟုတ်သော်လည်း) ခန့်မှန်းရိပ်သိရှိတော်မူနိုင်ကြပါသည်။ ဤ၌ ဘုရားရှင်၏ အတုမရှိ သဗ္ဗညုတဉာဏ်တော်ကြီးကို ခန့်မှန်းသိရှိပြီး ကြည်ညိုသဒ္ဓါပွားနိုင်ရန်အတွက် အရှင်နာဂသေနရဟန္တာမထေရ်မြတ်၏ ချီးကျူးထုတ်ဖော် မိန့်မြွက်တော်မူချက်ကို အောက်တွင် ဖော်ပြထားပါသည်—

၀

အရှင်နာဂသေန မထေရ်မြတ်က မိလိန္ဒမင်းကြီးကို မေးသည်မှာ— "ဂင်္ဂါ၊ ယမုနာ-စသော မြစ်ကြီးငါးသွယ်မှ ရေတွေ သမုဒ္ဒရာထဲသို့ စီးဝင်ခဲ့ရာတွင် သမုဒ္ဒရာရေနှင့် ရောနေသော ထိုရေများကို ဤကား ဂင်္ဂါမြစ်ရေ၊ ဤကား ယမုနာမြစ်ရေ စသည်ဖြင့် ခွဲခြားသိနိုင်ပါမည်လော" ဟူ၍ ဖြင့်၏။

မင်းကြီးက—"ခဲယဉ်းလှပါကြောင်း" ပြန်ကြား လျှောက်ထား၏။

ထိုအခါ အရှင်နာဂသေန မထေရ်မြတ်က ပြန်လည် မိန့်ကြားတော်မူသည်မှာ—"ဤကား ဖဿ၊ ဤကား ဝေဒနာ-စသည်ဖြင့် (အကောင်အထည် မရှိသော) နာမ်တရားတို့ကို ခွဲခြားသိမြင်တော်မူသော ဘုရားရှင်မှာ ထိုရေများကို ခွဲခြား သိရသည်ထက် အဆပေါင်းများစွာ

ခက်ခဲလှသော ခွဲခြား သိမြင်မှုကြီးဖြစ်ရာ ဉာဏ်ကယ့် သိနိုင်ခဲသော သိမြင်မှုကြီး ခွဲခြားမှုကြီး ဖြစ်ပါပေသည်''ဟူ၍ ဖြစ်ပါသည် (မိလိန္ဒပဥှာ၊ အရူပဓမ္မဝဝတ္ထာနဝဂ်၊ ၉၄)။

အကောင်အထည် မရှိသော (စိတ်နှင့် စေတသိက်) နာမ်တရားများ၏ လက္ခဏာ သဘာဝသတ္တိအမျိုးမျိုးကို ထုတ်ဖော်ဟောကြားနိုင်ရန် မဆိုထားဘိ ဤကား "ဖဿ", ဤကား "ဝေဒနာ" စသည့် နာမ်တရားတို့၏ အမည်ကလေး မျှကိုပင် ရှေးခေတ်, ယခုခေတ်တို့၌ ဘုရားမှတပါး မည်သူမျှ မထုတ်ဖော်နိုင်, မဟောပြနိုင်ကြပါ။ အဆိုပါ နာမ်တရားများကို လက္ခဏာ သဘာဝသတ္တိ အမျိုးမျိုးပြ၍ လိုလေသေး မရှိရအောင် ဘုရားရှင် ကိုယ်တော်တိုင် သိမြင် ထုတ်ဖော် ဟောကြားတော်မူခဲ့သည်မှာ ဘုရားရှင်၏ အတုမရှိ (သဗ္ဗညုတ) ဉာဏ်တော်ကြီးကို ပေါ်လွင်ထင်ရှားစေပါသည်။

**မေးသမျှကို မတွေးမဆ ဖြေဆိုတော်မူနိုင်ခြင်း**

ပညာရှင် ထိပ်သီးများစွာနှင့် နုတ်ပြဟ္မာတို့ ဘယ်သူက မေးမေး တွေးနေရသည် မရှိ၊ လေးကန်ဆုတ်ဆိုင်းနေသည် မရှိ၊ ရှိထိတ်ခြင်း မရှိ၊ ချက်ချင်းပင် ဖြေကြားတော်မူနိုင်သည်မှာလည်း အထင်အရှားပင် ဖြစ်ပါသည်။ ဤအချက်ကို "အဘယမင်းသား"သည် ဘုရားရှင်အား မေးမြန်းလျှောက်ထား၍ အဖြေရှာခဲ့ဖူးရာ သဗ္ဗညုတဉာဏ်တော်ကြီး၏ ထက်မြက်ပုံ အစွမ်းကို အံ့မခန်း ကြည်ညိုခွင့်ရခဲ့ကြပါသည်—

အဘယမင်းသားက—"မြတ်စွာဘုရား.... မင်း, ပုဏ္ဏား, သူကြွယ်, ရဟန်း ပညာရှိတွေ ပြဿနာမေးလျှောက်လာသောအခါ ရှေးကပင် ဘယ်သို့ ဖြေမည်ဟု ကြိုတင် စဉ်းစားထားရပါသလော၊ သို့မဟုတ် တခဏချင်း ဖြေနိုင်ပါသလော"ဟု လျှောက်၏။

ဘုရားရှင်က—"မင်းသား....ဤအချက်၌ သင့်ကိုပင် မေးရပေဦးမည်၊ ရထားအစိတ်အပိုင်းများကို သင်နားလည်သလော"ဟု မေးတော်မူရာ မိမိ နားလည်ကြောင်း လျှောက်၏။ "သင့်ကို တစ်ဦးတစ်ယောက်က ရထားအစိတ်အပိုင်းကို မေးလျှင် ရှေးကပင် ငါဘယ်သို့ ဖြေမည်ဟု ကြိုတင် စဉ်းစားထားရသလော၊ သို့မဟုတ် ချက်ချင်းပင် ပြောနိုင် သလော"ဟု မေးပြန်ရာ—

အဘယမင်းသားက—"တပည့်တော် ရထားမောင်းသူပါ၊ ရထား အစိတ်အပိုင်းတွေအားလုံး နားလည်ထားပြီးဖြစ်၍ စဉ်းစားဖွယ်မလိုပါ၊ ချက်ချင်း ပြောနိုင်ပါသည်"ဟု လျှောက်၏။

ဘုရားရှင်က–"မင်းသား....ငါဘုရားကား သဗ္ဗညုတဉာဏ်တော်ကြီးကို ထိုးထွင်းသိမြင်ထားပြီး ဖြစ်ရာ တရားအချက်တို့ကို သိပြီးဖြစ်နေသော ငါဘုရားမှာ ကြိုတင်စဉ်းစားဖွယ် မလို၊ ချက်ချင်း ဉာဏ်တော်မှာ ထင်လာရတော့သည်"ဟု မိန့်ကြားတော်မူခဲ့သည် (မဇ္ဈိမ ပဏ္ဏာသ၊ အဘယရာဇကုမာရသုတ်၊ ၅၇)။

ဘုရားရှင်သည် မေးသမျှကို မတွေးမဆ ဖြေဆိုတော်မူနိုင်သည့်အပြင် တရားစမှတ်တို့ကို ထုတ်ဖော်ဟောပြရာ၌လည်း အများနားလည် ကျေနပ်အောင် အခြားသူတို့မလှန်နိုင်အောင် အကြောင်းအချက်တို့ကို အကွက်ကျကျ ထုတ်ပြ၍ အမှန်ကိုသာ ဟောပြတော်မူလေ့ရှိပါသည်။ မည်သည့် ပရိသတ်၊ မည်သည့် ပုဂ္ဂိုလ်မျိုးနှင့်ပင် ကြုံရ ကြုံရ အနည်းငယ်မျှ မဖုံ့ဘဲ ရဲရဲဝံ့ဝံ့ ပြတ်ပြတ်သားသား မြတ်စွာဘုရားကသာ အနိုင်ရ, အသာရခဲ့ခြင်းတို့သည် ဘုရားရှင်၏ "သဗ္ဗညုတ ဉာဏ်တော်ကြီး"ကြောင့်ပင် ဖြစ်ရသည်မှာ ထင်ရှားသိသာလှပါသည်။

**သမ္ဗုဒ္ဓ**

ဆရာသမားအထောက်အကူမပါ ကိုယ်တိုင်ထိုးထွင်း၍ သိသော ဉာဏ်သည် "သယမ္ဘူဉာဏ်" မည်၏။ "ပစ္စေကဗုဒ္ဓါ" အရှင်မြတ်တို့မှာ သစ္စာတရားတို့ကို ဆရာမရှိ ကိုယ်တော်တိုင် (သယမ္ဘူဉာဏ်ဖြင့်) ထိုးထွင်း၍ သိတော်မူကြသည့် အတွက် "သမ္ဗုဒ္ဓ"ဟူသော ဂုဏ်ကိုကား ရရှိတော်မူကြ၏။ သို့ရာတွင် သိရာ၌ အကုန်အစင်မသိ တစိတ်တဒေသသာ သိသောကြောင့် မိမိတို့သိပြီးသောသစ္စာ တရားကို ဝေါဟာရပညတ်တင်ကာ သူတပါးတို့အား နားလည်အောင် မဟော ပြနိုင်သည့်အတွက် "သမ္မာသမ္ဗုဒ္ဓ"ဟူသော ဂုဏ်ကိုကား ရတော်မမူကြပါ။

**သမ္မာဗုဒ္ဓ**

"အရိယာသာဝက"တို့မှာ ဆရာဘုရား၏ဟောဖော်ညွှန်ပြသည့် နည်းအတိုင်း သူတပါးတို့အား သစ္စာတရားတို့ကို ဟောပြနိုင်သည့်အတွက် "သမ္မာဗုဒ္ဓ" ဟူသော ဂုဏ်ကိုကား ရရှိတော်မူကြ၏။ သို့ရာတွင် သစ္စာတရားတို့ကို မိမိတို့ ဘာသာ ရှာဖွေတွေ့ရှိ ကိုယ်တိုင် (သယမ္ဘူဉာဏ်ဖြင့်) ထိုးထွင်း၍ မသိနိုင်သည့် အတွက် "သမ္ဗုဒ္ဓ"ဟူသော ဂုဏ်ကိုကား ရတော်မမူကြပါ။

**သမ္မာသမ္ဗုဒ္ဓ**

"ဘုရားရှင်" တို့မှာကား ပစ္စေကဗုဒ္ဓါ, အရိယာသာဝကတို့ကဲ့သို့ မဟုတ်၊ သစ္စာတရားနှင့် ဉေယျဓမ်တရားများကို ကိုယ်တော်တိုင် (သယမ္ဘူဉာဏ်ဖြင့်) ထိုးထွင်း၍ သိတော်မူသည့်အတွက် "သမ္ဗုဒ္ဓ"ဟူသော ဂုဏ်တော်ကို ရရှိတော်

မူ၏။ မိမိသိတော်မူသည့်အတိုင်း သူတပါးတို့အားလည်း အလိုဆန္ဒ (အာသယ ဓာတ်)နှင့် လျော်ညီစွာ ဝေါဟာရပညတ်တင်၍ ဟောပြတော်မူနိုင်သည့်အတွက် "သမ္မာဗုဒ္ဓ"ဟူသော ဂုဏ်ကိုလည်း ရရှိတော်မူ၏။ ထို့ကြောင့် ဘုရားရှင်သည် "သမ္မာဗုဒ္ဓ"နှင့် "သမ္ဗုဒ္ဓ"ဟူသော ဂုဏ်တော် နှစ်ရပ်ကို ပေါင်းစပ်လျှာ "သမ္မာသမ္ဗုဒ္ဓ=ဉာဏ်ပညာအကြီးမားဆုံး"ဟူသော ဂုဏ်ရည်တော် ဘွဲ့ထူးဖြင့် ချီးကျူးထုတ်ဖော် ထင်ရှားတော်မူခဲ့ပါသည်။

## ရှင်သီဝလိမယ်တော် ဆင်ခြင်အောက်မေ့သည့်ဂုဏ်တော်

သမ္မာသမ္ဗုဒ္ဓဂုဏ်တော်ကို လက်တွေ့အောက်မေ့ဖူးသူကား 'သုပ္ပဝါသာ'ခေါ် "ကောလိယ" မင်းသမီး ဖြစ်၏။ ၎င်းသည် အရှင်သီဝလိမထေရ်ကို ခုနစ်နှစ် တိုင်တိုင် ကိုယ်ဝန်ဆောင်၍ ဖွားမြင်အံ့သော အခါတွင် ခုနစ်ရက်ပတ်လုံး ပြင်းထန်လှစွာသော ဒုက္ခဝေဒနာတို့ဖြင့် ရင်ဆိုင်ကြုံတွေ့ခဲ့ရ၏။ မင်းသမီးသည် အကြံအစည် သုံးမျိုးဖြင့် ဘုရား, တရား, သံဃာ ရတနာမြတ် သုံးပါး၏ ဂုဏ်တော်များကို အာရုံပြုလျက် ဒုက္ခဝေဒနာကို သည်းခံဖြေဖျောက်လိုက်ရာ ဒုက္ခဝေဒနာများ အလျှင်းပြေပျောက်ပြီး မကြာမြင့်မီ (အရှင်သီဝလိမထေရ် လောင်းလျာ) သားမြတ်ရတနာကို ချမ်းသာလွယ်ကူစွာ ဖွားမြင်ခဲ့လေသည်။ အကြံအစည် သုံးမျိုးဖြင့် ဂုဏ်တော်ကို အောက်မေ့ပုံကား—

၁။ သမ္မာသမ္ဗုဒ္ဓေါ ဝတ သော ဘဂဝါ၊ ယော ဣမဿ ဧဝရူပဿ ဒုက္ခဿ ပဟာနာယ ဓမ္မံ ဒေသေတိ။ (ဘုရားဂုဏ်)

[ယော ဘဂဝါ၊ အကြင်မြတ်စွာဘုရားသည်။ ဣမဿ ဧဝရူပဿ ဒုက္ခဿ၊ ဤသို့သော ဆင်းရဲကို။ ပဟာနာယ၊ ပယ်ခြင်းငှာ။ ဓမ္မံ၊ တရားကို။ ဒေသေတိ၊ ဟောတော်မူ၏။ သော ဘဂဝါ၊ ထိုမြတ်စွာဘုရားသည်။ သမ္မာသမ္ဗုဒ္ဓေါ ဝတ၊ မှန်ရာကို ကိုယ်တော်တိုင် သိတော်မူလေစွတကား၊]

၂။ သုပ္ပဋိပန္နော ဝတ တဿ ဘဂဝတော သာဝကသံဃော၊ ယော ဣမဿ ဧဝရူပဿ ဒုက္ခဿ ပဟာနာယ ပဋိပန္နော။ (သံဃာ့ဂုဏ်)

[တဿ ဘဂဝတော၊ ထိုမြတ်စွာဘုရား၏။ ယော သာဝကသံဃော၊ အကြင်တပည့်သံဃာသည်။ ဣမဿ ဧဝရူပဿ ဒုက္ခဿ၊ ဤသို့သော ဆင်းရဲကို။ ပဟာနာယ၊ ပယ်ခြင်းငှာ။ ပဋိပန္နော၊ ကျင့်၏။ သော သာဝကသံဃော၊ ထိုတပည့်သံဃာသည်။ သုပ္ပဋိပန္နော ဝတ၊ ကောင်းသော အကျင့်ကို ကျင့်လေစွတကား။]

သုသုခံ ဝတ တံ နိဗ္ဗာနံ၊ ယတ္ထိဒံ ဝေဠုပံ ဒုက္ခံ န သံဝိဇ္ဇတိ။
(ဘုရားဂုဏ်)

[ယတ္ထ နိဗ္ဗာနေ၊ အကြင်နိဗ္ဗာန်၌။ ဣဒံ ဝေဠုပံ ဒုက္ခံ၊ ဤသို့သော ဆင်းရဲသည်။ န သံဝိဇ္ဇတိ၊ မရှိ။ တံ နိဗ္ဗာနံ၊ ထိုနိဗ္ဗာန်သည်။ သုသုခံ ဝတ၊ လွန်စွာ ချမ်းသာလေစွတကား။]

ဤကား အရှင်သီဝလိမယ်တော်၏ အကြံအစည် သုံးမျိုးဖြင့် ရတနာမြတ်သုံးပါး၏ ဂုဏ်တော်များကို အောက်မေ့ပုံတည်း။ ဤတွင် ဘုရားရှင်၏ "သမ္မာသမ္ဗုဒ္ဓေါ" ဟူသော ဂုဏ်တော်သည် တစ်ခုအပါအဝင် ဖြစ်၏။ ဒုက္ခဆင်းရဲမှ လွတ်မြောက်မှုအတွက် လက်တွေ့သာဓကဖြစ်၍ ယုံကြည်စွာ လိုက်နာကျင့်သုံးသူတို့အဖို့ အကျိုးခံစားမှု ရနိုင်ကြစေရန် ဖော်ပြထားပါသည်။

**ဉာဏ်ပညာကြီးသူဖြစ်အောင် "သမ္မာသမ္ဗုဒ္ဓ" ဂုဏ်ကိုဆောင်**

အသိအလိမ္မာ ဉာဏ်ပညာဟူသည် အလွန်အရေးကြီး၏။ ပညာသည် လူတို့အတွက် အမြတ်ဆုံး ရတနာဖြစ်၏။ ပညာသင်ရာတွင် ဆရာတစ်ဦးထံမှာ အတူတူသင်ယူပါလျက် အတတ်ချင်း ကွာခြားနေပုံတို့ကိုလည်းကောင်း၊ စီးပွားဥစ္စာရှာဖွေရာတွင် အရင်းအနှီးချင်း တူပါလျက် ဉာဏ်ပညာရှိသူမှာ ကြီးပွား၍ ဉာဏ်ပညာနည်းသူမှာ မကြီးပွားနိုင်ဘဲ ဉာဏ်ပညာ မရှိသူမှာ ဆုံးရှုံးရပုံကိုလည်းကောင်း၊ မိဘချင်း တူပါလျက် အချို့သားသမီးများက လိမ္မာ၍ အချို့က ယုတ်မာပုံကိုလည်းကောင်း၊ လောကီဆိုင်ရာနှင့် သံသရာရေးတို့၌ ဉာဏ်ပညာရှိသူက ကြီးကျယ်ထွန်းကား၍ ဉာဏ်ပညာမရှိသူက ပျက်ပြား နစ်မွန်းရပုံကိုလည်းကောင်း စဉ်းစားကာ ဤ "သမ္မာသမ္ဗုဒ္ဓ" ဂုဏ်တော်ကို အာရုံပြုကြည်ညိုပြီး ပညာပါရမီကို ကောင်းစွာ ဖြည့်ဆည်းလျက် "သမ္မာသမ္ဗုဒ္ဓ" ဂုဏ်ကို ဆောင်၍ ဉာဏ်ပညာကြီးသူဖြစ်အောင် ကြိုးစားသင့်ကြပါသည်။

**၃။ ဝိဇ္ဇာစရဏသမ္ပန္နဂုဏ်တော်**

ဝိဇ္ဇာစရဏသမ္ပန္န=(ဝိဇ္ဇာ+စရဏ+သမ္ပန္န။ ဝိဇ္ဇာ=အသိဉာဏ်+စရဏ=အကျင့်တရားနှင့်+သမ္ပန္န=ပြည့်စုံတော်မူသော မြတ်စွာဘုရား။)

ဘုရားရှင်သည် ကြည်လင်သန့်ရှင်းသော စိတ်တော်အစဉ်ဝယ် "ဝိဇ္ဇာ" ဟုခေါ်သော ဉာဏ်တော်ရှိ၏။ ထိုဉာဏ်ဖြင့် ဘဝများစွာ၌ ဖြစ်ပျက်ကြုံတွေ့ခဲ့ရသော အကြောင်းအရာများကိုလည်း သိနိုင်၏။ ရိုးရိုးမျက်စိဖြင့် မမြင်နိုင်သော

၁။ ဥဒါနပါဠိ။ ၉၃။ ဓမ္မပဒ၊ ဋ္ဌ၊ ၂။ ၄၂၆။

အရာတို့ကိုလည်း မြင်နိုင်၏၊ စိတ်တော်အစဉ်၌ ညစ်ညမ်းယုတ်မာ ကိလေသာတို့ကိုလည်း ကုန်ခမ်းစေနိုင်ပါသည်။ ဘုရားရှင်သည် ထိုဉာဏ်တော်များကို အလွယ်တကူနှင့် ရတော်မူသည် မဟုတ်ပါ၊ ထိုဉာဏ်တော်များကို ရနိုင်ဖို့ရာ "စရဏ" ခေါ်သော အကျင့်တရားကိုလည်း ကြိုးစား၍ ကျင့်တော်မူခဲ့ရပါသည်။ ထိုကိုယ်ကျင့်စရဏများကား– သီလကို စောင့်ထိန်းခြင်း, မျက်စိ နား စသော ဣန္ဒြေများကို စောင့်စည်းခြင်း, စားသောက်မှု၌ သင့်လျော်ရုံသာ စားသောက်ခြင်း, အအိပ်အနေ နည်းခြင်း, သဒ္ဓါတရား ထက်သန်ခြင်း စသောအားဖြင့် တစ်ဆယ့်ငါးပါး ရှိပါသည်။ ထိုဝိဇ္ဇာဉာဏ်, အကျင့် စရဏနှင့် ပြည့်စုံတော်မူသောကြောင့် ဘုရားရှင်သည် "ဝိဇ္ဇာစရဏသမ္ပန္န" ဟူသော ဂုဏ်တော်အားဖြင့် ထင်ရှားတော်မူပါသည်။

**ဝိဇ္ဇာသုံးပါး၊ ဝိဇ္ဇာရှစ်ပါး**

"ဝိဇ္ဇာ"ဟု ခေါ်သော ဉာဏ်သည် အမျိုးအစားအားဖြင့် သုံးပါး, တနည်းအားဖြင့် ရှစ်ပါး ရှိ၏—

၁။ ပုဗ္ဗေနိဝါသဉာဏ် = ရှေးရှေးဘဝ၌ တွေ့ကြုံခဲ့သမျှကို ပြန်၍ အောက်မေ့နိုင်သော ဉာဏ်၊

၂။ ဒိဗ္ဗစက္ခုဉာဏ်=ဝေးကွာသော အဆင်း, ဖုံးကွယ်သော အဆင်း, သေးငယ်သော အဆင်းတို့ကို နတ်မျက်စိအသွင်ဖြင့် မျက်မှောက်ထင်ထင် သိမြင်နိုင်သော ဉာဏ်၊

၃။ အာသဝက္ခယဉာဏ် = ကိလေသာ အာသဝေါတရားဆိုးတို့ကို အကြွင်းမဲ့ ကုန်စေနိုင်သော အရဟတ္တမဂ်, အရဟတ္တဖိုလ်ဉာဏ်၊

၄။ ဝိပဿနာဉာဏ်=ရုပ်နာမ်တရားအားလုံးကို "အနိစ္စ, ဒုက္ခ, အနတ္တ" ဟု သိမြင်နိုင်သော ဉာဏ်၊

၅။ စေတောပရိယဉာဏ်=သူတပါး၏ စိတ်ကို သိနိုင်သော ဉာဏ်၊

၆။ မနောမယိဒ္ဓိဉာဏ်=မိမိခန္ဓာကိုယ်အတွင်း၌ အလားတူ ခန္ဓာကိုယ်တစ်မျိုးကို စိတ်ဖြင့် ဖန်ဆင်းနိုင်သော ဉာဏ်၊

၇။ ဒိဗ္ဗသောတဉာဏ်=ဝေးကွာသော အသံ, ဖုံးကွယ်သော အသံ, သေးငယ်သော အသံတို့ကို နတ်နားအသွင်ဖြင့် ပကတိနားဖြင့် ကြားသကဲ့သို့ပင် ကြားသိနိုင်သော ဉာဏ်၊

၈။ ဣဒ္ဓိဝိဓဉာဏ်=မြေလျှိုး မိုးပျံ စသည်ဖြင့် တန်ခိုး အမျိုးမျိုးကို ဖန်ဆင်းနိုင်သော ဉာဏ်။

[အထက်တွင် ဖော်ပြထားသော ဝိဇ္ဇာရှစ်ပါးတွင် "ပု၊ ဒိ၊ အာ" ခေါ် အစဆုံးသုံးပါးကို "ဝိဇ္ဇာသုံးပါး" ဟူ၍ ခေါ်၏။ ဝိဇ္ဇာသုံးပါးကို တေဝိဇ္ဇသုတ်[၁]၌ ဟောတော်မူ၏။ ဝိဇ္ဇာရှစ်ပါးကို အမ္ဗဋ္ဌသုတ်[၂]၌ ဟောတော်မူ၏။ ဤသို့ နှစ်နည်းဟောခြင်းကား တရားနာပုဂ္ဂိုလ်တို့၏ အလိုကျ ဟောတော်မူခြင်းဖြစ်၏။]

စရဏတရား ၁၅-ပါး

"စရဏ" ဟု ခေါ်သော အကျင့်တရားသည် အမျိုးအစားအားဖြင့် တစ်ဆယ့် ငါးပါး ရှိ၏—

၁။ သီလသံဝရ=ဆိုင်ရာ ကိုယ်ကျင့်သီလများကို လုံခြုံစွာ စောင့်ထိန်းမှု၊

၂။ ဣန္ဒြိယသံဝရ=မျက်စိ, နား, နှာ, လျှာ, ကိုယ်, စိတ်ဟူသော ဣန္ဒြေခြောက်ပါးတို့၌ လောဘ, ဒေါသ-စသော အကုသိုလ်တရားတို့ မဖြစ်ပွားအောင် သတိဖြင့် လုံခြုံအောင် စောင့်စည်းမှု၊

၃။ ဘောဇနေမတ္တညုတာ=ဆွမ်း စသော ပစ္စည်းလေးပါးကို ခံယူရာ, သုံးဆောင်ရာတို့၌ အတိုင်းအရှည်ကို သိမှု၊ (သဒ္ဓါ-က အားများ၍ လှူစရာက ရှားပါးလျှင် လှူစရာကို ငဲ့၍ အနည်းငယ်သာ ခံယူခြင်း၊ လှူစရာက များ၍ သဒ္ဓါ-က နည်းပါးလျှင် သဒ္ဓါကို ငဲ့၍ အနည်းငယ်သာ ခံယူခြင်း၊ သဒ္ဓါအားကလည်းများ လှူစရာ ကလည်း များလျှင် မိမိပမာဏကို ချိန်ဆ၍ မျှတရုံသာ ခံယူခြင်း တို့မှာ ခံယူရာ၌ အတိုင်းအရှည်သိမှု ဖြစ်၏။ စားရာ၌ လေးလုတ်, ငါးလုတ် လျှော့၍ စားခြင်း, ပစ္စဝေက္ခဏာတင်၍ ဆင်ခြင် စားခြင်း တို့မှာ သုံးဆောင်ရာ၌ အတိုင်းအရှည်သိမှု ဖြစ်၏။)

၄။ ဇာဂရိယာနုယောဂ=နိုးနိုးကြားကြားအိပ်မှု၊ အအိပ်အနေနည်းမှု၊ (မအိပ်ဘဲ နေရုံမျှကို ဆိုလိုသည်မဟုတ်၊ တစ်နေ့ ၂၄-နာရီတွင် ခန္ဓာကိုယ် အပန်းအနွမ်း ပြေရုံ ညဉ့် ၁၀-နာရီမှ ၂-နာရီတိုင် အိပ်၍ ကျန် နာရီ ၂၀-ပတ်လုံး ရဟန်းတရား ပွားများအားထုတ် နေခြင်းကို ဆိုလိုသည်။)

၅။ သဒ္ဓါ="ကုသိုလ်ကံ, အကုသိုလ်ကံရှိသည်၊ ထိုကံ၏ ကောင်းကျိုး, မကောင်းကျိုးရှိသည်၊ ရတနာသုံးပါးရှိသည်၊ နောင်ဘဝရှိသည်" ဟု ယုံကြည်မှု၊

---

၁။ မ.၁။ ၂၆၈။ ၂။ ဒီ.၁။ ၉၄။

၆။ သတိ=ကုသိုလ်ကောင်းမှုတို့၌ အမှတ်ရမှု၊
၇။ ဟိရီ=မကောင်းမှုဒုစရိုက်တို့မှ ရှက်မှု၊
၈။ ဩတ္တပ္ပ=မကောင်းမှုဒုစရိုက်တို့မှ ကြောက်လန့်မှု၊
၉။ ဝီရိယ=ကုသိုလ်ကောင်းမှုကိစ္စ၌ အားထုတ်မှု၊
၁၀။ သုတ =အကြားအမြင် များမှု၊
၁၁။ ပညာ =အရာရာ၌ တတ်သိလိမ္မာမှု၊
၁၂။ ရူပါဝစရပဌမဈာန်နှင့် ပြည့်စုံမှု၊
၁၃။ ရူပါဝစရဒုတိယဈာန်နှင့် ပြည့်စုံမှု၊
၁၄။ ရူပါဝစရတတိယဈာန်နှင့် ပြည့်စုံမှု၊
၁၅။ ရူပါဝစရစတုတ္ထဈာန်နှင့် ပြည့်စုံမှု။

[အထက်တွင် ဖော်ပြထားသော "စရဏတရား" ၁၅-ပါးတွင် "၅။ သဒ္ဓါမှ ၁၁။ ပညာ" အထိ ခုနစ်ပါးကား "သူတော်ကောင်းတရား ခုနစ်ပါး"တည်း။ ထိုတွင် "သတိ"နှင့် "ဝီရိယ" အစား "သီလ"နှင့် "စာဂ"ကို ထည့်သွင်း၍ ရေတွက်လျှင် "သူတော်ကောင်းဥစ္စာခုနစ်ပါး" ဖြစ်၏။]

## ဝိဇ္ဇာ,စရဏ နှစ်ပါးနှင့် ပြည့်စုံတော်မူခြင်း

အသိဉာဏ် "ဝိဇ္ဇာ" တရားသည် မျက်စိနှင့် တူ၏။ အကျင့် "စရဏ" တရားသည် ခြေနှင့် တူ၏။ မျက်စိသာ ရှိ၍ ခြေမရှိလျှင်သော်လည်းကောင်း၊ ခြေသာ ရှိ၍ မျက်စိမရှိလျှင်သော်လည်းကောင်း အလိုရှိရာ အရပ်သို့ မရောက်နိုင်သကဲ့သို့ အသိဉာဏ် "ဝိဇ္ဇာ"တရားတည်းဟူသော မျက်စိသာ ရှိ၍ အကျင့် "စရဏ" တရားတည်းဟူသော ခြေမရှိလျှင် အလိုရှိရာ နိဗ္ဗာန်ကို မရနိုင်၊ အကျင့် "စရဏ" တရားတည်းဟူသော ခြေသာ ရှိ၍ အသိဉာဏ် "ဝိဇ္ဇာ" တရားတည်းဟူသော မျက်စိမရှိလျှင်လည်း လမ်းမှန်သို့ မရောက်ဘဲ အလွဲကိုသာ ကျင့်နေသဖြင့် ခရီးမတွင်ဘဲ အလိုရှိရာ နိဗ္ဗာန်သို့ မရောက်နိုင်ချေ။ ထို့ကြောင့် ဝိဇ္ဇာနှင့် စရဏ နှစ်ပါးစုံအောင် ကျင့်ဆောင် အားထုတ်သင့်ပါသည်။

ဘုရားရှင်သည် အလောင်းတော်ဘဝကပင်လျှင် (အာသဝက္ခယဉာဏ်မှ လွဲ၍) ဝိဇ္ဇာနှင့် စရဏတရားတို့ကို ဘဝများစွာတွင် အကြိမ်ကြိမ် အထပ်ထပ် ကြိုးပမ်း ရရှိတော်မူခဲ့ပါသည်။ ဘုရားအဖြစ်သို့ ရောက်သော အခါ၌ကား အထွတ်အထိပ် ဖြစ်သော အာသဝက္ခယဉာဏ်၊ သဗ္ဗညုတဉာဏ် "ဝိဇ္ဇာ"နှင့် မဟာကရုဏာအဖြစ်သို့ ရောက်သော ကရုဏာဘာဝနာစျာန် "စရဏ" တရား တို့နှင့် ကောင်းစွာကုံလုံ ပြည့်စုံတော်မူခဲ့ပါသည်။

## အကြီးမားဆုံး ဝိဇ္ဇာနှင့် အမြင့်မြတ်ဆုံး စရဏရှင် ဖြစ်တော်မူခြင်း

"ဝိဇ္ဇာ"ခေါ် အသိဉာဏ်နှင့် မဂ်ဖိုလ်နိဗ္ဗာန် ရောက်ကြောင်း ဖြစ်သော "စရဏ"ခေါ် အကျင့်တရားတို့ကား ဘုရားရှင်၌သာ ရှိသည် မဟုတ်၊ အရိယာ သာဝကတို့၌လည်း ရှိကြ၏။ သို့ရာတွင် ဘုရားရှင်၌ ရှိသော "ဝိဇ္ဇာစရဏ"နှင့် အရိယာသာဝကတို့၌ ရှိသော "ဝိဇ္ဇာစရဏ"တို့ကား မတူကြပါ။

ဘုရားရှင်၌ ရှိသော "ဝိဇ္ဇာဉာဏ်"က အာသဝက္ခယခေါ် အရဟတ္တမဂ်၊ အရဟတ္တဖိုလ်ဉာဏ်ရခြင်းနှင့်အတူ "သဗ္ဗညုတဉာဏ်ကြီး"ကိုပါ ရသောကြောင့် သဗ္ဗညုတဉာဏ်နှင့် ပြည့်စုံသော "အကြီးမားဆုံး ဝိဇ္ဇာဉာဏ်" ဖြစ်၏။ စရဏ အကျင့်တရား ၁၅-ပါး၌ ပါသော ကရုဏာဘာဝနာစျာန်ကလည်း ဘုရားအဖြစ်သို့ ရောက်သောအခါ မဟာကရုဏာ (အလွန်ကြီးမြတ်သော ကရုဏာ) အဖြစ်သို့ ရောက်ရသောကြောင့် ဘုရားရှင်၌ ရှိသော "စရဏအကျင့်"က မဟာကရုဏာနှင့် ပြည့်စုံသော "အမြင့်မြတ်ဆုံး စရဏ" ဖြစ်၏။ ထို့ကြောင့် ဘုရားရှင်သည် အကြီးမားဆုံး ဝိဇ္ဇာနှင့် အမြင့်မြတ်ဆုံး စရဏရှင် ဖြစ်တော်မူရကား "ဝိဇ္ဇာ-စရဏသမ္ပန္န"ဟူသော ဂုဏ်တော်ကိုလည်း အခြားပုဂ္ဂိုလ်တို့ မရနိုင်ဘဲ ဘုရားရှင် များသာ မူပိုင်ရတော်မူခဲ့ခြင်း ဖြစ်ပါသည်။

## ဆရာရော တပည့်ပါ ဝိဇ္ဇာ၊ စရဏနှင့် ပြည့်စုံတော်မူခြင်း

အကြီးမားဆုံး ဝိဇ္ဇာနှင့် အမြင့်မြတ်ဆုံး စရဏရှင် ဖြစ်တော်မူသော မြတ်စွာဘုရားသည် "သဗ္ဗညုတဉာဏ်တော်ကြီး"ဖြင့် သတ္တဝါ အားလုံးတို့၏ အကျိုးရှိမှု၊ မရှိမှုကို သိတော်မူပြီးလျှင် "မဟာကရုဏာ ဉာဏ်တော်ကြီး"ဖြင့် အကျိုးမရှိမည့်အမှုကို ရှောင်ကြဉ်စေ၍ အကျိုးရှိမည့် အမှု၌ ယှဉ်စေတော် မူ၏။ ထို့ကြောင့် ဘုရားရှင်၏ တပည့်သာဝက မှန်သမျှတို့သည်လည်း ဝိဇ္ဇာနှင့် စရဏ ချွတ်ယွင်း၍ အသိမမှန် အကျင့်မှားသော တိတ္ထိများ၊ တိတ္ထိတို့၏ တပည့် သာဝကများနှင့် မတူဘဲ ဝိဇ္ဇာနှင့် စရဏ (အသိရော အကျင့်ပါ) ဖြောင့်မှန်၍ အသိမှန် အကျင့်မှန်ကြသောကြောင့် "ဆရာကောင်းတပည့် ပန်းကောင်းပန်

နောက်ဆံတဝင့်ဝင့်”ဆိုသည့်ပမာ ဆရာကောင်း၏ တပည့်ကောင်းများအဖြစ်သို့ ရောက်ကြရပါသည်။ ဆရာရော တပည့်ပါ ဝိဇ္ဇာနှင့် စရဏ ထပ်တူညီမျှ ပြည့်စုံမှု ရှိတော်မူကြသည်ဟု ဆိုလိုပါသည်။

**အသိရော အကျင့်ပါ နှစ်ဖြာပြည့်အောင် “ဝိဇ္ဇာစရဏသမ္ပန္န”ဂုဏ်ကိုဆောင်**

အရာရာ၌ အသိဉာဏ်ဖြင့် အမှန်ကို ကျင့်ကြံအားထုတ်မှသာ ထမြောက်နိုင်သည်။ အသိ မမှန်က အကျင့်အကြံ လွဲမည်၊ အကျင့်အကြံ လွဲမှားက ကျင့်သလောက် ကြံသလောက် အလွဲအမှားသို့သာ ရောက်ရမည် ကေန်ဖြစ်၏။ ယခုအခါ၌ကား– ကျင့်ကြံအားထုတ်မှု “စရဏ”များရှိသော်လည်း ကိုယ်ပိုင် အသိဉာဏ်ဖြင့် စဉ်းစားခွင့်ရှိပါလျက် မစဉ်းစားမဆင်ခြင်ဘဲ မျက်စိစုံမှိတ်ကာ ကျင့်မှားမိလျက်သား ရှိနေကြသည်ကို တွေ့ရ၏။ လောကရေး၌ အထင်သေး စရာမဟုတ်ဟု ငြင်းချက်ထုတ်နိုင်သော်လည်း သံသရာရေး၌ကား ဝန်လေးလှ၏။ တဖန် အသိအလိမ္မာဉာဏ်ပညာရှိပါလျက် သိသလို သိသလောက် ကျင့်ကြံ အားထုတ်မှု “စရဏ”မရှိပြန်သောကြောင့် လောကီလောကုတ္တရာ နှစ်ဖြာလုံး အတွက် အောက်ကျနောက်ကျ ဖြစ်နေသူတွေလည်း များလှ၏။ ထို့ကြောင့် ဘုရားရှင်၏ “ဝိဇ္ဇာစရဏသမ္ပန္န”ဂုဏ်တော်ကို အာရုံပြု ကြည်ညိုကြပြီး “ဝိဇ္ဇာစရဏသမ္ပန္န”ဂုဏ်ကို ဆောင်၍ အသိရော အကျင့်ပါ နှစ်ဖြာပြည့်အောင် ကြိုးစားသင့်ကြပါသည်။

**၄။ သုဂတဂုဏ်တော်**

(က) သုဂတ = (သု+ဂတ။ သု=ကောင်းသော စကားကို+ဂတ= ဆိုတော်မူသော မြတ်စွာဘုရား။)

ဘုရားရှင်သည် “စကားခြောက်ခွန်း၊ လူဝယ်ထွန်း၊ လေးခွန်းကိုပယ် နှစ်ခွန်းတယ်”ဟူသော ပညာရှိများ၏ လက်ာစကားနှင့်အညီ မှန်သည်ဖြစ်စေ, မှားသည်ဖြစ်စေ, သူတပါး နှစ်သက်သည်ဖြစ်စေ, မနှစ်သက်သည်ဖြစ်စေ အကျိုးမရှိသော စကားမျိုးကို မပြောမဆိုဘဲ (ပယ်လှန်ပြီး)မှန်ကန်၍ အကျိုး ရှိသော စကားမျိုးသာ ပြောဆိုတော်မူပါသည်။

**စကားခြောက်ခွန်း**

၁။ မှန်လည်း မမှန် အကျိုးလည်း မရှိ သူတပါးတို့လည်း မနှစ်သက်သော စကားမျိုးကို ပြောတော်မမူ၊ (မြတ်သူကို သူယုတ်ဟု ခေါ်ဝေါ်ပြောဆိုခြင်းမျိုး။)

၂။ မှန်ပင် မှန်သော်လည်း အကျိုးမရှိ၍ သူတပါးတို့ မနှစ်သက်သော စကားမျိုးကိုလည်း ပြောတော်မမူ၊ (ယုတ်သူကို သူယုတ်ဟု ခေါ်ဝေါ် ပြောဆိုခြင်းမျိုး။)

၃။ မှန်လည်း မှန် အကျိုးလည်း ရှိ၍ သူတပါး (အပြောခံရသူ) တို့ ကမူ မနှစ်သက်သော စကားမျိုးကို အခါအခွင့်ကို ကြည့်ရှုဆင်ခြင်၍ ပြောသင့်က (=ပြော၍ အကျိုးရမည် ဖြစ်က) ပြောတော်မူ၏၊ (ဒေဝဒတ်အား သံဃာကို သင်းခွဲလျှင် အပါယ်ကျမည်ဟု ဒေဝဒတ် မကြိုက်သော စကားကို လွန်စွာ သနားသော (မဟာကရုဏာ) စိတ်ဖြင့် ပြောဆိုခြင်းမျိုး။)

၄။ မှန်လည်းမမှန် အကျိုးလည်းမရှိဘဲလျက် သူတပါးတို့နှစ်သက်သော စကားမျိုးကိုလည်း ပြောတော်မမူ၊ (ဒုစရိုက်ပြုသူကို နတ်ပြည် ရောက်မည်ဟု မဆိုခြင်းမျိုး၊ ထို့ပြင် ရွှေယုံနှင့် ရွှေကျား သက်ကယ်ရိတ်သွား စသည်ကဲ့သို့ ယုတ္တိမရှိ ပြောမိ ပြောရာ မပြော ခြင်းမျိုး။)

၅။ မှန်ပင် မှန်သော်လည်း အကျိုးမရှိဘဲ သူတပါးတို့နှစ်သက်အပ်သော စကားမျိုးကို ပြောတော်မမူ၊ (တစ်ဦးနှင့်တစ်ဦး အချစ်ဆိတ်သုဉ်း အမုန်းပွားမည့် ကုန်းတိုက်စကားမျိုးကို မဆိုခြင်းမျိုး။)

၆။ မှန်လည်း မှန် အကျိုးလည်း ရှိ၍ သူတပါးတို့လည်း နှစ်သက်အပ် သော စကားမျိုးကို အခါအခွင့်ကို ကြည့်ရှုဆင်ခြင်၍ ပြောသင့်က (=ပြော၍ အကျိုးရမည် ဖြစ်က) ပြောတော်မူ၏၊ (ကုသိုလ်ပြုသူ သုဂတိနတ်ပြည်ရောက်လတ္တံ့ စသောအားဖြင့် ဒါန သီလ စသည် တို့နှင့် စပ်သော စကားမျိုးကို မိန့်ကြားတော်မူခြင်းမျိုး။)

**စကားခြောက်ခွန်း မှတ်ဖွယ်လင်္ကာ**

(က) မမှန်စကား၊ ကျိုးမများ၊ နှစ်ပါးနာလို့ မနာလို။ (၁၊ ၄)

(ခ) မှန်ကန်သော်ငြား၊ ကျိုးမများ၊ နှစ်ပါးနာလို့ မနာလို။ (၂၊ ၅)

(ဂ) ဟုတ်မှန်စကား၊ အကျိုးများ၊ နှစ်ပါးနာလို့ မနာလို။ (၃၊ ၆)

(ဃ) ရွေးလေးခွန်းပယ်၊ နောက်နှစ်ဆွယ်၊ မှတ်ဖွယ်များလှဗိုလ်။

[လင်္ကာ၏အဖြေကို အညွှန်းနံပါတ်များအတိုင်း ကြည့်၍ သိနိုင်ကြ ပါပြီ။]

**သူတပါးမနှစ်သက်သောစကားကို ဘုရားရှင်ပြောသလော?**

ဘုရားရှင်သည် သူတပါးမနှစ်သက် မလိုလားသော စကားဖြစ်သော်လည်း မှန်ကန်၍ အကျိုးရှိလျှင် အခါအခွင့်ကို ဆင်ခြင်၍ ပြောကြားတော်မူပါသည်။ သင်းသို့ ပြောကြားတော်မူခြင်းနှင့် စပ်၍ အဘယမင်းသားက– "ဘုရားရှင်သည် သူတပါးမနှစ်သက်သော စကားကို ပြောသလော"ဟု မေးရာ အဘယမင်းသားအား ၎င်း၏ ရင်ခွင်ထဲမှ သားတော်ကလေးကို သက်သေတင်ကာ ဘုရားရှင် ကိုယ်တိုင် ရှင်းလင်းမိန့်ကြားခဲ့ပုံမှာ လွန်စွာမှတ်သား ကြည်ညိုဖွယ် ကောင်းလှပါသည်——

ဘုရားရှင်က– "မင်းသား....သင့် ရင်ခွင်ထဲမှာ ရှိသော ဤ သားကလေးသည် သင်၏ မေ့လျော့မှုကြောင့်ဖြစ်စေ, အထိန်းတော်များ မေ့လျော့မှုကြောင့်ဖြစ်စေ သစ်သားစ၊ သို့မဟုတ် အိုးခြမ်းကွဲတစ်ခုခုကို မျိုမိ၍ လည်ချောင်းထဲ တစ်ဆို့နေလျှင် သင် ဘယ်လိုလုပ်မည်နည်း" ဟု မေးရာ–

အဘယမင်းသားက–"တပည့်တော် အမြန်ဆုံး ထုတ်ယူမည်သာ ဖြစ်ပါသည်၊ သာမန်နှင့် မရလျှင် လက်ချောင်းကို ကွေး၍ သွေးသံရဲရဲနှင့်ပင် ဆွဲထုတ်တန် ဆွဲထုတ်ရပါမည်၊ အဘယ်ကြောင့်ဆိုသော် တပည့်တော်သားအပေါ်မှာ ချစ်သောကြောင့် ဖြစ်ပါသည်" ဟု ပြန်ကြားလျှောက်ထား၏။

ဘုရားရှင်က–"မင်းသား....ထို့အတူ ဘုရားရှင်မည်သည် မှန်လည်းမှန် အကျိုးလည်း ရှိလျှင် သူတပါးတို့ မနှစ်သက်သော စကားပင် ဖြစ်စေကာမူ ပြောသင့်သော အခွင့်အရေး ကြုံလာသောအခါ သတ္တဝါများကို ချစ်မြတ်နိုးသောကြောင့် မိန့်ကြားတော်မူရသည်"ဟု မိန့်ကြားတော်မူပါသည် (မ၊၂။၅၇)။

အချုပ်သော် ...ပြ့ကား ဘုရားရှင်၏ စကားတော်ဖြစ်လျှင် နာလိုသည် ဖြစ်စေ, မနာလိုသည်ဖြစ်စေ မှန်ကန်၍ အကျိုးရှိစေသော စကားချည်းသာ ဖြစ်ကြောင်း ယုံကြည်လေးစား၍ ကြည်ညိုသဒ္ဓါ ပွားသင့်ကြပါသည်။

(ခ) သုဂတ=(သု+ဂတ။ သု=ကောင်းသော နိဗ္ဗာန်သို့+ဂတ= ကြွတော်မူသော မြတ်စွာဘုရား။)

နိဗ္ဗာန်သို့ ကြွတော်မူရာတွင် ဘုရားရှင်မှတပါး အခြား သာဝကများလည်း နိဗ္ဗာန်သို့ ရောက်ကြ၏။ သို့ရာတွင် အရောက်ချင်းကား မတူပါ၊ ဘုရားရှင်၏ ရောက်ခြင်းက ပို၍ ပေါ်လွင်ထင်ရှား၏။

ထင်ရှားပုံမှာ–ဘုရားရှင်သည် နိဗ္ဗာန်သို့ သွားရာလမ်းကို ရှေးဦးစွာ တွေ့ရှိ၍ ထိုလမ်းဖြင့် နိဗ္ဗာန်သို့ အဦးဆုံး ရောက်တော်မူ၏။ ထိုနောက်မှ ဘုရားရှင်၏ ရှေ့ဆောင်လမ်းပြမှုဖြင့် သာဝကများစွာ နိဗ္ဗာန်သို့ ရောက်ကြရသည်။ နိဗ္ဗာန်သို့ အဦးဆုံးရောက်သူအဖြစ်ဖြင့်လည်းကောင်း၊ နိဗ္ဗာန်သို့ ရောက်အောင် ရှေ့ဆောင်လမ်းပြ ပို့ဆောင်သူအဖြစ်ဖြင့်လည်းကောင်း ဘုရားရှင်၏ နိဗ္ဗာန်ရောက်ခြင်းက ပေါ်လွင်ထင်ရှားလျက် ရှိပါသည်။

ထို့ပြင် နိဗ္ဗာန် ရောက်ချင်း တူသော်လည်း နိဗ္ဗာန် ရောက်ပြီးနောက် ရအပ်သော (သဗ္ဗညုတဉာဏ်, မဟာကရုဏာ စသော) ဂုဏ်အရာများကလည်း လွန်စွာ ကွာခြားလှပါသည်။ ပစ္စည်းဥစ္စာအရှိချင်း တူသော်လည်း တော်ရုံ သာမည ပစ္စည်းဥစ္စာရှိရုံမျှဖြင့် "သူဌေး"ဘွဲ့ မရနိုင်သကဲ့သို့ တစိတ်တဒေသ ဂုဏ်တူရုံမျှဖြင့် အတုမဲ့ ဂုဏ်ရှင် ဘုရားသခင်၏ "သုဂတ"ဟူသော ဂုဏ်အင်ကိုလည်း သာဝကများ ပန်ဆင်နိုင်ဖွယ် မရှိပါ၊ "သုဂတ" ဟူသော ဂုဏ်တော်သည် ဘုရားရှင်နှင့်သာ ထိုက်တန်၍ ဘုရားရှင်အားသာ "သုဂတ" (ကောင်းသော နိဗ္ဗာန်သို့ ကြွတော်မူသော) ဂုဏ်တော်ရှင် ဘုရားသခင်ဟု အများစာဆာက ချီးကျူးထုတ်ဖော် ပူဇော်ခဲ့ကြခြင်းဖြစ်ပါသည်။

(၈) သုဂတ=(သု+အာဂတ။ သု=ကောင်းစွာ+အာဂတ=လာတော်မူသော မြတ်စွာဘုရား။)

ဘုရားရှင်သည် ဘုရားဆုပန်တော်မူရာ "ဒီပင်္ကရာ"မြတ်စွာဘုရား၏ ခြေတော်ရင်းမှ စ၍ ဘုရားမြတ်အဖြစ်သို့ ရောက်တော်မူသည့် တိုင်အောင် သတ္တဝါများ၏ ကောင်းကျိုးချမ်းသာအလို့ငှာ "ဒါန, သီလ" စသော ပါရမီများကို အစုံအညီဖြည့်ကျင့်တော်မူခဲ့ပါသည်။ ယင်းသို့ ပါရမီများကို ဖြည့်ကျင့်တော် မူစဉ်အခါ၌လည်း မိုက်မှားသော "ဒိဋ္ဌိ" အယူဆိုးကြီးများကို ကိုယ်တော်၏ စိတ်သန္တာန်၌ [illegible] မကပ်ငြိရအောင် လေးအသင်္ချေနှင့် ကမ္ဘာတစ်သိန်း ကာလပတ်လုံး အဆက်ဆက်တိုင်း လွန်ကဲသော သတိ, ပညာတို့ကို အမြဲလက်ကိုင် ထားတော်မူ၍ [illegible] တော်မူလျက် "မဇ္ဈိမပဋိပဒါ"ခေါ် ကောင်းမြတ်ဖြောင့်တန်း မဂ်လမ်းဖြင့် နိဗ္ဗာန်သို့ အရောက်လှမ်းလျက် သဗ္ဗညုတဉာဏ်တော်သခင် ဘုရားရှင်အဖြစ်သို့ ရောက်တော်မူခဲ့ခြင်း ဖြစ်ပါသည်။

[illegible] ရှည်လျားလွန်းလှ၏။ [illegible] ထူထပ်[illegible] လမ်းများတို့လည်း ပေါများလှ၏။ လွန်စွာ ကူးမြောက်နိုင်ခဲသော မဟာကန္တာရကြီးပင်တည်း။ ယင်းသံသရာကန္တာရကြီးကို ကူးမြောက်ကြရာတွင်

သာမန်ပုဂ္ဂိုလ်များအဖို့ လိုရာစခန်း တစ်ဖက်ကမ်းသို့ ဖြောင့်ဖြောင့်တန်းတန်း ရောက်ခဲလှသည်။ "သဿတဒိဋ္ဌိ"စွန်း၊ "ဥစ္ဆေဒဒိဋ္ဌိ"စွန်းတို့သို့ ကပ်ရောက်ကာ လမ်းကောက် လမ်းမှားသို့သာ အရောက်များတတ်ကြပါသည်။ ခေလးသခေါ်နှင့် ကမ္ဘာတစ်သိန်းကို မဆိုထားဘဲ တစ်ကမ္ဘာအတွင်းမှာပင် လမ်းမှား လမ်းလွှဲ၍ ချောက်ထဲကျကာ စုံးစုံးမြုပ်ခဲ့ရသော ဘဝပေါင်းမှာ မနည်းလှပေ။

ဘုရားရှင်ကား ယင်းသို့ မဟုတ် နိယတဗျာဒိတ်ခံ၍ ဆင်မြန်းရသည့် အချိန်မှ စ၍ သဗ္ဗညုတပန်းတိုင်ကြီးကို မျက်ခြည်ပြတ်မခံဘဲ အမြဲတမ်း ဦးတည် မျှော်မှန်း၍ "ကောင်းမြတ် ဖြောင့်တန်း မဂ္ဂင်လမ်း"ဖြင့် လျှောက်လှမ်း လာခဲ့ရာ လမ်းမှား လမ်းလွှဲမရောက် အစဉ်လမ်းဖြောင့်ခဲ့၏။ နောက်ဆုံး၌ ရည်မှန်းချက် အထမြောက်ကာ သဗ္ဗညုတဉာဏ်ရှင် ဘုရားသခင်အဖြစ်သို့ ရောက်တော်မူခဲ့ပါသည်။ ထို့ကြောင့် ဘုရားရှင်သည် လိုရာစခန်း နိဗ္ဗာန်နန်းသို့ မှန်းသလောက် ပေါက်၍ ဖြောင့်ဖြောင့်တန်းတန်း ဝင်ရောက်နိုင်ရကား "ကောင်းစွာ ကြွချီဆိုက်ရောက်တော်မူခြင်း"တည်းဟူသော "သုဂတ" ဂုဏ်တော်ကြီးကို အခြားသူတို့မရဘဲ ဘုရားရှင်သာ ရတော်မူခဲ့ခြင်း ဖြစ်ပါသည်။

[သွားရောက်ခြင်းသည် နှစ်မျိုးရှိ၏။ နှစ်မျိုးကား- (၁)ဉာဏဂတိ (ဉာဏ်ဖြင့် သွားခြင်း)နှင့် (၂)ကာယဂတိ(ကိုယ်ဖြင့် သွားခြင်း)တည်း။ ထိုတွင် နိဗ္ဗာန်သို့ သွားရောက်ခြင်းအရ အရိယာမဂ်ဉာဏ်ဖြင့် နိဗ္ဗာန်ကို မျက်မှောက်ထင်ထင် အာရုံပြုခြင်း "ဉာဏဂတိ"ကို ယူအပ်၏။ ဝိသုဒ္ဓိမဂ်မဟာဋီကာ၌ကား ကိုယ်တော်၏ သွားပုံ(ကာယဂတိ)ကိုလည်း ပုံဖော်ဖွင့်ပြထားပါသေးသည်။]

## ဗုဒ္ဓ၏ လမ်းစဉ်တော်

ဗုဒ္ဓ၏လမ်းစဉ်တော်ဟူသည် "မဇ္ဈိမပဋိပဒါ"ခေါ် "အလယ်အလတ်ကျင့်စဉ်" ဖြစ်၏။ အစွန်းနှစ်ဘက်မှ လွတ်မြောက်သော မဂ္ဂင်ရှစ်ပါး ကျင့်စဉ်တည်း။ အစွန်းနှစ်ဘက်မှ လွတ်ခြင်းကား—

(က) (၁) ချမ်းသာသုခကို မရမနေ တမ်းတမ်းစွဲ ရယူရေး အရပ်သားတို့ ကျင့်စဉ် ဖြစ်သော "ကာမသုခလ္လိကာနုယောဂ" ကျင့်စဉ် အစွန်းနှင့်

(၂) ခန္ဓာကိုယ်ကို ညှဉ်းပန်းသည့် စွန့်လွှတ်ရေးတရား အားထုတ် သူတို့၏ ကျင့်စဉ်ဖြစ်သော "အတ္တကိလမထာနုယောဂ" ကျင့်စဉ် အစွန်းတည်းဟူသော အကျင့်ပဋိပတ် အမှားအစွန်း နှစ်ပါးမှ လွတ်ခြင်း၊

(ခ) (၁) ရုပ်နာမ်တို့၏ မိနစ်မလပ် စက္ကန့်မလပ် ဖြစ်ရေအလျဉ်ပမာ ပြောင်းလဲပျက်စီးနေသော အပျက်သဘောကို မမြင်သည့်အတွက် "ဤဘဝ ဤသတ္တဝါ ဤခန္ဓာသည် ဘဝအနေဖြင့် မြဲအရေ လဲသကဲ့သို့ တစ်ဘဝပြီး တစ်ဘဝ ပြောင်းလဲနေသော်လည်း အနှစ်သာရအနေဖြင့် မပြောင်းမလဲ အမြဲတည်မြဲနေသည်" ဟု ယူမှားသော "သဿတဒိဋ္ဌိ" ဝါဒစွန်းနှင့်

(၂) ရုပ်နာမ်တို့၏ ကြောင်းကျိုး ဆက်စပ် မပြတ် ဖြစ်နေခြင်းကို မမြင်သည့်အတွက် "ဤဘဝ ဤသတ္တဝါ ဤခန္ဓာအစဉ်သည် ဤဘဝဆုံးလျှင် ပြတ်၏။ နောက်ဘဝ နောက်သတ္တဝါ နောက်ခန္ဓာ အစဉ်သည် အသစ်ဖြစ်ပြန်၏။ 'ဘဝ' ဟူသည် ပုဓက်နှင့် လုပ်တိုင်းကုန်းအကြားသာ ဖြစ်၏" ဟု ယူမှားသော "ဥစ္ဆေဒဒိဋ္ဌိ" ဝါဒစွန်းတည်းဟူသော အယူဝါဒအမှား အစွန်းနှစ်ပါးမှ လွတ်ခြင်း၊

(ဂ) (၁) လောဘ (အချစ်) သဘာဝအစွန်းနှင့်

(၂) ဒေါသ (အမုန်း) သဘာဝအစွန်းဟူသော ဓမ္မသဘာဝ အဆိုးတရား အစွန်းနှစ်ပါးမှ လွတ်ခြင်းတို့ဖြစ်၏။

ဘုရားရှင်သည် လွဲမှားသော အကျင့်တရား အစွန်းများ, မိုက်မှားသော အယူဝါဒအစွန်းများ, ဆိုးသွမ်းသော ဓမ္မသဘာဝအစွန်းများကို မိမိသန္တာန်၌ တစ်ဆံချည်ကလေးမျှ မကပ်ငြိရအောင် ကြီးစွာသော သတိ, ဝီရိယ, ပညာတရားတို့ဖြင့် ပယ်ရှားတော်မူလျက် "မဇ္ဈိမပဋိပဒါ" ခေါ် ကောင်းမြတ်ဖြောင့်တန်း အလယ်အလတ် မဂ္ဂင်လမ်းဖြင့် နိဗ္ဗာန်နန်းသို့ အရောက်လှမ်းတော်မူခဲ့ပါသည်။

[မဂ္ဂင်ရှစ်ပါးကို ဗုဒ္ဓဂုဏ်တော်၌ တွေ့ရလတ္တံ့။]

**သုဂတဂုဏ်တော်ကို အာရုံပြုကာ မနှောင့်ယှက်ဘဲ အမြဲကူညီပါ**

"သီလ" တရားဖြင့် မည်သူ့ကိုမျှ နှောင့်ယှက်ခြင်း မပြုဘဲ "ဒါန" တရားဖြင့် မည်သူ့ကို မဆို အမြဲတမ်း အကူအညီပေးလေ့ရှိသည်မှာ ဘုရားရှင်တို့၏ အကျင့်ပါရမီတော်လမ်းစဉ်ဖြစ်၏။ ဘုရားရှင်သည် ဤအကျင့်ပါရမီတော်လမ်းစဉ်ဖြင့် သုမေဓာရသေ့ဘဝမှ စ၍ နိဗ္ဗာန်ရသည့်ဘဝအထိ ဘဝဆက်တိုင်း မိမိ၏ အကျင့်တရားကို အနည်းငယ်မျှ ဆုတ်ယုတ်ပျက်စီးခြင်း မရှိအောင်

ကောင်းစွာ ဖြည့်ကျင့်ဆည်းပူးတော်မူခဲ့သည် ဖြစ်၍ တကယ်ပင် ကောင်းစွာ ကျင့်, ကောင်းစွာ ကြံ, ကောင်းစွာ ပြော၍ ကောင်းစွာ လာသူ "သုဂတ" အမှန်ဖြစ်ပါသည်။

ယင်းသို့ ပြုမူပြောဆိုကြံစည်၍ လာခဲ့ရာတွင် ဘုရားရှင်သည် ကိုယ်ကျိုး ကိုယ့်စီးပွားကို လုံး၀ ရှေးရှုခြင်း မရှိဘဲ ကိုယ်ကျိုး ကိုယ့်စီးပွားကို စွန့်၍ သူတပါးတို့၏ အကျိုးစီးပွားကိုသာ ရှေးရှုတော်မူပါသည်။ နောက်ဆုံး အသက် ပေါင်းများစွာ စည်းစိမ်ဥစ္စာပေါင်းများစွာ မရေမတွက်နိုင်အောင် ပေးစွန့်၍ ဘုရားအဖြစ်သို့ ရောက်ကာ သဗ္ဗညုတဉာဏ်တော်ကြီးကို ရယူခဲ့ခြင်းမှာလည်း မိမိ၏ ကိုယ်ကျိုး ကိုယ့်စီးပွားမပါ သူတပါး (သတ္တဝါအားလုံး) အကျိုးစီးပွား အတွက် သက်သက်သာ ဖြစ်ပါသည်။ ဘုရားရှင်၏ အကျင့် ပါရမီတော် လမ်းစဉ်ကား အံ့ဖွယ်သရဲ ရှိလှ၏။

၅။ လောကဝိဒူဂုဏ်တော်

လောကဝိဒူ= (လောက+ဝိဒူ။ လောက=လောကအားလုံးကို+ ဝိဒူ= (အကုန်အစင်) သိမြင်တော်မူသော မြတ်စွာဘုရား။)

ကုန်း၌ နေသော သတ္တဝါ, ရေ၌ နေသော သတ္တဝါ, ကောင်းကင်၌ နေသော သတ္တဝါတို့ကို "သတ္တလောက" ဟု ခေါ်၏။ ဘုရားရှင်သည် ထိုသတ္တလောက၏ ဖြစ်ပုံပျက်ပုံ မျိုးဇာတိအစုံကိုလည်း သိတော်မူသည်။ သတ္တဝါတစ်ယောက်၏ ကိုယ်တွင်း၌ ယခုလက်ငင်း ဖြစ်နေသော စိတ်ကောင်းစိတ်ဆိုး အမျိုးမျိုး ကိုလည်း သိတော်မူသည်။

သတ္တဝါတို့၏ တည်ရာဌာန ကမ္ဘာလောကကြီးကို "ဩကာသလောက" ဟု ခေါ်၏။ ဘုရားရှင်သည် ဤဩကာသလောက၏ ဖြစ်ပုံ ပျက်ပုံ တည်နေပုံ အစုံကိုလည်း အကုန်သိတော်မူသည်။

"သတ္တဝါ" ဟု ခေါ်ဆိုရသော သက်ရှိ အရာဝတ္ထုသည် လည်းကောင်း, "ဩကာသ" ဟု ခေါ်ဆိုရသော သက်မဲ့ တည်ရာ ဌာနသည် လည်းကောင်း စင်စစ်အားဖြင့် အကြောင်းအကျိုးဆက်၍ ဖြစ်ပျက်နေသော ရုပ်နာမ်အစုသာ ဖြစ်၏။ ထိုရုပ်နာမ်အစုကို "သင်္ခါရလောက" ဟု ခေါ်၏။ ထိုသင်္ခါရလောက၏ အကြောင်းတရားနှင့် အကျိုးတရားတို့ ဆက်သွယ်နေပုံကိုလည်း စုံစုံလင်လင် သိမြင်တော်မူ၏။ ထိုလောကသုံးပုံ အလုံးစုံကို အကုန်အစင် သိမြင်တော်မူ သောကြောင့် ဘုရားရှင်သည် "လောကဝိဒူ" ဂုဏ်တော်အားဖြင့် ထင်ရှားတော် မူပါသည်။

[ လောကသုံးပါးတွင် "သင်္ခါရလောက" တစ်ခုတည်းသာ ပရမတ် အနေဖြင့် တကယ်ရှိ, အဟုတ်ရှိသည်။ ကျန် "သတ္တလောက" နှင့် "ဩကာသလောက" နှစ်ခုကား ပရမတ်အနေဖြင့် တကယ်မရှိ, အဟုတ်မရှိ၊ ခေါ်ဝေါ်သမုတ်ရုံမျှသာ ရှိသည်။]

**သတ္တလောကကို သိတော်မူခြင်း**

ဘုရားရှင်သည် သတ္တလောကကို သိရာ၌ သတ္တဝါအမျိုးမျိုးကို အမျိုးမျိုး အဖုံဖုံ စုံအောင် သိတော်မူ၏။ ခြတောင်ပို့တစ်ခု၌ ခြသတ္တဝါပေါင်း မည်မျှ, ပုရွက်တွင်း တစ်တွင်း၌ ပုရွက်သတ္တဝါပေါင်း မည်မျှ, ငါးဥ တစ်ခု၌ ငါးသတ္တဝါ ပေါင်း မည်မျှ, လူနတ်ဗြဟ္မာ သတ္တဝါပေါင်း မည်မျှ, ငရဲသတ္တဝါပေါင်း မည်မျှ, ပြိတ္တာသတ္တဝါပေါင်း မည်မျှ ရှိသည် စသည်တို့ကို သိရှိရုံမျှမက သတ္တဝါတစ်ဦး စီ၏ လက်ရှိ ဘဝအခြေအနေ ရှေ့ဖြစ်နောက်ဖြစ်ဘဝ အခြေအနေတို့ကိုပါ အကန့်အသတ်မရှိ ကောင်းစွာ သိတော်မူ၏။ သို့ရာတွင် ဤအသိမျိုးကား တခြားတန်ခိုးကြီးသော နတ် ဗြဟ္မာ ရသေ့ ရဟန်းများလည်း (အကန့်အသတ် မရှိ မသိစေကာမူ) အကန့်အသတ်ဖြင့် သိတန်သလောက် သိနိုင်ကြ၍ ထူးဆန်း လှသော အသိမဟုတ်သေးဟု ဆိုသော် ဆိုနိုင်ရာ၏။

မည်သူ တစ်ဦးတစ်ယောက်မျှ လိုက်မမီသော ဘုရားရှင်၏ သူမတူသော အသိတော်ကား– သတ္တဝါတို့၏ အတွင်းဓာတ်ခံ သတ္တိအမျိုးမျိုးကို ခွဲခြား သိနိုင်ခြင်းပင် ဖြစ်၏။ ဘုရားရှင်သည် သတ္တဝါ တစ်ဦးတစ်ယောက်ကို သိရာ၌ "ဤသူသည် စရိုက်အမျိုးမျိုးတွင် မည်သည့်စရိုက်က လွန်ကဲနေ၏။ အနုသယ အမျိုးမျိုးတွင် မည်သည့် အနုသယ-က ထက်သန်နေ၏။ ပင်ကိုဆန္ဒ ညွှတ်ဖျင်း၏၊ သို့မဟုတ် ထက်သန်၏။ သဒ္ဓါ စသော ဣန္ဒြေငါးပါးတွင် မည်သည့် ဣန္ဒြေက ထက်မြက်၍ မည်သည့် ဣန္ဒြေက ညံ့၏ စသည်ဖြင့် အတွင်းဝင်ကြည့်၍ အတိအကျ မြင်ရသူပမာ သေချာစွာ ခွဲခြား၍ ကွဲကွဲပြားပြား သိတော်မူ ပါသည်။ ယင်းသို့ ဥပါဒ်အနေဖြင့် ဖြစ်ပေါ်မလာသေးဘဲ ဓာတ်သတ္တိအဖြစ် ဖြင့်သာ အတွင်း၌ တည်ရှိနေသော သဘောများကိုပါ သိနိုင်ခြင်းကား သဗ္ဗညုတဉာဏ်သခင် ဘုရားရှင်တို့၏ အရာသာ ဖြစ်ပါသည်။

သတ္တဝါတို့၏ ဣန္ဒြေရင့်နု အတွင်းဓာတ်ခံသိမှုမှာ ဘုရားရှင်တို့၏ အရာသာ ဖြစ်၏၊ သာဝကတို့၏ အရာမဟုတ်။ အရှင်သာရိပုတ္တရာကဲ့သို့ ပညာရှင်ထိပ်သီး မထေရ်မြတ်ကြီးသော်မှပင် တရားအပေးလွဲခဲ့ရသည်မှာ အတွင်းဓာတ်ခံမသိမှု၏ ထင်ရှားသော သာဓကဖြစ်ပါသည်—

> အရှင်သာရိပုတ္တရာ မထေရ်မြတ်သည် မိမိတပည့် ရဟန်းငယ် တစ်ပါးကို "ငယ်ရွယ်သူတို့မှာ ရာဂအဖြစ်များတတ်သည်" ဟု ယူဆ၍ ရာဂပျောက်အောင် အသုဘကမ္မဋ္ဌာန်းပေးခဲ့ရာ နိမိတ်မျှပင် မထင် ခရီးမတွင် ဖြစ်ခဲ့၏။ ရဟန်းငယ်ကို ဘုရားရှင်ထံ ခေါ်သွားပြီး အကြောင်းကို လျှောက်ထားရာ ဘုရားရှင်က ထိုရဟန်း၏ ဓာတ်ခံကို ဆင်ခြင်တော်မူ၏။ ထိုအခါ အလှအပ ကြိုက်တတ်သော သဘောကို တွေ့ရသည့်အတွက် အသုဘကမ္မဋ္ဌာန်းနှင့် မလျော်သည်ကို သိတော်မူ၏။ ဆက်လက်၍ ဆင်ခြင်ကြည့်ပြန်သော် ဘဝငါးရာတိုင်အောင် ရွှေပန်းထိမ်သည်ဖြစ်ခဲ့သည်ကို မြင်ရ၍ ပဒုမ္မာကြာပန်းအနီ ဖန်ဆင်း ပေးအပ်ပြီး လောဟိတကမ္မဋ္ဌာန်း စီးဖြန်းစေသောအခါ မကြာမီ ဈာန် မဂ်ဖိုလ် ရကာ ရဟန္တာဖြစ်ခဲ့ရပါသည် (ဓမ္မပဒ၊ဋ္ဌ၊၂။၂၆၆)။

ရဟန္တာ အရှင်မြတ်ကြီး အရှင်မဟာပန္ထကသည် လေးလကြာ ဂါထာ တစ်ပုဒ်မျှ မရကောင်းလားဟု ညီတော် စူဠပန္ထကအား နှင်လွှတ်ခဲ့သည်မှာ ဣန္ဒြေရင့်နု မသိမှု၏ ထင်ရှားသော သာဓကဖြစ်ပါသည်—

> အရှင်မဟာပန္ထက သည် ရဟန္တာအရှင်မြတ်ကြီး ဖြစ်၏။ ၎င်းသည် မိမိညီတော် "စူဠပန္ထက" ကို လေးလကြာသည့်တိုင် ဂါထာလေး တစ်ပုဒ်မျှ မရကောင်းလားဟု နှင်လွှတ်ခဲ့၏။ ဘုရားရှင်နှင့် တွေ့၍ ကမ္မဋ္ဌာန်း ပေးသောအခါ ၎င်းနှင်လွှတ်သည့်နေ့ နံနက်ခင်းမှာပင် ကမ္မဋ္ဌာန်းလမ်းဖြောင့်ကာ ပဋိသမ္ဘိဒါဉာဏ် ဈာန်အဘိညာဉ်ရ ရဟန္တာ အဖြစ်သို့ ရောက်ခဲ့ပါသည် (အံ၊ဋ္ဌ၊၁။၁၆၇)။

ဖော်ပြပါ သာဓကများမှာ သတ္တဝါတို့၏ ဣန္ဒြေရင့်နု အတွင်းဓာတ်ခံ သိမှု အရာတွင် ဘုရားရှင်တို့၏ သူမတူအောင် စွမ်းတော်မူခြင်း၌ ထင်ရှားသော သာဓကများပင် ဖြစ်ပါသည်။

## ဩကာသလောကကို သိတော်မူခြင်း

ဘုရားရှင်သည် သက်ရှိ သတ္တလောကကို ပိုင်းခြား ကုန်စင် သိမြင်တော် မူသကဲ့သို့ သက်မဲ့ ဩကာသလောက (စကြဝဠာဘုံဗိမာန်တောတောင်စသည်) တို့ကိုလည်း ကြွင်းမဲ့ကုန်စင် သိမြင်တော်မူ၏။

"စကြာဝဠာ"ခေါ် "ကမ္ဘာလောကဓာတ်ကြီး"တစ်ခု တည်နေပုံမှာ မြေထု, ရေထု, လေထုသည် မဆုံးနိုင်သော ဟင်းလင်းအပြင် အာကာသခေါ် ကောင်းကင်းကြီးအတွင်း၌ တည်ရှိ၏။ ယင်းသို့ တည်ရှိနေသော မြေထု၏ အထက် ဗဟိုချက်မဝယ် သမုဒ္ဒရာ အလယ်၌ မြင်းမိုရ်တောင်ကြီး တည်ရှိပြီးနောက် မြင်းမိုရ်တောင်ကြီးကို "သီဒါ"ခေါ် မြစ်ကြီး တစ်ခုစီ ခြားကာ ခြားကာ တောင်စဉ်ခုနစ်ထပ် ရံပတ်၍ တည်နေ၏။ ထိုကို "သီဒါခုနစ်တန်, သတ္တရဘ္ဘန်တောင်စဉ်ခုနစ်ထပ်"ဟု ပြောစမှတ်ပြုကြ၏။ ထိုမြင်းမိုရ်တောင်ကြီးနှင့် တောင်စဉ်ခုနစ်ထပ်တို့၏ လေးမျက်နှာအရပ်ရှိ ရေလယ်ခေါင်၌ ကျွန်းမသေးကျွန်းငယ် အသွယ်သွယ် ခြံရံလျက် ကျွန်းကြီးလေးကျွန်း ပေါ်ထွန်းလျက်ရှိ၏။ မြင်းမိုရ်တောင်၏ အရှေ့ဘက်၌ ပေါ်ထွန်းသော ကျွန်းမြေကို အရှေ့ကျွန်း (=ပုဗ္ဗဝိဒေဟ)၊ တောင်ဘက်၌ ပေါ်ထွန်းသော ကျွန်းမြေကို တောင်ကျွန်း (=ဇမ္ဗူဒီပ)၊ မြောက်ဘက်၌ ပေါ်ထွန်းသော ကျွန်းမြေကို မြောက်ကျွန်း (=ဥတ္တရကုရု)၊ အနောက်ဘက်၌ ပေါ်ထွန်းသော ကျွန်းမြေကို အနောက်ကျွန်း (=အပရဂေါယာန)ဟု အသီးသီး ခေါ်ဝေါ်ကြသည်။

> [ယခုခေတ် မျက်မြင်အားဖြင့် ယခု လူအမျိုးမျိုး နေထိုင်ရာမှာ တောင်ကျွန်းသာတည်း။ အနောက်ကျွန်း, အရှေ့ကျွန်း, မြောက်ကျွန်းတို့ကား လူများမရောက်၊ မမြင်ရဟု ဆိုသည်။]

ထိုစကြာဝဠာ ကမ္ဘာလောကဓာတ်ကြီးတစ်ခု၌ သတ္တဝါ အမျိုးမျိုးတို့၏ တည်နေရာ ဘုံဌာနပေါင်း သုံးဆယ့်တစ်ဘုံ တည်ရှိ၏။ မြေအပြင်ဝယ် လူတို့နေထိုင်ရာဘုံနှင့် ဆက်စပ်လျက် "တိရစ္ဆာန်ဘုံ, ပြိတ္တာဘုံ, အသူရကာယ်ဘုံ" ဟူ၍ အပါယ်သုံးဘုံရှိ၏။ မြေအောက်အတွင်း၌ ငရဲငယ်များ ရံလျက် ငရဲကြီး ရှစ်ထပ်ရှိ၏။

မြင်းမိုရ်တောင်၏ ထက်ဝက်လောက် အရပ်၌ စတုမဟာရာဇ်နတ်ဘုံ, မြင်းမိုရ်တောင်ထိပ်၌ တာဝတိံသာနတ်ဘုံ ရှိ၏။ (ဤနတ်ဘုံ နှစ်မျိုးသည် မြေနှင့် ဆက်စပ်လျက် ရှိသည်။) တာဝတိံသာနတ်ဘုံမှ အထက်၌ကား "ယာမာနတ်ဘုံ, တုသိတာနတ်ဘုံ, နိမ္မာနရတိနတ်ဘုံ, ပရနိမ္မိတဝသဝတ္တီနတ်ဘုံ" လေးထပ်နှင့် ဗြဟ္မာ့ဘုံ နှစ်ဆယ်တို့သည် မြေထုနှင့် မဆက်စပ်ဘဲ ကောင်းကင်အရပ်မှာပင် တည်နေကြကုန်၏။ ဤသုံးဆယ့်တစ်ဘုံတည်နေရာ ကမ္ဘာလောကဓာတ်ကြီးတစ်ခုကို "စကြာဝဠာ"တစ်ခုဟု ဆိုရာ ဆက်ကာ ဆက်ကာ တည်လျက်

ရှိသော ထိုသို့သော စကြဝဠာပေါင်းမှာ အနန္တ, အပရိမာဏဖြစ်၍ အဆုံးမရှိ မရေတွက်နိုင်အောင် များလှပေသည်။ ဤသို့ဤပုံ စကြဝဠာ အနန္တရှိပုံ အဆုံးမရှိများပြားပုံသဘောကို ဗုဒ္ဓစာပေကသာ ပြောသည်မဟုတ်၊ ယခုခေတ် သိပ္ပံပညာကလည်း လက်ခံပြောဆိုလာကြပြီဖြစ်၍ ယုံမှားမရှိသင့်ကြပါ။

ဘုရားရှင်ကား – ဆိုအပ်ခဲ့ပြီးသော စကြဝဠာ ကမ္ဘာလောကဓာတ်ကြီးတွေကို လိုက်ကြည့်နေရသည်မဟုတ်၊ ထိုင်ရာမထ အလိုရှိသလို အလိုရှိသလောက် သိနေ မြင်နေရ၏။ တချို့တန်ခိုးကြီးသော နတ် ဗြဟ္မာ ရသေ့ ရဟန်းများ တစိတ်တဒေသ အကန့်အသတ်ဖြင့် သိမြင်ကြသလို သိမြင်ခြင်းမျိုး မဟုတ်၊ အကန့်အသတ် မထား အပိုင်းအခြား မရှိ ဝေဖန် စိတ်ဖြာ၍ အသေးစိတ် သိမြင်တော်မူခြင်း ဖြစ်ပါသည်။ အဆုံးအစ မရှိ သိမြင်သော အနန္တဉာဏ်တော်ရှင် ဖြစ်၍ ကြွင်းမဲ့ကုန်စင် အဆုံးအစ မရှိ သိမြင်တော်မူခြင်းပင် ဖြစ်ပါသည်။

[အဆုံးအစမရှိ စကြဝဠာအနန္တဖြစ်၍ များသော်လည်း စကြဝဠာတိုင်း၌ ဘုရားမဖြစ်၊ ဤစကြဝဠာ တစ်ခုတည်း၌သာ ဖြစ်၏၊ ဤစကြဝဠာတွင်လည်း လူ့ဘုံ၌သာ၊ လူ့ဘုံတွင်လည်း တောင်ကျွန်းမဇ္ဈိမဒေသ၌သာ ဖြစ်၏။ ဖြစ်ပြန်သော်လည်း နှစ်ဆူမဖြစ်၊ တစ်ဆူတည်းသာ ထူးခြားစွာ ဖြစ်ထွန်းတော်မူ၏။ လွန်စွာ ရခဲလှစွာတကား။]

**သင်္ခါရလောကကို သိတော်မူခြင်း**

သတ္တလောကနှင့် ဩကာသလောက (ပညတ်)ကို သိကြသည်ဆိုသော ဘန်ခိုးကြီးပုဂ္ဂိုလ်များပင် သင်္ခါရလောက (ပရမတ်)ကို သိရန်ကား အစွမ်းမရှိကြပါ။ ဘုရားရှင့် သာသနာတော်၌ ဘုရားရှင်၏ အဆုံးအမကို နာခံ၍ ကျင့်ကြံခွင့်ရသဖြင့် ဝိပဿနာဉာဏ် ထက်သန်လျက် ရှိကြသော ယောဂီအရိယာ ပုဂ္ဂိုလ်များသည် ဝိပဿနာရှုခိုက်၌ ရုပ်နာမ်တို့ကို သိကြ၏။ သို့သော် အလွန်လျင်မြန်စွာ ဖြစ်ပျက်လျက် ရှိသော ရုပ်နာမ်တို့ကိုကား မလွတ်တမ်း တစ်ခုစီ တစ်ခုစီ အကုန်သိမြင်ကြရသည် မဟုတ်ပါ၊ ထင်ပေါ်လာရာ ရုပ်နာမ်များကိုသာ သိမြင်ကြခြင်းဖြစ်၏။ ယင်းသို့ သိမြင်သော ရုပ်နာမ်များ၌လည်း အသေးစိတ် သိကြသည်မဟုတ်ပါ။

ပစ္စေကဗုဒ္ဓါ အရှင်မြတ်များပင် ရုပ်နာမ်ကို သိရာ၌ တစိတ်တဒေသကိုသာ သိတော်မူကြ၏။ ယင်းသို့ သိရာ၌လည်း ကိုယ့်သန္တာန်၌ ရှိသော တရားစုကိုသာ သိတန်သလောက် သိကြ၍ သူတပါး သန္တာန်၌ ရှိသော ရုပ်နာမ်နှင့် အပြင် ဗဟိဒ္ဓ တော၊ တောင် စသည်တို့၌ ရှိသော ရုပ်ဓာတ်တရားစုတို့ကိုကား မသိ မမြင်နိုင်ကြပါ။

ယခုခေတ် လောကဓာတ်ဆရာတို့သည် သူတို့၏ မှန်ပြောင်းအားဖြင့် အသေးအမွှားဆုံး ရုပ်မှုန်ကလာပ်များကို မြင်နိုင်ကြ၏။ သို့သော်လည်း ရုပ်ကလာပ် တစ်ခုတည်းကို မြင်ရသည် မဟုတ်၊ ရုပ်ကလာပ်မှုန်ကလေးတွေ အတော်များများ ပေါင်းစပ်နေသည်ကိုသာ မြင်ကြခြင်းဖြစ်၏။ ရုပ်ကလာပ် တစ်ခုတစ်ခု၌ "ပထဝီ၊ အာပေါ၊ တေဇော၊ ဝါယော၊ ဝဏ္ဏ၊ ဂန္ဓ၊ ရသ၊ ဩဇာ" ဤရုပ် ရှစ်ခု စုပေါင်းနေကြောင်း သိဖို့ကား လောကဓာတ်ပညာနှင့် လောကဓာတ် ဆရာတို့၏ အရာမဟုတ်နိုင်တော့ပါ။ ထို့ပြင် ရုပ်ကလာပ်တွေ စုပေါင်းတွေ့ခဲ နေသဖြင့် "သတ္တဝါ" ဟု ခေါ်သော ဤခန္ဓာကိုယ်အတွင်း၌ စိတ်၊ စေတသိက် ဟူသော နာမ်တရားတွေ ရှိသေး၏။ ထိုနာမ်တရား၏ အစွမ်းကြောင့် အဆင်း၊ အသံ၊ အနံ့၊ အရသာ၊ အတွေ့နှင့် သိဖွယ်ဟူသမျှကို သိမြင်ကြရပေသည်။ ထိုနာမ်တရား၏ အကြောင်းကိုကား လောကဓာတ်ပညာရှိတို့ ထိမိအောင် သိဖို့ ကို မဆိုထားဘိ "ဖဿ၊ ဝေဒနာ၊ သညာ" စသော နာမည်မျှကိုပင် မသိ မြင်နိုင်ကြပါ။

ဘုရားရှင်ကား– အသေးအမွှား ရုပ်ကလေးများအပြင် ထိုရုပ်ကလေးများ ဖြစ်ပေါ်လာဖို့ အကြောင်းနှင့်တကွ လက္ခဏာ၊ ကိစ္စတို့ကိုပါ အကုန်အစင် သိမြင်တော်မူ၏။ ကလာပ်စည်း တစ်ခုစီက ရုပ်များကိုလည်း ခွဲခြားနိုင်၏။ နာမ်တရားများကို သိရာ၌လည်း ဖြစ်ပေါ်လာခြင်း၏ အကြောင်းနှင့်တကွ လက္ခဏာ၊ ကိစ္စတို့ကိုပါ အကုန်အစင် သိမြင်တော်မူ၏။ အလွန်လျင်မြန်စွာ ဖြစ်ပျက် နေသော ရုပ်နာမ်တရားတို့ကို တစ်မုစီ တစ်ခုစီ ခွဲခြား၍ ပြတ်ပြတ်သားသား သိနိုင်၏။ အကြောင်းအမျိုးမျိုး သတ္တိအဖုံဖုံ စုံအောင်ပင် သိတော်မူ၏။ မိမိ သူတပါး မရွေး၊ အတွင်းအပ သက်ရှိသက်မဲ့မရွေး အားလုံးသော လောကဓာတ် အမျိုးမျိုးကို ခွဲခြားဝေဖန်၍ အကြွင်းအကျန်မရှိ သိတော်မူနိုင်၏။

ထို့ကြောင့် သာမန်လူပညာရှိ ရဟန်းပညာရှိတို့ကို မဆိုထားဘိ လောကကို သိပါသည်ဆိုသော တန်ခိုးကြီးသည့် နတ်မင်း ဗြဟ္မာမင်းကြီးများကပင် ဘုရားရှင်ကို ဝိုင်းအုံ၍ လောကအားလုံးကို အကုန်အစင် သိမြင်သူ "လောက-ဝိဒူ" ဟု အားရလေးစားစွာ ဟစ်ကြွေးကြေညာ၍ ကြည်ညိုမြတ်နိုးပူဇော် ခဲ့ကြပါသည်။

**အများမသိသော်လည်း ဘုရားသိသည်**

လူတို့သည် ဆိတ်ကွယ်ရာ၌ဖြစ်စေ မှောင်မိုက်သောအခါ၌ဖြစ်စေ မကောင်းမှု ဒုစရိုက်ကို ပြုလေ့ရှိကြ၏။ ယင်းသို့ ပြုခြင်းကား မိမိ၏ မကောင်းမှုဒုစရိုက်ကို မည်သူမျှ မသိမမြင်ဟု ယုံကြည်ယူဆ၍ ပြုကြခြင်းဖြစ်၏။ အမှန်စင်စစ်ကား လောက၌ မကောင်းမှုဒုစရိုက်ကို ပြုခြင်းအတွက် ဆိတ်ကွယ်ရာမည်သည်မရှိပါ၊ မည်သည့်အရပ် မည်သည့်အခါမျိုး၌ဖြစ်စေ မိမိတို့ပြုသမျှ မကောင်းမှုဒုစရိုက်ကို လူပင် မသိသော်လည်း တန်ခိုးကြီးသည့် နတ်ဗြဟ္မာရသေ့ရဟန်းများသိနေကြ၏။ ဘုရားရှင်သည်ကား- လောကနှင့် စပ်သမျှ တစ်စမကျန် စိတ်အကြံနှင့် အဆိုးဓာတ်ခံသဘာဝများကိုပါ ကျကျနန ပိုင်ပိုင်နိုင်နိုင် သိမြင်တော်မူလျက် ရှိပါသည်။

ယင်းသို့ မကောင်းမှုဒုစရိုက်ပြုခြင်းအတွက် တန်ခိုးကြီးသည့် နတ်ဗြဟ္မာ ရသေ့ရဟန်းများနှင့် ဘုရားရှင်တို့ သိမြင်နေကြသည်ဖြစ်သောကြောင့် မည်သည့် အခါ မည်သည့်နေရာမျိုး၌ဖြစ်စေ မကောင်းမှုဒုစရိုက်ကို ပြုလုပ်ခြင်းမှရှောင်ကြဉ် သင့်ပါသည်။ လောကကြီးအကြောင်းကို ဧကောင်းဆုံး သိမြင်၍ လောက ကြီးကို ထာဝရ (အသိဉာဏ်) အလင်းရောင် ပေးလျက် ရှိသော ဘုရားတည်း ဟူသော နေမင်း၊ လမင်းကြီးသည် (သာသနာ မကွယ်ပသေးသဖြင့်) ယနေ့တိုင် ထွန်းလင်းလျက်ပင် ရှိပါသည်။ မိမိတို့ပြုသမျှ မကောင်းမှုဒုစရိုက်ကို ဘုရားရှင်က လင်းလင်းကျင်းကျင်း သိမြင်နေပါသည်။

သို့အတွက် လူ့လောကတွင် လူမသိကာမျှဖြင့် ငါလုပ်သမျှ ဟုတ်လှပြီဟု အလင်းရောင်အောက်တွင် အမှောင်ဇာတ် မခင်းမိစေဘဲ ဘုရားရှင်၏ "လောကဝိဒူ" ဂုဏ်တော်ကို အာရုံပြုကြည်ညိုကာ ငါ၏ မကောင်းမှုဒုစရိုက်ကို အများမသိသော်လည်း ဘုရားသိသည်ဟု အမှန်မြင်ကာ လုံးဝ မပြုလုပ်ဘဲ အရှက်အကြောက်တရား လက်ကိုင်ထား၍ ရှောင်ရှားသင့်ကြပါသည်။

**၆။ အနုတ္တရောပုရိသဒမ္မသာရထိဂုဏ်တော်**

အနုတ္တရောပုရိသဒမ္မသာရထိ= (အနုတ္တရော+ပုရိသဒမ္မ+သာရထိ။ ပုရိသဒမ္မ=ဆုံးမထိုက်သော သတ္တဝါများကို+သာရထိ=ဆုံးမမှုဝယ်+ အနုတ္တရော=အတုမရှိ အသာဆုံး ဖြစ်တော်မူသော မြတ်စွာဘုရား။)

ဘုရားရှင်သည် မယဉ်ကျေးသော သတ္တဝါတို့ကို ယဉ်ကျေးအောင် ဆုံးမရာ၌ တုဘ်လက်နက် ဓားလက်နက် အမြောက်သေနတ်စသော လက်နက်များ မပါ၊ တရားတော်သက်သက်ဖြင့်သာ လိမ္မာယဉ်ကျေးအောင် ဆုံးမတော်မူ၏။ ဆုံးမမှုနှင့် ပတ်သက်၍ တလောကလုံး တကမ္ဘာလုံးဝယ် အသာဆုံး အမြတ်ဆုံး ပုဂ္ဂိုလ်ဖြစ်၏။ တူသောသူဟူ၍ ထစ်ဦးတစ်ယောက်မျှ မရှိပါ။

**ဆုံးမ၍ မရလျှင် သတ်ပစ်ခြင်း**

သတ္တဝါတို့ကို ဆုံးမတော်မူရာ၌ ဘုရားရှင်ကိုယ်တိုင် မိန့်မြွက်တော်မူခဲ့သော ဆုံးမနည်း ၃-မျိုးနှင့် ဆုံးမ၍ မရလျှင် သတ်ပစ်ခြင်းအကြောင်းကို ကောင်းစွာ မှတ်သားသင့်ပါသည်—

တခါက "ကေသိ"မည်သော မြင်းဆရာ တစ်ဦး ဘုရားရှင်ထံ မှောက်သို့ ရောက်ရှိလာရာ—

ဘုရားရှင်က— "မြင်းတို့ကို မည်သို့ ဆုံးမသနည်း ကေသိ"ဟု မေးတော်မူ၏။

ထိုအခါ မြင်းဆရာ ကေသိ-က "တပည့်တော် အနုနည်းဖြင့်လည်း ဆုံးမပါသည်၊ အကြမ်းနည်းဖြင့်လည်း ဆုံးမပါသည်၊ အကြမ်းနည်း, အနုနည်း နှစ်ချိုးစုံဖြင့်လည်း ဆုံးမပါသည်၊ ဘယ်နည်းနှင့်မျှ ဆုံးမ၍ မရသောမြင်းကိုမူ သတ်ပစ်လိုက်ပါသည်"ဟု ပြန်ကြားလျှောက်ထား ပြီးလျှင် "အရှင်ဘုရားသည် သတ္တဝါတို့ကို ဘယ်နည်းဘယ်ပုံ ဆုံးမပါ သနည်း"ဟု ပြန်လည်၍ မေးမြန်းလျှောက်ထား၏။

ဘုရားရှင်က—"ကေသိ.... ငါဘုရားလည်း သတ္တဝါတို့ကို အနုနည်း, အကြမ်းနည်း, အနုနှင့်အကြမ်း နည်းလမ်းသုံးမျိုးတို့ဖြင့်ပင် ဆုံးမ၏။ ဘယ်နည်းနှင့်မျှဆုံးမ မရသော သတ္တဝါတို့ကိုမူ သတ်ပစ်လိုက်ရသည်"ဟု မိန့်တော်မူရာ—

မြင်းဆရာ ကေသိ-က "အရှင်ဘုရားမှာ ပါဏာတိပါတအမှုကို မပြုကောင်းသည် မဟုတ်ပါလော"ဟု လျှောက်၏။

ဘုရားရှင်က— "အေး မှန်ပေသည်၊ ငါ မဆုံးမ, မကံမြစ်ဘဲ လက်လွှတ် လိုက်လျှင် ထိုသူမှာ သေသည်ပင် မည်တော့သည်"ဟု ပြန်ကြား မိန့်တော်မူပါသည် (အံ၊၁။၄၇၇)။

လောကသို့ ဟန်ပန်လုပ်၍ အဟုတ်မရှိသော အရာဝတ္ထုကို "မယုံလျှင် လာကြည့်ပါ" ဟု မဖိတ်ခေါ်ဝံ့၊ မပြောဝံ့၊ မပြဝံ့ပေ။ ရှိပင်ရှိသော်လည်း ထိုရှိသော အရာဝတ္ထုသည် ကြည့်ချင်ဖွယ်၊ ရှုချင်ဖွယ် မကောင်းလျှင် ခေါ်ငင်ပြသဖို့ရန် မထိုက်တန်ချေ။ ဘုရားရှင်၏ မဂ်၊ ဖိုလ်၊ နိဗ္ဗာန် ကိုးတန်သော တရားကား ထိုသို့ မဟုတ်ပါ၊ အမှန်အားဖြင့် ထင်ရှားရှိ၍ သန့်ရှင်းစင်ကြယ် ရှုချင်ဖွယ်ကောင်း သောကြောင့် "လာကြည့်စမ်းပါ၊ ကျင့်ကြည့်စမ်းပါ" ဟု ဖိတ်ခေါ်၍ ပြသခြင်းငှါ ထိုက်တန်ပါသည်။ ထို့ကြောင့် ကိုးတန်သောတရားသည် "ဧဟိပဿိက" ဂုဏ်တော်နှင့် ပြည့်စုံခြင်းဖြစ်ပါသည်။

## တကယ်ရှိ၍ အဟုတ်စင်ကြယ်သော တရားဖြစ်တော်မူခြင်း

မဂ်၊ ဖိုလ်၊ နိဗ္ဗာန် ကိုးတန်သော လောကုတ္တရာတရားတော်မြတ်သည် အဟုတ် မရှိ၊ တကယ် မရှိဘဲ ခေါ်ဝေါ်ပြောဆိုကာမျှ ပညတ်ထားသော တရားမျိုး မဟုတ်၊ အဟုတ်ရှိ အမှန်ရှိသည့် ပရမတ္ထတရားမျိုး ဖြစ်၏။ ကိုယ့်သန္တာန်၌ အထင်အရှား ရှိ၍ ကိုယ်တိုင်ကိုယ်ကျ သိနိုင်မြင်နိုင်၏။

ယင်းတရား ကိုးပါးသည် ကျောက်စရစ် အိုးခြမ်း ကဲ့ပမာ တန်ဖိုးမဲ့သည့် တရားမျိုး မဟုတ်၊ ကြောက်မက်ဖွယ်ရာ၊ ရွံရှာဖွယ်ရာ၊ မကြည့်ဝံ့ မမြင်ဝံ့ မပြဝံ့သော တရားမျိုးလည်း မဟုတ်၊ တိမ်တိုက်ကင်းစင်သော ကောင်းကင်ပြင်၌ ထွက်ပြူလာသော လပြည့်ဝန်းကြီးကဲ့သို့ လည်းကောင်း၊ နူးညံ့လှစွာသော ကမ္ဗလာအဖြူ ကတ္တီပါအဖြူ အထည်ပေါ်၌ ချထားအပ်သည့် ပတ္တမြားရတနာကြီး ကဲ့သို့လည်းကောင်း ကိလေသာ အညစ်အကြေးမတင် လွန်စွာ သန့်ရှင်း စင်ကြယ်၏။ ဘဝများစွာက တခါဖူးမျှ မတွေ့ရဖူးသော တရားမျိုးဖြစ်၏။ တခါ တွေ့လျှင် ဖမ့်မရအောင် အတွေ့အမြင်ထူး၏။ ထို့ကြောင့် ဤမဂ်၊ ဖိုလ်၊ နိဗ္ဗာန် ကိုးတန်သော လောကုတ္တရာတရားသည် တကယ်ရှိ၍ အဟုတ်စင်ကြယ်သော တရားတော်ဖြစ်ကြောင်း ယုံမှားမရှိသင့်ချေ။ မည်မျှမှန်ကန် မည်မျှအဖိုးတန်၍ မည်မျှ အကျိုးများသည်ကို ကိုယ်တွေ့သိအောင် ကိုယ်တိုင် ကျင့်ကြည့်သင့်ကြ ပါသည်။

## ဖိတ်ခေါ်ထိုက်၍ ဖိတ်ခေါ်တော်မူခြင်း

အကောင်းဆုံး အကျိုး ရ၍ အမြန်ဆုံး အကျိုး ပေးနိုင်သော ဂုဏ်အရည် အချင်းတို့နှင့် ပြည့်စုံသည့် မဂ်တရားလေးပါးနှင့် ၎င်း၏ အကျိုးရင်း ဖြစ်သော ဖိုလ်တရား၊ အာရုံဖြစ်သော နိဗ္ဗာန်တရားများ ဖြစ်ပေါ်လာသောအခါ

ဤတရားများသည် ဘဝများစွာက တခါဖူးမျှ မရစဖူး ထူးကဲလှသော "အနုပုဗ္ဗဓမ္မ" တရားများဖြစ်သောကြောင့် အံ့သြခြင်း၊ နှစ်သက်ခြင်းနှင့် ဝမ်းမြောက်ခြင်းများ ဖြစ်လာတတ်ပါသည်။

ထိုအခါ လောက၌ အထူးအဆန်း ဆိုလျှင် ကိုယ်တိုင်လည်း ကြုံလိုကြ၊ ကြည့်လိုကြ၊ မိတ်ဆွေသင်္ဂဟ ချစ်ကျွမ်းဝင်သူများကိုလည်း အားပါးထရ ဖိတ်ခေါ် ပြသလိုကြသည့် သဘာဝအတိုင်း ဤ မဂ်၊ ဖိုလ်၊ နိဗ္ဗာန် တရားများကို မိမိ၏ မိတ်ဆွေသင်္ဂဟ ချစ်ကျွမ်းဝင်သူများအား မိမိကဲ့သို့ တရားထူး ရစေလို တွေ့စေလို ပြောပြလိုသော ဆန္ဒများ အဟုန်ပြင်းစွာ ဖြစ်ပေါ် လာတတ်ပါသည်။ ဝမ်းကယ်ထမ်း ဖိတ်ခေါ် တိုက်တွန်းထိုက်အောင် ချမ်းသာမှုအကျိုး ဧကန်ရမည်ကို သိနေသောကြောင့် တရားထူး ရအောင် ကြိုးစားဖို့ "လာပါ၊ သိုက်ခွဲစမ်းပါ၊ မယုံလျှင် တစ်ပတ်လောက် စမ်းကြည့်ပါ"ဟု မတိုက်တွန်းဘဲ မနေနိုင်အောင် ဖြစ်ကာ ဖိတ်ခေါ် တိုက်တွန်းတတ်ပါသည်။

ဤနေရာတွင် ဘုရားရှင် ကိုယ်တော်တိုင် "လာလှည့် ရှုလှည့် ကျင့်ကြံလှည့်"ဟူသော သဘောဖြင့် ဟောခဲ့ပုံ သာဓကများကို ဆက်လက်ထုတ်ဖော် တင်ပြထားပါသည်—

"ဤငါဘုရား၏ သာသနာမှာသာ ပဌမ သမဏ သောတာပန် ရှိသည်၊ ဒုတိယ သမဏ သကဒါဂါမ်၊ တတိယ သမဏ အနာဂါမ်၊ စတုတ္ထ သမဏ ရဟန္တာလည်း ဤငါဘုရား၏ သာသနာမှာသာ ရှိသည်၊ ငါဘုရား၏ သာသနာမှ ပြင်ပ တခြား အယူဝါဒများကား သမဏ လေးပါးတို့မှ ဆိတ်သုဉ်း ကင်းကွာသော ဝါဒများ ဖြစ်ကြသည်"ဟု မဟာပရိနိဗ္ဗာနသုတ်၌ ဟောတော်မူ၏။

[ဤ သာသနာဖြင့် သမဏအစစ်ဖြစ်ကြောင်းကား မဂ်၊ ဖိုလ်၊ နိဗ္ဗာန် တရားတည်း။ ထိုတရားများ ရနိုင်ရန် အကျင့်များသည် တခြားမှာ မရှိ၊ ငါဘုရား၏ သာသနာမှာသာ ရှိသည်၊ မယုံလျှင် လာကြ၊ ကျင့်ကြည့်ကြဟူ မိန့်တော်မူလိုရင်း ဖြစ်၏။]

ဆုဂ ဓမ္မသော ကိလေသာတို့မှ စင်ကြယ်ရန် "ပူဆွေးမှု သောက၊ ငိုကြွေးမှု ပရိဒေဝတို့ကို လွန်မြောက်ရန်၊ ကိုယ်ဆင်းရဲမှု စိတ်ဆင်းရဲမှု ထိုးဖျော်ငြိမ်းရန်၊ အရိယာမဂ် ရရန်၊ နိဗ္ဗာန်ကို ကိုယ်တွေ့ မျက်မှောက် သိရန် လမ်းမှာ တကြောင်းတည်းသော ခရီးလမ်းမကြီးသဖွယ် ဖြစ်သော ဤ သတိပဋ္ဌာန်လေးပါး တရားပင်တည်း"ဟု မဟာသတိပဋ္ဌာနသုတ်၌ ဟောတော်မူ၏။

[ဤဒေသနာဖြင့် လာကြ၊ သတိပဋ္ဌာန်တရားကို ကျင့်လှည့်ကြ။ ကျင့်လျှင် အရိယာမဂ် ရလိမ့်မည်၊ နိဗ္ဗာန်ကို တွေ့ရလိမ့်မည်။ တွေ့လျှင် သောက, ပရိဒေဝတွေ ပျောက်မည်၊ ကိုယ်စိတ်နှစ်ပါး ဆင်းရဲခြင်းများ အလျှင်း ပေါ်မလာ၊ ချမ်းသာကြီး ချမ်းသာလိမ့်မည်ဟု မိန့်တော်မူလိုရင်းဖြစ်၏။]

အဖော်ပြပါ တရားဒေသနာများသည် ဘုရားရှင် ကိုယ်တော်တိုင် မိမိတရား၏ "ဧဟိပဿိက"ဂုဏ်ကို ထုတ်ဖော်၍ မိန့်တော်မူခဲ့သည့် တရားဒေသနာများ ဖြစ်၏။ ဤတရားဒေသနာများကဲ့သို့ "ဧဟိပဿိက"ဂုဏ်ကို ပြသော ဒေသနာ များမှာ ပိဋကတော်၌ အများအပြားပင် ရှိ၏။ ဤဒေသနာများဖြင့် မဂ်,ဖိုလ်, နိဗ္ဗာန် မရှိသော သာသနာပြင်ပ အယူဝါဒများ၌ "ဧဟိ=လာလှည့်၊ ပဿ= ရှုလှည့်"ဟု မိတ်ခေါ်ခံနိုင်သောတရား မရှိ။ အပြော အဟောအရ ယုံကြည် ရသော တရားများသာ ဖြစ်ကြောင်း သိစေလိုပါသည်။

**"ဧဟိပဿိက"ဂုဏ်ထူးရထိုက်သော တရားများ**

မဂ်, ဖိုလ်, နိဗ္ဗာန် ကိုးတန်သော လောကုတ္တရာတရားမှာ စာတွေ့တရား မဟုတ်၊ လက်တွေ့တရား ဖြစ်၏။ လက်တွေ့အားထုတ်မှ သိနိုင် မြင်နိုင်၏။ သူပြော လူပြောဖြင့် မယုံကြည်နိုင်ဘဲ သိပ္ပံနည်းကျ လက်တွေ့မှ ယုံကြည်လေ့ ရှိသူတို့အဖို့ ကိုယ်တွေ့ သိအောင် ကျင့်ကြည့်သင့်ကြ၏။

ဤ "ဧဟိပဿိက" ဂုဏ်တော်၌ လောကုတ္တရာတရား ကိုးပါးသာ ကျမ်းဂန် တို့၌ လာ၏။ ပရိယတ္တိတရား မပါရှိချေ။ သို့ရာတွင် ဤလောကုတ္တရာတရားကို သိမြင်နိုင်ကြောင်း အကျင့်ကောင်း အကျင့်မှန်နည်းများကို သင်ကြားနာယူ နိုင်ရန် ဖော်ပြထားသော စာပေပရိယတ် တရားတော်မြတ်သည်လည်းကောင်း ယင်းပရိယတ်နှင့် ပဋိပတ်အကျင့်တရားများကို ကောင်းမွန်စွာ နာယူသင်ကြား ကျင့်ကြံ ပွားများလျက် ရှိသော သံဃာတော်များသည် လည်းကောင်း, ယင်းပရိယတ်တရားနှင့် သံဃာတော်တို့၏ တည်ရှိရာ သန့်ရှင်း တင့်တယ် ကြည်ညိုဖွယ် ကောင်းသော စေတီ, တန်ဆောင်း, ကျောင်းကန်များသည် လည်းကောင်း ဤ "ဧဟိပဿိက" ဂုဏ်တော်ကို အတုလိုက်၍ "လိုက်ခဲ့စမ်းပါ၊ နာကြည့်စမ်းပါ၊ ဖူးမြော်ကြည့်စမ်းပါ" ဟု မိတ်ကောင်းဆွေကောင်းများအား မိတ်ခေါ် ပြသထိုက်သော ရတနာများပင် ဖြစ်ကြောင်း မှတ်ယူသင့်ပါသည်။

လက်တွေ့ ကြည့်ရှု နာကြား ကျင့်ကြံ ပွားများခွင့် ရသောအခါ ကိုယ်တိုင် ကိုယ်ကျ စမ်းမြောက်ဝမ်းသာ ဖြစ်ရပြီး လွန်စွာ အားရနှစ်သက်ခြင်း ရှိလာနိုင် ကြပါမည်၊ ကြည်ညိုသဒ္ဓါ ဖြစ်ပွားနိုင်ကြပါမည်။

## ကိုးကွယ်ရာမှု ဆေးမဖြစ်အောင် သတိပြုသင့်ကြောင်း

ဖိတ်ခေါ်ပြသမှုနှင့် စပ်၍ ယခုကာလ၌ ဘာသာအမျိုးမျိုးက မိမိတို့ဘာသာကိုသာ မှန်ကန်ကြောင်း, ကောင်းကြောင်း, အခြားဘာသာကို မမှန်ကြောင်း, မှားကြောင်း, မကောင်းကြောင်း ဟောပြောတတ်ကြ၏။ ဗုဒ္ဓဘာသာတွင်လည်း "သူတို့ ဂိုဏ်းက ကောင်းကြောင်း, ငါတို့ ဂိုဏ်းက ကောင်းကြောင်း, သူ့ကိုယ်တော်က ကြည်ညိုဖွယ်ကောင်းကြောင်း, ငါ့ကိုယ်တော်က ကြည်ညိုဖွယ် ကောင်းကြောင်း, ငါ့ကိုယ်တော်က စာတတ်ကြောင်း, တရားဟော ကောင်းကြောင်း, တရားပြ ကောင်းကြောင်းတို့အပြင် ခေတ်ရိုက် ခေတ်ဆင် ယတြာ ဗေဒင် ကောင်းကြောင်း, အမြင်အကြား ပေါက်ကြောင်း စသည်ဖြင့် "ဟေ= လိုက်ခဲ့စမ်းပါ၊ ပဿ=ဖူးမြော်လှည့်စမ်းပါ"ဟု သွေးဆောင် ခေါ်ငင်ကာ ကိုယ့်ငါးချဉ် ကိုယ်ချဉ်လျက် ရှိတတ်ကြသည်။

ဤမျှလောက် ရှုပ်ထွေးသော လောကကြီးဝယ် ဘာသာရေး သာသနာရေးနှင့် စပ်လျှင် အယုံအကြည် ကြီးလွန်းသည်နှင့်အမျှ ကိုယ်ပိုင်ဉာဏ်ကို အသုံးပြုနိုင်သူက နည်းပါးလှ၏။ ဘာသာ သာသနာနှင့် ဆိုင်ရာဝယ် များစွာသော ကိစ္စတို့၌ ဘာသာရေး အသိဉာဏ်အင်အား နည်းပါးသည့် လူရည်တတ်များက ခေါင်းဆောင် ဖြစ်နေတတ်ကြ၏။ ဘာသာ သာသနာရေး၌ မျက်လှည့်ပမာ ထူးဆန်းအံ့ဩဖွယ်ရာများကို ပြ၍ သူတပါးက မိမိကို ဖြားယောင်းသည် ကိုလည်း ယုံကြည်လွယ်ရုံမက မပြောပလောက်သော ဂုဏ်ကလေးကိုပင် တကယ့် ဂုဏ်ကြီးဟု အထင်ကြီးထင်တတ်ကြ၏။

ထို့ကြောင့် ဘာသာ သာသနာ အသိဉာဏ်အင်အား နည်းပါးသူ လူရည် တတ်များ ခေါင်းဆောင်၍ နေသော ဘာသာ သာသနာ ကိစ္စအဝဝတို့၌ မကျန မသန့်ရှင်းဘဲ ချွတ်ယွင်းသော အချက်တွေ များစွာ ရှိနေတတ်၏။ အမှန်ကို သိသူ ဟောပြလိုသူ အနည်းငယ်တို့မှာလည်း အများမိုးခါးရေသောက်ကာလ ကြီးကို မလွန်ဆန်နိုင်ဘဲ လက်မှိုင်ချလျက် ရှိကြ၏။ အာဏာကန်ခိုး စည်းစိမ် အမျိုးမျိုးအောက်မှာ ဒူးထောက်လျက် ရှိကြ၏။ သို့ဖြစ်၍ ယုံကြည်စိတ်ချ ရသော ပုဂ္ဂိုလ်များကို မှီဝဲဆည်းကပ်မိဖို့ရန်မှာ ရွေးကံကောင်းမှ အကြောင်း လှရတော့မလို ရှိပါသည်။

အချုပ်သဘောအားဖြင့် မှန်ကန်သော ကိုးကွယ် ဆည်းကပ်မှု ရနိုင်ရန် အတွက် ကိုယ်ပိုင်ဉာဏ်ကို အသုံးချလိုလျှင် ပုဂ္ဂိုလ်တစ်ပါးပါးကို ကိုးကွယ် ဆည်းကပ်မိက အသိအလိမ္မာ ဉာဏ်ပညာနှင့် သူတော်ကောင်းစိတ်များ တိုးပွား, မတိုးပွား စဉ်းစားဆင်ခြင်ပါ။ တိုးပွားလျှင် ကိုးကွယ်သူမှာ အမြတ်ရ၏။

ကိုးကွယ်ရကျိုးနပ်၏။ ကုသိုလ်တရား မတိုးပွားဘဲ ဆရာချင်း ပြိုင်၊ ဒကာချင်း ပြိုင်၊ ကျောင်းချင်းပြိုင်၊ ဘုရားချင်းပြိုင်၊ သူနိုင် ငါနိုင် ပြိုင်ရ ဆိုင်ရ တိုက်ခိုက်ရသဖြင့် မတရားမှု ဒုစရိုက်တွေသာ တိုးပွား၍ အကုသိုလ်တရား များနေပါလျှင် အမြတ်မရဘဲ အရင်းရှုံးဖို့သာ ရှိ၏။ အချို့ကား ဒကာကို ဆရာက မြှောက် ဆရာကို ဒကာက မြှောက်၍ ဆရာချင်း ပေါက်၊ ဒကာချင်း ပေါက်၊ ဘုရားချင်း ပေါက်၊ ကျောင်းချင်း ပေါက်ဖြစ်၍ ရှုံးရောက် ဂတ်ရောက် ဖြစ်ကာ ငွေကုန် လူပန်း စိတ်မချမ်းမသာစရာတွေ ဖြစ်ကြရရှာ၏။ ထို့ကြောင့် "ကိုးကွယ်ရာမှ ဘေးမဖြစ်အောင်" ကြိုးစား၍ သတိပြုသင့်ကြပါသည်။

## ၅။ ဩပနေယျိကဂုဏ်တော်

ဩပနေယျိက= (ဩပ+နေယျိက။ ဩပ=ကပ်၍+နေယျိက= ဆောင်ထိုက်သော တရားတော်၊ မိမိစိတ်၏ သန္တာန်အစဉ်၌ မရောက် ရောက်အောင် မဖြစ် ဖြစ်အောင် ကပ်၍ ဆောင်ထိုက်သော မဂ်တရား ဖိုလ်တရားနှင့် မိမိစိတ်၏ အာရုံအဖြစ်သို့ မရောက် ရောက်အောင် ကပ်၍ ဆောင်ထိုက်သော နိဗ္ဗာန်တရားတော်။)

မဂ်ဖိုလ်နိဗ္ဗာန် တရားတော်များသည် ပုထုဇဉ်တို့သန္တာန်၌ တခါတရံမျှ မဖြစ်ခဲ့ဖူးပါ၊ တစ်ကြိမ်တစ်ခါမျှ ဖြစ်ပေါ် လာလျှင်ပင် အပါယ်လေးပါး၌ ခံစားရမည့် ဝဋ်ဒုက္ခအပူမီးတို့ကို တခါတည်း ငြိမ်းစေနိုင်သော သတ္တိရှိ၏။ ထို့ကြောင့် ကိုယ်၌ ဝတ်ဆင်ထားသော အဝတ်ကို မီးလောင်စေကာမူ၊ သို့မဟုတ် ဦးသျှောင် (ဆံထုံး)ကို မီးလောင်စေကာမူ ထိုမီးကို မငြိမ်းသေးဘဲ အရေးမပြု လျစ်လျူရှုကာ မဂ်ဖိုလ်တရား ရအောင် ကြိုးစားအားထုတ်ထိုက်ပါသည်။ အပြင်မီးကို မငြိမ်းနိုင်၍ လောင်ကျွမ်းခံရလျှင် တစ်ဘဝ တစ်ခါသာ အလောင်ခံရမည်၊ အတွင်း ကိလေသာဝဋ်မီးများကို မငြိမ်းနိုင်၍ လောင်ကျွမ်းခံရလျှင်ကား မဂ်ဖိုလ်မရသေးသမျှ ဘဝများစွာ လောင်ကျွမ်းခံနေရမည်သာ ဖြစ်ပါသည်။

### စိတ်ထဲ၌ ကပ်၍ ဆောင်ထိုက်သော တရားဖြစ်ခြင်း

အို နာ သေရေးနှင့် အပါယ်ဘေးတို့က လွန်စွာ ကြောက်မက်ဖွယ် ကောင်းလှ၏။ အထူးအားဖြင့် သေရမည့် ဘေးကိုကား သတ္တဝါတိုင်းလိုပင် အလွန်ကြောက်ကြ၏။ မည်မျှပင် ကြောက်စေကာမူ ထွက်လာသော နေသည် ကိန်းသေဝင်ရသလို ဖြစ်လာသူမှန်သမျှ သေဘေးက ပြေး၍ မလွတ်နိုင်ပါ။ ကွေးသောလက် မဆန့်မီ၊ ဆန့်သောလက် မကွေးမီ အချိန်မရွေး သေနေကြ၏။ ကြီးသူ ငယ်သူ ရွယ်တူ မည်သူမျှ မသေဟူ၍ မရှိ။ သို့ပါလျက် ကိုယ်သေလှည့်

မရောက်သေး၍ မသေမပျောက် ရှိနေရသည်ကို နက်ဖြန်သာဘက် သေရက်စောင့်နေရသည်ကို သူတို့သာ သေသည်, ပျက်သည်, ငါကား မသေမပျက် ကျန်းမာသည်, နေကောင်းသည် စသည်ဖြင့် မာန်စွယ်တက်ကာ သေခြင်းတရားကို မေ့မထားသင့်ကြပါ။ မေ့လျော့ခြင်းသည် မသင့်သော အရာများကို ကြံတွေး၍ မဂ်ဖိုလ် ရရေးတွင် အဟန့်အတား ဖြစ်စေပြီး မျှားစွာ သေတွင်းနက်စေနိုင်ပါသည်။ ဤနေရာတွင် အသောကမင်းကြီး၏ ညီတော်ရင်း အိမ်ရှေ့စံ "တိဿ" မင်းသားကို သင်ခန်းစာယူသင့်ကြပါသည်—

အသောကမင်း၏ ညီတော် "တိဿ"မင်းသားသည် တောကစား ထွက်စဉ် သားသမင်များ၏ မြူးထူးပျော်ပါးနေကြပုံကို မြင်ရလျှင် "အင်း– မြက်စားနေကြသော သမင်များပင် ယခုလို ပျော်ပျော် ပါးပါး မြူးထူးပေကြသေး၏။ ဘုရင့်အလှူစာ (စားကောင်း သောက်ဖွယ်တွေ)ကို စားကာ အိပ်ရာကောင်း၌ အိပ်နေကြရသော ရဟန်းတော်တွေကား အဘယ်မှာ မမြူးထူးဘဲ နေကြမည်နည်း"ဟု (ကိုယ်နှင့်နှိုင်း၍ ရိုင်းစိုင်းသော)အတွေးပေါ်ကာ သူ၏ နောင်တော်မင်းကြီးကို ပြောပြမိလေသည်။

မင်းကြီးလည်း ထိုစကားကို ကြားရလျှင် အကျိုးအပြစ်ကို စိစစ် ပြောပြခြင်း မပြုသေးဘဲ အကြောင်းတစ်ခုကို ရှာ၍ စိတ်ဆိုးဟန် ဆောင်ပြီး "ညီတော်....ထီးနန်းစည်းစိမ်ကို လက်ခံ၍ ခုနစ်ရက်မျှ ခံစားပေတော့၊ ခုနစ်ရက် လွန်သောအခါ သင့်ကို သတ်ရလိမ့်မည်"ဟု အမိန့်တော် မှတ်ကာ တိုင်းပြည်ကို လွှဲအပ်ပေသည်။

မင်းသားသည် ခုနစ်ရက်ပတ်လုံး ထီးနန်းစည်းစိမ်ကို ခံစားခွင့်ရပါသော်လည်း (သေရမည့်အရေး တွေးကာ) စံစားချင်စိတ် ပေါ်မလာဘဲ မအိပ်နိုင် မစားနိုင် ဖြစ်နေတော့၏။ ခုနစ်ရက်လည်သောအခါ–

မင်းကြီးက– "ဘယ့်နှယ်လဲ၊ ထီးနန်း စည်းစိမ် စံစားရတာ ပျော်ရဲ့လား ညီတော်"ဟု မေး၏။

ညီတော်က– "သေရမည့်အရေး တွေးကြောက်နေရတာ အဘယ်မှာ ပျော်နိုင်ပါ့မလဲ နောင်တော်"ဟု လျှောက်တင်၏။

မင်းကြီးက–"အေး–ညီတော်မှာ ခုနစ်ရက်ကြာမှ သေရမှာကိုပင် သိ၍ ဤမျှ မပျော်မရွှင်နိုင်ရှိလျှင် ရဟန်းတော်များမှာ အသက်ရှုရင်း ရှိုက်ရင်း ထွက်သက် ဝင်သက်တိုင်းတွင် အစဉ်မလပ် သေဘေးကပ်နေပုံကို ဆင်ခြင်နေကြရာ အဘယ်မှာ ပျော်ရွှင်နိုင်မလဲညီတော်"ဟု မိန့်တော်မူ၏။

ထိုအခါ ညီတော် တိဿမင်းသားသည် သာသနာကို လွန်စွာကြည်ညိုဆဖြင့် နောင်အခါတွင် ရဟန်းပြု၍ မဂ်ဖိုလ်နိဗ္ဗာန်ကို မျက်မှောက် ပြုကာ ရဟန္တာအဖြစ်သို့ ဆိုက်ရောက်ရလေသည် (ဝိ၊ဋ္ဌ၊၁။၄၁)။ ဤသာဓကတွင် ညီတော် တိဿသည် သေမှာ ကြောက်၍ မသေရာ (မဂ်ဖိုလ်နိဗ္ဗာန်)သို့ ရောက်ရခြင်းပင် ဖြစ်သည်။ ထို့ကြောင့် မိမိ၏ နောက်တွင် သေမင်းရောက်နေသည့် အလား၊ သို့မဟုတ် မိမိ၏ဆံပင်ကို သေမင်းက နောက်မှ ကိုင်ဆွဲ ခေါ်ငင်နေသည့်အလား သံဝေဂစိတ်ထားကာ မဂ်ဖိုလ်နိဗ္ဗာန်တရားများကို ကြိုးစားမယုတ် အားထုတ်ဆောင်ယူထိုက်ပါသည်။ ဤ (မဂ်ဖိုလ်နိဗ္ဗာန်)တရားထက် စိတ်ထဲ၌ ကပ်၍ ဆောင်ထားထိုက်သော "ဩပနေယျိက" တရားမျိုးကား ဤသာသနာမှတပါး အခြား ၌ ရှာဖွေတွေ့ရှိနိုင်မည် မဟုတ်ပါပေကား။

**အသက်ကို မငဲ့နမထားဘဲ မဂ်ဖိုလ်တရားအားလုံးထားခဲ့သော တိဿမထေရ်အကြောင်း**

ရင်ဝကို လှံစူးခံရသူသည် လှံကို မနုတ်သေးဘဲ ဦးခေါင်း မီးလောင်ခံရသူသည် မီးကို မငြိမ်းသေးဘဲ သက္ကာယဒိဋ္ဌိကို ပယ်နိုင်အောင် မဂ်ဖိုလ်တရားထူးကို ရအောင် ရှေးဦးစွာ ကြိုးစားအားထုတ်သင့်ကြောင်း မြတ်စွာဘုရား ဟောတော်မူပါသည်။ အကြောင်းမှာ ရင်ဝလှံစူး ဦးခေါင်း မီးလောင် ခံရသူ၏ ဒုက္ခမှာ တစ်ဘဝအတွက် ဒုက္ခသာဖြစ်၍ ဘဝမဆုံးသမျှ အသခေ်ျ အနန္တခံရမည့်ဒုက္ခနှင့် စာချင် မပြောပလောက်သောကြောင့် ဖြစ်ပါသည်။ ယင်းသို့ အသက်ကို မငဲ့နမထားဘဲ မဂ်ဖိုလ်တရားများကို အလေးထား အားထုတ်ခြင်းသည် ဘုရားရှင်၏ အလိုတော်ကျ အားထုတ်ခြင်းပင် ဖြစ်ပါသည်။ ဤ၌ ဘုရားရှင် လက်ထက်တော်က မဂ်ဖိုလ် ရရေးကို အလေးထား ဆောင်ရွက်တော်မူခဲ့သော "တိဿ" မထေရ်မြတ်အကြောင်းကို ဆက်လက်ဖော်ပြအပ်ပါသည်–

သာဝတ္ထိပြည်၌ "တိဿ" မည်သော သူကြွယ် တစ်ယောက်သည် ရဟန်းဝတ်သို့ ဝင်ပြီးလျှင် တောကျောင်း၌ တရားအားထုတ်နေ၏။ ခယ်မဖြစ်သူ(ညီ မယား)က ခဲအို ရဟန်းဝတ် လူထွက်စေလျှင် အမွေ

ခွဲဝေရမည် စိုးသောကြောင့် လူဆိုးများကို အသပြာ ငွေကြေး ပေးလျက် ခဲအိုးကို ဖျောက်ဖျက်ခိုင်းလေသည်။ လူဆိုးများက ရဟန်းတော်ထံ သွားရောက်၍ သတ်မည့်အကြောင်းကို ပြောကြရာ—

ရဟန်းတော်က— "သည်တည့်မျှ ခွင့်ပေးကြပါ၊ အာမခံပေးပါမည်" ဟု ပြောဆို၍ ခွင့်ပန်၏။ ထိုအခါ—

လူဆိုးများက— "ကိုယ်တော့်ကို အာမခံမည့်သူ အဘယ်မှာ ရနိုင်မှာလဲ" ဟု ပြောကြလေသော် အနီးရှိ ကျောက်တုံးကြီးကို ယူကာ ခြေနှစ်ဖက်ကို ကျောက်တုံးဖြင့် ကိုယ်တိုင် ပေါက်ချိုး၍ ထွက်ပြေးမည် မဟုတ်ကြောင်းကို အာမခံချက် ပေးလေသည်။

ထို့နောက် သေလုမြောပါး နာကျင်သော ခြေထောက်ကို ဂရုမစိုက်အားဘဲ တရားကိုသာ တွင်တွင်ကြီး အားထုတ်ခဲ့ရာ အရုဏ်တက်ချိန်မှာ ရဟန္တာအဖြစ်သို့ ရောက်ရပေသည် (ဒီ၊ဋ္ဌ၊၂။၃၃၉)။

ဤသာဓကသည် "တိဿ" မထေရ်မြတ်သည် ဤသာသနာ၌သာ ရနိုင်သော (မဂ် ဖိုလ် နိဗ္ဗာန်တရား) သာသနာ့ အခွင့်ထူးကြီးများကို အဆုံးအရှုံးခံ လက်လွှတ် သွားရလျှင် ပုထုဇဉ် ဘဝဖြင့် တစိုက်မတ်မတ် ထက်ကြပ်မကွာ နောက်မှ လိုက်ပါလာမည့် အပါယ်ဝဋ်ဒုက္ခဘေးဆိုးကြီးများမှာ အသခင်္ချေ အနန္တ မတွေးဝံ့စရာ ဖြစ်ရပါသည်။ ယင်းဒုက္ခဝဋ်ဘေးများမှလုံးဝ လွတ်ရေးကျွတ်ရေးကို တွေးဆ ဆင်ခြင် ကောင်းကောင်းကြီး သိမြင်၍ ဘုရားရှင် အလိုတော်ကျ မဂ်ဖိုလ်နိဗ္ဗာန် ရရေးကို အလေးထားဆောင်ရွက်တော်မူခဲ့ခြင်း ဖြစ်ပါသည်။

## "ဩပနေယျိက" ဂုဏ်ထူးရထိုက်သောတရားများ

ဤ "ဩပနေယျိက" ဂုဏ်တော်၌ လောကုတ္တရာတရား ကိုးပါးသာ ကျုံးဝင်တို့၍ လာ၏။ ပရိယတ်တရား မပါရှိပေ။ သို့ရာတွင် ကျင့်နည်း, ကြံနည်း, အားထုတ်နည်းနှင့် သဘာဝဓမ္မအမှန်တရားတို့ကို ဖော်ပြထားသော ပရိယတ်တရားတို့သည်လည်း "ဩပနေယျိက" ဂုဏ်ထူးရ "ကပ်၍ ဆောင်ထိုက်သော တရား" များပင် ဖြစ်ပါ၏။

ဤတရားတော်မှာ လာတိုင်း ရှောင်သင့်သော တရားများနှင့် စပ်၍ တသက်တာမျှ တဝမ်းဝ အပျော်အပါးနှင့် မော်ကြွားစားသောက်မှု၊ စက်ဆုပ်ဖွယ်ရာ မထားရာသော နည်းတို့ဖြင့် ပစ္စည်းဥစ္စာရှာဖွေမှုများကို အရေးတကြီး သတိထားလျက် ပယ်ရှား ရှောင်ကြဉ်သင့်ပါသည်။

ဆောင်သင့်သော တရားများနှင့် စပ်၍ တရားတော် နည်းလမ်းအရ စည်းကမ်းကျအောင် ရှာဖွေစုဆောင်းပြီး တရားသဖြင့် သုံးစွဲကာ မကြာမကြာ လှူဒါန်းခြင်း, ဉပုသ်သီတင်းစောင့်သုံးခြင်းနှင့် တရားဘာဝနာ အားထုတ်ခြင်း စသော သံသရာ့ခရီးပွား ပါရမီကုသိုလ်တရားတို့ကို တဆင့်ထက်တဆင့် မြင့်ထက်မြင့်အောင် ကြိုးစားအားထုတ်သင့်ကြပါသည်။

အလွန်တွေ့ခဲ, ဆုံခဲ, ကြုံကြိုက်ခဲလှသော ဘုရားရှင်ပွင့်တော်မူရာ သာသနာတော်နှင့် တွေ့ကြုံဆုံရခိုက် "ဆွမ်းကျွေးပွဲတွေ့လို့မှ ထမင်း မစားရ" ဆိုသကဲ့သို့ ဆုံးရှုံး နှစ်နာခြင်း မဖြစ်ရလေအောင် သတိဖြင့် ကြံဆောင်၍ ဤ "ဩပ-နေယျိက" ဂုဏ်တော်ကို အာရုံပြုပြီး မိမိသန္တာန်၌ မဂ်ဖိုလ်တရားများ ထပ်ဖြည်းဖြည်း တိုးပွားစေသင့်ကြပါသည်။

၆။ ပစ္စတ္တံဝေဒိတဗ္ဗဂုဏ်တော်

ပစ္စတ္တံဝေဒိတဗ္ဗ=(ပစ္စတ္တံ+ဝေဒိတဗ္ဗ။ ပစ္စတ္တံ=အသီးအသီး ကိုယ်စီကိုယ်င+ဝေဒိတဗ္ဗ=သိမြင်အပ်, ခံစားအပ်သော တရားတော်။)

အရိယာ ပညာရှိပုဂ္ဂိုလ်တို့သည် ဆင်ခြင်သော "ပစ္စဝေက္ခဏာဉာဏ်" ဖြင့် မိမိ စိတ်သန္တာန်၌ ပွားများ ရရှိခဲ့သော မဂ်ဖိုလ်တရားကို လည်းကောင်း, ကိုယ်ကျိုးသိုက်ခရောက် မျက်မှောက်ပြုခဲ့သော နိဗ္ဗာန်တရားကို လည်းကောင်း ဆင်ခြင် သိမြင်နိုင်ကြ၏။ ဖလသမာပတ် (ဝင်စားခြင်း)ဖြင့် မျက်မှောက်ပြုခဲ့သော နိဗ္ဗာန်၏(နိဗ္ဗုတိအရသာ)ကို အာရုံပြု ခံစားနိုင်ကြ၏။

ယင်းသို့ အရိယာပညာရှိ ပုဂ္ဂိုလ်တို့ အသီးအသီး ကိုယ်စီကိုယ်င သိမြင် ခံစားရသောကြောင့် မဂ်ဖိုလ်နိဗ္ဗာန် ကိုးတန်သော လောကုတ္တရာတရားတော်သည် "ပစ္စတ္တံဝေဒိတဗ္ဗ" ဂုဏ်တော်အားဖြင့် ထင်ရှားတော်မူပါသည်။

[စာတတ် ပေတတ် ဗဟုသုတ များသော ပညာရှိမျိုးကို အခြားနေရာ၌ "ပညာရှိ" ဟု ဆိုရသော်လည်း ဤ၌ကား (စာတွေ့ပညာရှိတို့၏ အရာမဟုတ်သောကြောင့်) မဂ်ဉာဏ်, ဖိုလ်ဉာဏ်ဖြင့် (လက်တွေ့) သိသော အရိယာပုဂ္ဂိုလ်တို့ကိုသာ "ပညာရှိ" ဟု ဆိုရသည်။ အခြားစိတ်စေတ မပါစေတဲ့ ဖိုလ်စိတ်အစည်းသော ဆက်ကာဆက်ကာ ဖြစ်စေမှုကို "ဖလသမာပတ် ဝင်စားသည်, ဖိုလ်ဝင်စားသည်" ဟု ခေါ်၏။]

## ကိုယ်ပိုင်အစစ် တရားတော်ဖြစ်ခြင်း

မဂ်ဖိုလ်နိဗ္ဗာန် ကိုးတန်သော လောကုတ္တရာတရားတော်များသည် ကိုယ်တိုင်ကျင့်ကြံ ကိုယ်တိုင်ပွားများ၍ ကိုယ်တိုင်ရရှိသော ပုဂ္ဂိုလ်များနှင့်သာ ဆိုင်သော ကိုယ်ပိုင်အစစ် တရားတော်များ ဖြစ်ကြ၏။ မှန်၏။ ဆရာပွားများအပ်သော မဂ်ဖြင့် တပည့်၏ ကိလေသာများကို မပယ်နိုင်၊ ဆရာ၏ ဖလသမာပတ်ဖြင့် တပည့်သည် ချမ်းသာစွာ နေနိုင်သည် မဟုတ်၊ ဆရာကိုယ်တွေ့ မျက်မှောက်ပြုထားသော နိဗ္ဗာန်ကို တပည့်က ယူ၍ မျက်မှောက်ပြုနိုင်သည်ဟု မရှိ၊ တပည့်ကိုယ်တွေ့ မျက်မှောက်ပြုထားသော နိဗ္ဗာန်ကိုလည်း ဆရာက အလွယ်တကူ ယူ၍ မျက်မှောက်ပြုနိုင်သည်ဟု မရှိ။

စင်စစ်အားဖြင့်ကား မိမိပွားများအပ်သော မဂ်ဖြင့်သာ မိမိ၏ ကိလေသာများကို ပယ်နိုင်သည်။ မိမိရအပ်,ဝင်စားအပ်သော ဖိုလ်ဖြင့်သာ မိမိချမ်းသာစွာ နေနိုင်သည်၊ မိမိ၏ နိဗ္ဗာန်ကို မိမိသာ မျက်မှောက်ပြုနိုင်သည်။ ကိုယ်လုပ်ပြီး သူများရ, သူများလုပ်ပြီး ကိုယ်ရ စသည်ဖြင့် အကျိုးသွား စိတ်မချရသော လောကီတရားမျိုးကဲ့သို့ မဟုတ်၊ ကိုယ်လုပ် ကိုယ်ရ, သူလုပ် သူရ လွန်စွာ စိတ်ချရသော တရားဖြစ်သည်ဟု ဆိုလိုပါသည်။

ထို့ကြောင့် ဤလောကုတ္တရာတရား ကိုးပါးသည် သူတပါး၏ ခေါင်းပေါ်၌ တင်ထားအပ်သော အဆင်တန်ဆာကဲ့သို့ မမှတ်ယူအပ်သဲ မိမိတို့ ကိုယ်စီကိုယ်င မိမိ စိတ်၌သာလျှင် မှတ်ယူသုံးဆောင်အပ်သော ကိုယ်ပိုင်အစစ် တရားတော် ဖြစ်ကြောင်း မှတ်ယူသင့်ပါသည်။

## အဖော်မလို တစ်ဦးချင်း ခံစားနိုင်

မဂ်ချမ်းသာ, ဖိုလ်ချမ်းသာ, နိဗ္ဗာန်ချမ်းသာ (ဝိမုတ္တိသုခ)ကို ခံစားရာ၌ အဖော် မစုံသေးသည့်အတွက် အပေါင်းအဖော်ကို စောင့်ဆိုင်းရန် မလို၊ ငဲ့ကွက်ရန် မလို၊ တစ်ဦးချင်း ကိုယ်စီကိုယ်င ခံစားနိုင်ပေသည်၊ မှန်ပေသည်။ လောကီစည်းစိမ် ချမ်းသာကို ခံစားရာ၌ အပေါင်းအဖော် အခြွေအရံ ပြည့်စုံမှသာ ခံစားနိုင်ကြ၏။ ဥပမာ— ပွဲလမ်းသဘင် ကြည့်ရှု၍ အရသာ ခံရာ၌ ကချေသည်, အဆိုတော်, တီးမှုတ်သူ, ပွဲကြည့်ပရိသတ် စုံစုံလင်လင် ရှိမှသာလျှင် ခံစားရာ၌ အရသာ အပြည့်အဝ ပေါ်နိုင်၏၊ သို့မဟုတ်ပါက အရသာ အပြည့်အဝ မပေါ်နိုင်ချေ။ အလားတူပင် အပေါင်းအသင်းများနှင့် စားပွဲ သောက်ပွဲ ကျင်းပရာ၌ အပေါင်းအသင်း စုံလင်မှ အရသာ အပြည့်အဝ ခံစားရသည်၊ သို့မဟုတ်ပါက တစုံတခု လိုနေသလို ဖြစ်၍ ဟာတာတာ

ခံစား နေရမည် ဖြစ်သည်၊ သို့ဖြစ်၍ လောကီ စည်းစိမ်ချမ်းသာ ခံစားမှုသည် တစ်ကိုယ်တော်တည်း အထီးကျန် ခံစား၍ မရ၊ အသိုင်းအဝိုင်း အခြံအရံ ပါမှ ခံစား၍ ရနိုင်၏။ လောကုတ္တရာချမ်းသာမှုကား တစ်ဦးချင်း တစ်ကိုယ်တော်တည်း အထီးတည်း နေမှသာလျှင် ခံစားနိုင်ခွင့် ရှိ၏။ ထို့ကြောင့် မဂ်ချမ်းသာ, ဖိုလ်ချမ်းသာ, နိဗ္ဗာန်ချမ်းသာကို ခံစားရာ၌ အဖော် မလို၊ တစ်ဦးချင်း ခံစားနိုင်သဖြင့် "ပစ္စတ္တံဝေဒိတဗ္ဗ" ဂုဏ်တော်ကို ဖော်ထုတ်ပြလိုက်ပါသည်။

**ကလေးများပင် တွေ့မြင်နိုင်သောတရား**

ဘုရားရှင် ဟောကြားတော်မူအပ်သော မဂ် ဖိုလ် နိဗ္ဗာန် ကိုးတန်သော လောကုတ္တရာတရားတော်မြတ်သည် ကိုယ်တိုင် ကျင့်ကြံ ပွားများ အားထုတ်ခြင်း မပြုဘဲ တန်ခိုးရှင် တစ်ဦးတစ်ယောက်က ကယ်တင် မ စ စောင့်ရှောက်ပေးလို့ ရနိုင်သော တရားမျိုး မဟုတ်ပါ၊ ကိုယ်တိုင် ကျင့်ကြံ ကိုယ်တိုင် ပွားများ၍ ကိုယ်တိုင် သိမြင်ခံစားရသော တရားမျိုး ဖြစ်ပါသည်။

လောက၌ တန်ခိုးအာဏာ ဥစ္စာစည်းစိမ် ဂုဏ်သိန်များစွာ အရှိန်အဝါ တွင်သည် အချို့သော လောကီအကျိုးတို့ကို အတိုင်းအတာ ရှိသမျှ သယ်ပိုး ဆောင်ရွက်နိုင်ကြသော်လည်း လောကုတ္တရာဆိုင်ရာ မဂ် ဖိုလ် နိဗ္ဗာန်အကျိုး ကိုကား လုံး၀ သယ်ပိုးနိုင်ခြင်း မရှိပါ။

မဂ်ဖိုလ်နိဗ္ဗာန် ကိုးတန်သော လောကုတ္တရာတရားသည် တန်ခိုးအာဏာ ပြကာ ခြောက်လှန့် ရယူ၍လည်း မရ၊ အသနားခံ တောင်းပန်၍လည်း ပေးမဖြစ်၊ မေတ္တာသက်ဝင် ချစ်ခင်၍ မျှဝေ ခံစားခြင်းလည်း မပြုနိုင်၊ ကိုယ်တိုင်ကျင့်မှ ကိုယ်တိုင်ရ၏။ တရားဆိုသည့်အတိုင်း တကယ် တရားမျှတ သမာသမတ်ကျလှ၏။ မျက်နှာကြီးငယ် မလိုက်၊ ဇာတ်နိမ့်, ဇာတ်မြင့် မခွဲခြား၊ အကျိုးတရားကို ခံစားကြရ၏။ ဤတရားများသည် ဘုရားရှင်ပွင့်မှ ပေါ်လာရသော်လည်း မူလက မရှိဘဲ မိုးပေါ်ကျ ပေါ်လာရသည် မဟုတ်၊ မူလပကတိ ပင်ကိုအရှိတရားများပင် ဖြစ်၏။

အဏုမြူဓာတ်အားသည် "အိုင်းစတိုင်း" မွေးမှ ရရှိလာသော အင်အား မဟုတ်၊ ရှေးရှေး သိပ္ပံဆရာကြီးများ လက်ထက်ကလည်း ရှိနေခဲ့သည်ပင်၊ သို့ရာတွင် "အိုင်းစတိုင်း"ကဲ့သို့ အပင်ပန်းခံပြီး မရှာနိုင်ကြ၍သာ မတွေ့ခဲ့ ကြရခြင်း ဖြစ်သည်။ ဤဥပမာကဲ့သို့ပင် တကယ့် အရှိတရား အစစ်အမှန် ဖြစ်သော မဂ်ဖိုလ်နိဗ္ဗာန် တရားများကို ယုံယုံကြည်ကြည် ရိုးရိုးသားသားဖြင့် ကြိုးစားကျင့်ကြံ အားထုတ် ပွားများကြလျှင် ကောန်မှုရ၍ သိမြင်ခံစားနိုင်ကြဖို့

ရှိပါသည်။ ဘုရားရှင် လက်ထက်တော်က လေးနှစ်သားအရွယ်[၁], ငါးနှစ်သား အရွယ်[၂], ခုနစ်နှစ်သားအရွယ်[၃] သာမဏေငယ်လေးများပင် မဂ်ဖိုလ်နိဗ္ဗာန် တရားကို အလွယ်တကူ နားလည်သိမြင်၍ ရဟန္တာ ကိုရင်ကလေးများအဖြစ် ရောက်ခဲ့ရာ တကယ်တမ်း ကျင့်ကြံကြိုးကုတ် အားထုတ်ပွားများလျှင် အဘယ်မှာ မရနိုင်ဘဲ ရှိပါတော့အံ့နည်း။

ဤနေရာတွင် မိထွေးတော် ဂေါတမီ ပရိနိဗ္ဗာန်ဝင်စံခါနီး၌ လျှောက်ထား ကျူးရင့်ခဲ့သော ဖော်ပြလတ္တံ့ပါ စကားများသည် မှတ်သားအားကျဖွယ် ကောင်းလှပါသည်—

> ဘုန်းတော်ကြီးသော မြတ်စွာဘုရား....အယူဝါဒကို စည်ထောင် ခဲ့ကုန်သော ဖရုံးရှေးက (ဘုရားအမည်ခံ) တိတ္ထိဆရာကြီး အဆက်ဆက် တို့သည် မဂ်ဖိုလ်နိဗ္ဗာန်ကို မတွေ့မြင်ခဲ့ကြဖူးပါ။

> ယခုအခါ၌မူ သားတော်ကြီး၏ ကျေးဇူးကြောင့် ခုနစ်နှစ်အရွယ် မျှသာ ရှိသေးသော သူငယ်မကလေးများကပင် မဂ် ဖိုလ် နိဗ္ဗာန်ကို သိမြင်ခံစားနေကြပါပြီ (ထေရီ၊ဋ္ဌ။၁၅၃)။

## လှည့်စား၍ မရနိုင်တော့ခြင်း

မဂ် ဖိုလ် နိဗ္ဗာန် ကိုးတန်သော လောကုတ္တရာတရားများသည် ကိုယ်တွေ့ သိမြင်ရသော တရားများ ဖြစ်၍ တရားတော်အပေါ် ကိုယ်တိုင် အတည်ပြု ဆုံးဖြတ်နိုင်ကြသောကြောင့် အရိယာပုဂ္ဂိုလ်မှန်သမျှ ငါးပါးသီလ အမြဲတည်၍ ရတနာ သုံးပါး၌ မတုန်မလှုပ် သက်ဝင် ယုံကြည်မှု ရှိကြပါသည်။ ရတနာ သုံးပါးနှင့်စပ်၍ မည်သူ တစ်ဦးတစ်ယောက်ကမျှ လှည့်စား၍ မရနိုင်တော့ပါ။ လှည့်စား၍ မရပုံအတွက် ထင်ရှားသော သာဓကတစ်ခုမှာ ဖော်ပြလတ္တံ့ပါ အတိုင်း ဖြစ်ပါသည်—

---

၁။ ၄-နှစ်သား ရဟန္တာသာမဏေ "ကောဒိပိယ" (အပ၊၁။၄၄၀။)

၂။ ၅-နှစ်သား ရဟန္တာသာမဏေ "ပဉ္စသီလသမာဒါနိယ" (အပ၊၁။၇၅။), "စန္ဒန"(အပ၊၂။၆၃။)

၃။ ၇-နှစ်သား ရဟန္တာသာမဏေ "သံကိစ္စ၊ ပဏ္ဍိတ၊ သောပါက၊ ရေဝတ" (ဓမ္မ၊ဋ္ဌ၊၂။၄၁၆။)

"သူရမ္ဗဋ္ဌ" ဆိုသူကား တိတ္ထိတို့၏ တပည့် ဒါယကာတစ်ဦး ဖြစ်၏။ တနေ့သ၌ "သူရမ္ဗဋ္ဌ"အတွက် သောတာပတ္တိမဂ်တရား ရရန် အခြေခံ အကြောင်းကို မြင်တော်မူသော ဘုရားရှင်သည် ဆွမ်းခံချိန်၌ သူ၏ နေအိမ်တံခါးသို့ ကြွလေ၏။ "သူရမ္ဗဋ္ဌ"လည်း ဘုရားရှင်ကို အိမ်ထဲသို့ ပင့်လျက် ဆွမ်းဆက်ကပ်ပြီးသော် ဘုရားရှင်ဟောသောတရားတော်ကို နာရသောကြောင့် သောတာပန်အဖြစ်သို့ ရောက်လေ၏။

ဘုရားရှင် ပြန်ကြွပြီးနောက် မာရ်နတ်က "သူရမ္ဗဋ္ဌ"အပေါ် မိမိ၏ နယ်ပယ်မှ လွတ်မလွတ် စုံစမ်းလို၍ ဘုရားရှင်နှင့် တူအောင် ဖန်ဆင်း ပြီးလျှင် "သူရမ္ဗဋ္ဌ"၏ အိမ်တံခါးသို့ ရောက်လာ၏။

"ဘုရားရှင် ပြန်ကြွလာသည်"ဟူသော အမှတ်ဖြင့် "သူရမ္ဗဋ္ဌ"လည်း ချဉ်းကပ်ကာ ပြန်ကြွလာခြင်း အကြောင်းကို လျှောက်သော် ဘုရားဟန် ဆောင်သော မာရ်နတ်က–

"သူရမ္ဗဋ္ဌ.... ငါ တရားဟောခဲ့စဉ်က တရားတစ်ခုကို သတိမထား အမှတ်တမဲ့ ဟောခဲ့မိသည်၊ ခန္ဓာငါးပါးလုံးကို အနိစ္စ, ဒုက္ခ, အနတ္တ-ဟု ဟောခဲ့မိ၏။ သို့သော် ခန္ဓာတွေ အကုန်လုံး ဤသဘောချည်း မဟုတ်၊ မပျက်မစဲ ခိုင်မြဲသော ခန္ဓာတချို့ ရှိသေးသည်" ဟု ဆို၏။

ကိုယ်တွေ့တရား သိမြင်ထားသူ မဟုတ်လျှင် ဘုရားပဲဟု အတည် ပြု၍ ဤမာရ်နတ်၏ စကားကို လက်ခံလိုက်မည်သာ ဖြစ်၏။ မဂ် ဖိုလ် နိဗ္ဗာန် တရားကို ကိုယ်တွေ့သိပြီး မတုန်မလှုပ် ယုံကြည် ဆုံးဖြတ်ပြီး ဖြစ်နေသော "သူရမ္ဗဋ္ဌ"ကား ဤအချက်ကို လက်မခံနိုင်၊ ထို့ကြောင့် "သူရမ္ဗဋ္ဌ"အနေဖြင့် စဉ်းစားသည်မှာ–

"ဤစကားသည် အလွန်ဝန်လေးသော စကားဖြစ်၏။ ဘုရားရှင်တို့ မည်သည် အမှတ်တမဲ့ ဟောမှု မရှိနိုင်၊ ဘုရားရှင်၏ ဆန့်ကျင်ဘက်မှာ မာရ်နတ်ဖြစ်၍ ဤသူသည် မာရ်နတ်သာ ဖြစ်ရမည်"ဟု စဉ်းစား ပြီးလျှင် "သင် မာရ်နတ် မဟုတ်လော"ဟု ဆို၏။

မာရ်နတ်လည်း မကွယ်မဝှက်သာဘဲ ဟုတ်မှန်ကြောင်း ဝန်ခံရ၏။ ထိုအခါ "သူရမ္ဗဋ္ဌ"က–

"သင်လို မာရ်နတ်မျိုး အရာအထောင် လာဖျက်သော်လည်း ငါ၏ သဒ္ဓါတရားကို လှုပ်ရှားစေနိုင်မည် မဟုတ်ပါ၊ ဘုရားရှင်သည် "သဗ္ဗေ သင်္ခါရာ အနိစ္စာ" ဆိုသော တရားကို ကြားရုံမျှ မဟုတ်၊ ကိုယ်တွေ့ သိမြင်သည်အထိ ဟောကြားခဲ့ပြီး ဖြစ်ရာ သင်လှည့်စား၍ ရမည် မဟုတ်၊ ငါ၏ အိမ်တံခါးမှာ သင် မနေပါနှင့်"ဟု နှင်လေရာ မာရ်နတ်လည်း ထိုနေရာ၌ ကွယ်လေ၏။ ဤအကြောင်းကို ဘုရားရှင်အား လျှောက်ထားသော် "သူရမ္ဗဋ္ဌ"ဒါယကာအား ရတနာသုံးပါး အပေါ် မတုန်မလှုပ် သက်ဝင်ယုံကြည်သူများတွင် အထူးချွန်ဆုံးပုဂ္ဂိုလ် "အဝေစ္စပသန္နတေဒဂ်" အရာဖြင့် မြှောက်စား ချီးကျူးတော်မူသည် (အံ၊၄၊၁၊၂၀၅-၆)။

## တရားအလှူ တရားပူဇော်နည်း

ဘုရား၊ တရား၊ သံဃာ ရတနာမြတ်သုံးပါးနှင့်စပ်၍ ဆည်းကပ်လှူဒါန်းပူဇော် ကြရာ၌ ဘုရားရတနာနှင့် သံဃာရတနာမှာ ပုံသဏ္ဌာန် အထင်အရှား ရှိ၍ မြင်သာလှ၏။ အများအားဖြင့် လှူဒါန်းပူဇော်တတ်ကြ၏။ တရားရတနာမှာမူကား- ပုံသဏ္ဌာန် မထင်ရှားသောကြောင့် မည်သို့ မည်ပုံ လှူဒါန်းရ ပူဇော်ရမှန်း မသိဘဲ ရှိနေတတ်ကြသည်။

အချို့ တရားရတနာကို လှူဒါန်းပူဇော်သည့် အနေဖြင့် တရားတော်ကို ရည်မှတ်ကာ ဖော်ပြလတ္တံ့ပါအတိုင်း လှူဒါန်းပူဇော်ခဲ့ကြပါသည်—

- ပိဋကသုံးသွယ် နိကာယ်ငါးရပ် ကျမ်းစာမြတ်တို့ကို လှူဒါန်းခြင်း၊
- သာမှု, နာမှုကိစ္စများတွင် ကန်တော့ပွဲ သီးခြား အပိုထား၍ တရားဟော ဘုန်းကြီးအား လှူဒါန်းခြင်း၊
- "သဗ္ဗဒါနံ ဓမ္မဒါနံ ဇိနာတိ=ခပ်သိမ်းသော အလှူတို့တွင် တရား အလှူသည် အမြတ်ဆုံး"ဟူ၍ လည်းကောင်း, "အမတံဒဒေါ စ သော ဟောတိ၊ ယော ဓမ္မမနုသာသတိ= အကြင်ပုဂ္ဂိုလ်သည် တရားဖြင့် ဆုံးမ၏၊ ထိုပုဂ္ဂိုလ်သည် မသေရာ အမြိုက်နိဗ္ဗာန်ကို ပေးလှူသည်မည်၏"ဟူ၍လည်းကောင်း ဟောတော်မူသည့်အတိုင်း မိမိတို့သိသမျှ တဆင့်ဟောပြောခြင်း၊ ဟောပြောသည်ကို နာယူခြင်း၊
- ကျမ်းစာများကို ပြုစုရေးသားညွှန်ပြခြင်း၊ ကြည့်ရှုခြင်း၊
- ပရိယတ္တိစာမေးပွဲများ ကျင်းပ၍ မေးခြင်း၊ ဖြေခြင်း၊

- ပိဋကကျမ်းစာများကို သင်ကြားပို့ချခြင်း၊ သင်ယူခြင်း၊
- စုပေါင်းရွတ်ဆို၍ သင်္ဂါယနာတင်ခြင်း၊ ပေထက်အက္ခရာ, ကျောက်ထက် အက္ခရာတင်ခြင်း၊ ပုံနှိပ်ထုတ်ဝေခြင်း၊
- နူတ်ငုံဆောင်၍ ကျက်မှတ်ပြန်ဆိုခြင်း—

စသည်တို့ ဖြစ်၏။ ဤအရာအားလုံးသည် တရားကို ပူဇော်သောအားဖြင့် လှူဒါန်းပူဇော်ခြင်းများပင် ဖြစ်ပါသည်။ ဤနေရာတွင် ဘုရားရှင် လက်ထက် တော်က တရားတော်ကို မလှူဒါန်း မပူဇော်တတ်၍ ပုဏ္ဏားတစ်ယောက် ဘုရားရှင်ထံ လျှောက်ထားမေးမြန်းပြီး လှူဒါန်းပူဇော်ခဲ့ပုံ သာဓကတစ်ခုကို ဆက်လက်တင်ပြထားပါသည်—

"မြတ်စွာဘုရား.... ဘုရားရတနာနှင့် သံဃာရတနာတို့ကို ပူဇော် ရသည်မှာ ထင်ရှားပါသည်၊ တရားရတနာကို မည်ကဲ့သို့ ပူဇော်ရပါ မည်လဲ ဘုရား" ဟု ပုဏ္ဏားကြီးတစ်ယောက် ကျောင်းတော်သို့ လာ၍ လျှောက်၏။ လက်ထဲ၌ တစ်ထောင်တန် တိစီဝရိတ်သက်န်းလည်း ပါ၏။

ထိုအခါ ဘုရားရှင်က– "ပုဏ္ဏား....တရားတော်ကို ပူဇော်လိုလျှင် တရားတော်ကို များစွာ သိ၍ ဗဟုသုတရှိသော ရဟန်းတော်ကို ပူဇော်လေ" ဟု မိန့်တော်မူ၏။

ယင်းသို့ မိန့်တော်မူသဖြင့် ပုဏ္ဏားကြီးလည်း ကျောင်းတိုက် အတွင်း လှည့်လည်၍ သံဃာတော်များထံ ဗဟုသုတရှိသော ရဟန်း တော်ကို မေးလျှောက်လေရာ "ဓမ္မဘဏ္ဍာဂါရိက=တရားဘဏ္ဍာစိုးကြီး" ဖြစ်သူ "အရှင်အာနန္ဒာ" ကို ညွှန်ပြကြသဖြင့် တရားတော်ကို ရည်မှန်း၍ အရှင်အာနန္ဒာအား တစ်ထောင်တန် တိစီဝရိတ်သက်န်းဖြင့် လှူဒါန်း ပူဇော်လေသည် (ဓီ၊ ဋ္ဌ၊ ၃။ ၉၁)။

ဤသာဓကအရ ယခုကာလ၌ ဗုဒ္ဓဘာသာဝင်ပုဂ္ဂိုလ်များတို့သည် ကိုယ်စီကိုယ်င ရဟန်းသံဃာများကို ဆည်းကပ် ကိုးကွယ် ပူဇော်ကြရာ၌ ဘုရားရှင် ညွှန်ပြ နည်းပေးတော်မူသည့်အတိုင်း စာပေပရိယတ် သင်ယူခြင်း, တတ်မြောက်၍ ပို့ချခြင်း, ဟောပြောခြင်း, ကျမ်းစာများကို ပြုစုရေးသားခြင်း စသည်တို့ဖြင့် သာသနာ့တာဝန်ကို အမြဲ ထမ်းဆောင်နေသော ပုဂ္ဂိုလ်များကို ဆည်းကပ် ကိုးကွယ်၍ ဆွမ်း,သက်န်း,ကျောင်း,ဆေးတို့ဖြင့် ထောက်ပံ့လှူဒါန်းနေသူတို့ အဖို့ "ငါတို့သည် တရားရော သံဃာပါ တစ်ချက်ခုတ် နှစ်ချက်ပြတ် အမြဲပူဇော်

နေရပေသည်''ဟု မှန်ကန်သော ပူဇော်နည်းဖြင့် တရားတော်ကို ပူဇော်တတ်သော သာသနာ့ဒါယကာ သာသနာ့ဒါယိကာမအဖြစ် ဂုဏ်ယူဝမ်းမြောက်နိုင်ကြပါစေသော်။

**တရားတော်ကို ဘုရားရှင်ကိုယ်တိုင် ပူဇော်တော်မူခဲ့ခြင်း**

ဘုရားရှင်၏ တရားတော်မှန်က "သွာက္ခာတ"စသော ဂုဏ်ခြောက်ပါးနှင့် ပြည့်စုံ၏။ ယင်း ဂုဏ်ခြောက်ပါးနှင့် မပြည့်စုံလျှင် ဘုရားရှင်၏ တရား မဟုတ်၊ ဘုရား မဟုတ်သူ ဘုရားအတုတို့၏ တရားအတုသာ ဖြစ်၏။ ထို့ကြောင့် တရားစစ်၊ မစစ်၊ မှန်၊ မမှန် ဂုဏ်ခြောက်တန်ဖြင့် တိုက်ဆိုင် စစ်ဆေးကြည့်က သိနိုင်၏။ တကယ် တရားမစစ် တရားမမှန်က ဂုဏ်ခြောက်တန်ဖြင့် မှတ်ကျောက်တင် အစစ်အဆေးခံနိုင်မည် မဟုတ်ပါ။

"သွာက္ခာတ"စသော ဂုဏ်ခြောက်တန်ဖြင့် မှတ်ကျောက်တင် အစစ်အဆေးခံနိုင်သော ဘုရားရှင်၏ တရားတော်အစဉ်တို့ကား လိုက်နာ ကျင့်ကြံပူဇော်ကြသူများအဖို့ ဓမ္မရသကို လက်တွေ့သုံးဆောင် ခံစားကြရ၏။ ပညာရှိအသီးသီးတို့ အမျိုးမျိုး ကဲ့ပြားကြသော်လည်း ဓမ္မသဘောကို သိမြင်နားလည်ကြရာ၌ ထပ်တူထပ်မျှ တူညီကြ၏။ ယုံမှားမှုကို လွန်မြောက်နိုင်ကြ၏။ တရားတော်အပေါ်၌ မမှိတ်မသုန် ယုံကြည်မှုကြောင့် လူတိုင်းအား ဖိတ်ခေါ်၍ ပြချင်လောက်အောင် မွန်မြတ် ကောင်းမွန်၏။

ယင်းသို့သော ဂုဏ်အင်္ဂါ အရည်အချင်းတို့နှင့် ပြည့်စုံသော တရားတော်မြတ်ကို မပြတ်မလပ် ဆည်းကပ် ကိုးကွယ် ပူဇော်သူတို့မှာ "ရာဂ၊ ဒေါသ၊ မောဟ"စသော ကိလေသာ အပူမီးတို့၏ အငြိမ်းသိမ်းဆည်း၍ ငြိမ်းအေးရာ အမှန် အမတနိဗ္ဗာနရသကို ကောင်းစွာ သုံးဆောင် ခံစားနိုင်ကြမည် အမှန်ဖြစ်ပါသည်။ ဤ၌ ဘုရားရှင်ကိုယ်တော်တိုင်သည်ပင် မိမိသိပြီးသော တရားတော်ကိုသာ မှီခိုစရာ ဆရာအရာထား၍ အကြိမ်ကြိမ် အထပ်ထပ် မပြတ်မှီခဲ ပူဇော်ခဲ့ပုံ သာဓကကို ဆက်လက်တင်ပြထားပါသည်—

"ဘုရားရှင်သည် ဘုရားအဖြစ်သို့ ရောက်တော်မူပြီးနောက် ငါးပတ်မျှအကြာ "အဇပါလ သတ္တာဟ"၌ စံနေတော်မူစဉ် "လောက၌ ရှိသေကိုင်းညွတ်ဖို့ရာ အကြီးအကဲ မရှိဘဲ နေခြင်းသည် မသင့်လျော်ချေ၊ ကောင်းရဲ့အတိ ဖြစ်၏။ ငါသည် အဘယ် မည်သော သူကို အရှိအသေ အလေးအမြတ် ပြု၍ ဆည်းကပ်နေရပါမည်နည်း"ဟု ဆင်ခြင် စဉ်းစားတော်မူရာ လောကသုံးပါးတွင် ဘုရားရှင်၏ ဆည်းကပ်ရှိသေမှု ခံနိုင်မည့်သူ (ဆရာတင်လောက်သူ)ကို တစ်ဦးတလေမျှပင် မြင်တော်မမူပါ၊ တန်းတူရည်တူသူများကိုလည်း မြင်တော်မမူပါ။

ထိုအခါ "ကိုယ်တော်တိုင် ထိုးထွင်းသိမြင်အပ်ပြီးသော တရားတော်ကိုပင် မှီခိုအားထားရာ ဆရာတစ်ဆူ ပြု၍ အကြိမ်ကြိမ် အထပ်ထပ် မပြတ်မှီဝဲ ပူဇော်နေရတော့မည်" ဟု ကြံတော်မူကာ တရားတော်ကိုသာ အရိုအသေ အလေးအမြတ် ပြု၍ ပူဇော်နေတော်မူသည်။ ရှေးရှေးဘုရားရှင်တို့လည်း တရားတော်ကိုသာ အရိုအသေ အလေးအမြတ် ပြု၍ ပူဇော်နေတော်မူခဲ့သည်ကို မြင်တော်မူ၏[၁]။

ဤသာဓကအရ ဘုရားရှင် ကိုယ်တော်တိုင်လည်းပင် မှီခိုအားထားရာ ဆရာတစ်ဆူပြု၍ အရိုအသေ အလေးအမြတ်ထားကာ ပူဇော်နေခဲ့သော တရားတော်များကို အမြဲမပြတ် မှီဝဲ ဆည်းကပ် ပူဇော်နေခြင်းဖြင့် ဒုက္ခဟူ၍ မှုံမျှပင် မရောယှက်သော အမြတ်ဆုံးချမ်းသာ သန္တိသုခနိဗ္ဗာနခေတ်ကြီးကို မျက်မှောက်ထင်ထင် သိမြင်သုံးဆောင်နိုင်ကြပါစေ။ ထို့ပြင် တရားတော်ကို ပြက်ချော်ချော်ဟောပြော ပို့ချခြင်း, အသက်မွေးဝမ်းကျောင်းမှုတစ်ခုကဲ့သို့ လာဘ်ငွေယူ၍ အလျှုခံဟောပြောပို့ချခြင်း သင်ကြား နာယူသူတို့ကလည်း ပေါ့ပေါ့လျော့လျော့ နာယူခြင်း, နာယူစဉ် စကားပြော အိပ်ငိုက်လျက် ရှိခြင်း, လုံးဝမနာယူခြင်းစသော တရားတော်ကို မရိုမသေပြုသည့် စက်ဆုပ်ဖွယ်ကောင်းသော (ဓမ္မအဂါရဝ)အမှုများကို လုံးဝရှောင်ရှား၍ သာသနာတော် ဆုတ်ယုတ်ပျက်ပြားစေမည့် ဘေးမှ တားဆီးကာကွယ်ပေးနိုင်ကြပါစေ။

**ဘုရားရှင်ကိုယ်စား တရားတော်များအပေါ် အလေးထားပူဇော်သင့်ခြင်း**

"ဘုရား" ဟူသည် တရားကို မသိမီ, တရားမရှိမီက ဘုရားဖြစ်နေသည်မဟုတ်၊ သိဒ္ဓတ္ထမင်းသားသာလျှင် ဖြစ်၏။ သစ္စာလေးပါးတရားကို မဂ်ဉာဏ်,ဖိုလ်ဉာဏ်ဖြင့် သိ၍ ထူးခြားသော သီလ သမာဓိ, ပညာ, သဗ္ဗညုတဉာဏ်, မဟာကရုဏာဉာဏ် စသည်တို့ ရှိလာသည့် အချိန်မှ စ၍ "ဂုဏ်ကိုးပါးအရှင် ဘုရားသခင်" ဟူ၍ လောကသုံးပါးတွင် ထင်ရှား ဖြစ်ပေါ်လာရခြင်း ဖြစ်ပါသည်။ ထို့ကြောင့် ဘုရားရှင်သည် မိမိကိုယ်တော်တိုင် ထိုးထွင်း သိပြီးသော (ဝါ) မိမိအား ဘုရားအဖြစ်သို့ ရောက်စေခဲ့သော တရားတော်များကို မှီခို အားထားရာအဖြစ် အကြိမ်ကြိမ် အထပ်ထပ် မပြတ်မှီဝဲ ပူဇော်နေခဲ့ပါသည်။

ဘုရားရှင်သည် မိမိတစ်ပါးတည်းသာ တရားတော်ကို အမြဲမပြတ် ပူဇော်နေခဲ့သည် မဟုတ်။ မိမိ၏ တပည့်သာဝကများကိုလည်း (ပုဂ္ဂိုလ် ကိုးကွယ်ဆည်းကပ်မှုကို ဦးစား မပေးဘဲ) မိမိ (ဘုရားရှင်)ကဲ့သို့ပင် တရားတော်ကိုသာ ဦးစားပေး၍ အမြဲမပြတ် မှီဝဲဆည်းကပ် ပူဇော်နေကြရန် တိုက်တွန်း မိန့်ကြားတော်မူခဲ့ပါသည်။

---

၁။ သံ၊အ၊၁၄၀။ အံ၊၁။၃၂၇။ ဗုဒ္ဓဝင်၊ ဒု-တွဲ။ ၃၇၇။

"ရဟန်းတို့....ငါ၏ သင်္ကန်းစွန်းကို ကိုင်ဆွဲ၍ ထက်ကြပ်မကွာ ခြေရာနင်းလျက် ငါ၏ နောက်မှ လိုက်ပါသော်လည်း အလိုရမ္မက်ကြီးသူ၊ ကာမအာရုံတို့၌ တပ်မက်အားကြီးသူ၊ စိတ်ဆိုး စိတ်ပျက်သူ၊ ဖျက်လို ဖျက်ဆီးစိတ်ရှိသူ၊သတိလွတ်သူ(အမှတ်မဲ့နေသူ)၊အဆင်ခြင်ဉာဏ် မရှိသူ၊ တည်ငြိမ်မှုမရှိ (မျောက်ကဲ့သို့)စိတ်ယောက်ယက်ခတ်သူ (တုန်လှုပ်သူ)၊ ဣန္ဒြေမရှိသူ၊ ပြကတေ့သွင် ပေါ်လွင်သော အမူအရာရှိသူ ဖြစ်ငြားအံ့။

ထိုရဟန်းသည် ငါဘုရားနှင့် ဝေးသူ မည်၏။ ငါဘုရားသည်လည်း ထိုရဟန်းနှင့် ဝေးသူ မည်၏။ ရဟန်းတို့....အဘယ့်ကြောင့်နည်းဟူမူ—

ထိုရဟန်းသည် စင်စစ် တရားတော်ကို (မြင်အောင် မကျင့်မကြံ မကြည့်၍) မမြင်၊ တရားတော်ကို မမြင်သူသည် ငါဘုရားကို မမြင်နိုင်သောကြောင့်ပင်တည်း (ဣတိဝုတ်၊ သင်္ဃာဋိကဏ္ဏသုတ်။ ၂၅၆)။

ဘုရားရှင်သည် ဖော်ပြခဲ့ပြီးသော နည်းအတိုင်းပင် "အရှင်ဝက္ကလိ"မထေရ်ကိုလည်း မိန့်တော်မူခဲ့ဖူးပါသည် (ဓမ္မ၊ဋ္ဌ၊၂။၁၇၀)။ ဘုရားရှင်၏ တရားတော်အပေါ် အလေးထားမှုမှာ ဤမျှသာ မဟုတ်ပါ။ နောက်ဆုံး ပရိနိဗ္ဗာန်စံလုနီးအချိန်သို့ ရောက်သော အခါ၌ပင် သာသနာတော်ကို အရှည်ခံ၍ တည်တံ့ထွန်းကားရေးကို ရှေးရှုလျက် မိမိ(ဘုရားရှင်)၏ ကိုယ်တော်စားအဖြစ် တပည့်သာဝက ရဟန်းတော် တစ်ပါးပါးကိုမျှ ထားရစ်တော်မူခြင်း မရှိဘဲ တရားတော်ကိုသာ မိမိ(ဘုရားရှင်)၏ ကိုယ်တော်စား ဘုရားအဖြစ် ထားတော်မူခဲ့ကြောင်း (မဟာပရိနိဗ္ဗာနသုတ်၌) အရှင်အာနန္ဒာအား ကိုယ်တော်တိုင် မိန့်မြွက်တော်မူခဲ့ပါသည်—

"ချစ်သား အာနန္ဒာ....ငါဘုရားသည် သုတ်နှင့်အဘိဓမ္မာတရားတော်ကိုလည်း ဟောတော်မူပြီးခဲ့ပြီ၊ ဝိနည်းတရားတော်ကိုလည်း ပညတ်တော်မူပြီးခဲ့ပြီ။ ထို သုတ်၊အဘိဓမ္မာ၊ဝိနည်း (ပိဋကသုံးပုံ) တရားတော်များသည် ငါဘုရား ပရိနိဗ္ဗာန်စံ၍ မရှိတော့သည့်အခါ သင်ချစ်သားတို့အတွက် ဘုရားအဆူဆူဖြစ်၍ ကျန်ရစ်လိမ့်မည်၊ တရားတော်ကို ဘုရားအဖြစ် မှီဝဲပူဇော်နေရစ်ကြ"ဟု မိန့်တော်မူလိုရင်း ဖြစ်ပါသည်။

ဤစကားတော်များအရ ဘုရားရှင်သည် ပုဂ္ဂိုလ်ရေး အလေးထား ကိုးကွယ်ဆည်းကပ်မှုကို လုံးဝလိုလားတော်မမူဘဲ တရားတော်ကို အလေးထား ကိုးကွယ်ဆည်းကပ်မှုကိုသာ လိုလားတော်မူကြောင်း ထင်ရှားပေါ်လွင်လျက် ရှိပါသည်။ ထို့ကြောင့် ဘုရားရှင်၏ အလိုတော်ကျ ဂုဏ်တော် ခြောက်တန်နှင့် အမှန်

ပြဒ္ဒိဝသော တရားတော်များကို ဟောပြော ပို့ချ ညွှန်ကြားပြသခြင်း,သင်ကြား နာယူ မှတ်သား လိုက်နာခြင်း, ကျင့်ကြံ ပွားများ အားထုတ်ခြင်းတို့ဖြင့် အကြိမ်ကြိမ် အလပ်ထပ် အထူးအလေးထား၍ မပြတ်မှိဝဲပူဇော်သင့်ကြပါသည်။

ယခုအခါ ဘုရားရှင် သက်တော် ထင်ရှား ( ပုဂ္ဂလဗုဒ္ဓ ) မရှိတော့သဖြင့် ဘုရားရှင်၏ သပ္ပါယ်သော အဆင်းကိုလည်း ဖူးမြင်နိုင်ခွင့် မရှိ၊ သာယာသော အသံတော်နှင့် ဂုဏ်သတင်းကိုလည်း ကြားနာနိုင်ခွင့် မရ၊ ခြိုးခြံသော အကျင့် ကိုလည်း ကိုယ်တိုင်ကိုယ်ကျ တွေ့နိုင်ကြသည်မဟုတ်၊ ဘုရားရှင်ဟောကြားထား တော်မူခဲ့သော တရားတော်များ (ဓမ္မဗုဒ္ဓ)ကိုသာ စံထားနိုင်သော ခေတ်ဖြစ်၍ ဘုရားရှင်ကိုယ်စား တရားတော်များအပေါ် အထူး အလေးအနက် ထားကာ မပြတ်မှိဝဲ ပူဇော်သင့်ကြပါသည်။

**တရားတော်၏ အကျိုးရ သာဓကများ**

တရားတော်ကို ပူဇော်ခြင်းဟူသည် အခြား မဟုတ်၊ တရားတော် အတိုင်း ဟောပြောပို့ချညွှန်ကြားပြသခြင်း, သင်ကြား နာယူ မှတ်သား လိုက်နာခြင်း, ကျင့်ကြံပွားများအားထုတ်ခြင်းတို့ ဖြစ်၏။ ယင်းသို့ တရားတော်ကို အမြဲမပြတ် မှိဝဲ ပူဇော်ဆည်းကပ်နေသူတို့သည် နေ၏အပူဒဏ်ကို မိမိဆောင်းသော ထီးက အကာအကွယ် ပေး၍ ငြိမ်းအေးစေသကဲ့သို့ တရားတော်၏ ပြန်လည်စောင့် ရှောက်မှုအကျိုးကို ကောင်းစွာ ရနိုင်၏။ တရားတော်အလှူ ပေးခြင်းသည် မသေဆေးကို တိုက်ကျွေးသည်နှင့် တူ၏။ မသေရာ နိဗ္ဗာန်သို့ ရောက်ရာ ရောက်ကြောင်း အထောက်အပံ့ကောင်း ဖြစ်နိုင်၏။ တရားတော်ကို သင်ယူ မှတ်သားနာကြားရသူတို့အဖို့ကား ကြားနာရုံမျှဖြင့်ပင်—

(၁) မကြားဖူးသည်ကို ကြားနာရခြင်း၊

(၂) ကြားဖူးပြီးသောအရာများ ထပ်မံ၍ ရှင်းလင်းခြင်း၊

(၃) ယုံမှားမှု တင်းလျှော့ခြင်း၊

(၄) အယူအမြင် ဖြောင့်မှန်ခြင်း၊

(၅) စိတ်ကြည်လင်ခြင်း[၁]—

ဟူသော အကျိုးငါးပါးကို လက်ငင်းဗိုဋ် ရနိုင်ပြီး သေလွန်သောအခါ နတ်ရွာ သုဂတိသို့ ရောက်နိုင်၏။ တရားတော်ကို ကျင့်ကြံပွားများအားထုတ်လျှင် တရား

[၁] ပ. အံ၊ ၂၊ ဓမ္မဿဝနသုတ်။ ၂၁၆။

ထူးများ ရရှိ ဓုက္ခခပ်သိမ်း ချုပ်ငြိမ်းရာ နိဗ္ဗာန်ခေတ် ချမ်းသာမြတ်ကို တပ်အပ်သေချာ ရရှိခံစားနိုင်ကြ၏။ အထူးသဖြင့် ဘုရားရှင် ဟောကြားတော်မူသော ဓမ္မဇောင်တရားဖြင့် အရှင်မဟာကဿပနှင့် အရှင်မောဂ္ဂလ္လာန်တို့ ပြင်းထန်သော ဝေဒနာမှ ပျောက်ကင်းမှုအကျိုးကို ရခဲ့ကြ၍ အရှင်စုန္ဒမထေရ် ရွတ်ပွားသော ဓမ္မဇောင်တရားဖြင့် ဘုရားရှင် ကိုယ်တော်တိုင်လည်း ပြင်းထန်သော ဝေဒနာမှ ချက်ချင်းလက်ငင်း အမြစ်ပြတ် ပျောက်ကင်းမှုအကျိုးကို ရတော်မူခဲ့ပါသည်။ ဤအကျိုးတရားများကို တကယ် ရနိုင်၊ မရနိုင် မယုံလျှင် "ဟေိ=လာစမ်းပါ၊ လိုက်ခဲ့စမ်းပါ၊ ပဿိက=ရှုကြည့်စမ်းပါ၊ ကျင့်ကြည့်စမ်းပါ"ဟု ရဲရဲတောက် ဖိတ်ခေါ်ထိုက်သော တရားတော်များဖြစ်ပါသည်။

## တရားတော်အလှူ၏ မြင့်မြတ်ပုံအကြောင်း

"ဓမ္မဒါန=တရားအလှူ"ဟူသည် မိမိတို့ တတ်သမျှ မှတ်သမျှ တဆင့်ပြန်လည်၍ ဟောပြော သင်ကြား ရေးသား ညွှန်ပြခြင်း၊ စာပေကျမ်းဂန်များကို သင်ကြားပို့ချခြင်း၊ တရားတော်နှင့် ဆိုင်ရာပြဿနာကို ဖြေရှင်းခြင်းနှင့် ကမ္မဋ္ဌာန်းတရားကို ညွှန်ကြားပြသခြင်းစသည့်(ဓမ္မဒေသနာ)လုပ်ငန်းများဖြစ်၏။ ယင်းသို့ပြုခြင်းသည် တရားတော်ကို ပူဇော်ခြင်း (ဓမ္မပူဇာ)လည်း မည်၏။ ဤဓမ္မဒါန၊ ဓမ္မပူဇာကုသိုလ်များ၏ အကျိုးတရား ထူးခြား ကြီးမြတ်ပုံကို ကျမ်းဂန်ထို၌ ဖော်ပြလတ္တံ့ပါအတိုင်း ပြဆိုထားပါသည်—

> "စကြဝဠာ တခုလုံးပြည့် ဗြဟ္မာ့ပြည်တိုင်အောင် သီတင်းသုံးတော်မူကြသည့် ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ ရဟန္တာပုဂ္ဂိုလ်တို့အား အဝတ်သင်္ကန်းများအစေ့အငှ ပေးလှူစေကာမူ ယင်းအလှူထက် အစည်းအဝေးတစ်ခု (တရားပွဲတစ်ခု)၌ လေးပါဒရှိ တစ်ဂါထာ အနုမောဒနာ တရားအလှူကပင် သာလွန် မြင့်မြတ်သည်။ တစ်ဆယ့်ခြောက်စိတ် တစ်စိတ်ပင် မမီနိုင်။

ဒါနပြုသူဟူသမျှ တရားတော်ကို နာကြရ၍သာ ဒါနပြုကြကုန်၏။ အရှင်သာရိပုတ္တရာ-စသော မထေရ်မြတ်တို့ဘည်လည်း မိမိတို့ သတော အလျောက် သောတာပတ္တိဖိုလ်စသည့်တို့ကို ရကြသည်မဟုတ်၊ "အရှင်အဿဇိ" စသော မထေရ်တို့၏ ဓမ္မဒေသနာကြောင့်သာ ရကြပေသည် (ဓမ္မပဒဋ္ဌ၊ ၂၊၃၅၂)။

---

၁။ ထါ၊၃၊၇၃။

**တရားတော်နာရ၍ သောကအပူမီးများ ငြိမ်းပျောက်ရသော မင်းတစ်ပါး**

တရားနာခြင်း အကျိုးငါးပါးတွင် "စိတ်ကြည်လင်ခြင်း" အကျိုးမှာ လွန်စွာအရေးပါလှ၏။ စီးပွားရေး, ပညာရေး, ကျန်းမာရေး, ဆွေရေး,မျိုးရေး စသည်တို့ကြောင့် စိတ်မချမ်းမသာ ဖြစ်၍ စိတ်ညစ် စိတ်နောက် သောက ရောက်နေသောအခါကား တရားနာရန် အထူးသင့်လျော်သော အခါတည်း။ ပကတိသော ရေသည် ပကတိသော အပူမီးကို ငြိမ်းအေးစေနိုင်သကဲ့သို့ တရားတည်းဟူသော ရေစင်ရေအေးသည် သောက, ပရိဒေဝ စသော အပူမီး များကို ငြိမ်းသတ်ပေးနိုင်၏။ တရားရေစင်ကို နားတွင် ကြားနာလိုက်ရုံဖြင့် သောက,ပရိဒေဝ-စသော အပူမီးတွေ တခဏချင်း ငြိမ်းအေးပျောက်ကင်းနိုင်၏။ ဤ၌ တရားတော်နာရ၍ သောကအပူမီးများ ငြိမ်းပျောက်ရသော မင်းတစ်ပါး အကြောင်းကို ဆက်လက်ဖော်ပြထားပါသည်—

"အရှင် နာရဒ"မထေရ်သည် "ပါဋလိပုတ်" ပြည်၌ သီတင်းသုံးစဉ် "မုဏ္ဍမင်း"၏ ချစ်မြတ်နိုးအပ်သော မိဖုရား "ဘဒ္ဒါ" စုတေခဲ့၏။ "မုဏ္ဍ မင်း"သည် ရေမချိုး, မဖီးမလိမ်း, အစာ မစား, အလုပ် မလုပ် နေ့ရော ညဉ့်ပါ "ဘဒ္ဒါ" ၏ အလောင်း၌သာ နစ်မျောနေခဲ့၏။

"ဘဒ္ဒါ"၏ အလောင်းကို ကြာမြင့်စွာ မြင်ရအောင် သံဖြင့်ပြီးသော ဆီစကျင်း၌ ထည့်သွင်းကာ အပေါ်က သံစကျင်းဖြင့် အုပ်ထားရန် ဘဏ္ဍာစိုး "ပိယက" အား အမိန့်ပေးရာ ထိုအတိုင်း ပြုလုပ်ပေး၏။ ထို့နောက် မင်းကြီး သောကပျောက်ဖို့အတွက် အရှင်နာရဒ မထေရ်ထံ ဆည်းကပ်ရန် အကြံပေး လျှောက်ထားရာ မင်းကြီးလည်း သဘောတူ လက်ခံကာ အရှင်နာရဒ မထေရ်ထံမှောက် ရောက်လာလေ၏။

အရှင်နာရဒ-က– "မင်းကြီး.... လောက၌ ရဟန်း, ပုဏ္ဏား, နတ်, ဗြဟ္မာ ဘယ်သူမျှ မရကောင်းသော အရာဌာန ငါးမျိုးရှိ၏။ ငါးမျိုးမှာ အိုခြင်းသဘောရှိသော အရာ, နာခြင်းသဘောရှိသော အရာ, သေခြင်း သဘောရှိသော အရာ, ကုန်ခန်းတတ်သော သဘောရှိသော အရာ, ပျက်စီးတတ်သော သဘောရှိသော အရာတို့ ဖြစ်၏။ ထိုအရာတို့ကို 'မအို,မနာ,မသေ, မကုန်ခန်း, မပျက်စီးပါနှင့်'ဟု ဘယ်သူမျှ တားမြစ်၍ မရကောင်း"ဟု ဟောတော်မူ၏။

ထို့နောက် ပုထုဇဉ်နှင့် အရိယာတို့ ထိုသဘောမျိုး တွေ့ကြုံရသော အခါ မတူကွဲပြား ခြားနားပုံကို ဆက်လက် ဟောပြတော်မူ၏။

အချုပ်မှာ– ပုထုဇဉ်သည် မိမိနှင့် ပတ်သက်သော အရာဝတ္ထုတို့ ဆိုးခြင်း, နာခြင်း, သေခြင်း, ကုန်ခန်းခြင်း, ပျက်စီးခြင်းတို့နှင့် ကြုံရသော အခါ ဤ ဆိုးခြင်း, နာခြင်း စသည်မှာ ငါတစ်ယောက်သာ ကြုံရသည် မဟုတ်၊ အားလုံး ကြုံရသည်ချည်း ဖြစ်၏။ ငါက စိုးရိမ်ပူဆွေး ငိုကြွေး မြည်တမ်းနေလျှင် အစားပျက်, အလုပ်ပျက်, ရုပ်ဆင်းပျက်ရုံသာ၊ ရန်သူတွေ ဝမ်းသာအားရ, မိတ်ဆွေတွေ ဝမ်းနည်း စိတ်မကောင်း ဖြစ်ကြလိမ့်မည်ဟု မစဉ်းစားတတ်၍ စိုးရိမ်ပူဆွေး ငိုကြွေးကြရ၏။ စိုးရိမ်ပူဆွေးငိုကြွေးခြင်းဖြင့် အဆိပ်လူးထားသော သောကမြှောင့်ကြီး အစူးခံကြရ၏။

အရိယာတို့ကား စဉ်းစားတတ်၍ မစိုးရိမ် မပူဆွေး မငိုကြွေးကြဘဲ သောကမြှောင့်ကြီးကို နုတ်ပစ်နိုင်ကြ၏။

သောကမြှောင့်ကြီး စူး၍ ပုထုဇဉ်မှာ ပူရ၏။ သောကမြှောင့် စူးခြင်းမှ လွတ်ကင်း၍ အရိယာမှာ ငြိမ်းအေးရသည်။

ဤတရားကို "မုဏ္ဍမင်းကြီး" ကြားနာရသောအခါ "ဒါ ဘာတရား ပါလဲ"ဟု မေးလျှောက်၏။ "သောကမြှောင့်နုတ် တရားဟု မိန့်ကြား သော် "တကယ်ပဲ သောကမြှောင့်နုတ် တရားပါဘုရား၊ ဤတရား ကြားနာရသည့် အတွက် တပည့်တော်၏ သောကမြှောင့်ကြီး နုတ်ပယ်ပြီး ဖြစ်ပါပြီ"ဟု လျှောက်ပြီးနောက် ဘဏ္ဍာစိုး "ပိယက"အား အမိန့်ပေးသည်မှာ– "ဘဒ္ဒါ"၏ အလောင်းကို မီးသင်္ဂြိုဟ်လိုက်တော့၊ ငါ ယနေ့မှ စ၍ ရေချိုး နံ့သာလိမ်း ပွဲတော်သုံး၍ အလုပ်လုပ် တော့မည်" ဟူ၍ ဖြစ်၏။ (အံ၊ ၂၊ နာရဒသုတ်။ ၅၀-၃ အကျယ် ကြည့်ပါ။)

ဤသာဓကလာ "မုဏ္ဍမင်းကြီး"ကို အစထား၍ ဘုရားရှင်၏ တရားတော် အကြောင်းကို ကောင်းကောင်း သိသူ, တရားတော်ကို နာရ၍ သောက, ပရိဒေဝ အပူမီးများ ငြိမ်းအေးခွင့်ရသူ အဘယ်လူ အဘယ်နတ် အဘယ် ဗြဟ္မာ အဘယ်သတ္တဝါတို့သည် အဘယ်မှာလျှင် တရားတော်ကို မဆည်းကပ် မကိုးကွယ် မပူဇော်ဘဲ နေနိုင်ပါအံ့နည်း၊ စွမ်းနိုင်သမျှ ဟောပြော သင်ပြခြင်း, သင်ကြားနာယူခြင်း, ကျင့်ကြံခြင်းတို့ဖြင့် တရားတော်များ တည်တံ့ပြန့်ပွား ထွန်းကားရန် ယုံကြည်လေးမြတ် အသက်အပ်၍ ဆည်းကပ်မြတ်နိုး အမျိုးမျိုး ပူဇော်ထိုက်လှပါသည်။

**တရားတော်နာရ၍ နတ်သားဖြစ်ရသော ဖားတစ်ကောင်အကြောင်း**

ဘုရားရှင်၏ တရားတော်ကို နာကြားရ၍ သေသည်၏ အခြားမဲ့၌ နတ်သား အဖြစ်သို့ ရောက်ရသော ဖားတစ်ကောင် အကြောင်းကို ဆက်လက် ဖော်ပြ အပ်ပါသည်—

> အခါတပါး၌ ဘုရားရှင်သည် ရဟန်းအပေါင်း ခြံရံလျက် "စမ္ပာပြည်" "ဂဂ္ဂရာရေကန်" ၏အနီး ကျောင်းတိုက်ကြီးတွင် သီတင်းသုံး နေတော်မူ၏။ တနေ့သ၌ ဘုရားရှင်သည် မိုးသောက်ထအခါ သတ္တလောကကို ကြည့်ရှု ဆင်ခြင်တော်မူလေသော် ယနေ့ ညနေချမ်း အခါ၌ တရားဟောလျှင် တရားနာသော ဖားငယ်တစ်ကောင်ကို အကြောင်းပြု၍ သတ္တဝါအများ သစ္စာလေးပါး တရားသိမြင် ကျွတ်တမ်း ဝင်ကြမည်ကို သိမြင်တော်မူ၏။
>
> ညနေချမ်းအချိန်သို့ ရောက်လျှင် စမ္ပာပြည်၊ ဂဂ္ဂရာရေကန်အနီးရှိ တရားမဏ္ဍပ်သို့ ကြွတော်မူကာ ပရိသတ်အပေါင်းတို့အား တရားဒေသနာ ဟောမိန့်တော်မူ၏။
>
> ထိုခဏ၌ ဖားငယ်တစ်ကောင်သည် ရေကန်မှ တက်၍ "ဤအသံကား 'ဓမ္မ=တရား' ကို ဟောသောအသံ ဖြစ်၏" ဟု တရားသံ၌ အာရုံနိမိတ် ယူကာ ပရိသတ်အစွန်အဖျား၌ ဝပ်လျက် နာယူနေသည်။
>
> [တိရစ္ဆာန်များမှာ လူတို့ကဲ့သို့ တရားသဘောကို နှစ်နှစ်ကာကာ "ဝိညာဏ်သိ, ပညာသိ" သဘောမျိုးဖြင့် မသိကြသော်လည်း "ဤအသံကား ဓမ္မသံ=တရားသံ, ဤအသံကား အဓမ္မသံ= မတရားသံ, ငါတို့ကို နှိပ်စက်ရန်မူမည့်အသံ" ဟူ၍ "သညာသိ" မျှဖြင့်ကား သိနိုင်ကြသည်။]
>
> ထိုအခါ နွားကျောင်းသား တစ်ယောက်သည် ထိုအရပ်သို့ ရောက်လာလျက် ဘုရားရှင် တရား ဟောနေတော်မူသည်ကိုလည်း ကောင်း, ပရိသတ်များ အလွန် ငြိမ်းချမ်းစွာ တရားနာနေသည်ကို လည်းကောင်း မြင်၍ ဘုရားရှင်နှင့် တရားနာပရိသတ်သို့ စိတ်အာရုံ ရောက်ရှိကာ (စိတ်ဝင်စားကာ) မိမိ၌ ပါလာသော တုတ်နှင်တံ (တုတ်တံ ဖျာ)ကို ထောက်၍ အမှတ်တမဲ့ ရပ်တည်လေလျှင် ဖားငယ်ကို မကြည့် မိဘဲ ထိုဖားငယ်၏ ဦးခေါင်းပေါ်၌ ထောက်မိ၍ ရပ်တည်မိလေ၏။

ဖားငယ်သည် ထိုခဏမှာပင် သေလွန်၍ အိပ်စက်ရာမှ နိုးလာသော သူကဲ့သို့ တာဝတိံသာနတ်ပြည်၌ နတ်သားဖြစ်ရ၏။ တစ်ဆယ့်နှစ်ယူဇနာရှိသော ရွှေဗိမာန်၌ နတ်သမီးအပေါင်း ခြံရံလျက် နတ်စည်းစိမ်ကို ခံစားနေရ၏။

ဖားနတ်သားသည် လူများအပေါင်း ကြည့်ရှုနေစဉ် ထိုခဏမှာပင် များစွာသော နတ်သမီး အခြံအရံ, ကြီးစွာသော နတ်အာနုဘော်ဖြင့် ဘုရားရှင်ထံမှောက် လာရောက်၍ အကြောင်းစုံကို လျှောက်ထား ပြီးနောက် ဘုရားရှင်ထံမှ အကျယ်ဟောပြသော တရားဒေသနာကို နာကြားခဲ့ရာ သတ္တဝါအပေါင်း ရှစ်သောင်းလေးထောင်တို့ သစ္စာလေးပါး တရားသိမြင် ကျွတ်တမ်းဝင်ကြကာ ဖားနတ်သားမှာ သောတာပန်အဖြစ်သို့ ရောက်လေသည် (ဝိမာန၊၂၀၁။ ဝိ၊ဋ္ဌ၊၁၊၉၄)။

တရားတော်၏ အကျိုးအာနိသင်ကား အံ့ဖွယ်ရှိစွတကား။

တရားဂုဏ်တော်ဖွင့် ပြီး၏။

## သံဃာဂုဏ်တော်ကိုးပါး

### ၁။ သုပ္ပဋိပန္နဂုဏ်တော်

သုပ္ပဋိပန္န= (သု+ပဋိပန္န။ သု=ကောင်းစွာ+ပဋိပန္န=ကျင့်တော်မူသော သံဃာတော်။ "သုပ္ပဋိပန္န"ကို "သုပ်ပဋိပန်န"ဟု အသံထွက်ဖတ်ပါ။)

ဘုရားရှင်၏ တပည့်သာဝက သံဃာတော်အပေါင်းသည် ဘုရားရှင်၏ အဆုံးအမသာသနာတော်ဝယ် ဆုံးမတော်မူသော တရားဟူသမျှကို ဆုံးမတော်မူသည့်အတိုင်း တစ်သဝေမတိမ်း လိုက်နာ၍ ကောင်းစွာ ကျင့်ကြံတော်မူသောကြောင့် "သုပ္ပဋိပန္န"ဟူသော ဂုဏ်တော်နှင့် ပြည့်စုံတော်မူကြပါသည်။

[ဤ၌ ဘုရားရှင်၏ အဆုံးအမတော်အတိုင်း မပယ်မလှန် ရိုသေစွာ နာခံသော ပုဂ္ဂိုလ်ကို မြန်မာလို "တပည့်", ပါဠိလို "သာဝက"ဟု ခေါ်၏။ မြန်မာနှင့်ပါဠိ တွဲ၍ "တပည့်သာဝက"ဟုလည်း သုံးကြ၏။

ယင်းတပည့် သာဝကများ၏ အစုအရုံး အသင်းအဖွဲ့ အပေါင်းအစုကို "သံဃာ"ဟု ခေါ်၏။ အယူဝါဒသီလသိက္ခာအားဖြင့် မကွဲမပြားတူညီကြသော ပုဂ္ဂိုလ်တို့၏ အပေါင်းအစုဟု ဆိုလို၏။ ယင်းသံဃာသည် မဂ်ဖိုလ် တရားထူးကို ရ၍ အရိယာ အဖြစ်သို့ ရောက်ပြီးသော "အရိယာ သံဃာတော်", အရိယာအဖြစ်သို့ မရောက်သေးသော "ပုထုဇဉ် သံဃာတော်" ဟူ၍ နှစ်မျိုး ကွဲပြား၏။ ထိုတွင် အရိယာသံဃာကို "မုံချသံဃာ, ပရမတ္ထသံဃာ"ဟု ခေါ်သည်။ ပုထုဇဉ်သံဃာကို ပရိယာယသံဃာ, သမ္မုတိသံဃာ"ဟု ခေါ်သည်။ ပုထုဇဉ်သံဃာတော်များမှာ အရိယာ သံဃာတော်များ ကျင့်သည့် အကျင့်သိက္ခာကို ဖြည့်ကျင့်နေခြင်း၊ ဉတ္တိစတုတ္ထကမ္မဝါစာဖြင့် ရဟန်းအဖြစ်သိက္ခာ[illegible]င်ပေးထားခြင်းဖြင့် သံဃာအဖြစ် သမုတ်ထားသောကြောင့် သမ္မုတိသံဃာ-ဟု ခေါ်ပါသည်။

အရိယာသံဃာတော်သည် ကောင်းသော အကျင့်ကို ကျင့်ခြင်းဟူသော "သုပ္ပဋိပန္န" ဂုဏ်ကို အမြဲရနေ၏။ ပုထုဇဉ်သံဃာတော်ကား တမင်တကာ ကြိုးစား၍ ကောင်းသော အကျင့်ကို ကျင့်နိုင်သူသာ "သုပ္ပဋိပန္န" ဂုဏ်ကို ကောင်းစွာ ရနိုင်၏။ ဤ၌ သံဃာဟူသည် အပေါင်းအစု ဆိုကာမျှဖြင့် ရဟန်း ပုဂ္ဂိုလ်တို့၏ အပေါင်း မဟုတ်ဘဲ "သံဃာ" မဖြစ်နိုင်သလို သိက္ခာတင် သိမ်ဝင်မှု မရှိဘဲ လူသာမန်တို့က သမုတ်ကာမျှဖြင့်လည်း "သမ္မုတိသံဃာ" မဟုတ်သည်ကို သတိပြုပါ။]

**ကောင်းစွာ ကျင့်တော်မူခြင်း**

"ကောင်းစွာ ကျင့်ခြင်း"ဟူသည် ဝိနည်းတော်၌ လာသော သိက္ခာပုဒ် သီလကို မကျိုးမပေါက်ရအောင် ကျင့်ခြင်း, သမထဘာဝနာကမ္မဋ္ဌာန်း တစ်မျိုးမျိုးကို အားထုတ်သောအားဖြင့် သမာဓိ "စိတ်တည်ကြည်မှု" ရအောင် ကြိုးစားခြင်း, ဝိပဿနာဘာဝနာကမ္မဋ္ဌာန်းကို အားထုတ်သောအားဖြင့် ရုပ်နာမ်ခန္ဓာအပေါ်၌ အသိမှန် အမြင်မှန် ပညာတရား တိုးပွားအောင် ကြိုးစားခြင်း ဤသုံးမျိုးကို ကျင့်နေခြင်း, ကြံစည်နေခြင်း, ကြိုးစားခြင်း, အားထုတ်ခြင်းပင် ဖြစ်၏။ ဤသို့ ကျင့်ကြံကြိုးကုတ် အားထုတ်ခြင်းကို "ပဋိပတ်" ဟူ၍ ခေါ်၏။

ထို့ပြင် ဘုရားရှင်၏ တပည့် သာဝက ရဟန်း သံဃာတော်များအတွက် ဘုရားရှင် ဟောပြော ဆုံးမသည့် တရားတော်များကို နာယူခြင်း, မှတ်သားခြင်း, မမေ့အောင် ဆောင်ထားခြင်း, တဆင့် ဟောပြသောအားဖြင့် ပို့ချခြင်း စသော အလုပ်များလည်း ရှိ၏။ ဤသို့ သင်ယူ မှတ်သား ဆောင်ထားခြင်းကို "ပရိယတ်"ဟူ၍ ခေါ်၏။ ထိုပရိယတ်အလုပ်ကို စိတ်ကောင်းစေတနာကောင်းဖြင့် ပြုလုပ်နေလျှင် လောဘ, ဒေါသ, မာန်မာန, ဣဿာ, မစ္ဆရိယ စသော အကုသိုလ်တရား အဖြစ်နည်းပါး၍ ကုသိုလ်တရား အဖြစ်များသောကြောင့် ကောင်းစွာ ကျင့်သည် မည်၏။

**ဘုရားရှင်၏ အမိန့်တော်ကို လွန်ဆန်တော်မမူခြင်း**

ဘုရားရှင်၏ တပည့်အစစ် ဖြစ်တော်မူကြသော အရိယာ သံဃာတော်အပေါင်းသည် တရားသဖြင့် ဆုံးမတော်မူရာ ဘုရားရှင်၏ သာသနာတော်၌ သင့်လျော်အောင် ထိုးပြ၍ ဆုံးမအပ်သော အဆုံးအမ သာသနာကို လုံးဝ ဥဿုံ အကုန်အစင် လိုက်နာ၍ ကောင်းမွန်စွာ ကျင့်ကြံတော်မူကြပါသည်။ အနည်းငယ်မျှ အပြစ်ကလေးကိုပင် အလွန်ကြီးသော အပြစ်ဟု ယူဆလျက် ရှောင်ကြဉ်တော်မူကြပါသည်။

ရစ်မသည်၊ သို့မဟုတ် တိတီတူးငှက်မသည် ဥမိမိ၏ အသက်ကို မငဲ့ဘဲ အဥကို စောင့်ထိန်းသကဲ့သို့လည်းကောင်း, စာမရီသားသည် မိမိ၏ မြီးဆံကို စောင့်ထိန်းသကဲ့သို့လည်းကောင်း, သားတစ်ယောက်သာ ရှိသော မိခင်သည် တစ်ဦးတည်းသော သားချစ်ကို စောင့်ထိန်းသကဲ့သို့လည်းကောင်း, မျက်စိတစ်ဖက်သာ ရှိသူသည် ကျန်တစ်ဖက်ကို စောင့်ထိန်းသကဲ့သို့ လည်းကောင်း, ထို့အတူ ဘုရားရှင် ပညတ်တော်မူထားသော သီလတော်များကို အစဉ် စောင့်ထိန်းသူ

အလွန်ချစ်ခင်သူ အခါခပ်သိမ်း ရှိသေလိုက်နာသူများ ဖြစ်တော်မူကြပါသည်။ ဤ၌ "အရှင်သာရိပုတ္တရာ၏ ဆုံးသဖုက"မှာ လွန်စွာ မှတ်သားကြည်ညိုသဖွယ် ပွားဖွယ် ကောင်းလှပါသည်။

"တရံရောအခါ အရှင်သာရိပုတ္တရာ မထေရ်မြတ်သည် အရဟတ္တဖိုလ် ဝင်စား၍ အရှင်မောဂ္ဂလ္လာန် မထေရ်ကြီးနှင့်အတူ တောအုပ်တစ်ခု၌ သီတင်းသုံးနေတော်မူ၏။ တစ်နေ့သောအခါ အရှင်သာရိပုတ္တရာမထေရ် မြတ်မှာ လေနာထ၍ ဆင်းရဲဒုက္ခရောက်နေရရှာ၏။

အရှင်မောဂ္ဂလ္လာန် မထေရ်ကြီးသည် ညနေချမ်း အချိန်တွင် အရှင် သာရိပုတ္တရာအား ပြုစုပေးရန် သတင်းမေး ရောက်လာရာ လျောင်းလျက် နေသော အရှင်သာရိပုတ္တရာမထေရ်ကို တွေ့ရ၏။

ရောဂါအခြေအနေကို မေးမြန်းပြီး "နောက်တုန်းက ဘယ်လို ဆေးဝါးမျိုးဖြင့် ချမ်းသာရာ ရဖူးသလဲ ငါ့ရှင်....''ဟု ဆက်လက် မေးမြန်းသောအခါ–

အရှင်သာရိပုတ္တရာ-က "လူ့ဘဝက မိခင်ဖြစ်သူ ချက်ကျွေးသော ထောပတ် ပျား သကာ ရောထားသည့် နို့ရည်သန့်သန့် ထမင်း (နို့ဃနာ)ဖြင့် ချမ်းသာရာ ရခဲ့ဖူးကြောင်း"ပြန်လည်ပြောပြလေသည်။

"ငါ့ရှင်...ဒီလိုဆို ကောင်းပြီ၊ အကယ်၍ ငါ့ရှင်အားလည်းကောင်း၊ ငါ့အားလည်းကောင်း ကံရှိခဲ့လျှင် ရှိလျှင် နက်ဖြန်ပင် ရများရနိုင်လေ မလား မသိဘူး"ဟု အရှင်မောဂ္ဂလ္လာန် မထေရ်ကြီးက အားပေးစကား ပြန်ကြားပြောဆို၏။

ထို မထေရ်နှစ်ပါး (အရှင်သာရိပုတ္တရာနှင့် အရှင်မောဂ္ဂလ္လာန်)တို့၏ အပြန်အလှန် ပြောနေကြသောစကားအစုံကို အနီးရှိ သစ်ပင်စောင့်နတ် ကြား၍ "နက်ဖြန် အရှင်သာရိပုတ္တရာအတွက် နို့ရည်ဆွမ်း (နို့ဃနာ)ကို ရအောင် ငါလုပ်မည်"ဟု ကြံကာ မကြာခင်မှာပင် အရှင်သာရိပုတ္တရာ၏ ဆွမ်းဒါယကာအိမ်သို့ သွားပြီး သားကြီး ဖြစ်သူကို ပူးငင် နှိပ်စက် လေသည်။ "နက်ဖြန် အရှင်သာရိပုတ္တရာအတွက် နို့ရည်ဆွမ်း (နို့ဃနာ) ချက်ခဲ့လျှင် ရှိလျှင် လွှတ်ပေးမည်"ဟုလည်း ပြောသည်။

ဆွမ်းဒါယကာ ဆွေမျိုးများက "ငါတို့ဟာ သင် မခိုင်းသော်လဲ မထေရ်အတွက် ဆွမ်းဝတ် အမြဲပြုနေသူများ ဖြစ်ကြောင်း ပြောကြား၍ နောက်နေ့၌ နယ်ပြောသည့်အတိုင်း နို့ရည်ဆွမ်း (နို့ဃနာ)ကို စီမံကြသည်။

အရှင်မောဂ္ဂလ္လာန် မထေရ်ကြီးသည် နောက်နေ့ စောစော သွား၍ အရှင်သာရိပုတ္တရာအား "ငါ့ရှင်.... ဆွမ်းခံရာမှ ငါပြန်လာသည်အထိ ဤအရပ်၌သာ စောင့်နေပါ" ဟု ပြောဆို မှာကြားပြီး ရွာထဲသို့ ဆွမ်းခံဝင်တော်မူသည်။

အရှင်သာရိပုတ္တရာ၏ ဆွမ်းဒါယကာများလည်း ခရီးဦး ကြိုဆို၍ အရှင်မောဂ္ဂလ္လာန်၏ သပိတ်ကို ယူပြီး နို့ဃနာဆွမ်းများ ပြည့်အောင် ထည့်၍ ပေးလှူကြသည်။ မထေရ်ကြီးက ပြန်ကြွမည့် အခြေအနေကို ပြသောအခါ ဆွမ်းဒါယကာများက "အရှင်ဘုရား....ဘုဉ်းပေးတော်မူပါ၊ အခြား တပါးသော နို့ဃနာ ဆွမ်းကိုလည်း လှူလိုက်ပါမည်" ဟု လျှောက်ထား၍ မထေရ်မြတ်ကြီးသည် နို့ဃနာဆွမ်း ဘုဉ်းပေးသည်။ ထို့နောက် နို့ဃနာဆွမ်းများကို သပိတ်အပြည့် ထပ်မံပေးလှူလိုက်သည်။

အရှင်မောဂ္ဂလ္လာန် မထေရ်ကြီးသည် ပြန်ကြွ၍ "ငါ့ရှင် သာရိပုတ္တရာ .... ဘုဉ်းပေးပါ" ဟု ဖိတ်ကြား ဆက်ကပ်၏။ အရှင်သာရိပုတ္တရာ မထေရ်လည်း စိတ်တိုင်းကျ ချက်ပြုတ်ထားသော နို့ဃနာဆွမ်းများကို မြင်လေလျှင် ဘယ်အကြောင်းဖြင့် ဖြစ်သနည်းဟု ဆင်ခြင်ကြံဆတော်မူရာ ဤနို့ဃနာဆွမ်း ဖြစ်လာခြင်း၏ အကြောင်းရင်း ဇာစ်မြစ်ကို မြင်တော်မူပြီးလျှင် အရှင်မောဂ္ဂလ္လာန်အား "နို့ဃနာဆွမ်းသည် မသုံးဆောင်ထိုက်" ဟု မိန့်ကြားတော်မူ၏။

အရှင်မောဂ္ဂလ္လာန်လည်း "ငါလို မထေရ်တစ်ပါး ဆောင်ကြဉ်းလာသော ဆွမ်းကို မသုံးဆောင်ဘဲ ရှိရလေ" ဟု စိတ်ကွက်ခြင်းမျှပင် မဖြစ်ဘဲ တစ်ခွန်းတည်းသော စကားဖြင့်ပင် သပိတ်ကို မျက်နှာဝန်၌ ကိုင်ပြီး သင့်တော်သော တစ်နေရာ၌ မှောက်သွန်ပစ်လိုက်လေသည်။ နို့ဃနာဆွမ်း မြေကြီးပေါ်မှာ တည်သည်နှင့် တပြိုင်နက် အရှင်သာရိပုတ္တရာမှာ လေနာပျောက်သွားလေသည်။ ထိုနေ့ ထိုအချိန်မှ စ၍ ၄၅-နှစ်ပတ်လုံး နောက်ထပ် လေနာ ပေါ်မလာတော့ပါ။

ထို့နောက် "ဝစီဝိညတ်ကို မှီပြီး ဖြစ်လာသော (ဝါ) နှုတ်မြွက်မိခြင်း ကြောင့်ဖြစ်လာသော နို့ဆနာဆွမ်းကို စားမိသည်ဖြစ်အံ့-ငါ၏ အသက် မွေးခြင်းသည် ကဲ့ရဲ့အပ်သည်ဖြစ်ရာ၏။ ငါ၏အူခွေသည် ဆာလွန်းသည့် အတွက် အပြင်သို့ ထွက်၍ အသက်ကို စွန့်ရစေကာမူ သမ္မာအာဇီဝဖြင့် အသက်မွေးခြင်းကို ငါမဖျက်ပေ"စသော ဥဒါန်းစကားများ ရဲရဲတောက် ကျူးရင့် မြွက်ကြားတော်မူခဲ့ပါသည် (ဝိသုဒ္ဓိ၊၁။၃၉-၄၀)။

ဤသို့လျှင် ဘုရားရှင်၏ တပည့်အစစ် ဖြစ်တော်မူကြသော အရိယာ သံဃာတော်အပေါင်းသည် အဆုံးအမတော်ကို လုံးဝလိုက်နာလျက် ကျင့်တော် မူကြ၏။ နောက်နောက် ဆရာအစဉ်အဆက်လည်း "ကိစ္စတစ်ခု ကြုံတွေ့လာတိုင်း အသက်ကိုသာ အသေခံပါ၊ သီလသိက္ခာကိုတော့ မပျက်ပါစေနှင့်"ဟု ဆုံးမ တော်မူကြရှိမှုမှာ ထိုအတိုင်းပင် လိုက်နာကျင့်ကြံတော်မူခဲ့ကြပါသည်။

၂။ ဥဇုပ္ပဋိပန္နဂုဏ်တော်

ဥဇုပ္ပဋိပန္န = (ဥဇု+ပဋိပန္န။ ဥဇု = ဖြောင့်မတ်စွာ + ပဋိပန္န = ကျင့်တော်မူသော သံဃာတော်။ "ဥဇုပ္ပဋိပန္န"ကို "ဥဇုပ်ပဋိပန်န"ဟု အသံထွက် ဖတ်ပါ။)

ဘုရားရှင်၏ တပည့်အစစ် ဖြစ်တော်မူကြသော အရိယာ သံဃာတော် အပေါင်းသည် လမ်းလွဲလမ်းမှား လိုက်ခြင်းမရှိဘဲ လမ်းဖြောင့်လမ်းမှန်အတိုင်း ဖြောင့်မှန်စွာ ကျင့်တော်မူကြ၏။ စဉ်းလဲ ကောက်ကျစ် လှည့်ဖြားခြင်းများ မရှိဘဲ ရိုးသားဖြောင့်မတ်စွာလည်း ကျင့်တော်မူကြ၏။ ထို့ကြောင့် "ဥဇုပ္ပဋိပန္န" ဟူသော ဂုဏ်တော်နှင့် ပြည့်စုံတော်မူပါသည်။

• လမ်းဖြောင့်လမ်းမှန်အတိုင်း ကျင့်တော်မူခြင်း

ဒုက္ခငြိမ်းရန် ရည်သန်၍ ကျင့်ကြသော အကျင့်များတွင်—

(၁) ကာမဂုဏ်ချမ်းသာကို ခံစားသော "ရယူရေး"အကျင့် (ကာမသုခလ္လိကာနုယောဂ)၊

(၂) မိမိကိုယ်ကို ပင်ပန်းအောင် ကျင့်သော "စွန့်လွှတ်ရေး" အကျင့် (အတ္တကိလမထာနုယောဂ)-

ဟု နှစ်မျိုးရှိ၏။

ထိုတွင် ပထမ အကျင့်ကို လျှော့လွန်းသော အကျင့်ဟုလည်းကောင်း၊ ဒုတိယ အကျင့်ကို တင်းလွန်းသော အကျင့်ဟုလည်းကောင်း ဆိုရ၏။ ယင်းသို့ လျှော့လွန်း တင်းလွန်း တစ်ဖက်စွန်းသို့ ရောက်သော အကျင့်များ ဖြစ်သော ကြောင့် ထိုအကျင့်များသည် အလိုရှိအပ်သော ဒုက္ခငြိမ်းချမ်းရေးသို့ မရောက် နိုင်ဘဲ ဒုက္ခဖြစ်ကြောင်း ပွားကြောင်းသာ ဖြစ်ကြရ၏။ ထို့ကြောင့် ထိုအကျင့် စခန်း ထိုအကျင့်လမ်းများသည် ဒုက္ခငြိမ်းရေးအတွက် လမ်းဖြောင့်လမ်းမှန်များ မဟုတ်၊ လမ်းကောက် လမ်းလွဲ လမ်းမှားများသာ ဖြစ်ကြပါသည်။

"မဇ္ဈိမပဋိပဒါ" ခေါ် မဂ္ဂင်ရှစ်ပါး တရားလမ်းတော်ကြီးကား မလျှော့ မတင်း အလယ်အလတ်ကျသော အကျင့် ဖြစ်၏။ သန္တိသုခ=နိဗ္ဗာနဓာတ် ချမ်းသာမြတ်ကို ရရန် ရောက်ရန် ဤ "မဇ္ဈိမပဋိပဒါ" ခေါ် မဂ္ဂင်လမ်းမှ လွဲ၍ တခြားလမ်း တစ်မျိုးမရှိ၊ တဖြောင့်တည်း တကြောင်းတည်းသော လမ်းကောင်း၊ အကျော် လမ်းမှန်တော် ဖြစ်၏။ အားလုံးသော ဘုရားအဆူဆူနှင့် ပစ္စေကဗုဒ္ဓါ အရိယာပုဂ္ဂိုလ် မှန်သမျှတို့သည် ဤလမ်းကောင်း လမ်းမှန်ဖြင့်သာ သံသရာ တစ်ဖက်ကမ်းရောက် ထွက်ရပ်ပေါက်တော်မူခဲ့ကြပါသည်။

ဤအချက်ဖြင့် တကယ့် ဒုက္ခ ငြိမ်းချမ်းရေး၊ သန့်ရှင်း စင်ကြယ်ရေးကို ဤမဂ္ဂင်လမ်းမှ လွဲ၍ တခြား ရောက်နိုင် ရနိုင်သောလမ်း မရှိကြောင်း သိနိုင် ပါသည်။ ဘုရားရှင်၏ တပည့်အစစ် ဖြစ်တော်မူကြသော အရိယာ သံဃာတော် အပေါင်းသည် အထက်ဖော်ပြပါ လမ်းကောက် လမ်းမှားများသို့ မလိုက်ဘဲ "မဇ္ဈိမပဋိပဒါ" ခေါ် မဂ္ဂင်ရှစ်ပါး တရားလမ်းတော်ဖြင့် ဖြောင့်မှန်စွာ လိုက်ကြ ကျင့်ကြသောကြောင့် တရားထူး တရားမှန်များ ရကာ သန့်ရှင်း စင်ကြယ် အမှန်တကယ် ဖြောင့်မှန်သူ "အရိယာ" ပုဂ္ဂိုလ် အဖြစ်သို့ ရောက်တော်မူခဲ့ကြ ပါသည်။

**ရိုးသားဖြောင့်မတ်စွာ ကျင့်တော်မူခြင်း**

မိမိမှာ အပြစ်ရှိပါလျက် အပြစ်မရှိသူထင်အောင် ဖုံးကွယ်မှုကို "မာယာ" ဟု ခေါ်၏။ လှည့်ပတ်ခြင်းဟု အဓိပ္ပါယ်ရ၏၊ ဥပမာ– ယောက်ျား မသိအောင် အပြစ်ကျူးလွန်မိသော မိန်းမသည် ထိုအပြစ်ကို ဖုံးကွယ်ရန် မာယာဖြင့် လှည့်ပတ်သကဲ့သို့တည်း။

မိမိမှာ ဥစ္စာဂုဏ် မရှိဘဲ ရှိဟန်ဆောင်မှု၊ သီလဂုဏ် မရှိဘဲ ရှိဟန်ဆောင်မှု စသည်ကို "သာဌေယျ" ဟု ခေါ်၏။ စဉ်းလဲခြင်းဟု အဓိပ္ပါယ်ရ၏။ ဥပမာ– လူမရှိသောအခါ တော်သလို နေ၍ လူလာသောအခါ ဟန်လုပ်နေသူ စာမတတ်

ဘဲနှင့် တတ်ဟန်ဆောင်သူ, အကျင့် မကောင်းဘဲနှင့် ကောင်းဟန်ဆောင်သူ, ထွက်ရပ်ပေါက် မဟုတ်ဘဲ ထွက်ရပ်ပေါက် ပုဂ္ဂိုလ်ဟန်ဆောင်သူ, တရားထူး မရဘဲ တရားထူး ရဟန်ဆောင်သူ စသည်တို့ကဲ့သို့တည်း။

ဘုရားရှင်၏ တပည့်အစစ် ဖြစ်တော်မူကြသော အရိယာ သံဃာတော် အပေါင်းသည် သူတပါးတို့ အထင်ကြီးအောင် ပစ္စည်းလာဘ်နှင့် ဒါယကာ ဒါယိကာမ ပေါများအောင် ဟန်ဆောင်လှည့်ပတ်မှု ပရိယာယ် မာယာတို့ဖြင့် ဖုဖုထစ်ထစ် စဉ်းလဲကောက်ကျစ်ခြင်းမရှိဘဲ နူးညံ့သိမ်မွေ့ယဉ်ကျေးမှု ... မှန်ကန်ဖြောင့်တန်းအောင် ရိုးသားဖြောင့်မတ်စွာ ကျင့်တော်မူကြပါသည်။ ယင်းသို့ ဖြောင့်မတ်စွာ လှည့်ပတ် ဖုံးကွယ်ခြင်း, ကောက်ကျစ်စဉ်းလဲခြင်းမရှိ ကျင့်တော်မူခဲ့ကြရာ အရိယာပုဂ္ဂိုလ်အဖြစ်သို့ ရောက်သောအခါ၌ကား အထူးဆိုဖွယ်ရာ မရှိ၊ အလွန် ရိုးသားဖြောင့်မတ်၍ အပြစ်ရှိက ကွယ်ဝှက်ထားခြင်း အလျှင်း မရှိဘဲ ဖော်ပြ တတ်ကြပါသည်။

> “ပက်လက် အိပ်တတ်ကာမျှ အရွယ်နုနယ် ကလေးငယ်သည် လက်ဖြင့် ဖြစ်စေ, ခြေဖြင့် ဖြစ်စေ မီးကျီးခဲကို ထိမိလျှင် လျင်မြန်စွာ ရုပ်သိမ်းတတ်သကဲ့သို့ ထို့အတူ ကုစား ထမြောက်နိုင်သော အာပတ် (အပြစ်)တစ်ခုခု သင့်ရောက်ပြီဆိုလျှင် ထိုအာပတ်(အပြစ်)ကို ဘုရားထံ ဖြစ်စေ, သိကြားလိမ္မာသော သီတင်းသုံးဖော်များထံဖြစ်စေ ထင်ရှား ဖော်ပြ ပြောကြားခြင်းမှာ မဂ်ဉာဏ်နှင့် ပြည့်စုံသော အရိယာ ပုဂ္ဂိုလ်၏ ဓမ္မတာ (=ပင်ကိုသဘာဝ)ပင် ဖြစ်၏”ဟု-

အရိယာပုဂ္ဂိုလ် သောတာပန်၏ ဂုဏ်ပုဒ်ကို ဘုရားရှင် ကိုယ်တိုင် ထုတ်ဖော် ဟောမိန့်ခဲ့ပါသည် (မူလပဏ္ဏာသ။၃၉၁)။

**မရိုးမသား ကျင့်သူများအကြောင်း**

တရားတော်ကို တကယ် လိုလားသော အရိယာ အရှင်တို့မှာ သူတပါး အထင်ကြီးအောင် ပစ္စည်းလာဘ်လာဘ ဒါယကာ ဒါယိကာမ ပေါများအောင် သီလမရှိဘဲ ရှိယောင်ဆောင်မှု, စာမတတ်ဘဲ စာတတ်ဟန်ဆောင်မှု, အကျင့် မကောင်းဘဲ အကျင့်ကောင်းဟန်ဆောင်မှု စသော လှည့်စားမှု အမျိုးမျိုး ပြုလုပ်လေ့ မရှိသော်လည်း ပစ္စည်းကို တွယ်တာသူ တရားကို မလေးစား မလိုလား သူများ၌ ထိုကဲ့သို့ မရိုးမသား လှည့်စားမှု လှည့်ပတ်မှု အမျိုးမျိုး ပြုလုပ်လေ့ရှိတတ်ကြပါသည်။

ယခုအခါ မရိုးမသား ကျင့်သူများနှင့် ဝမ်းရေးအတွက် သာသနာတော်ကို ဖျက်ဆီးတတ်သူများ ပေါများစွာ ရှိနေတတ်ကြသဖြင့် စဉ်းစားဆင်ခြင်၍ ရှောင်ရှားနိုင်ကြရန်နှင့် ကိုးကွယ်မှုအသိဉာဏ် ရင့်ကျက်ခိုင်မာမှု ရရှိနိုင်ကြစေရန် ကျမ်းဂန်လာ လှည့်စားပုံသာဓကများကို ထုတ်ဖော် တင်ပြထားပါသည်—

**အိုးစရည်းရဟန္တာ**

ဘုန်းကြီးတစ်ပါးသည် မိမိအပေါ်၌ လူအများ အထင်ကြီးစေလိုသောကြောင့် သူနေရာ ကျောင်းခန်းအတွင်းမှာ လူမမြင်နိုင်အောင် အိုးစရည်းကြီး(အိုးအကြီးကြီး)ကို မြှုပ်ထားလေ၏။ အပြင်က ဒါယကာ ဒါယိကာမများ လာသံကြားလျှင် ထိုအိုးကြီးအတွင်း၌ ဝင်နေ၏။

လူများက– "ဘုန်းကြီး ဘယ်မှာလဲ"ဟု မေးလျှင် တပည့်များက "ကျောင်းခန်းတွင်းမှာ"ဟု ပြော၍ အခန်းတွင်းသို့ ဝင်ကြည့်သောအခါ မတွေ့ရသောကြောင့် "မရှိဘူး၊ ဘယ်ကြွသလဲ"ဟု မေးမြန်းပြန်လျှင် "ယခုတင်ဘဲ အခန်းထဲမှာ ရှိပါသေးတယ်"ဟု ပြောသဖြင့် ထပ်၍ ကြည့်ကြပြန်ရာ ညောင်စောင်း (ကုလားထိုင်)ပေါ်မှာ ထိုင်နေသည်ကို တွေ့ကြရ၍ "ဘယ်ကြွနေသလဲဘုရား"ဟု လျှောက်ထားလျှင် "ရဟန်းဆိုတာ သည်လိုပဲ၊ အလိုရှိရာ ကြွနိုင်ကြတယ်"ဟု ဈာန်အဘိညာဉ် ရသည့် လေသံဖြင့် ပြောပြလေသော် အားလုံးကပင် "ရဟန္တာ"ဟု အထင်ကြီးကြလေသတတ် (အဘိ၊ဋ္ဌ၊၂၈၄၅၈)။

**ညောင်မြစ်ရဟန္တာ**

ရှေးက အံ့ဖွယ်သရဲထူးကဲဟန်ဆောင်လိုသော ဘုန်းကြီးတစ်ပါးသည် ရွာနှင့် မနီးမဝေး သစ်ရွက်မိုးကျောင်း၌ နေသတတ်။ ကျောင်း၏နောက်ဘက်၌ နက်စောက်သော ချောက်ကမ်းပါးကြီးရှိရာ ထိုချောက်နှုတ်ခမ်း၌ အမြစ် ရှည်သော ညောင်ကြပ်ပင်ကြီး တစ်ပင်လည်း ရှိလေသည်။ ထိုညောင်မြစ်ကြီးသည် ချောက်ကမ်းပါး နံရံအတိုင်း အောက်သို့ ဆင်း၍ ချောက်ကမ်းပါး၏ အောက်ခြေသို့ ထောက်တည်၍ နေ၏။

ဒါယကာ ဒါယိကာမများ ကျောင်းသို့ လာ၍ ဆွမ်းစားပင့်လျှင် "ကဲ ကောင်းပြီ၊ သွားနှင့်ကြ"ဟု ဆိုကာ မိမိမှာမူ နောက်မှ သွားလေ့ရှိသည်။ ဒါယကာများမှာ ချောက်ကြီးကို ကွေ့ပတ်၍ လမ်းရိုးလမ်းဖြောင့်က သွားကြရသဖြင့် ကြာမြင့်နေရာ ဘုန်းတော်ကြီးမှာ

ချောက်ကမ်းပါး နံရံရှိ ညောင်မြစ်ကြီးကို ကိုင်၍ ဆင်းကာ ဖြတ်လမ်းမှ သွားသဖြင့် ရှေ့ပေါက်သို့ အလျင်ရောက်နေနှင့်၏။ ဒါယကာမျာအက အံ့ဩကာ–

"အရှင်ဘုရား....ဘယ်လမ်းက ကြွလာတော်မူပါသလဲ"ဟုမေးကြလျှင် "ဟာ မသိချင်ကြပါနှင့်၊ ရဟန်းတို့ သွားတဲ့လမ်းကို မမေးကောင်းဘူး၊ ဒီလိုပဲ ရဟန်းဆိုတာ အလို ရှိရာ လမ်းက ကြွတတ်ကြတာပဲ" ဟု မိန့်တော်မူလိုက်၏။

နောက်လူတစ်ယောက်က မယုံသင်္ကာ ရှိ၍ စုံစမ်းရာ အကြောင်းစုံ တွေ့မြင်ရသဖြင့် အဆိုပါ ညောင်မြစ်ကြီးကို ဖြတ်၍ မသိလိုက်ဘာသာ နဂိုနေမြဲအတိုင်း ထားလိုက်သည်။ ဘုန်းကြီးလည်း တစ်နေ့တွင် ထုံးစံအတိုင်း တန်ခိုးပြရန် ညောင်မြစ်ကြီးပေါ် သို့ တက်လေရာ ဗိုင်းကနဲ ချောက်ကြီးထဲသို့ လိမ့်ကျသွားလေ၏။ မြေသင်္ချိုင်းတ်လည်း ကွဲသွားသည်။

ထိုနေ့မှ စ၍ "အင်း ငါ့အကြောင်း ဒါယကာဇီတွေ သိသွားပြီ"ဟု ဆိုကာ ကျောင်းကလေးမှ ထွက်ပြေးသွားလေတော့သတည်း (အဘိ၊ ဋ္ဌ၊ ၂။၄၅၈)။

### "ဥဇုပ္ပဋိပန္န"ဂုဏ်တော်ကို အာရုံပြုကာ ရိုးရိုးကျင့်သူဖြစ်ပါစေ

ယခုခေတ်တွင် အတော်အတန် ပညာရှိပါလျက် "ကြောင်သူတော်"ကဲ့သို့ အတွင်းစိတ်ထား မရိုးသား မဖြောင့်မတ်သူတွေ လွန်စွာပေါများလှ၏။ ပညာရှိလူတော်ဖြစ်၍ မရိုးသား မဖြောင့်မတ်သူတို့ကား သာမန် မရိုးသားမဖြောင့်မတ်သူများထက်ပင် အစွမ်းထက်၍ ကြောက်မက်ဖွယ် ကောင်းလှ၏။

သို့ရာတွင် မဆင်ခြင် မစဉ်းစား အားထားယုံကြည်လွယ်၍ ကိုးကွယ်မှုပညာ နည်းပါးရှာကြသော မိန်းမယောကျ်ား လူများစွာတို့သည် ဆေးဝါးမန္တရား စွမ်းသလို၊ သိဒ္ဓိပေါက်သလို၊ ထွက်ရပ် ပေါက်သလို၊ စာဘတ်သလို၊ အကျင့် ကောင်းသလို၊ပညာ ရှိသလို၊ တရားထူး ရသလို နည်းအမျိုးမျိုးဖြင့် ဟန်ဆောင်ညာဝါး လှည့်စားနေသူများကို "မျက်စိကန်း တစ္ဆေမကြောက်"ဖြစ်ကာ မှိုဝဲဆည်းကပ်လျက် ကိုးကွယ်နေတတ်ကြပါသည်။

သို့ဖြစ်၍ အရိယာ သံဃာတော်များ၏ "ဥဇုပ္ပဋိပန္န"ဂုဏ်တော်ကို အာရုံပြု ကြည်ညိုကာ မိမိတို့ကိုယ်တိုင် ရိုးသား ဖြောင့်မတ်စွာ ကျင့်သူ ဖြစ်အောင်နှင့် မရိုးသား မဖြောင့်မတ်သူ မှန်လျှင် ရဟန်းရှင်လူ မည်သူမဆို ထိုသူတို့အား စွမ်းနိုင်သမျှ ဝေးစွာ ရှောင်ရှားနိုင်ကြအောင် သတိဆောင်သင့်ကြပါသည်။

### ၃။ ဉာယပ္ပဋိပန္နဂုဏ်တော်

ဉာယပ္ပဋိပန္န = (ဉာယ+ပဋိပန္န။ ဉာယ=နိဗ္ဗာန်အလို့ငှါ+ပဋိပန္န= ကျင့်တော်မူသော သံဃာတော်။)

ဘုရားရှင်၏ တပည့်အစစ် ဖြစ်တော်မူကြသော အရိယာ သံဃာတော် အပေါင်းသည် ရိုးရိုးလောင်သော မီးထက် ကြီးကျယ် ပူပြင်းလှသော သံသရာ ဝဋ်ကြီး ဒုက္ခမီးများကို သိမြင်တော်မူသောကြောင့် ကိုယ်မှာ ဝတ်ထားသော အဝတ်နှင့် ဆံပင်များကို မီးအလောင် ခံရစေကာမူ တစ်ဘဝသာ အပူခံရမည့် ထိုမီးကို မငြိမ်းအားဘဲ ဘဝပေါင်း များစွာ သံသရာ တစ်လျှောက်လုံး လောင်ကျွမ်း ခံရမည့် သံသရာဝဋ်ကြီး ဒုက္ခမီးတို့၏ အပြီးသတ် ချုပ်ငြိမ်းရာ နိဗ္ဗာန်ချမ်းသာ ရရေးကို ဦးစားပေး အလေးထား ကျင့်တော်မူကြပါသည်။ ထို့ကြောင့် "ဉာယပ္ပဋိပန္န" ဂုဏ်တော်နှင့် ပြည့်စုံတော်မူပါသည်။

[မဂ်ဉာဏ်, ဖိုလ်ဉာဏ်တို့ဖြင့် ထိုးထွင်း၍ သိမြင်အပ်သောကြောင့် နိဗ္ဗာန်ကို "ဉာယ" ဟူ၍ ခေါ်၏။]

#### နိဗ္ဗာန်ရရေးကို ဦးစားပေးကျင့်တော်မူခြင်း

ဘုရားရှင်၏ တပည့်အစစ် ဖြစ်တော်မူကြသော အရိယာ သံဃာတော် အပေါင်းသည် လောက ကောင်းစား ချမ်းသာရေးအတွက် ဘာတစ်ခုမျှ လိုလားတော် မမူကြပါ။ အကြောင်းမှာ– လောကုတ္တရာ နိဗ္ဗာန်ကို မျက်ခြည် ပြတ်လျက် လောက ကောင်းစားရေးကိုသာ ရှေးရှုလိုလားလျက် ရှိသူများမှာ လာဘ်လာဘ အကျော်အစောကို ခံယူလိုတတ်ကြ၏။ မအပ်မရာ ရှာဖွေကြ၊ တရား, မတရား နည်းမျိုးစုံဖြင့် မရ အရ ပြုလုပ်တတ်ကြ၏။ သီလ, သမာဓိ, ပညာ တရားများကို အရေးထားရမှန်း မသိ၊ သိက္ခာသုံးပါးကို မလိုလား။ စိတ်အားတွေလျော့ ပေါ့ဆဆဖြစ်ကာ အပြစ်တွေ ဗရပွေဖြင့် ညစ်ပေနေတတ်၏။ ထို့ကြောင့် လောက ကောင်းစားရေးကို ဦးစားပေး ကျင့်တော် မမူကြခြင်း ဖြစ်၏။

နိဗ္ဗာန် ရရေးကိုကား ဇလေးလေးစားစား မနေမနား ကျင့်တော်မူကြသည်။ နိဗ္ဗာန် ရရေးမှ လွဲ၍ တခြားသာကိုမျှ မလိုလား မတောင့်တကြ။ နိဗ္ဗာန်အတွက် မိမိ ချမ်းသာရေး မှန်သမျှ အကုန် စွန့်လွှတ်နိုင်ကြ၏။ ဆင်းရဲမှုမှန်သမျှ ခံနိုင်ရည် ရှိကြ၏။ သိက္ခာ သုံးရပ် ကြားမလပ်အောင် မပြတ်မစဲ စွဲမြဲစွာ ကြိုးစားလျက် ရှိသဖြင့် အရှင်မြတ်တို့၏ စိတ်အစဉ်ဝယ် အပြစ်မရှိ, အစွန်းအညစ် မထင် အလွန်ပင် သန့်ရှင်း စင်ကြယ်လျက် ရှိ၏။

ထို့ကြောင့် အပြစ်ကင်း၍ အလွန်သန့်ရှင်းစင်ကြယ်သော အကျင့်ဖြင့်သာ ရနိုင်ရောက်နိုင်သော နိဗ္ဗာန်ကို မိမိတို့လိုလားသည့်အတိုင်း မျက်မှောက်ပြုကာ ပူဇော်သူအရိယာအဖြစ်သို့ ရောက်ကြရသည်။ နတ်လူတို့၏ ချီးမွမ်းမြတ်နိုးဖွယ်ရာ "သံဃရတနာ" တစ်ဆူ ဖြစ်တော်မူကြရသည်။

**နိဗ္ဗာန်ရလိုရေးကြောင့် မီးဘေးကို မရှောင် အလောင်ခံတော်မူခဲ့သော ရဟန်းတော်တစ်ပါး**

တကိုယ်လုံး မီးလောင် ခံရသည့်ကိုပင် လျစ်လျူရှု၍ နိဗ္ဗာန်အကျိုးငှာ ကျင့်တော်မူခဲ့သော "ဉာယပုဋ္ဌိပန္န" ဂုဏ်တော်ရှင် ရဟန်းတော် တစ်ပါး၏ ထုံးသာဓကကို ကြည်ညိုသဒ္ဓါပွားနိုင်ကြရန် တင်ပြအပ်ပါသည်—

> ရဟန်းတော်တစ်ပါး သစ်ပင် ခုတ်ချိုင်ရာ၌ ဘုမ္မစိုးနတ်သမီး၏ ကလေးနတ်ငယ်ကို ခုတ်ဖြတ်မိသောကြောင့် နတ်သမီးက ဘုရားထံ လျှောက်ထားသဖြင့် "ယနေ့မှစ၍ သာသနာတော်ထမ်း ရဟန်းမှန်လျှင် သစ်ပင်ကို မခုတ်ရ" ဟု ပညတ်တော်မူသည်။
>
> ဘုရားရှင် ပရိနိဗ္ဗာန်စံဝင်တော်မူပြီးနောက် ရဟန်းတော်တစ်ပါးကို ခိုးသူများက နွယ်ပင်ကလေးဖြင့် တုပ်နှောင်၍ တောထဲ၌ ထားခဲ့စဉ် တောမီးလောင်လာသော် နွယ်ပင်ကို ဖြတ်မည်ဆိုလျှင် ဖြတ်နိုင်လောက် သော်လည်း နွယ်ပင်ကို ဖြတ်လျှင် ဘုရားရှင်၏ ဝိနည်းဥပဒေပညတ်ချက် အရ ပါစိတ်အာပတ် (အပြစ်)သင့်၏။ အာပတ်သင့်လျှင် တရားရတော့ မည်မဟုတ်။

ထို့ကြောင့် ဘုရားရှင်၏ ဝိနည်းဥပဒေပညတ်တော်ကို စောင့်စည်း လျက် (နွယ်ပင်ကို ဖြတ်တောက်ခြင်း မပြုဘဲ တောမီး လောင်လိုက လောင်စေတော့ဟု) တရားကိုသာ နှလုံးသွင်းနေခဲ့ရာ ရဟန္တာအဖြစ်သို့ ရောက်လေ၏။ ရဟန္တာဖြစ်ပြီးနောက် မကြာမီ တောမီးလောင်၍ ပရိနိဗ္ဗာန် စံဝင်တော်မူသည် (ဝိသုဒ္ဓိ၊၁။၄၄-၅)။

### "ဉာယပ္ပဋိပန္န" ဂုဏ်တော်ကို အာရုံပြုကာ နိဗ္ဗာန်ကို သိမြင်နိုင်အောင် ကြိုးစားပါ

လောကဝယ် "အသက်တစ်ရာ မနေရသော်လဲ အမှုတစ်ရာ တွေ့နိုင်သည့် လူတစ်ခု ပူမှုဆယ်ကုဋေ ရှိသည်"ဟု ဆိုရိုးရှိသည့်အတိုင်း ဒုက္ခအပူမီးများ အချိန်မရွေး ကြုံလာတတ်၏။ မလွဲသာ မရှောင်သာ ဒုက္ခအပူမီးများ ကြုံလာခဲ့သော် အဆိုပါ "ဒုက္ခအပူမီးများမှ သက်သာရာ ရစေတော့"ဟု ကြံ၍ မကောင်းမှုမှန်သမျှ မပြုမိအောင် သတိပြုရှောင်ကြဉ်သင့်ပါသည်။

ယင်းသို့ ရှောင်ကြဉ်ကြပြီးနောက် "နိဗ္ဗာန်၌ကား– ဤဒုက္ခအပူမီးများ၏ တည်ရာရုပ်နာမ်ခန္ဓာမရှိ၊ ဤရုပ်နာမ်ခန္ဓာ ရှိနေလို့သာ ဤရုပ်နာမ်ခန္ဓာကို မှီ၍ သားတွေ သမီးတွေ ဆွေတွေ မျိုးတွေ ရှိရသည်။ ယင်းသို့ ရှိသောကြောင့်လည်း သားဒုက္ခ, သမီးဒုက္ခ, ဆွေဒုက္ခ, မျိုးဒုက္ခ အပူမီးများကို တွေ့ရသည်။ ထိုရုပ် ထိုနာမ် ထိုခန္ဓာ မရှိသော နိဗ္ဗာန်သည် ကေန် အေးမြပေလိမ့်မည်"ဟု ဒုက္ခဆင်းရဲအမျိုးမျိုးနှင့် တွေ့ကြုံရသည့်အခါတိုင်း "ဆင်းရဲလေလေ သံဝေဂရ" စိတ်ထားလျက် အရိယာ သံဃာတော်များ၏ "ဉာယပ္ပဋိပန္န" ဂုဏ်တော်ကို အာရုံပြုကြည်ညိုကာ သူလည်း မပါ ငါလည်း မရှိ သန္တိသုခ လွန်စွာအေးမြလှသည့် နိဗ္ဗာန်ကို ကေန်အမှန် သိမြင်နိုင်အောင် ကြိုးစားသင့်ကြသည်။

### ၄။ သာမိစိပ္ပဋိပန္နဂုဏ်တော်

သာမိစိပ္ပဋိပန္န=(သာမိစိ+ပဋိပန္န။ သာမိစိ=ရိုသေမှုနှင့်+ပဋိပန္န= (လျော်အောင်) ကျင့်တော်မူသော သံဃာတော်။)

ဘုရားရှင်၏ တပည့်အစစ် ဖြစ်တော်မူသော အရိယာ သံဃာတော်အပေါင်းသည် လူတို့၏ ရိုသေလေးစားမှုနှင့် ထိုက်တန်အောင် သီလ, သမာဓိ, ပညာ သိက္ခာသုံးရပ် အကျင့်မြတ်ကို ကျင့်တော်မူကြသောကြောင့် "သာမိစိပ္ပဋိပန္န" ဂုဏ်တော်နှင့် ပြည့်စုံတော်မူကြပါသည်။

### ရိုသေလေးစားမှုနှင့် ထိုက်တန်အောင် ကျင့်တော်မူသော "အယျမိတ္တမထေရ်"အကြောင်း

ဥပါသကာ ဥပါသိကာမတို့သည် မိမိတို့ မဝတ်ရက် မစားရက် မသုံးဆောင်ရက်သော အဝတ်အထည် အစားအသောက် ကျောင်း အိပ်ရာ နေရာများကို အရိယာ ဖြစ်ပြီးသော (အရိယာ ဖြစ်အောင် အားထုတ်နေသော) သံဃာတော်များအား မြတ်မြတ်နိုးနိုး ရက်ရက်ရောရော လှူဒါန်းကြ၏။ သံဃာတော်

မျှားကလည်း ရှိသေးသမျှပြုအပ်သော လျှုဒါန်းမှုများနှင့် ထိုက်တန်လျော်ကန်အောင် ကျင့်ကြံအားထုတ်တော်မူပါသည်။ ဤနေရာ၌ စံထား၍ သာဓကပြုရလောက်အောင် ရှိသေးလေးစားမှုနှင့် ထိုက်တန်စွာ ကျင့်တော်မူခဲ့သော "မဟာမိတ္တ"ခေါ် "အယျမိတ္တမထေရ်" အကြောင်းကို ထုတ်ဖော်တင်ပြထားပါသည်—

သီဟိုဠ်သာသနာထွန်းကားစဉ် ရှေးအခါက "ကသာက"ခေါ်သော လိုဏ်ဂူ၌ သီတင်းသုံးနေသော "အယျမိတ္တမထေရ်"ကို ထိုလိုဏ်ဂူကျောင်းနှင့် မလှမ်းမကမ်းရှိ ဆွမ်းခံရွာမှ သူဆင်းရဲ သားအမိက မထေရ်မြတ်အား သားအရင်းတမျှ အမှတ်ထား၍ လေးစားပြုစုနေ၏။

တနေ့သ၌ လုပ်ငန်းဆောင်တာအတွက် နံနက်စောစော တောသို့သွားခါနီးဝယ် —

"ချစ်သမီး....မည်သည့် နေရာ၌ နှစ်ချို့ ဆန်ကလေးနှင့် နွားနို့, ထောပတ်, တင်လဲများရှိရစ်တယ်၊ သမီး မောင်တော် ကြွလာတဲ့အခါ ဆွမ်းချက်၍ ကပ်ပြီးလျှင် သမီးလဲ စားရစ်နော်"ဟု သမီးကို ပြောဆိုမှာထား၏။

"မေမေကော ဘာစားမလဲ"ဟု သမီးက မေးရာ "မေမေတော့ ပုံးရည်ဟင်းနှင့် ညက ကျန်တဲ့ ထမင်းကြမ်းကို စားပြီးပြီ"ဟု ပြော၏။ "နေ့လယ်စာကော ဘာစားမလဲ မေမေ"ဟု ထပ်၍ မေးလျှင်"နေ့လယ်စာတော့ သမီးရယ် ဟင်းရွက်ကလေး ရောပြီး ဆန်ကွဲကို ယာဂုကျိုထားလိုက်တာပေါ့"ဟု ပြောဆို မှာထား၍ တောသို့ ထွက်သွားရှာလေသည်။

ထိုသားအမိ နှစ်ယောက်တို့၏ ပြောဆိုသံကို "အယျမိတ္တမထေရ်" ဆွမ်းခံအလာ၀တွင် ရွာအနီးမှ ကြား၍ မိမိကို မိမိ ပြန်၍ ဆုံးမသည်မှာ "နားထောင်ဂမ်း အယျမိတ္တ....ဒါယိကာမကြီးမှာ မိမိအတွက် ပုံးရည်ဟင်း ထမင်းကြမ်းနှင့် ဟင်းရွက်တွဲသည့် ဆန်ကွဲယာဂုကို စားသောက်လျက် သင့်အတွက်ကျတော့ နှစ်ချို့ဆန်ကောင်းနှင့် နွားနို့, ထောပတ်, တင်လဲကို ကပ်ဖို့ရန် မှာနေရှာသည်၊ သင့်၏ အပေါ်၌ ဝတ်စားတန်ဆာနှင့် လယ်ယာမိုးမြေ ပစ္စည်းတွေကို မျှော်၍ ယခုလောက် ဂရုစိုက်နေသည် မဟုတ်၊ လူ နတ် နိဗ္ဗာန် ချမ်းသာကို မှန်း၍သာ ဂရုစိုက်ခြင်း ဖြစ်သည်၊ သူရည်ရွယ်တဲ့ ချမ်းသာကို သင် ပေးနိုင်ပါ့

မလား၊ ကိလေသာ အာသဝေါ် မကုန်သမျှ ဒါယိကာမကြီးရဲ့ ဆွမ်းကို သင် မစားထိုက်''ဟု ဆုံးမပြီးလျှင် ဆွမ်းခံ မဝင်ဘဲ ပြန်၍ တရားကို အားထုတ်လေရာ ပင်ကိုက စင်ကြယ်သော သီလနှင့် အားထုတ်၍ အသားကျနေသော ကမ္မဋ္ဌာန်းဘာဝနာ အစွမ်းကြောင့် သိပ်ကြာကြာ အားမထုတ်ရဘဲ ချက်ချင်းပင် ရဟန္တာအဖြစ်သို့ ရောက်လေသည်။

ထို့နောက် ဆွမ်းခံဖို့ အချိန် ရှိသေး၍ ဆွမ်းခံ ဝင်လေသော် စောင့်မျှော်နေသော နှမတော်က ဆွမ်းလောင်း အပြီးတွင် အထူး ကြည်လင်သော မျက်နှာကို မြင်လိုက်ရ၍ မိခင် ပြန်လာသော အခါ ''မေမေ....ဒီနေ့ မောင်တော်ရဲ့ မျက်နှာ ခါတိုင်းနဲ့ မတူဘဲ လွန်စွာ ကြည်လင်နေပါတယ်''ဟု ပြောပြလေရာ ''ယနေ့ ငါ့သားတော်ကြီးမှာ ရဟန်းကိစ္စ ပြီးစီးလေပြီ''ဟု ပြောဆိုကာ ဝမ်းမြောက်မဆုံး ဖြစ်ရှာသည် (ဒီ၊ဋ္ဌ၊၂။၃၇၉။ မ၊ဋ္ဌ၊၁။၂၉၈)။

**ဘာဝနာပွား၍ ဆွမ်းကို အကျိုးရှိအောင် စားခြင်း**

မေတ္တာဘာဝနာ ပွားများခြင်းကို ''အမောဃံ ရဋ္ဌပိဏ္ဍံ ဘုဉ္ဇတိ=ပြည်သူတို့၏ ဆွမ်းကို အချည်းနှီးမဖြစ်အောင် သုံးဆောင်သည် မည်၏''ဟု ဟောတော်မူ၏။

ထို့အတူ ဈာနဘာဝနာ, သတိပဋ္ဌာန်ဘာဝနာ စသော ဘာဝနာများကို ပွားများသော အရှင်များသည် ပြည်သူတို့၏ ဆွမ်းကို အချည်းနှီးမဖြစ်စေဘဲ အကျိုးရှိအောင် သုံးဆောင်သည် မည်ကြောင်းကိုလည်း အင်္ဂုတ္တိုရ်ပါဠိတော် (အံ၊၁။၄၁)၌ ဟောတော်မူခဲ့၏။ ဤအချက်ဖြင့် ဘာဝနာ ပွားများမှုများမှာ ပြည်သူတို့၏ ဆွမ်းအကျိုးကြီးဖို့ ပုဂ္ဂိုလ်၏ အရည်အသွေးကို မြှင့်၍ ဂုဏ်တင်ပေးသည်ဟု သိနိုင်၏။ ဘာဝနာပွားများမှု မပါဘဲ သီလသက်သက်မျှဖြင့် ဆွမ်းအကျိုးကို အလွန်ကြီး ကြီးအောင် မရဘတ်သေးဟု ဆိုလို၏။ သီလမျှပင် မရှိလျှင်မူကား ပြည်သူတို့၏ ဆွမ်းကို ဖြုန်းနေသူသာဟု တဆင့်တိုး၍ သိနိုင်ကြပါသည်။

ထို့ကြောင့် မေတ္တာဘာဝနာ, ဈာနဘာဝနာ, သတိပဋ္ဌာန်ဘာဝနာ စသော ဘာဝနာများကို ပွားများသော အရှင်များသည် ''ဖလာရဒ္ဓဝိပဿက'' ခေါ် ကမ္မဋ္ဌာန်း ကြိုးစားနေသူ ယောဂီဘဝကပင် ပြည်သူတို့၏ ဆွမ်းကို အကျိုးကြီးမြင့်အောင် ပြု၍ သုံးဆောင်နေသူများ ဖြစ်ကြရာ အရိယာအဖြစ်သို့ ရောက်သော အခါ၌ကား အကျိုးအကြီးမားဆုံး ဖြစ်အောင် ပြုသူ ပုဂ္ဂိုလ်များ အမှန်ပင် ဖြစ်လာကြပါတော့သည်။

### "သာမီစိပ္ပဋိပန္န" ဂုဏ်တော်ကို အာရုံပြုကာ ရှိသေစွာ ကျင့်ပါ

ယခုအခါ၌ ဘာသာမရှိသော ဝါဒ, ဘာသာရှိသော်လည်း အရေးမစိုက်သော ဝါဒ, ဘာသာချင်းချင်း သူထက်ငါ အကောင်းအဆိုး ပြိုင်နေသော ဝါဒများ ထနေ့တခြား ထွန်းကား၍ ခေတ်စားလာနေသည်ကို သတိပြု ဆင်ခြင်ကြလျက် ဒါယကာ, ဒါယိကာမတို့ ကြည်ဖြူ ရွှင်လန်း လှူဒါန်း ချီးမြှောက်ကြသော ပစ္စည်းလေးပါးအပေါ် အခြေခံ တည်မှီနေကြရသော ရဟန်း သံဃာတော်များသည် လူတို့၏ ရှိသေပူဇော်မှုနှင့် ထိုက်တန်အောင် ကျင့်ကြံတော်မူခဲ့ကြသော ရှေးရှေးသော သူတော်စင် သူတော်ကောင်း ရဟန်းသံဃာတော်မြတ်အပေါင်း၏ "သာမိစိပ္ပဋိပန္န" ဂုဏ်တော်ကို အာရုံပြုကာ မိမိတို့ဘက်မှ လစ်ဟင်းမှုမရှိရအောင် သီလ, သမာဓိ, ပညာ သိက္ခာသုံးရပ် အကျင့်မြတ်ကို ကောင်းစွာ ကျင့်ကြံ အားထုတ်သင့်ကြပါသည်။

လူဒါယကာ, ဒါယိကာမတို့ဘက်မှလည်း ယင်းသို့ သိက္ခာသုံးရပ် အကျင့်မြတ်ကို အရိုးခံအတိုင်း ရှိသေစွာ ကျင့်ကြံ ကြိုးကုတ် အားထုတ်နေကြသော ရဟန်း သံဃာတော်များကိုသာ ရှိခိုးခြင်း, ခရီးဦး ကြိုဆိုခြင်း, လက်အုပ်ချီခြင်း, ပစ္စည်းလေးရပ် ဆက်ကပ် လှူဒါန်းခြင်း စသည်တို့ဖြင့် ပိုမို အလေးထား၍ အရိုအသေ အပေး မမှားအောင် မှန်ကန်စွာ သာသနာပြုသင့်ကြပါသည်။ အတုအယောင် ဟန်ဆောင်မှု ပေါများသော ခေတ်တွင် "စဉ်းစားမှု ရှေ့တည်၍ ယုံကြည်မှု နောက်ထားကာ" ပစ္စည်းလေးပါးဖြင့် ထောက်ပံ့ အားပေးသင့်ကြပါသည်။

### ၅။ အာဟုနေယျဂုဏ်တော်

> အာဟုနေယျ = ( အာ+ဟုန+ယျေ။ အာ = အဝေးကပင် ယူဆောင်၍+ဟုန=ပူဇော် လှူဒါန်းအပ်သော ပစ္စည်းလေးပါးတို့ကို+ ယျေ=ခံယူတော်မူထိုက်သော သံဃာတော်။)

ဘုရားရှင်၏ တပည့်အစစ် ဖြစ်တော်မူကြသော အရိယာ သံဃာတော် အပေါင်းသည် လှူဒါန်း ပူဇော်သူတို့အား အတုံ့ပြန်၍ ကြီးကြယ် မြင့်မြတ်သော သိသရာကျိုးကို ပေးစွမ်းနိုင်ကြသဖြင့် အနီးအပါးကို မဆိုထားဘိ တနယ် တကျေး ဝေးသော မြို့ရွာတို့မှသော်လည်း လှူဖွယ်ပစ္စည်းများကို တမင်တကာ ဆောင်ယူ၍ ပေးလှူ ပူဇော်မှုကို ခံယူတော်မူထိုက်၏။ ထို့ကြောင့် အရိယာ သံဃာတော် အပေါင်းသည် "အာဟုနေယျ" ဂုဏ်တော်နှင့် ပြည့်စုံတော်မူ ပါသည်။

**သာသနာပ ဒါနထက် သာသနာတွင်း ဒါနက**

**အဆအရာလွန်ကဲ**

စန္ဒကူး, လေပ်, ကြာညို, မြတ်လေး ဤပန်းမွှေးတို့၏ ရနံ့ထက် သီလရနံ့က သာလွန် ထူးမြတ်သည်ဟုလည်းကောင်း, လေပ်ပန်းနှင့် စန္ဒကူးပန်းတို့၏ အနံ့မှာ မပြောပလောက်သော ရနံ့သာ၊ သီလရှိသော သူတို့၏ ဂုဏ်ရနံ့မှာမူ နတ်ပြည်, ဗြဟ္မာပြည်များ၌ပင် ပျံ့လှိုင် မွှေးကြိုင်လျက် ရှိပေသည်ဟု လည်းကောင်း ဓမ္မပဒပါဠိတော် ( ဓမ္မပဒ။၂၁ )၌ ဟောတော်မူချက်အရ အရိယာသခင် သံဃာတော် အရှင်မြတ်တို့၏ သီလဂုဏ်ရနံ့ကြောင့် လူ့ပြည်တခွင် အဝေးအရပ်မှသာမက နတ်ပြည်များကပင် အထူးတလည် လာရောက်၍ ပူဇော်လှူဒါန်းကြ၏။

ဤ၌ ရှေးက ဘုရားရှင်သာသနာနှင့် မကြုံခဲ့ရ၍ သာသနာတွင်း ဒါနပြုခွင့် မရဘဲ သာသနာပ ဒါနကိုသာ ပြုခဲ့ရသော သိကြားမင်းသည် သာသနာတွင်း ဒါနကောင်းမှုရှင် ဂန္ဒကနတ်သားနှင့်အတူ ယှဉ်လိုက်ပါက ဂန္ဒကနတ်သား၏ ကိုယ်ရောင်ကိုယ်ဝါက လွှမ်းမိုးသွားပြီး သိကြားမင်း၏ ကိုယ်ရောင်ကိုယ်ဝါ မှေးမှိန်သွားပါသည်။ ထို့ကြောင့် သာသနာတွင်း ဒါနပြုနိုင်ရန် သိကြားမင်းကြီး ကိုယ်တိုင် လူ့ပြည်ဆင်းကာ လူအို လူမွဲယောင် ဆောင်ပြီး မိဖုရား "သုဇာ"နှင့် အတူ အရှင်မဟာကဿပ မထေရ်မြတ်အား ဆွမ်းလှူဒါန်း ဆက်ကပ်ပုံ သာဓကကို ထုတ်ဖော် တင်ပြထားပါသည်—

> အခါတပါး၌ "အရှင်မဟာကဿပ" မထေရ်မြတ် နိရောဓသမာပတ်မှ ထတော်မူပြီးလျှင် ဆင်းရဲသူတို့၏ နေရာ ရပ်ကွက်၌ ဆွမ်းခံ ဝင်တော်မူလေရာ သိကြားမင်းနှင့် "သုဇာ" မိဖုရားတို့သည် အိုမင်းသော လူဆင်းရဲ သမီးခင်ပွန်းယောင် ဆောင်၍ ထိုရပ်ကွက်၏ အစဆုံး၌ အိမ်ငယ်တစ်ဆောင်ကို ဖန်ဆင်းလျက် နေနှင့်လေသည်။
>
> "အရှင်မဟာကဿပ" မထေရ်မြတ်လည်း အထူးအထွေ ဆင်ခြင်စဉ်းစားတော် မမူဘဲ အိမ်ကုပ်ကလေး၌ အဖိုးအိုနှင့် အမယ်အိုတို့ အလုပ်လုပ်နေကြပုံကို မြင်၍ သနားတော်မူသဖြင့် ရပ်တော်မူလေသည်။
>
> အဖိုးကြီးသည် မျက်စိများကို ပွတ်ကာသပ်ကာနှင့် "အိမ်ပေါက်မှာ ကိုယ်တော်တစ်ပါး ဆွမ်းရပ်နေပါကလား, ဒုက္ခ ဒုက္ခ ဘာမှလဲ ရှိမယ် မထင်အား" ဟု ညည်းညူလျက် အနားသို့ လာပြီးလျှင် "အင်း—တို့ကိုယ်တော်ကြီးပါကလား၊ ဟေ့ ရှင်မရေ—ဘာများ ရှိသေးတုန်း"ဟု မေးရာ—

အမယ်အိုကလည်း ထိုထိုဤဤ ရှာဖွေနေဟန်ဖြင့် အတန်ကြာမှ "ရှိသေးရဲ့တော့" ဟု ပြောပြောဆိုဆို လာ၍ ဆွမ်းများ လောင်းလှူလေလျှင် တစ်ရပ်လုံး မွှေးကြိုင်သွားလေသည်။

ထိုအခါကျမှ သိကြားဖြစ်မှန်း သိ၍ "ဆင်းရဲသူကို ချီးမြှောက်လိုသဖြင့် ဆွမ်းခံဝင်ရာ၌ သင်လို သိကြားက လုဆင်းရဲလုပ်ရသလား" ဟု အပြစ်တင်တော်မူလျှင်—

"တပည့်တော်မှာ သာသနာပက ဖြစ်ရတဲ့ သိကြားမို့ စည်းစိမ်မကြီးပါ၊ သာသနာတော်တွင်းမှ ရောက်လာသော နတ်မင်းများလောက် အရှိန်အဝါမတောက်သဖြင့် နတ်ဆင်းရဲ သိကြားဆင်းရဲပင် ဖြစ်ပါသည်" ဟု ပြန်လည်လျှောက်၏။

ထို့နောက် "အဟောဒါနံ ပရမဒါနံ ကဿပေ သုပ္ပတိဋ္ဌိတံ =ဝမ်းမြောက်စရာ အလှူဒါန၊ အလွန် မြတ်သော အလှူဒါနသည် အရှင်မဟာကဿပ၌ တည်လေပြီ" ဟု ဥဒါန်းကျူးလျက် နတ်ပြည်သို့ တက်သွားလေသည် (ဓမ္မဋ္ဌ၊၁။ ၂၆ဂ–၉)။

ဤသို့လျှင် အရိယာ သံဃာတော်များသည် အဝေးရပ်မှ ယူဆောင်၍ ပူဇော်လှူဒါန်းသမျှကို ခံယူတော်မူထိုက်ကြပါသည်။

**သမီးမရွေးဘဲ ဆွမ်းအလှူ ပေးခဲ့သော**
**"မဟာတိဿ" ထင်းရောင်းသမားအကြောင်း**

ပေါင်နှံထားသော သမီးကလေးကို ရွေးယူနိုင်ရန် အရပ်ကပါးသို့ သွားရောက်၍ ပင်ပန်းကြီးစွာ လုပ်ကိုင်ခဲ့ပြီး လုပ်အားခ ရရှိခဲ့သောငွေဖြင့် သမီးကို ရွေးရန် ပြန်အလာ လမ်းခရီး၌ ဆွမ်းအလှူ ပေးခဲ့ဖူးသော ထင်းရောင်းသမား တစ်ဦး၏ ဆွမ်းဒါနမှာ ရဟန်းသံဃာတော်တို့၏ "အာဟုနေယျ" ဂုဏ်တော်ကို အထူးပေါ်လွင်စေပါသည်။

"သီဟိုဠ်ကျွန်း မဟာဂါမ၌ ထင်းရောင်းစားသူ "မဟာတိဿ" သည် သမီးလေးကို ငွေအသပြာ ၁၂-ကျပ်ဖြင့် သူတပါးအိမ်တွင် အခစား လုပ်ရန် ပေါင်နှံထားသဖြင့် ယင်းသမီးလေးအား ရွေးယူနိုင်ရန် အရပ်ကပါးသို့ သွား၍ အလုပ်လုပ်လေသည်။

လုပ်အားခငွေ ၁၂-ကျပ်ရ၍ သမီးငယ်ကို ရွေးယူရန် ပြန်လာသော အခါတွင် လမ်းခရီးအကြား၌ မထေရ်တစ်ပါး ဆွမ်းမရဘဲ ဆွမ်းချိန် လွန်တော့မည်ကို တွေ့မြင်ရ၏။ ထိုအခါ မိမိတွင် ပါလာသောငွေ ၁၂-ကျပ်ဖြင့် ဆွမ်းကို ဝယ်၍ ကပ်လှူလိုက်၏။

မထေရ်သည် ယင်းဆွမ်းကို မဘုဉ်းပေးမီ ရဟန္တာ အဖြစ်သို့ ရောက်အောင် အားထုတ်တော်မူသည်။ ရဟန္တာအဖြစ်သို့ ရောက်ပြီးမှ ဆွမ်းဘုဉ်းပေးတော်မူသည်။ ထိုမထေရ်သည် နေထိုင်ရာ ကျောင်းတွင် ပရိနိဗ္ဗာန် စံဝင်သောအခါ "ငါ၏ အလောင်းသည် ဆွမ်းဒါနရှင် ထင်းရောင်းသမား၏ လက်ဖြင့် ထိမှ လှုပ်ကြွစေသတည်း"ဟု အဓိဋ္ဌာန် တော်မူခဲ့လေ၏။

"ကာကဝဏ္ဏတိဿ"မင်းကြီးသည် ယင်းမထေရ်မြတ်၏ အလောင်းကို မီးသင်္ဂြိုဟ်ရန် မည်သို့မျှ မတတ်နိုင်သဖြင့် အဆိုပါ ထင်းရောင်းသမားကို ရှာဖွေစေရ၏။ ထင်းရောင်းသမား ရောက်လာသော အခါတွင် "ကာက ဝဏ္ဏတိဿ"မင်းကြီးက "နောင်တော် မဟာတိဿ.... ဤအဖိုးတန် အဝတ်တန်ဆာကို ဝတ်ဆင်၍ မထေရ်မြတ်၏ အလောင်းကို မီးသင်္ဂြိုဟ် ပေးပါ"ဟု တောင်းပန် ပြောဆို၍ မီးသင်္ဂြိုဟ်စေပါသည်။ ဆွမ်းဒကာ မဟာတိဿသည် သမီးငယ်ကို ပြန်ရွေးနိုင်၍ သူဌေးဘွဲ့ကိုလည်း ရရှိလေ သည် (အံ၊ဋ္ဌ၊၁။၃၉၅-၈)။

### ရပ်ဝေးမှ ရိက္ခာထုပ်ဖြင့် လာရောက်ဖူးမြော်ထိုက်ခြင်း

ဘုရားရှင်၏ တပည့်အစစ် ဖြစ်တော်မူသော အရိယာသံဃာတော်များသည် ပူဇော်လှူဒါန်းဖို့ရာသာမက ဖူးမြော်ရုံမျှပင် အဝေးအရပ်မှ အထူးတလည် တမင် လာရောက်၍ ဖူးမြော်ထိုက်သော ပုဂ္ဂိုလ်များ ဖြစ်ပါသည်။

> "တခါက ဘုရားရှင်သည် ဝိသာခါကျောင်း၌ သီတင်းသုံးနေတော် မူစဉ် ကျောင်းလွှင်ပြင်၌ လပြည့် ဥပုသ်နေ့အခါ ဥပုသ်ပဝါရဏာ ပြုရန် ရဟန်းသံဃာများ ခြံရံ၍ ထိုင်နေတော်မူ၏။
>
> ထိုအခါ တိတ်တိတ်ဆိတ်ဆိတ် ငြိမ်ငြိမ်သက်သက် ဖြစ်နေသော တပည့် ရဟန်းသံဃာများကို ကြည့်၍ အားရတော်မူသဖြင့် မိမိတပည့် ရဟန်းသံဃာများအား ဂုဏ်တင်သောအားဖြင့်—

ဤပရိသတ်မှာ အဖျင်းမပါ အနှစ်အသားပြည့်သော (အရိယာနှင့် ဘာဝနာတရား အားထုတ်လျက် ရှိသူ) ပရိသတ်ချည်း ဖြစ်ကြောင်း, စင်ကြယ်၍ သီလ စသော အနှစ်၌ တည်သောကြောင့် အဖျင်းအညှာ မရှိ အကောင်းအတိ ဖြစ်သော ပရိသတ်သာ ဖြစ်ကြောင်း, နည်းနည်း လှူလျှင် များများရ၍ များများလှူလျှင် အလွန်များစွာ အကျိုးရစေ တတ်သော ပရိသတ်ဖြစ်ကြောင်း, လောကသားတို့အဖို့ ဖူးတွေ့ရခဲသော ပရိသတ်ဖြစ်ကြောင်း, ယူဇနာ ထောင်သောင်း ဝေးကွာသော အရပ်မှ ရိက္ခာထုပ် ထမ်းကာ ဖူးမြော်လာထိုက်သော ပရိသတ် ဖြစ်ကြောင်း မိန့်မြွက်ချီးကျူးတော်မူခဲ့ပါသည် (ဥပရိပဏ္ဏာသ၊ အာနာပါနသာတိ သုတ်။ ၁၂၃)။

**မည္ဘာရှိ သူတော်စင်တို့၏ ထုံးကို နှလုံးမူကာ ကြိုးစားပါ**

"အာဟုနေယျ ဂုဏ်တော်ရှင်" ဖြစ်သော အရိယာ သံဃာတော်များသည် လာရောက်ဖူးမြော်သူ ပူဇော် လှူဒါန်းသူတို့အား အတုံ့ပြန်၍ ကြီးကျယ် မြင့်မြတ်သော ရလာကသံသရာ ကျိုးနှစ်ဖြာကို ကောင်းစွာ ရစေနိုင်သဖြင့် ပညာရှိသူတော်စင်တို့သည် ဘုရားရှင် ပွင့်တော်မူရာ သာသနာနှင့် တွေ့ကြုံဆုံရ ခိုက်တွင် ရှေးအခါကပင် အဝေးမှ တမင်လာ၍ သံဃာတော်များအား ကြည်ညို ဖူးမြော် ပူဇော်လှူဒါန်းလျက် ရှိခဲ့ကြပါသည်။

ယခုကာလ စီးပွားရှိ စီးပွားမဲ့ လူတန်းစား အသီးသီးတို့သည် ကံနှင့် ကံ၏ အကျိုးကို နားလည်ကြပါမူ ရှေးရှေးသော ပညာရှိ သူတော်စင်တို့၏ ထုံးကို နှလုံးမူကာ ကုသိုလ်ကောင်းမှုကို အခွင့်အ သင့်တိုင်း ကြိုးစားပြုလုပ် သင့်ကြ ပါသည်။

တစ်သက်လျာမျှ တစ်ဝမ်းဝဖို့ စီးပွားအတွက် ယခုဘဝတွင် မရသေးက ရရှိအောင် ရှာပြီး ဖြစ်က လက်ရှိ အခြေအနေမှ မလျော့ကျရအောင် နေ့စဉ် ကြိုးစားသကဲ့သို့ တစ်သံသရာလုံး စီးပွားအတွက် အဆက်ဆက် တန်းမြင့်၍ ပါရမီ ရင့်သည်ထက် ရင့်မအောင် ကြိုးစားပြုလုပ်သင့်ပါသည်။ ဤလူ့ဘဝသည် ဗုဒ္ဓဘာသာဝင် သူတော်စင်များအတွက် အလိုရှိရာ ရနိုင်သော ဘဝပဒေသာ ပင်ကြီး ဖြစ်သည်ကို သတိပြုသင့်ကြပါသည်။

**၆။ ပါဟုနေယျဂုဏ်တော်**

ပါဟုနေယျ= (ပါဟုန+ယျေ။ ပါဟုန = ဧည့်သည်အလို့ငှါ စီမံ အပ်သော ပေးကမ်းဖွယ် ဝတ္ထုအစုစုကို+ယျေ=ခံယူတော်မူထိုက်သော သံဃာတော်။)

ယခုကာလ ရိုးရာ ဒေ့သည်များသည် တွေ့ကြုံဖို့ လွယ်ကူ၏၊ ဒေ့ဝတ် ပြုဖို့လည်း လွယ်ကူ၏။ ဘုရားရှင်၏ တပည့်အစစ် ဖြစ်တော်မူသော အရိယာ သံဃာတော်များသည် ဘုရားတစ်ဆူ တစ်ဆူ ပွင့်တော်မူမှ ပေါ်လာကြသဖြင့် တွေ့ကြုံဖို့ မလွယ်၊ ဒေ့ဝတ် ပြုရန် အထူး ခဲယဉ်းသော ကမ္ဘာ့ ဒေ့သည်တော် ကြီးများ ဖြစ်၏။ ထိုဒေ့သည်တော် အရိယာ သံဃာတော်များသည် ဒေ့သည် များအတွက် စီမံထားအပ်သော ပေးကမ်းဖွယ် ဝတ္ထုအစုစုကို ရိုးရာ ဒေ့သည် များထက် အလျင် ဦးစား ပေးလှူလိုက်၍ လှူသမျှကို ခံယူတော်မူထိုက် ကြပါသည်။ ထို့ကြောင့် အရိယာသံဃာတော်များသည် "ပါဟုနေယျ" ဟူသော ဂုဏ်တော်နှင့် ပြည့်စုံတော်မူကြပါသည်။

**ဦးစားပေး ဒေ့ဝတ်ပြုရမည့် ကမ္ဘာ့ဒေ့သည်တော်ကြီးများ**

ဒေ့သည် (အာဂန္တု)သည် "ရိုးရိုးဒေ့သည်, အထူးဒေ့သည်" ဟူ၍ နှစ်မျိုး ရှိ၏။ ထိုတွင် ရိုးရိုးဒေ့သည် ဆိုသည်မှာ ဆွေမျိုး မိတ်ဆွေ စသော လောက ဒေ့သည် ဖြစ်၍ အထူးဒေ့သည် ဆိုသည်မှာ ဘုရားရှင်များ ပွင့်တော်မူမှသာ ပေါ်လာသော လောကုတ္တရာ ကမ္ဘာ့ဒေ့သည်တော် ရဟန်းသံဃာများ ဖြစ်၏။ လောက ဒေ့သည်များမှာ တွေ့ရ ကြုံရဖန်များ၍ ထူးခြားလှသည် မဟုတ်။ တွေ့ခဲ ကြုံခဲလှသည်လည်း မဟုတ်။ ရဟန်း သံဃာတော်များကား ဘုရားပွင့်မှ ပေါ်လာမြဲ ဖြစ်ရာ ဘုရားရှင်နှင့် ကြုံရဖို့ ဆုံရဖို့ ခဲယဉ်းသကဲ့သို့ တွေ့ဆုံကြုံရဖို့ ခဲယဉ်းလှ၏။ ကမ္ဘာတွေ အသချေ လွန်လေသော်လည်း တွေ့ဆုံ ကြုံရဖို့ မလွယ်။

ဒေ့သည်တို့အား ဒေ့ဝတ်ပြုရ၍ ရရှိသော အကျိုးချင်းလည်း မတူ ကွဲပြား ခြားနားကြ၏။ လောကဒေ့သည်တို့အား ဒေ့ဝတ် ပြုရသည်မှာ ဤဘဝ အကျိုး သာမန်မျှ အတုံ့အလှည့် ပြန်လည် ရရှိတတ်၏။ နောင်ဘဝအကျိုး သင့်တင့်ရုံမျှသာ ရရှိ၍ ကြီးကြီးမားမား များများစားစား ခံစားရမည် မဟုတ်။ အလှူ၏ အကျိုးကြီးမြတ်မှု ပြုတတ်သော "သုပ္ပဋိပန္န" စသော ဂုဏ်တို့နှင့် ပြည့်စုံသော ကမ္ဘာ့ဒေ့သည်ခေါ် ရဟန်း သံဃာတော်များအား ဒေ့ဝတ် ပြုသောအားဖြင့် လှူရသော ဒါနမှာကား "မြေဆီဩဇ ပြည့်ဝသော မြေကောင်းမှာ လွန်စွာ လတ်ဆတ် သန့်ရှင်းသော မျိုးစေ့ကောင်းကို စိုက်ပျိုး ရလျှင် အလွန်ကောင်းသော အသီးအနှံ အပွင့်မျိုးကို ဖွံ့ဖွံ့ဖြိုးဖြိုး ရနိုင်သကဲ့သို့ ပြောမပြနိုင်လောက်အောင် မြားမြောင် ဖွံ့ဖြိုးသော အကျိုးတရားများကို ရရှိခံစားရမည်မှာ သေချာလှ၏။

ဂုဏ်အားဖြင့် လောက ဧည့်သည်များမှာ "သုပ္ပဋိပန္န"စသော နှစ်သက်ကြည်ညိုဖွယ်ဂုဏ်များမရှိဘဲ ကမ္ဘာ့ဧည့်သည်ဖြစ်သော ရဟန်းသံဃာတော်များမှာသာ "သုပ္ပဋိပန္န" စသော နှစ်သက် ကြည်ညိုဖွယ် ဂုဏ်များ ရှိပါသည်။ ထို့ကြောင့် "သံဃသဒိသော ဟိ ပါဟုနကော နတ္ထိ=သံဃာနှင့်တူသော ဧည့်သည်မည်သည် မရှိ"ဟု ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ (ဝိသုဒ္ဓိ၊၁။၂၁၃)၌ မိန့်ဆိုခဲ့ပါသည်။

ယင်းသို့ တွေ့ခဲ ဆုံခဲခြင်း, အကျိုး ကြီးမားခြင်းနှင့် နှစ်သက်ကြည်ညိုဖွယ်ဂုဏ်ရှိခြင်းတို့ကြောင့် ဧည့်ဝတ် ပြုခွင့်ကြုံလာလျှင် လောက၌ အကောင်းဆုံး ဧည့်ဝတ်ပြုထိုက်သည်ဆိုသော ထိတ်တန်းအကျဆုံး ဧည့်သည်များကိုပင် ဧည့်မခံ ဧည့်ဝတ် မပြုသေးဘဲ အသာဆိုင်းထားလျက် ကမ္ဘာ့ ဧည့်သည်တော်ကြီးများဖြစ်သော အရိယာသံဃာတော်များကိုသာလျှင် ဦးစားပေး ဧည့်ဝတ်ပြုသောအားဖြင့် ပူဇော်လှူဒါန်းထိုက်လေသည်။

**ရဟန်းသံဃာ အိမ်ကြွလာ မျှားစွာလာဘ်ကောင်းမှန်**

သီလရှိသော ရဟန်း သံဃာတော်များ မိမိအိမ်သို့ ကြွရောက်လာပါလျှင် လာဘ်ကြီးငါးပါး ရသည်မည်ပုံကို ဘုရားရှင်ဟောတော်မူခဲ့ပါသည်။ လာဘ်ကြီးငါးပါးမှာ ဖော်ပြလတ္တံ့ပါအတိုင်း ဖြစ်ပါသည်—

(၁) သီလရှိသော ရဟန်းသည် အိမ်သို့ ကြွသည် ရှိသော် လူတို့မြင်၍ စိတ်ကြည်လင်သောအခါ– ထိုအိမ်သည် နတ်ပြည်ရောက်စေသော အကျင့်ကို ကျင့်သည် မည်ပေ၏။

(၂) ခရီးဦး ကြိုဆိုကြ, ရှိခိုးကြ, နေရာထိုင်ခင်း ပေးကြသောအခါ– ထိုအိမ်သည် မြင့်မြတ်သော အမျိုး၌ ဖြစ်စေသော အကျင့်ကို ကျင့်သည် မည်ပေ၏။

(၃) နေရာထိုင်ခင်း စသည်၌ နှမြောတွန့်တိုမှု (မစ္ဆရိယ)စိတ်အညစ်အကြေး ကင်းကွာသောအခါ– ထိုအိမ်သည် တန်ခိုးကြီးစေသော အကျင့်ကို ကျင့်သည် မည်ပေ၏။

(၄) စွမ်းအားရှိသလောက် ခွဲဝေ လှူဒါန်းသောအခါ– ထိုအိမ်သည် ဥစ္စာပေါများစေသော အကျင့်ကို ကျင့်သည် မည်ပေ၏။

(၅) မေးမြန်း လျှောက်ထား မှတ်သား နာယူကြသော အခါ– ထိုအိမ်သည် အသိဉာဏ်ပညာ ကြီးပွားစေသော အကျင့်ကို ကျင့်သည် မည်ပေ၏။

ရဟန်းတို့...သီလရှိသော ရဟန်းတို့ ကြွရောက်လာသော အိမ်၌ အိမ်ရှင် ဒါယကာတို့သည် ဤအကြောင်း ငါးမျိုးတို့ဖြင့် များစွာသော ကောင်းမှုကို တိုးပွားစေကြပေကုန်၏ (အံ၊၂၊ကုလသုတ်။၂၁၃)။ မြန်မာပညာရှိတို့က "မြင့်မြတ်အမျိုး၊ နတ်, တန်ခိုး၊ ပွားတိုးဥစ္စာ, ဉာဏ်"ဟု လက်ာစီ၍ မှတ်တမ်းပြုထားကြပါသည်။

**အရောဝင်လွန်းလျှင် မကောင်း**

သီလရှိသော ရဟန်းတော်များ အိမ်သို့ ကြွရောက်လာလျှင် ကုသိုလ်တိုးပွားရသော်သည်း သတိမူရမည့်အချက်ကား ရှိ၏။ ရဟန်းများ လူတို့နှင့် ချမ်းသာမကွဲ ဆင်းရဲအတူ (=သဟသောကီ, သဟနန္ဒီ) အရောဝင်ခြင်းမျိုးကိုမူ ဘုရားရှင် လိုလားတော်မမူပါ။ ထို ရဟန်းမျိုးကို (ကုလူပက=အိမ်ကပ်ရဟန်း, လူစော်နံသောရဟန်း)ဟု ခေါ်သည်။ ယင်း ကုလူပကခေါ် အိမ်ကပ်ရဟန်းကား—

(၁) အိမ်သူ အိမ်သား ဒါယကာ ဒါယိကာမများနှင့် အရင်းအချာ ချစ်ခင် ရင်းနှီးသူ မဟုတ်ပါဘဲလျက် အရောတဝင် ခင်မင် ရင်းနှီးဟန် ဆက်ဆံသော ရဟန်း၊

(၂) မသက်မဆိုင် မပိုင်စိုးဘဲလျက် ပိုင်စိုးပိုင်နင်း စီမံခန့်ခွဲသော ရဟန်း၊

(၃) ကွဲပြားသူတို့ကို စေ့စပ်ရေးလုပ်ရန် သွားသော ရဟန်း၊

(၄) (နားရင်း ကပ်၍) တိုးတိုးပြောလေ့ရှိသော ရဟန်း၊

(၅) အတောင်းအရမ်း ထူသော ရဟန်း—

ဟူ၍ ငါးမျိုးရှိ၏။

ထို ရဟန်းငါးမျိုးကို ဘုရားရှင် နှစ်ခြိုက်တော်မမူချေ။ အဘယ့်ကြောင့်ဆိုသော် လူဒါယကာ ဒါယိကာမတို့၏ ချစ်ခင် မြတ်နိုးခြင်း, လေးစားခြင်း, စိတ်နှလုံးကို တိုးပွားစေခြင်း မရရှိနိုင်သောကြောင့် ပင်တည်း (အံ၊၂၊ ကုလူပကသုတ်။၁၂၀)။

လူဒါယကာ ဒါယိကာမများ အနေဖြင့်လည်း ရဟန်း သံဃာတော်တို့ထံမှ သီလ, သမာဓိ, ပညာ ကုသိုလ်ရရေးမှတပါး အခြားမြော်လင့်ချက် တစုံတရာဖြင့် မချဉ်းကပ်သင့်ချေ။ လူပေါင်း ပေါင်းလျှင် သာသနာဖျက်ရာရောက်၍ အလှူခံရဟန်း မီးလောင်ခံရတတ်သည်။ အလွန် အပြစ်ကြီးလေးသော "သံဃာကွဲပြားရေး" ကံကြီးကိုပင် လှုံ့ဆော် ကျူးလွန်မိတတ်သည်။ မီးဟုန်းဟုန်း

တောက်နေသော ရွှေတောင်ကြီးသဖွယ် သဘောထားကာ မကပ်လျှင် ရွှေမရ၊ ကပ်လွန်းလျှင် မီးလောင်ခံရမည် ဖြစ်၍ လွန်စွာရင်းရင်းနှီးနှီး ကပ်လွန်းခြင်း၊ စိမ်းစိမ်းကားကား ခွါလွန်းခြင်း မပြုမိဖို့ သတိပြုသင့်ကြပါသည်။

၇။ ဒက္ခိဏေယျဂုဏ်တော်

ဒက္ခိဏေယျ=(ဒက္ခိဏာ+ယေျ။ ဒက္ခိဏာ=မြတ်သော အလှူကို+ ယေျ=ခံယူတော်မူထိုက်သော သံဃာတော်။)

ဘုရားရှင်၏ တပည့်အစစ် ဖြစ်တော်မူသော အရိယာ သံဃာတော် အပေါင်းသည် ကောင်းမှုရှင်တို့ ရည်မှန်းတိုင်းသော အကျိုးကို ကောင်းစွာ ရစေနိုင်သောကြောင့် မြတ်သော အလှူကို ခံယူခြင်းငှါ ထိုက်တန်တော်မူကြ၏။ ထို့ကြောင့် "ဒက္ခိဏေယျ"ဟူသော ဂုဏ်တော်နှင့် ပြည့်စုံတော်မူပါသည်။

မြတ်သော အလှူကို ခံတော်မူထိုက်ခြင်း

"ဤပုဂ္ဂိုလ်သည် ငါ့ကို ဆေးကုပေးလိမ့်မည်၊ ငါခိုင်းရာကို လုပ်ပေးလိမ့်မည်" စသောအားဖြင့် အလှူခံပုဂ္ဂိုလ်တို့ထံမှ တစုံတရာ ရလိမ့်မည်ဟု မြော်လင့် တောင့်တချက်ဖြင့် လှူသော အလှူသည် "ဒက္ခိဏာ" မည်သော အလှူမျိုး မဟုတ်၊ တမလွန်လောကကို ယုံကြည်၍ တမလွန်လောက၌ ကြီးပွားချမ်းသာဖို့ အရေးကို မြော်တွေး မှန်းဆ၍ လှူဒါန်းသော အလှူမျိုးသာ "ဒက္ခိဏာ" မည်သော အလှူမျိုးဖြစ်၏။ ယင်းအလှူမျိုးကိုသာ "အလှူမှန်၊ အလှူကောင်း" ဟူ၍လည်းကောင်း၊ "မြတ်သော အလှူ"ဟူ၍လည်းကောင်း ဆိုရ၏။

ဤအလှူမျိုးသည် လက်ငင်းဒိဋ္ဌ အကျိုးရရေးကိုသာ အလေးထားသော ပုဂ္ဂိုလ်တို့အတွက် ပြုရန် မလွယ်ကူပါ၊ နောင်ဘဝသည် မြင်ရသည် မဟုတ် မမြင်ရသည့်အတွက် အချို့ကလည်း ရှိသည်ဟု မယုံကြည်၊ "သေလျှင် ပြတ်၏" ဟူ၍ "ဥစ္ဆေဒဒိဋ္ဌိ"အယူမျိုး ရှိကြ၏။ ထိုသူတို့အဖို့ မယုံကြည်သော နောင်ဘဝ ကောင်းစားရေး အလှူကို မည်သည့် နည်းနှင့်မျှ ပြုလိုစိတ် ရှိနိုင်ကြမည် မဟုတ်ပါ။

ထို့ကြောင့် ဤ"ဒက္ခိဏာ"ခေါ် "တမလွန် ကောင်းစားရေး အလှူမျိုး"ကို ပြုရေးအတွက် "ဥစ္ဆေဒဒိဋ္ဌိ"ခေါ် "သေလျှင် ပြတ်၏"ဟူသော အယူမျိုး မရှိဖို့ အယူစင်ကြယ်ဖို့ ရှေးဦးစွာ လိုအပ်ပါသည်။

ဘုရားရှင်၏ အလိုတော်အရ "အဝိဇ္ဇာနှင့် ဘဝတဏှာ"ခေါ် "မသိမှုနှင့် ဘဝကို လိုချင်တောင့်တမှု" သံသရာရေသောက်မြစ် နှစ်ပါး အကြွင်းမဲ့ ပယ်ဖြတ်

ပြီးသော ဘုရားရဟန္တာများမှတပါး ယင်းရေသောက်မြစ်နှစ်ပါး မပြတ်သေးသူ မှန်သမျှ (မိမိတို့၏ စိတ်နှင့် နွတ်က မည်မျှပင် တမလွန်လောက မရှိဟု သိစေကာမူ ပြောစေကာမူ) တမလွန်လောက၌ ဖြစ်လေရဦးမည်သာ ဖြစ်၏။

မှန်ပါသည်။ ရေသောက်မြစ် ပြတ်ပြီးသော သစ်ပင်၏ လာလတ္တံ့သော နောက်နှစ်၌ အသီး မသီးမှုနှင့် ရေသောက်မြစ် မပြတ်သေးသော သစ်ပင်၏ လာကာတ္တံ့သော နောက်နှစ် နောက်နှစ်များ၌ ရေသောက်မြစ် မပြတ်သေးသမျှ အသီး သီးမှုကို မျက်မြင် ကိုယ်တွေ့ ဥပမာပြု၍ သံသရာ ရေသောက်မြစ် ပြတ်ပြီးသော ဘုရား ရဟန္တာတို့၏ တမလွန်ဘဝ၌ မဖြစ်တော့မှုနှင့် သံသရာ ရေသောက်မြစ် မပြတ်သေးသော (ပုထုဇဉ်, သောတာပန်, သကဒါဂါမ်, အနာဂါမ်) ပုဂ္ဂိုလ်တို့၏ တမလွန်ဘဝ၌ ထိုက်သင့်သလို ပဋိသန္ဓေ တည်နေ ဖြစ်ပွားမှုကို ယုံကြည်စွာ မှတ်ယူသင့်ကြပါသည်။

ဤသို့အားဖြင့် "သေလျှင် ပြတ်၏" ဟူသော "ဥစ္ဆေဒဒိဋ္ဌိ" အယူမှား မရှိမှုသာ တမလွန်လောက ရှိမှုကို ယုံ၍ တမလွန်လောက ရှိမှုကို ယုံမှုလည်း တမလွန်လောက၌ ချမ်းသာစွာ နေရရေးအတွက် ဒါနကောင်းမှုကို ပြုလုပ်ဖွယ် ရှိလာနိုင်ပါသည်။ ယင်းသို့ ဘဝယုံကြည်မှု အခြေခံပြီး ပြုလုပ်သော ဒါနမျိုး ဖြစ်မှသာ တမလွန်လောကတွင် လိုအပ်သော အကျိုးကို ဖွံ့ဖြိုးတိုးတက်စေနိုင်မည် ဖြစ်သောကြောင့် "ဒက္ခိဏာ"ခေါ် "မှန်သော, ကောင်းသော, မြတ်သော အလှူမျိုး" ဖြစ်နိုင်ကြပါမည်။

ဘုရားရှင်၏ တပည့်အစစ် ဖြစ်တော်မူသော အရိယာသံဃာတော်အပေါင်း သည် "သုပ္ပဋိပန္န"စသော အကြောင်းဂုဏ်တို့နှင့် ကုံလုံ ပြည့်ဝတော်မူကြသည့် အတွက် အလှူရှင်တို့၏ ရည်မှန်းချက် ဆန္ဒအတိုင်း ကောင်းသော အကျိုးတို့ကို ပြည့်ဝစွာ ရစေနိုင်သောကြောင့် "ဒက္ခိဏာ"မည်သော အလှူမှန် အလှူကောင်း အလှူမြတ်ကို ခံယူတော် မူထိုက်ကြပါသည်။ အချုပ်အားဖြင့် အလှူက သမ္မာဒိဋ္ဌိအယူဖြင့် ကံ ကံ၏ အကျိုးကို ယုံကြည်၍ လှူဒါန်းသော အလှူမျိုး ဖြစ်ပြီး အလှူခံက သီလရှိသော "သီလဝန္တ" အလှူခံပုဂ္ဂိုလ်မျိုး ဖြစ်မှသာ မြတ်သော "ဒက္ခိဏာ"အလှူကို ခံယူတော်မူထိုက်သော "ဒက္ခိဏေယျ"ဂုဏ်နှင့် ပြည့်စုံသည်ဟု ဆိုလိုပါသည်။

**အတ္တကျိုးနှင့် ပရကျိုး အလှူနှစ်မျိုး**

တမလွန်ကျိုးကို မျှော်ကိုးမှုနှင့် စပ်၍ မိမိအတွက် မျှော်ကိုးခြင်းနှင့် မိမိနှင့် စပ်သော ကွယ်လွန်သူ မိဘ ဆွေမျိုးများအတွက် မျှော်ကိုးခြင်းဟု နှစ်မျိုးရှိရာ "ဒက္ခိဏာ"ခေါ်သော အလှူလည်း—

(၁) မိမိအတွက် ချမ်းသာဖို့ရန် လှူဒါန်းခြင်း တစ်မျိုး၊

(၂) သေလွန်သူ မိဘ ဆွေမျိုးများအတွက် ချမ်းသာဖို့ရန် လှူဒါန်းခြင်း တစ်မျိုး—

ဟူ၍ နှစ်မျိုးရှိရလေသည်။

(၁) မိမိအတွက် လှူဒါန်းခြင်းသည် အခွင့်သာလျှင် သင့်ရာ ဘဝ၌ နိဗ္ဗာန် မရမချင်း အကျိုးပေးမည်။ ယခုအခါ ဗုဒ္ဓဘာသာ မဟုတ်သူတို့ ကောင်းကျိုး ခံစားနေကြရသည်မှာ ၎င်းတို့ သန္တာန်၌ ရှေးအခါက လှူဒါန်းခဲ့သော "ဒက္ခိဏာ" ခေါ်သော အလှူမျိုး ပါရှိခဲ့သောကြောင့် ဖြစ်သည်။ ရှေးက ပြုခဲ့သော ကုသိုလ်ကံဟောင်း၏ ကောင်းကျိုးကို ခံစားနေကြရခြင်း ဖြစ်၏။ ယခုဘဝ၌ ပြုမိသော ကောင်းမှု မကောင်းမှုများအတွက် နောက်နောက်ဘဝ၌ အကျိုးပေးမည်သာ ဖြစ်၏။

ယခုဘဝ၌ ကောင်းမှုပြုနေပါလျက် မကောင်းကျိုးခံနေရသူများ, မကောင်းမှုပြုနေပါလျက် ကောင်းကျိုးစံနေရသူများ ရှိ၏။ ထိုသူတို့ကို ကြည့်၍ အချို့က ကံအကျိုးပေးမှုအပေါ် အမြင်မရှင်းဘဲ မျက်စိလည်တတ်ကြသည်များလည်း ရှိ၏၊ မျက်စိ မလည်သင့်ပေ။ "ပြုလျှင်အသစ် ဖြစ်လျှင်အဟောင်း" ဟူသော ရှေးသူဟောင်းတို့၏ ဆိုရိုးစကားအတိုင်း ဖြစ်မှုကံသည် အဟောင်းဖြစ်၍ ပြုမှုကံသည် အသစ်ဖြစ်သောကြောင့် ကံနှင့်အကျိုး, အကျိုးနှင့်ကံ တစ်ခုနှင့် တစ်ခု ဆက်စပ်မှု မရှိဖြစ်သည်ကို သတိပြုသင့်ကြပါသည်။

စင်စစ် ကောင်းမှုကုသိုလ်ကံသည် အပြစ်မရှိ ချမ်းသာသော အကျိုးကိုသာ ပေးရိုးလက္ခဏာရှိ၍ မကောင်းမှုအကုသိုလ်ကံသည် အပြစ်နှင့်တကွ ဆင်းရဲသော အကျိုးကိုသာ ပေးရိုး လက္ခဏာ ရှိသည်မှာ မည်သည့် အခါမျိုးမှ ပြောင်းလဲရိုး မရှိသော အမှန် သဘာဝဖြစ်ပါသည်။

(၂) ကွယ်လွန်သူ မိဘဆွေမျိုးများအတွက် လှူဒါန်းရာ၌ကား သေသူက ရဲကျနေသော်လည်းကောင်း, တိရစ္ဆာန်ဖြစ်သော်လည်းကောင်း, အလွန်ဝေးသော တော တောင် မြစ် သမုဒ္ဒရာကမ်း၌ ပြိတ္တာဖြစ်နေခဲ့သော်လည်းကောင်း, အမိဝမ်း၌ ဖြစ်နေခဲ့ရသော်လည်းကောင်း, နတ် ဗြဟ္မာဖြစ်နေခဲ့သော်လည်းကောင်း ကျန်ရစ်သူတို့က လှူဒါန်းသော ကုသိုလ်ကို ယင်းကွယ်လွန်သူတို့မသိနိုင်ကြ၊သိနိုင်သော်လည်း

သိရှိမှုနှင့် သာဓုမခေါ်လျှင် သူတို့မှာ အကျိုးထူးမရကြ။ သို့ရာတွင် အချည်းနှီးကား မဖြစ်၊ လှူဒါန်းသူတို့အဖို့ကား ကုသိုလ်ကောင်းမှု ရကြသည်သာ ဖြစ်၏။

ကွယ်လွန်သူသည် မိမိအိမ်, ရွာ,မြို့၏ အနီးအပါး၌ အကြိုအကြား၌ သွားလာလျက် စားရမဲ့ သောက်ရမဲ့ ပြိတ္တာမျိုး (အစိမ်း,သူရဲဇစ္ဆေ) ဖြစ်နေလျှင် ကျန်ရစ်သော မိဘ ဆွေမျိုးများက ဆွမ်း သင်္ကန်း စသည်ကို လှူဒါန်း၍-

"ဤအလှူသည် သွားလေသူ (အမိ အဖ ဆွေမျိုး) အတွက် ဖြစ်ပါစေသတည်း၊ သွားလေသူ (အမိ အဖ ဆွေမျိုး) မည်သူ မည်ဝါသည် ချမ်းသာပါစေသတည်း၊

ဤကုသိုလ်ကို ဝမ်းမြောက်စွာ သာဓုခေါ်ပါလော့ အညီအမျှ ကုသိုလ်ရအောင် အမျှယူပါလော့၊ အမျှပေးဝေပါ၏" ဟု—

ပြောဆို၍ အမျှဝေသောအခါ ထိုပြိတ္တာများ တွေ့မြင် ကြားသိ၍ သာဓုခေါ်လျှင် အဝတ်အစားတို့ကို နတ်သမီး နတ်သားများ ကဲ့သို့ပင် ရရှိနိုင်ကြသည်။ မိမိအတွက် လှူဒါန်းနေသော်လည်း မမြင်မကြားရသဖြင့် သာဓုမခေါ်နိုင်လျှင် မရကြသေးပါ။

ထို့ကြောင့် ကွယ်လွန်သူကို ရည်မှန်း၍ "ဒက္ခိဏာ"ခေါ်သော "အလှူ"ကို ပြုသောအခါ မပြုမီကပင် အချို့အရပ်၌ သုသာန် စသည်သို့ သွား၍ "ယနေ့ အလှူဒါန ပြုမှာမို့ လိုက်ခဲ့ပါ"ဟု ဖိတ်မန်ကာ အိမ်သို့ ခေါ်လာကြသည်။ ထိုကုသိုလ်ကို အလွန်ဝေးသော ရှေးရှေးဘဝက ပြိတ္တာဖြစ်နေကြသော မိဘ ဆွေမျိုးဟောင်းပျားသည်း သာဓုခေါ်နိုင်လျှင် အဖို့ဘာဂ ရခွင့်ရှိကြပါသည်။

**ပေးကား ပေး၏ မရဖြစ်ခြင်း**

ကွယ်လွန်သူ မိဘ ဆွေမျိုးများအတွက် မြော်ကိုးရည်မှန်း၍ လှူဒါန်းအမျှ ပေးဝေမှုအရ "ပေးတိုင်း ရသည်၊ ကျွေးတိုင်း ဝသည်" ဟု မမှတ်ယူသင့်ပါ။ အပေးတတ်ဖို့ အကျွေးတတ်ဖို့ အထူးလိုအပ်ပါသည်။ ဤ၌ အပေးမတတ်၍ မရဖြစ်ခဲ့ပုံ ကျမ်းဂန်လာ သာဓကကို သတိပြုမိကြစေရန် ဖော်ထုတ်တင်ပြ ထားပါသည်—

"ရှေးအခါက မုဆိုး တစ်ယောက်သည် သေလွန်သွားသော ဆွေမျိုးကို ကုသိုလ်အဖို့ ပေးဝေလို၍ သေသူအား ရည်မှန်းလျက် သီလ သင်္ကန်းမရှိသော "ဒုဿီလ" ရဟန်းတစ်ပါးအား နှစ်ကြိမ်တိုင်အောင်

အလှူပေး၍ အမျှပေးဝေသော်လည်း အမျှမရဘဲ ရှိရာ သုံးကြိမ်မြောက် ထပ်မံ၍ ပေးလှူပြန်၏။ ထိုအခါ သေသူ ဆွေမျိုးပြိတ္တာက "ဒုဿီလော မံ ဝိလုမ္ပတိ၊ ဒုဿီလော မံ ဝိလုမ္ပတိ=ငါ့ဖို့ ဥစ္စာကို ဒုဿီလကြီးက လုယူထားသည်"ဟု အော်ဟစ်ရှာသတဲ့ (ဥပရိပဏ္ဏာသ၊ဋ္ဌ။ ၂၂၀-၇။)

ဤ၌ မုဆိုးက လှူ၍ ဒုဿီလရဟန်းက ယူသောကြောင့် လှူသူ ယူသူ နှစ်ဘက်လုံး စင်ကြယ်မှု မရှိသောကြောင့် "ပေးကား ပေး၏ မရ" ဖြစ်ရခြင်း ဖြစ်၏။ ထို့ကြောင့် သေသူ ဆွေမျိုးဟောင်းကို ရည်မှန်း၍ လှူဒါန်းကြရာ၌ မိမိကိုယ်တိုင် သီလဆောက်တည်လျက် သီလရှိသူအား လှူဒါန်း၍ အမျှ ပေးဝေမှ အဖို့ဘာဂ ရဖွယ်ရှိကြောင်း ကောင်းကောင်းကြီး သတိပြုသင့်ကြ ပါသည်။

သီလရှိသော ပုဂ္ဂိုလ်ကို မရွေးချယ်တတ်လျှင် လည်းကောင်း, ရွေးချယ်ရန် မလွယ်ကူလျှင်လည်းကောင်း သံဃာအကုန်ကို ရည်မှန်းလှူဒါန်း၍ အမျှပေးဝေ သင့်၏။ "သံဃာ"ဟူရာ၌ ရဟန်းတော်များ စုမိမှ "သံဃာ"ဟု မမှတ်ရ။ ရဟန်းတစ်ပါးတည်းပင် ဖြစ်သော်လည်း မိမိက တလောသနာလုံးရှိ သံဃာတော် အရှင်မြတ်များကို စိတ်ထဲက ရည်မှတ်၍ "သုပ္ပဋိပန္န" စသော သံဃာတော် အားလုံးနှင့် ဆိုင်သော ဂုဏ်တော်များကို ဆင်ခြင်၍ "သံဃာအား လှူပါ၏"ဟု သံဃာကို ရည်စူး၍ လှူလျှင် "သံဃိကဒါန" ဖြစ်နိုင်၏။ ပုဂ္ဂိုလ်မရွေးဘဲ ရဟန်း တော်အများကို ပင့်၍ လှူရာ၌ကား အထူးပြောဖွယ်မလိုပါ။

**အလှူရဲသော်လည်း မှဲ့သူမရှိနိုင်ကြောင်း**

ဘုရားရှင်သည် ရိက္ခာအတွက် အခက် ကြုံနေရသော ဒုဗ္ဘိက္ခ ကာလဝယ် "နာဠန္ဒာမြို့"သို့ ရဟန်းတော်များစွာနှင့်အတူ ဒေသစာရီ လှည့်လည်တော်မူရင်း ရောက်တော်မူလေ၏။ ထိုအခါ "နိဂဏ္ဌဆရာကြီး"၏ တပည့်ဖြစ်သော "ဂါမဏိ" သည် (သူ့ဆရာကြီး၏ တိုက်တွန်းချက်အရ) ဘုရားရှင်၏ အထံသို့ လာ၍—

> "အရှင်ဘုရားသည် သတ္တဝါများကို သနားသည်ဟု ဆိုပါလျက် ယခုလို ဒုဗ္ဘိက္ခအခါဝယ် ရဟန်းအများနှင့် အတူလာ၍ ဆင်းရဲသူများ အထံ ဆွမ်းခံစားနေသည်မှာ လူတွေ သေကျေ ပျက်စီးအောင် ဖျက်ဆီးရာ မရောက်ပါသလော"ဟု—

အပြစ်တင်လေသည်။ ထိုအခါ ဘုရားရှင်သည် ထွက်သက်လေ၏ ပြန်၍ မဝင်မီ အချိန်လောက်၌ ကိုးဆယ့်တစ်ကမ္ဘာအတွင်းဝယ် မိမိတို့ ချက်ပြီး အစာကို ပေးလှူ၍ မှဲ့နေသူ ရှိ,မရှိကို ဆင်ခြင်တော်မူရာ တစ်ယောက်တလေမျှ မရှိကြောင်းကို မြင်တော်မူသောကြောင့်—

"အို ဂါမဏိ...မိမိတို့ စားဖို့ ချက်ပြီးသား ထမင်းကို ပေးလှူ၍ မွဲသွားသူဟု ကိုးဆယ့်တစ်ကမ္ဘာအတွင်း၌ မရှိခဲ့ဖူးချေ။ ကြီးပွားချမ်းသာနေသူတွေမှာ ဒါနကြောင့်, သစ္စာကြောင့်, သီလကြောင့်သာ ဖြစ်ကြပေသည်။ စင်စစ်အားဖြင့် မွဲနေသူတို့မှာ ရန်သူမျိုးငါးပါး ဖျက်ဆီးခံရသူ, ကံမကောင်းသူဖြင့် မြှုပ်နှံထားသော ပစ္စည်းများ နေရာရွှေ့သွားခြင်း ခံရသူ, မိမိ မကျွမ်းကျင်သော အလုပ်အကိုင်ကို လုပ်ကိုင်မိသူ, အနိစ္စသဘောနှင့် ကြုံတွေ့ရသူ ဤရှစ်မျိုးသာ ရှိနိုင်သည်"ဟု မိန့်တော်မူပါသည် (သံ၊၂၊ကုလသုတ်၊၅၀၇-၉)။

ဘုရားရှင်၏ မိန့်တော်မူချက် စကားအရ နောင်ဘဝအတွက်လည်း ဒါန အကျိုးကို အပြည့်အစုံ ခံစားနိုင်, ဤဘဝ၌လည်း မွဲ၍ မသွားနိုင်, သာသနာတော်၏ တာဝန်ကို ထမ်းဆောင်ရာတွင် အရေးအကြီးဆုံးဖြစ်သော အာဟာရကို နေ့စဉ် ထောက်ပံ့မှုလည်း ဖြစ်နိုင်သော "ဒက္ခိဏာ"ခေါ် ဆွမ်းအလှူဒါနကို မမေ့မလျော့ မပေါ့မဆ ပြုသင့်ကြပါသည်။

### ၈။ အဉ္ဇလိကရဏီယဂုဏ်တော်

အဉ္ဇလိကရဏီယ=(အဉ္ဇလိ+ကရဏီယ။ အဉ္ဇလိ=လက်အုပ်ချီမှုကို +ကရဏီယ=ပြုထိုက်သော, အပြုခံထိုက်သော သံဃာတော်။)

ဘုရားရှင်၏ တပည့်အစစ် ဖြစ်တော်မူသော အရိယာ သံဃာတော် အပေါင်းသည် သီလ, သမာဓိ, ပညာ သိက္ခာဂုဏ်ရည် စုံညီပြည့်ဝတော်မူသောကြောင့် လူအပေါင်းက လက်နှစ်ဖက်တို့ကို ဦးခေါင်းထက်၌ တင်ကာ ပူဇော်အပ်သော လက်အုပ်ချီမိုး ရှိခိုးမှု, အရိုအသေ ပြုမှုကို ခံယူတော်မူထိုက်ကြပါသည်။ ထို့ကြောင့် အရိယာ သံဃာတော် အပေါင်းသည် "အဉ္ဇလိကရဏီယ" မည်သော ဂုဏ်တော်နှင့် ပြည့်စုံတော်မူပါသည်။

### ရှိခိုးခံထိုက်သူတို့အား ရှိခိုးခြင်း

လူအပေါင်းတို့က ရဟန်းသံဃာတို့ကို မြင်လျှင် လက်အုပ်ချီမိုး အရိုအသေပြု ရှိခိုးခြင်းသည် အကြောင်းမဲ့ မဟုတ်၊ ကောင်းမှုကုသိုလ်အကျိုးကို အလိုရှိ၍ ရှိခိုးကြခြင်းဖြစ်၏။ ယင်းသို့ ကောင်းမှုကုသိုလ် အကျိုးကို အလိုရှိ၍ ရှိခိုးခြင်းကိုလည်း သီလသိက္ခာမရှိသော သာမန်ပုဂ္ဂိုလ်တို့ ခံထိုက်ကြသည်မဟုတ်၊ သီလ သမာဓိ ပညာ=သိက္ခာ သုံးပါး ဂုဏ်ရည်များနှင့် ပြည့်စုံသူတို့သာ ခံထိုက်ကြပါသည်။ ဘုရားရှင်၏ တပည့်အစစ် ဖြစ်တော်မူကြသော အရိယာသံဃာတော်

များကား သီလ သမာဓိ ပညာ=သိက္ခာသုံးပါး အကျင့်ဂုဏ်ရည်များနှင့် အမြဲထာဝစဉ် ပြည့်စုံလျက် ရှိသောကြောင့် လူတို့၏ ရှိခိုးခြင်းကို ကောင်းစွာ ခံထိုက်ကြပါသည်။

ရှိခိုးခံထိုက်သော အရာတို့သည် သက်ရှိ သံဃာတော် အရှင်မြတ်တို့သာ မဟုတ်ပါ။ သံဃာတော် အရှင်မြတ်တို့ ဝတ်စုံဆင်မြန်းသော အဝတ်သင်္ကန်း များမှာလည်း အာသဝေါကင်းကွာ ရဟန္တာစစ် ဖြစ်လိုသူများ ဝဋ်သုံးပါးမှ လွတ်အောင် ရှုံးယူကြရာတွင် ဤသင်္ကန်းကို ဝတ်ရုံ ဆင်မြန်း၍ ကြိုးပမ်း အားထုတ်တော်မူကြပြီး ဤသင်္ကန်းဖြင့်ပင် ကိလေသာခပ်သိမ်း ကင်းငြိမ်း ငင်ကြယ်မှုကို ရကြသောကြောင့် လမ်းခရီး၌ မစင်များ လိမ်းကျံနေသော သင်္ကန်းကိုပင် တွေ့လျှင် လက်အုပ်ချီမိုး ရှိခိုးထိုက်ကြောင်း[၁]နှင့် ရဟန်းသံဃာ တော်တို့၏ အသုံးအဆောင် ပရိက္ခရာဟူသမျှ လူတို့အတွက် စေတီအရာ (အမြတ်တနိုး ကိုးကွယ် ပူဇော် ရှိခိုးရာ)၌ တည်၍ စေတီထိုက်လျက် ရှိသော ကြောင့် လက်အုပ်ချီမိုး ရှိခိုးထိုက်ကြောင်း[၂] မိန့်ဆိုခဲ့ကြပါသည်။

ထို့ပြင် ပုထုဇဉ်ရဟန်းသည် ရဟန်းအဖြစ်ကို ပြုတတ်ကုန်သော နှစ်ဆယ်သော အကျင့် တရားတို့ကို လည်းကောင်း, နှစ်ပါးသော အသွင် အပြင်တို့ကို လည်းကောင်း ကျင့်ဆောင်၏၊ သူတပါးကိုလည်း ထိုတရား၌ ကျင့်ဆောင်စေ၏။ "ငါ့အား ထိုရဟန်း၏ ကောင်းသော ကျင့်ဝတ်အလားသည်လည်းကောင်း, ကျင့်ဆောင်စေခြင်းသည်လည်းကောင်း မရှိ"ဟု နှလုံးသွင်း၍ သောတာပန် လူဒါယကာသည် ပုထုဇဉ်ရဟန်းကို ရှိခိုးခြင်းငှါ, ခရီးဦး ကြိုဆိုခြင်းငှါ ထိုက်၏ ဟူ၍ မိလိန္ဒမင်းကြီးအား အရှင်နာဂသေနထေရ်က မိန့်တော်မူခဲ့ပါသည် (မိလိန္ဒပဉ္စာ။ ၁၆၃)။

ဤ၌ ရဟန်းသံဃာ ရတနာ မြတ်သုံးပါးတို့၏ ဂုဏ်ကျေးဇူးကို သိ၍ လက်အုပ်ချီမိုး ရှိခိုးခဲ့ကြပုံ သာဓကများကို ကြည်ညို သဒ္ဓါပွား၍ အတုယူ မှတ်သားနိုင်ရန် ဖော်ထုတ် တင်ပြထားပါသည်—

> "အနာထပိဏ် သူဌေးကြီး၏ သမီး "စူဠသုဘဒ္ဒါ"သည် မိစ္ဆာဒိဋ္ဌိ "ဥဂ္ဂ" သူဌေးသားနှင့် အိမ်ထောင်ကျ၍ မိစ္ဆာဒိဋ္ဌိ ဘုန်းကြီးများကို ရှိမခိုးသည့်အတွက် ယောက္ခမလုပ်သူက "သင် ရှိခိုးသော ဘုန်းကြီး များဟာ ဘယ်လို အမျိုးအစားလဲ"ဟု မေးရာ "လောကဓံရှစ်ပါးကြောင့် ပြောင်းလဲခြင်း မရှိပုံ၊ တည်ငြိမ် အေးချမ်းပုံ၊ အတွင်းရော အပြင်ပါ

ပြူစင် မြင့်မြတ်ပုံ စသည်များကို ပြန်လည် ဖြေကြားခဲ့ပါသည်။ (ဓမ္မပဒ၊ ၄၊ ၂။ စူဠသုဘဒ္ဒါဝတ္ထုနှင့် အင်္ဂုတ္တရ၊ ၃၊ ၂။ ကာဠကာရာမသုတ် အဖွင့်၌ အကျယ်ရှုနိုင်ပါသည် )

ထို့ပြင် သိကြားမင်းကြီးသည် ရထားထိန်း မာတလိနှင့် အပျော် ခရီးထွက်ခါနီး ဝေဇယန္တာ ပြာသာဒ်မှအထွက် ရဟန်း သံဃာတော် များကို လှမ်း၍ ရှိခိုးသည်ကို မြင်၍ မာတလိ-က–

"နတ်မင်းကြီး ဖြစ်ပါလျက် အငိဝမ်းခေါင်း အပုပ်အစပ်အတွင်းမှာ အောင်းပြီး ယုတ်ညံ့သော လူသားများကို ဘာလို့ ရှိခိုးရသလဲ၊ သင် နတ်မင်းကြီး ရှိခိုးတဲ့ သံဃာတော်ဆိုတာ ဘယ်လိုဟာလဲ"ဟု မေးမြန်းလေ၏။

ထိုအခါ သိကြားမင်းက မာတလိအား အောက်ပါအတိုင်း ပြန်လည် ပြောပြလေသည်–

"မာတလိ....သံဃာတော်ဆိုတာ အိမ်ရာ မထောင်ဘဲ တောထဲမှာ နေတယ်၊ အိုး, တောင်း, ကျီကြမထား ဆွမ်းခံစားကြတယ်၊ အညီ အညွတ် ပြောဆိုတိုင်ပင်ကာ ဆိတ်ငြိမ်အေးဆေးစွာ နေထိုင်ကြတယ်။

သတ္တဝါတွေဟာ တစ်ဦးနှင့်တစ်ဦး ခိုက်ရန်ဖြစ်ပွား ဆန့်ကျင်ကြတယ်၊ နတ်တွေတောင်မှ အသုရာတွေနဲ့ ရန်ဖြစ်ကြရသေးတယ်၊ သံဃာတော် တွေဆိုတာ ခိုက်ရန်မမူ လက်နက်ကို စွန့်လွှတ်ထားပြီးသူတွေ ဖြစ်တယ်။

တွယ်တာစရာများလှတဲ့ဘဝ တွယ်တာနေကြသူများ အကြားမှာ ဘာကိုမှ တွယ်တာခြင်း မရှိကြဘူး မာတလိ၊ ဒါကြောင့် ငါ ရှိခိုးခြင်း ဖြစ်တယ်"ဟု ပြန်လည် ပြောပြဖူးလေသည် (သံ၊၁၊သံဃဝန္ဒနာသုတ်။ ၂၃၇–၈)။

## ရှိခိုးခံထိုက်သူမဟုတ်ဘဲ ရှိခိုးခံခြင်း

ပုထုဇဉ် ရဟန်း သံဃာတော်များသည် လက်အုပ်ချီမိုး ရှိခိုးခံထိုက် လောက်အောင် သီလ, သမာဓိ, ပညာ=သိက္ခာသုံးပါးနှင့် ပြည့်စုံသူများရှိသလို ပျက်စီးနေသူများလည်း ရှိတတ်၏။ သီလသိက္ခာ ပျက်စီးနေသူများ ဖြစ်လျှင် လူတို့က အရိုအသေ ပြု၍ လက်အုပ်ချီမိုး ရှိခိုးမှုကြောင့် မိမိတို့အပေါ်၌ ကြီးလေးသော တာဝန်များ တက်ရောက်လာဖွယ် ရှိပါသည်။ ဤ၌ အလွန် သံဝေဂဖြစ်ဖွယ်ကောင်းသော ဘုရားရှင်၏ အဆုံးအမတော် စကားကို သတိ ထားနိုင်ကြရန် ဖော်ထုတ်တင်ပြထားပါသည်––

ခြေသလုံး နှစ်ဖက်တွင် ခိုင်ခံ့မာကျောသော သားရေကြိုးဖြင့် ရစ်ပတ်၍ ပွတ်ဆွဲခံရသဖြင့် အရိုး ရိုးတွင်းခြင်ဆီခိုက်အောင် အသားတွေ ပြတ်ကြေရသူ၏ ဒုက္ခထက် လူတို့ ရှိခိုးခံရခြင်းကြောင့် ဖြစ်ရသောသီလ မရှိသူ၏ ဆင်းရဲက လွန်ကဲလှ၏။

လှံမကြီးဖြင့် ရင်ဝ အထိုးခံရသူ၏ ဆင်းရဲထက် သီလမရှိဘဲ လူတို့ လက်အုပ်ချီ ရှိခိုးမှုခံရသော ရဟန်း၏ ဒုက္ခက သာ၍ ပြင်းထန်လှ၏။

ရဲရဲပြောင်ပြောင် မီးလျှံစွဲလောင်သော သံပြားကြီးကို ကိုယ်ဝယ် လွှမ်းခြုံရသူ၏ ဒုက္ခထက် ဒါယကာတို့ လှူသော သင်္ကန်းကို ဝတ်ရုံ ခြင်းကြောင့် ဖြစ်သော သီလ မရှိသော ရဟန်း၏ ဒုက္ခက ကြီးလေး လှဘိ၏။

မီးလျှံရဲရဲ သံတွေခဲကြီးကို မျိုရသူ၏ ဒုက္ခထက် ဒါယကာ, ဒါယိကာမတို့ လှူသော ဆွမ်းကို စားခြင်းကြောင့် ဖြစ်ရမည့် သီလ မရှိသော ရဟန်း၏ ဒုက္ခက သာလွန် ဆိုးဝါးလှ၏။

မီးလျှံပြောင်ညီး သံအိုးကြီးထဲ၌ နေရသူ၏ ဒုက္ခထက် ကျောင်း၌ နေခြင်းကြောင့် ဖြစ်ရသော သီလမရှိသော ရဟန်း၏ ဒုက္ခက ကြီးလေး ဆင်းရဲလှ၏ (အံ၊၂။၄၉၅။ ဝိသုဒ္ဓိ၊၁။၅၂)။

## ရှိခိုးခြင်းကြောင့် လက်ငင်းရသော အကျိုးများ

ဒေါသမာန်မာနကို နှိမ်ချိုးပယ်သတ်၍ ရဟန်းသံဃာ(ရတနာမြတ်သုံးပါး) ကို ရှိခိုးခြင်း ပဉ္စမစေတနာကံသည် "ဒိဋ္ဌဓမ္မဝေဒနီယကံ"ကဲ့သို့ ယခုဘဝ၌ လက်ငင်းဒိဋ္ဌ အကျိုးကို ရစေနိုင်၏။ ကံနှစ်ပါး၏ ခြားနားချက်ကား ဒိဋ္ဌဓမ္မ- ဝေဒနီယကံမှာ—

(၁) အလှူခံပုဂ္ဂိုလ်က အနာဂါမ်, ရဟန္တာ တစ်ပါးပါးဖြစ်ခြင်း၊

(၂) အနာဂါမ်, ရဟန္တာပင် ဖြစ်စေကာမူ ဖလသမာပတ် ဝင်စားရာမှ ထွက်လာခိုက်ဖြစ်ခြင်း၊

(၃) လှူဖွယ်ပစ္စည်းက တရားသဖြင့် ရသော (ဓမ္မိယလဒ္ဓ) ပစ္စည်းမျိုး ဖြစ်ခြင်း၊

(၄) မလှူမီ, လှူဆဲ, လှူပြီး ဝမ်းမြောက်ဝမ်းသာ စေတနာသုံးတန် ညီခြင်း—

ဟူသော အကျိုးပေး အင်္ဂါရပ် လေးချက်နှင့် ပြည့်စုံရ၏။ ရှိခိုးခြင်းပဏာမ စေတနာကံမှာကား အကျိုးပေးအင်္ဂါရပ် လေးချက်အထိ မလို။ (၁) ရှိခိုးခံသူနှင့် (၂) ရှိခိုးသူဟူ၍ အင်္ဂါရပ် နှစ်ချက်သာ ပြည့်စုံရန် လိုသည်၊ ဤကား ခြားနားချက်တည်း။

ထိုတွင် ရှိခိုးခံသူက အတုမရှိသော ဂုဏ်ထူး ဝိသေသနှင့် ပြည့်စုံသည့် ဘုရား, တရား, သံဃာ=ရတနာမြတ်သုံးပါး ဖြစ်ရန်နှင့် ရှိခိုးသူက အလွန်အလွန် ထက်မြက် ကောင်းမွန်သော စေတနာသဒ္ဓါတရားနှင့် ပြည့်စုံရန်ကား အထူး လိုအပ်၏။ (အခြေခံ သီလတရားလည်း ပြည့်စုံစွာ ရှိထားရမည်သာ။) ဤအင်္ဂါ နှစ်ချက်နှင့် ပြည့်စုံလျှင် စေတနာသဒ္ဓါတရားများ လေးနက် ထက်သန်သည်နှင့် အမျှ အန္တရာယ် ကင်းပျောက် လိုရာ ပြီးမြောက်ခြင်း စသော ကောင်းကျိုးချမ်းသာတရားများ ရရှိခံစားနိုင်ကြမည်မှာ သေချာလှပါသည်။ ကျမ်းတကာတို့၏ အဦးအစဥ် "နမော တဿ" ပဏာမဖြင့် ဘုရားရှိခိုးကြခြင်းမှာလည်း ဤအကျိုးများကို ရလို၍ ရှိခိုးကြခြင်းသာ ဖြစ်ပါသည်။ ဤသို့ ရှိခိုးခြင်းကြောင့် လက်ငင်းရသော အကျိုးများကို ဆက်လက်တင်ပြထားပါသည်—

> ဘုရားရှင် လက်ထက်တော်က နေ့ည ချက်ချင်း သေဘေးကြီးဆိုက်ရန် ကံပါလာသော "ဒီဃာယု"ခေါ် သတို့သားသည် ဘုရားအမှူးရှိသော သံဃာတော်များကို ရှိခိုးရသဖြင့် သေဘေးမှ လွတ်ကာ အသက်(၁၂၀) ရှည်ခဲ့ဖူး၏။[1]

"ဒီဃာယု"သတို့သားကဲ့သို့ အသက်သိက္ခာ ဂုဏ်ဝါကြီးသူနှင့် ဘုရား,တရား, သံဃာ=ရတနာမြတ်သုံးပါးအား ရှိခိုးသူတိုင်း—

(၁) အသက်ရှည်ခြင်း (အာယု)၊

(၂) အဆင်းလှခြင်း (ဝဏ္ဏ)၊

(၃) ရောဂါကင်း၍ ကိုယ်ရောစိတ်ပါ ချမ်းသာခြင်း (သုခ)၊

(၄) ကိုယ်လက်ကြံ့ခိုင်၍ အားခွန်ဗလ ကြီးမားခြင်း (ဗလ)၊

(၅) အသိဉာဏ်ကြီးမားခြင်း (ပဋိဘာဏ)—

ဤအကျိုးငါးပါး ရကြောင်းကိုလည်း ဘုရားရှင် ဟောကြား မိန့်မြွက်တော်မူခဲ့ပါသည် (ဓမ္မပဒ၊ဋ္ဌ၊၁၊ အာယုဝဍ္ဎနသတို့သားဝတ္ထု။၄၂၃-၄၂၅)။

---

[1] ၁။ ဓမ္မပဒဋ္ဌ၊၂၊ သုခသာမဏေဝတ္ထု။၅၉။

**၉။ အနုတ္တရပုညက္ခေတ္တဂုဏ်တော်**

အနုတ္တရပုညက္ခေတ္တ = (အနုတ္တရ = အတုမရှိ လွန်မြတ်သော+ ပုညက္ခေတ္တ=ကောင်းမှုမျိုးစေ့ စိုက်ပျိုးကြဲချရာ လယ်ယာမြေကောင်း သဖွယ် ဖြစ်တော်မူသော သံဃာတော်။ "ပုညက္ခေတ္တ"ကို "ပုန်ညက် ခစ်တ"ဟု အသံထွက်ဖတ်ပါ။)

ဘုရားရှင်၏ တပည့်အစစ် ဖြစ်တော်မူသော အရိယာ သံဃာတော် အပေါင်း သည် သီလ, သမာဓိ, ပညာ=သိက္ခာဂုဏ်ရည် စုံညီပြည့်ဝတော်မူသောကြောင့် ကုသိုလ်ကောင်းမှုတည်းဟူသော မျိုးစေ့တို့၏ စိုက်ပျိုးကြဲချရာ အတုမရှိ ကောင်းမြတ်သော လယ်ယာမြေကောင်းသဖွယ် ဖြစ်တော်မူ၏။ ထို့ကြောင့် အရိယာ သံဃာတော် အပေါင်းသည် "အနုတ္တရပုညက္ခေတ္တ" ဂုဏ်တော်နှင့် ပြည့်စုံတော်မူပါသည်။

[ဤ "အနုတ္တရပုညက္ခေတ္တ" ဂုဏ်တော်ကို တလောကလုံး၏ (ကောင်းမှုမျိုးစေ့တို့ကို စိုက်ပျိုးကြဲချရာ အတုမရှိသော) လယ်ယာ မြေနှင့် တူတော်မူသောကြောင့် "အနုတ္တရံ ပုညက္ခေတ္တံ လောကဿ" ဂုဏ်တော်ဟူ၍လည်း အပြည့်အစုံ ခေါ်ဝေါ် သုံးနှုန်းကြ၏။]

**လယ်ယာမြေကောင်းသဖွယ် ဖြစ်တော်မူခြင်း**

အရိယာ သံဃာတော် အပေါင်းသည် လယ်ယာမြေကောင်းနှင့် တူ၏၊ ကောင်းမှုရှင်ကား လယ်သမားနှင့် တူကြ၏။ ကောင်းမှုရှင် ပြုလုပ်သော လှူဒါန်းမှု ဒါနစေတနာသည် အောင်အောင်မြင်မြင် အနှစ်အဆံ ပြည့်ဝသော မျိုးစေ့ကောင်းနှင့် တူကြသည်။

လယ်ယာစိုက်ပျိုးရာတွင် ပေါင်းပင်မြက်ပင်များ ကင်းရှင်း၍ မြေဆီ မြေသြဇာ ကြွယ်ဝသော လယ်မြေ၌ စိုက်ပျိုးသော မျိုးစေ့များသည်သာ စည်ပင်ပြန့်ပွား ဖွံ့ထွားကြီးမားသကဲ့သို့ ကောင်းမှုပြုရာတွင်လည်း ကိလေသာ အညစ်အကြေး တို့မှ ကင်းဝေးစင်ကြယ်ပြီး သီလ သမာဓိ ပညာ သိက္ခာသုံးပါးနှင့် ပြည့်စုံသော အရိယာသံဃာတော်များ၌ လှူဒါန်းမှုပြုလုပ်ကြမှသာ နောင်အချိန်ကျသော အခါ အလွန်ကြီးမား ဖွံ့ထွားသော အကျိုးများကို ရရှိခံစားနိုင်ဖို့ ရှိပါသည်။

ထို့ကြောင့် အရိယာသံဃာဟူ၍ သိသိသာသာ မထင်ရှားသော ယခုအခါ မျိုးတွင် သံဃာများနှင့် စပ်ဆိုင်သော ကထိန်သင်္ကန်းလှူဒါန်းမှု, နေ့စဉ် ဆွမ်း လောင်းမှု စသော ကိစ္စများ၌ ပရိနိဗ္ဗာန်စံဝင်တော်မူပြီးသော အရိယာသံဃာ

တော်များနှင့် တသာသနာလုံးရှိ သံဃာတော်များကို ရည်မှန်း၍ လှူဒါန်းသင့်ကြပါသည်။ တစ်ပါး နှစ်ပါး စသည် လှူဒါန်းရာ၌လည်း သီလ, သမာဓိ, ပညာ ကောင်းစွာ လိုလောက်သော ပုဂ္ဂိုလ်များကို ရွေးချယ် လှူဒါန်းရန် မလွယ်ကူလျှင် တသာသနာလုံးရှိ သံဃာတော်များ၏ ဂုဏ်ကိုသာ ရည်မှန်း၍ လှူဒါန်းခြင်းဖြင့် ဖွံ့ဖြိုးကြီးမား များပြားသော အကျိုးစီးပွားကို ရရှိခံစားနိုင်ကြမည် ဖြစ်ပါသည်။

**ရွာဦးကျောင်းဘုန်းကြီးရှိ၍ အကျိုးရပုံအကြောင်း**

အရိယာ ဖြစ်ပြီးသော ရဟန်း သံဃာတော်များ မဟုတ်ကြစေကာမူ သီလသိက္ခာကို ကောင်းစွာ စောင့်စည်း၍ အရိယာဖြစ်ဖို့ လမ်းကို ကြိုးပမ်းလျှောက်လှမ်းနေကြသော ပုထုဇဉ် သီလဝန္တ ရဟန်း သံဃာတော်များလည်း အများအပြား ရှိနေကြပါ၏။ ယင်း ပုထုဇဉ် သီလဝန္တ ရဟန်း သံဃာတော်များကို ရွာဦး ရွာထိပ်တွင် ထားပြီး လေးလေးစားစား ကိုးကွယ်ဆည်းကပ် သွားကြလျှင်လည်း ကောင်းမှုကုသိုလ်များ တိုးပွားနိုင်ကြပါသည်။ ရှေးအခါက မြန်မာနိုင်ငံ ရပ်တိုင်း ရွာတိုင်း၌ လူကောင်းသူကောင်းများ ပေါ်များခဲ့ပြီး ယနေ့အထိ သာသနာဆက်နိုင်ခဲ့သည်မှာ ရွာဦးကျောင်း ဘုန်းကြီးများ ရှိ၍ အကျိုးရခဲ့ပုံသာဓကများပင် ဖြစ်ပါသည်။ ဤစကားကို ပိုမို၍ ယုံကြည်သဒ္ဓါ ပွားနိုင်ကြရန် ဘုရားရှင်၏ မိန့်တော်မူချက် စကားများကို ဆက်လက် တင်ပြအပ်ပါသည်—

> ရဟန်းတို့...အကြင်ရွာကို ဖြစ်စေ, အကြင်နိဂုံး (မြို့)ကို ဖြစ်စေ သီလရှိသော ရဟန်းတို့ မှီတင်း နေထိုင်ကြကုန်၏။ သီလရှိသော ရဟန်းကောင်းတို့၏ နေထိုင်ရာ ထိုရွာ၌(ထိုနိဂုံး,ထိုမြို့၌) လူတို့သည် ကိုယ်အနေအားဖြင့် ကောင်းမှု ကုသိုလ် များစွာ တိုးပွားကြကုန်၏။ နှုတ်အပြောအားဖြင့်လည်း ကောင်းမှု ကုသိုလ် များစွာ တိုးပွားကြကုန်၏။ စိတ်အကြံအားဖြင့်လည်း ကောင်းမှုကုသိုလ် များစွာ တိုးပွားကြကုန်၏ (အင်္ဂုတ္တိုရ် တိကနိပါတ်၊ ပဌမပဏ္ဏာသက၊ ၅-စူဠဝဂ်၊ ဆဋ္ဌသုတ်)။

> ထို့ပြင် "ကောသလမင်းကြီးက အဘယ်ပုဂ္ဂိုလ်မျိုး၌ လှူအပ်သောအလှူသည် အကျိုးကြီးပါသလဲ"ဟု လျှောက်ထားရာ "သီလရှိသော ပုဂ္ဂိုလ်အား လှူသော အလှူသည် အကျိုးကြီး၍ သီလ မရှိသော ပုဂ္ဂိုလ်အား လှူသောအလှူမှာ ထိုကဲ့သို့ အကျိုးမကြီး"ဟု ဘုရားရှင်က မိန့်တော်မူခဲ့ပါသည် (သံ၊၁၊ဣဿတ္တသုတ်။၉၉)။

...ာင်မစေ့လောက်လျှ၍ ညောင်ပင်ကြီးလောက်အကျိုးရ

အင်္ဂုယာ သံဃာတော်သည် ကောင်းမှုတည်းဟူသော မျိုးစေ့ကို စိုက်ပျိုးကြဲချဖို့ရာ အတုမရှိသော လယ်ယာမြေကောင်းနှင့် တူပုံ သာဓကတစ်ခုကို ထုတ်ပြပါဦးမည်—

ဘုရားရှင် လက်ထက်တော်က ဆင်းရဲသူ အမျိုးသမီးတစ်ယောက်သည် လယ်တော စောင့်ရင်း သရေစာ အဖြစ်ဖြင့် စားဖို့ရာ ကောက်ညှင်း စပါးများကို လှော်၍ ပေါက်ပေါက် ဖောက်ထား၏။ "အရှင်မဟာကဿပ" မထေရ်မြတ်လည်း နိရောဓသမာပတ်မှ ထလျှင် ဆင်းရဲသူမလေးကို မြင်သဖြင့် လယ်တောသို့ ဆွမ်းခံကြွတော်မူသည်။

အမျိုးသမီးလေးသည် မိမိ စားဖို့ရာ ပေါက်ပေါက်ကလေးများကို လာရောက် လှူဒါန်းပြီးလျှင် ဝမ်းမြောက်ဝမ်းသာ မိမိ၏ အလှူကို အောက်မေ့လျက် လယ်စောင့်တဲသို့ ပြန်လေ၏။ ယင်းသို့ အပြန်တွင် ကစင်း (ကန်သင်း)ရိုးမှ မြွေကိုက် ခံရသဖြင့် ချက်ချင်း သေဆုံးရရှာသည်။

ထိုအခါ မိမိ ကုသိုလ်ကို ဝမ်းမြောက်သော စိတ်က စွဲနေသဖြင့် ထိုကုသိုလ်စိတ်ကြောင့် နတ်ပြည်သို့ ရောက်ရကာ ပေါက်ပေါက်ဇာတွေ တွဲရရွဲဆွဲနေသော ဘုံ၌ နတ်သမီး ဖြစ်၍ "လာဇာ (ပေါက်ပေါက်) နတ်သမီး" ဟု ထင်ရှားလေသည်။

ထို့နောက် "အရှင်မဟာကဿပ" မထေရ်ကို ကျေးဇူး တင်လှ၍ ဝတ်ကြီး ဝတ်ငယ် ပြုစုလိုသောကြောင့် "အရှင်မဟာကဿပ"နေရာ လိုဏ်ဂူသို့ ဆင်းလာသောအခါ "အရှင်မဟာကဿပ"က အပြုအစု မခံသဖြင့် ငိုငိုရိုရိုနှင့် နတ်ပြည်သို့ အပြန်တွင် ဘုရားရှင်က မြင်တော်မူ၍ တရား ဟောပြတော်မူရာ "သောတာပန်"အဖြစ်သို့ ရောက်လေသည် (ဓမ္မပဒ၊ ၄၊ ၂။ပါဠိ)။

ဤသာဓက၌ အနည်းငယ်သော ပေါက်ပေါက်ကလေးများကို လှူဒါန်းမှုကြောင့် နတ်စည်းစိမ်ကို ရရှိမျှမက သောတာပန် ဖြစ်သည်တိုင်အောင် ကြီးကျယ်သော အကျိုးထူးကို ရခဲ့သည်မှာ ညောင်စေ့ကလေး စိုက်ပျိုးလိုက်၍ ညောင်ပင်ကြီး ယီးထီးမားမား ကြီးကြီးထွားထွား ပေါက်လာရသည့်ပမာ ဖြစ်ပါတော့သတည်း။

**ကျွန်ဘဝမှ လွတ်မြောက်၍ သေဌေးဘဝရောက်လာသော သေဌေးကြီး ပုဏ္ဏအကြောင်း**

လယ်ယာမြေကောင်း၌ စိုက်ပျိုးအပ်သော မျိုးစေ့သည် ထိုသည်လောက် အသီးအနှံကို ရစေနိုင်သကဲ့သို့ သီလရှိသော ပုဂ္ဂိုလ်များ၌ ပြုအပ်သော ကုသိုလ် ကောင်းမှု မျိုးစေ့သည် လိုသလောက် အကျိုးကို ဖြစ်ထွန်း ရရှိစေနိုင်ပါသည်။ ရရှိခဲ့ပုံသာဓကတစ်ခုမှာ—

ရာဇဂြိုဟ်ပြည်၌ "သုမနသေဌေး"၏ ကျွန်ဖြစ်သော "မောင်ပုဏ္ဏ" သည် နက္ခတ်သဘင်ပွဲနေ့၌လည်း ပျော်ပွဲရွှင်ပွဲသို့ သွားခွင့် မရဘဲ လယ်ထွန်ရာသို့ သွားရ၏။ နံနက်စောစော လယ်ထွန်ရာ အရပ်၌ "အရှင် သာရိပုတ္တရာမထေရ်မြတ်"ကို မြင်၍ ရေနှင့် ဒန်ပူလှူဒါန်း၏။

"မောင်ပုဏ္ဏ"၏ ဇနီးသည်လည်း "မောင်ပုဏ္ဏ"ထံသို့ ထမင်းပို့ သွားရာ လမ်းခရီး၌ "အရှင်သာရိပုတ္တရာမထေရ်မြတ်"ကိုပင် မြင်၍ ရှိသေစွာ ရှိခိုးပြီးလျှင် "အရှင်ဘုရား....အကောင်းအဆိုး သဘော မထားဘဲ တပည့် ကျေးကျွန်တို့အား ချီးမြှောက်တော်မူပါ"ဟု တောင်းပန်၍ "မောင်ပုဏ္ဏ"အတွက် ချက်လာသော ထမင်းကို မထေရ်မြတ်အား အကုန်လှူလိုက်၏။

ထို့နောက် အိမ်ပြန်၍ ထမင်း ချက်ပြီးလျှင် "မောင်ပုဏ္ဏ"ထံသို့ သွားပို့ရာ နေအလွန်မြင့်မှ "မောင်ပုဏ္ဏ"မှာ ထမင်း စားရရှာ၏။ "မောင်ပုဏ္ဏ"သည် ထမင်းပို့ နောက်ကျသည်ကို အပြစ်မတင်သည့်အပြင် အရှင်သာရိပုတ္တရာအား လှူလိုက်ရသည့်ဆွမ်းအလှူကို သာဓုခေါ် လျက် ဝမ်းမြောက် ကြည်နူးနေရှာသည်။ ထို့နောက် "မောင်ပုဏ္ဏ"သည် သစ်ပင်ရိပ်၌ အိပ်ပျော်သွားလေ၏။

"မောင်ပုဏ္ဏ"အိပ်ရာမှ နိုးလတ်သော် တမနက်လုံး ထွန်ထားသော ထွန်ချေးခဲမြေတို့သည် အလုံးစုံ ရွှေအတိ ဖြစ်ကုန်၏။ ထိုအဖြစ်ကို ဘုရင်မင်းမြတ်အထိ သိ၍ "မောင်ပုဏ္ဏ"အား "ဗဟုဓနသေဌေး"အမည် ပေးကာ သေဌေးအဆောင်အယောင်ကို ပေးလေသည်။

တဖန် "မောင်ပုဏ္ဏ"သည် အိမ်ဆောက်ရန် ချုံတစ်ခုကို သုတ်သင် ရှင်းလင်းရာတွင် ရွှေအိုးများစွာ ရပြန်လေ၏။ အိမ်ဆောက်ပြီးသော အခါ ဘုရား အမှူးရှိသော သံဃာတော်များအား ခုနစ်ရက်ပတ်လုံး

အလှူကြီးပေး၏။ ထိုအလှူပွဲ၌ ဘုရားရှင်ဟောတော်မူသော တရားကို နာရ၍ တရားတော် အဆုံးတွင် မောင်ပုဏ္ဏနှင့် ဇနီး ၎င်းတို့သမီး "ဥတ္တရာ" မိသားစု သုံးဦးလုံး သောတာပန် အဖြစ်သို့ ရောက်ကြလေသည် (ဥပရိပဏ္ဏာသ၊ဋ္ဌ။ ၃–၄)။

ဤ၌ အလှူခံပုဂ္ဂိုလ်၏ ဂုဏ်ကြီးမြတ်မှုကြောင့် ကြီးမြတ်သော အကျိုးကို ရရှိခဲ့ပါသည်။ သံဃာတော် အပေါင်းသည် တလောကလုံး၏ ကုသိုလ်မျိုးစေ့ စိုက်ပျိုးကြရာ ဖြစ်ထွန်းကြီးပွားရာ "အနုတ္တရပုညက္ခေတ္တ" ဂုဏ်ရှင် အမှန်ပင် ဖြစ်ပါသတည်း။

## သံဃာ့ဂုဏ်တော်ကိုးပါးနှင့် လေးစုံ=ရှစ်ပါးအရိယာသံဃာတော်များ

မဂ်ဖိုလ်၌ တည်သော (မဂ်ဖိုလ် ရပြီးသော) ပုဂ္ဂိုလ်ကို "အရိယာ"ဟု ခေါ်၏။ "မြတ်သော သူ" တနည်းအားဖြင့် "ဖြူစင်သော သူ" ဟု အဓိပ္ပာယ် ရ၏။ "စတ္တာရိ ပုရိသယုဂါနိ"ဟူသော စကားအရ အရိယာ ဖြစ်ပြီးသော သံဃာတော်များကို အစုံဖွဲ၍ ရေတွက်လျှင် (သောတာပတ္တိမဂ်ကို ရသော ပုဂ္ဂိုလ်နှင့် သောတာပတ္တိဖိုလ်ကို ရသော ပုဂ္ဂိုလ် နှစ်ပါးတွဲလျှင် တစ်စုံ ဤသို့ စသည်ဖြင့် မဂ်ဖိုလ်ကို ရသော ပုဂ္ဂိုလ်နှစ်ပါးကို တစ်စုံစီ တွဲလျှင်) အရိယာ လေးစုံဖြစ်၍ အသီးအခြား တစ်ပါးစီ တစ်မျိုးစီ ခွဲ၍ ရေတွက်လျှင် "အဋ္ဌပုရိသပုဂ္ဂလာ"အရ ရှစ်မျိုး=ရှစ်ပါး ဖြစ်၏။

## မဂ်ပုဂ္ဂိုလ် ၄-မျိုးနှင့် ဖိုလ်ပုဂ္ဂိုလ် ၄-မျိုး

(က) (၁) သောတာပတ္တိမဂ်၌ တည်သော ပုဂ္ဂိုလ်၊
(၂) သောတာပတ္တိဖိုလ်၌ တည်သော ပုဂ္ဂိုလ်။

(ခ) (၁) သကဒါဂါမိမဂ်၌ တည်သော ပုဂ္ဂိုလ်၊
(၂) သကဒါဂါမိဖိုလ်၌ တည်သော ပုဂ္ဂိုလ်။

(ဂ) (၁) အနာဂါမိမဂ်၌ တည်သော ပုဂ္ဂိုလ်၊
(၂) အနာဂါမိဖိုလ်၌ တည်သော ပုဂ္ဂိုလ်။

(ဃ) (၁) အရဟတ္တမဂ်၌ တည်သော ပုဂ္ဂိုလ်၊
(၂) အရဟတ္တဖိုလ်၌ တည်သော ပုဂ္ဂိုလ်။

[ဤသို့ လေးစုံ=ရှစ်ပါး အရိယာသံဃာတော်များကို တစ်စုံစီ တွဲပြ၊ တစ်ပါးစီ ခွဲပြခြင်းများသည် မဂ်ကို ရလျှင် ရချင်း ဖိုလ်ရသောကြောင့် မဂ်ပုဂ္ဂိုလ်နှင့် ဖိုလ်ပုဂ္ဂိုလ်တို့၏ တစ်ယောက်တည်းသာ ဖြစ်ကြောင်း သိစေလို၍ တွဲပြ ခွဲပြခြင်း ဖြစ်ဖွယ်ရှိကြောင်း မိန့်တော်မူကြ၏။ ဤသို့ အရိယာသံဃာတော်များသည် တစ်ပါး နှစ်ပါး အရေအတွက်အားဖြင့် ထေဝစ်သောင်းမက များသော်လည်း အမျိုးအစားအားဖြင့် အထက် ဖော်ပြပါ ရှစ်မျိုးတွင် အားလုံး ပါဝင်ကြ၏။ "အရိယာပုဂ္ဂိုလ် ရှစ်ပါး, အရိယာပုဂ္ဂိုလ် ရှစ်ယောက်" ဟု ပြောစမှတ် ပြုကြသော်လည်း စင်စစ်မှာ ရှစ်ပါး, ရှစ်ယောက် မဟုတ်၊ ရှစ်မျိုးသာ ဖြစ်ပါသည်။]

လေးစုံ=ရှစ်မျိုး အရိယာ သံဃာတော်များသည် ဖော်ပြခဲ့သော သံဃာ့ဂုဏ်တော် ကိုးပါးနှင့် ကောင်းစွာ ပြည့်စုံတော်မူကြ၏။ သံဃာ့ဂုဏ်တော် ကိုးပါးတို့တွင် ရှေ့ဦးပိုင်း အစဖြစ်သော "သုပ္ပဋိပန္န" စသော ဂုဏ်တော် လေးပါးကြောင့် "အာဟုနေယျ" စသော နောက်ပိုင်း ဂုဏ်တော် ငါးပါးတို့ ပြီးမြောက်ကြရကား ရှေ့ဦးပိုင်းအစ ဂုဏ်တော် လေးပါးတို့သည် အကြောင်း ဂုဏ်တော်များဖြစ်၍ နောက်ပိုင်းဂုဏ်တော် ငါးပါးတို့မှာ အကျိုးဂုဏ်တော်များ ဖြစ်ပါသည်။

အကြောင်းဂုဏ်တော် လေးပါး ဟူရာ၌လည်း အမည်နာမ ဂုဏ်အားဖြင့် လေးမျိုး ကွဲပြားသော်လည်း ကျင့်ကြံမှုအားဖြင့် လေးမျိုးလေးစား ခွဲခြား၍ ကျင့်ကြံနေရသည် မဟုတ်၊ တစ်ချက်ခုတ် လေးချက်ပြတ်ဟု ဆိုရအောင် အရိယာမဂ်တည်းဟူသော သမ္မာပဋိပတ်ကို ကျင့်ကြံကြလျှင်ပင် ရှေ့ဂုဏ်တော် လေးချက် ပြည့်စုံလာပါသည်။ အကျိုးဂုဏ် ငါးပါးမှာလည်း တစ်ပါးနှင့် ပြည့်စုံက ငါးပါးလုံး တပါတည်း ပြည့်စုံနိုင်ကြမည်သာ ဖြစ်ကြောင်း မှတ်ယူ သင့်ကြပါသည်။

ပရမတ္ထသံဃာနှင့် သမ္မုတိသံဃာ

သံဃာတော်သည်—

(၁) ပရမတ္ထသံဃာ၊

(၂) သမ္မုတိသံဃာ—

ဟူ၍ နှစ်မျိုး ရှိ၏။ ထိုတွင် "သုပ္ပဋိပန္နတာ" စသော ဂုဏ်တော်များနှင့် ပြည့်စုံ၍ အရိယာအဖြစ်သို့ ရောက်ပြီးသော သံဃာတော်များသည် "ပ မတ္ထ" သံဃာတော်မည်၏။ အထက်တွင် ဖော်ပြခဲ့သည့် မဂ္ဂဋ္ဌာန် လေးယောက်နှင့် ဖလဋ္ဌာန် လေးယောက် ယင်း အရိယာပုဂ္ဂိုလ် ရှစ်ယောက်သည် မုချအားဖြင့်

ရက်ပေါင်း၊ လပေါင်း၊ နှစ်ပေါင်းများလာသောအခါ ဒါနကုသိုလ် အထုပ်အထည် စုမိဆောင်းမိ ဖြစ်လာနိုင်သည်။ တစ်နေ့လှူသော ရေတစ်ဖန်ခွက်သည် နှစ်ပေါင်း သုံးလေးဆယ် ကြာလာသောအခါ ရေကါလံထောင်ပေါင်းများစွာ လှူပြီးဖြစ်တော့သည်။ တစ်နေ့ပန်းတစ်ပွင့် လှူသူသည် နှစ်ပေါင်း သုံးလေးဆယ်ကြာလာသောအခါ ပန်းပွင့်မပေါင်း သောင်းကျော် ဖြစ်လာမည်။ တစ်နေ့လျှင် ဆွမ်းတစ်ဇွန်းမျှ ကပ်လှူလောင်းလှူသူသည် နှစ်ပေါင်း သုံးလေးဆယ် ကြာလာသောအခါ ဆန်အတင်း ငါးဆယ်ချက်ခန့် ကပ်လှူလောင်းလှူပြီး ဖြစ်တော့သည်။ ဤကား လှူဖွယ်ဝတ္ထုပစ္စည်းအနေဖြင့် စုဆောင်းမိသည့် ထုထည်ပမာဏကို ခန့်မှန်းတွက်ချက်ခြင်းဖြစ်သည်။ နေ့စဉ်ပွားများအားထုတ်ခဲ့ရသော ဒါနကုသိုလ်စေတနာ ဖြစ်ပေါ်ခဲ့သည့်အကြိမ်များကား သိန်းသန်းကုဋေမက မရေမတွက်နိုင် ကုသိုလ်စေတနာပေါင်း အသင်္ချေ အသင်္ချာ စုဆောင်းမိတော့သည်။ ထိုပုဂ္ဂိုလ်သည် ဇရာထောင်း၍ ခေါ်ဆောင်းစောင်း လဲလျောင်းရသည့် အခါ မိမိပြုခဲ့သည့် ဒါနကုသိုလ်အစုစုကို အားကိုးအားထား ရရှိထားပြီး ဖြစ်၍ ရိက္ခာထုပ် အပြည့်အဝဖြင့် ခရီးထွက်ရသော ယောကျ်ားသည် ရှေ့ဆက်ရမည့် လမ်းခရီးအတွက် စိုးရိမ်ကြောင့်ကြမှုမရှိ ပျော်ရွှင်စွာ ခရီးထွက်နိုင်သကဲ့သို့ ဒါနကုသိုလ်မှု ထုထုထည်ထည် စုဆောင်းပြီး ဖြစ်၍ တမလွန်ဘဝသို့ ကူးပြောင်းရာ၌ သေခြင်းတရားကို ရဲရဲဝံ့ဝံ့ ပြုံးပြုံးရွှင်ရွှင် ရင်ဆိုင်နိုင်လေသည်။

ထို့ကြောင့် နေ့စဉ် ပြုလုပ်ရမည့် ဒါနမှု တစ်ခုခုကို ဝတ္တရားတစ်ခုအဖြစ် သတ်မှတ်၍ မိမိဘို့ကိုယ်တိုင် မိမိကိုယ်ကို ဆုံးမပဲ့ပြင်၍ ကုသိုလ်ဒါန ဆည်းပူးသင့်ကြပေသည်။

### အိမ်တွင်းဒါန

အလားအလှူ့ဒေါင် အိမ်ထောင်ရှင်တို့၏ တာဝန် ဝတ္တရားအရ မိဘကို လုပ်ကျွေးခြင်း၊ သားမယားကို ကျွေးမွေးခြင်း၊ အိမ်မွေးတိရစ္ဆာန်များအား ကျွေးမွေးခြင်းပြုရာ၌ မေတ္တာတရားရှေ့ထား၍ ကျွေးမွေးပါက ဒါနမြောက်သည်။ မိမိ အကျိုးစီးပွားကို ရှေ့တန်း မတင်ဘဲ သူတပါး ကောင်းကျိုး ၊ အဓိက ထားသည့် စိတ်စေတနာဖြင့် ကျွေးမွေးပြုစုပါက အလှူဒါနပင် ဖြစ်တော့သည်။ မိမိနွားမှ နွားကို အစာကျွေးရာ၌ နွားကို နိုင်းစားလိုစိတ် အဓိကမထားဘဲ လောလောဆယ် မိမိနွားအား ကောင်းကောင်းမွန်မွန် ဝဝလင်လင် စားစေလိုသော စေတနာထား၍ ကျွေးမွေးလျှင် ဒါနဖြစ်သည်။ အလားတူ မိမိအိမ်ရှိ ခွေးများကို ကျွေးမွေးရာ၌ အိမ်ကို စောင့်ရှောက်ပေလိမ့်မည်ဟူသော မျှော်လင့်ချက်ကို ရှေ့တန်းမတင်ဘဲ လောလောဆယ် သတ္တဝါများ ဝဝလင်လင် စားစေလိုသော စေတနာသန့်သန့်ဖြင့် ကျွေးမွေးလျှင် ဒါနပင်ဖြစ်တော့သည်။ မိမိ...း

မယားကို ကျွေးမွေးထောက်ပံ့ရာ၌ စေတနာသန့်သန့် စေတနာကောင်းကောင်း ဖြူစင်သောစိတ်ဖြင့် ထောက်ပံ့ကျွေးမွေးပါက ဒါနပင်ဖြစ်တော့သည်။ မိခင်သည် ကလေးငယ်အား နို့တိုက်ရာ၌ ကလေးငယ် ဝဝလင်လင်ရှိ၍ ချမ်းသာစေလိုသော မေတ္တာစေတနာဖြင့် တိုက်ကျွေးခြင်းဖြစ်၍ စင်ကြယ်သောဒါနမင် ဖြစ်လေသည်။

ဤကဲ့သို့ အိမ်တွင်းဒါနပြုရာ၌ စိတ်ထားတတ်ဖို့ များစွာ အရေးကြီးပေသည်။ မေတ္တာတရားရှေ့မထားဘဲ သံယောဇဉ်အနှောင်အဖွဲ့ကို ရှေ့ဆောင်မှု ပြုမိလျှင် ဒါနမမြောက်ဘဲ သာမန်အားဖြင့် ပေးကမ်းခြင်း တစ်မျိုးသာ ဖြစ်နိုင်ပေသည်။ ဤအချက်ကို သတိမပြုမိသော ပုဂ္ဂိုလ်များသည် မိမိသား မယား ဆွေမျိုး သားချင်းများကိုသာ ကျွေးမွေး ထောက်ပံ့ ပေးကမ်းခြင်းသည် ဒါနမြောက် သည်ဟု ယူဆ၍ သူစိမ်းတရံဆံဖြစ်သော အလှူခံပုဂ္ဂိုလ်များအား လှူဒါန်းခြင်း ပေးကမ်းထောက်ပံ့ခြင်း မပြုတော့ဘဲ သားမယား ကောင်းစားရေး ဆွေမျိုး ကောင်းစားရေးကိုသာ သဲကြီးမဲကြီး လုပ်နေတော့သည်။

၎င်း၏ အိမ်းတွင်းဒါနမှာ သံယောဇဉ်တရား ရှေ့ဆောင်နေသဖြင့် ဒါန မမြောက်ဘဲ သာမန်ပေးကမ်းခြင်း အဆင့်မျှသာ ရှိတော့သည်။ မိမိစိတ်ကို မိမိလှည့်စားတတ်ကြသည်။ အမှန်စင်စစ် အိမ်တွင်းဒါနမှာ စင်ကြယ်သောဒါန ဖြစ်ရန် ခက်ခဲ၍ အားကိုးလောက်သော ဒါနကုသိုလ်မျိုး မဟုတ်ပေ။ သို့ရာတွင် တာဝန်အရ မလွဲမရှောင်သာ ပြုလုပ်ကြရာ၌ မေတ္တာစေတနာ သဒ္ဓါတရား ဖြစ်ပေါ်နိုင်အောင် စိတ်ကို ပြုပြင်လျှင် ဖြစ်နိုင်ကြောင်း နည်းလမ်းပြခြင်းမျှသာ ဖြစ်တော့သည်။

အလှူခံ ရဲပါစေ

အချို့သော ပုဂ္ဂိုလ်များသည် မိမိအိမ်သို့ လာရောက် အလှူခံသည်ကို မနှစ်သက်ကြချေ။ အချင်းချင်း လှူရန် တိုက်တွန်းသည်ကိုလည်း မနှစ်သက် ကြချေ။ "ကိုယ်စေတနာ ရှိလျှင် ကိုယ်လှူမည်၊ လာရောက် တိုက်တွန်းရန် မလို၊ ဟောပြောရန် မလို" ဟု ဆိုလေ့ရှိကြသည်။ အမှန်စင်စစ် ထိုကဲ့သို့ လာရောက်အလှူခံသူအား ကျေးဇူးတင်တတ်ရမည်၊ အလွယ်တကူ အလှူ ထမြောက်အောင် လာရောက်ကူညီသည်။ ကုသိုလ်တရားဖြစ်ပွားရန် လာရောက် ကူညီသည်ဟု သဘောထားရမည်။ ကုသိုလ်လုပ်ဖြစ်အောင် လာရောက်သူဖြစ်၍ ရွှေ ငွေ ကျောက်သံ ပတ္တမြား ရတနာထုပ်ကြီးကို အိမ်အရောက်လာပို့သည်ဟု ယူဆရမည်။ ဒါနကုသိုလ်သည် ဘဝဆက်တိုင်း အကျိုးခံစားရမည်ဖြစ်၍ ရွှေ ငွေ ရတနာတို့ထက် ပိုမိုအဖိုးတန်သော ရတနာဖြစ်သည် အလှူခံပုဂ္ဂိုလ်သည် အဖိုးတန်ရတနာများကို လှည့်လည် ပေးဝေနေသည်ဟု သဘောထားလျက်

[illegible] အလှူခံရမည်။ သည်လူပါသည် ပဋိသန္ဓေ စတည်ကတည်းက အဝနိကန္တိကလောဘဖောဖြင့် စတင်၍ ဟွယ်တာကပ်ငြိခဲ့သည်။ လောဘ တွယ်တာမှု မစွဲရှိယ နှမြောပန်ကိုဟူသော်ဖြင့် လူ့ဘဝကို စတင်ခဲ့ရ၍ မပေး ပြောတတ်ကာစ ကလေးငယ်သည် "ပေးဘူး၊ ပေးဘူး" ဟူ၍သာ ဟစ်အော် ခဲ့သည်။ နှမြောဝန်တိုမှု မပေးလိုမှုကို သင်ကြားပေးရန် မလို၊ တိုက်တွန်းရန် မလိုချေ။ နှမြောဝန်တိုမှု လျော့နည်းသွားအောင် ပေးလိုသည့်စိတ် ဖြစ်ပေါ်အောင် တိုက်တွန်းရန် လိုသည်။

ထို့ကြောင့် အလှူခံခြင်းသည် နှမြောဝန်တိုခြင်း နည်းပါးသွားစေရန်, တွယ်တာမှု နည်းပါးသွားစေရန်, ပေးကမ်းစွန့်လွှတ်နိုင်စေရန် တိုက်တွန်းခြင်း ဖြစ်၍ မှန်မြတ်သော ဆောင်ရွက်ချက် ဖြစ်သည်။ အလှူခံ၍ ရသည်ဖြစ်စေ, မရသည်ဖြစ်စေ မှန်မြတ်သော လုပ်ငန်းကို ဆောင်ရွက်ရခြင်း ဖြစ်သည်။ တက်တက်ကြွကြွ စိတ်ပါလက်ပါ ဆောင်ရွက်သင့်ကြပေသည်။

ဒါနကုသိုလ်အမှုကို သူတပါးအား မတိုက်တွန်းဘဲ လှူ့ဆော်စည်းရုံးခြင်း မပြုဘဲ မိမိတစ်ဦးတည်းသာ ပြုလုပ်လျှင် နောင်တမလွန်ဘဝ၌ အကျိုးပေးသည့် အခါ ခြွေရံသင်းပင်း ကင်းမဲ့၍ တစ်ယောက်တည်း အထီးကျန်စွာ စည်းစိမ် ခံစားရသည်။ မိမိကိုယ်တိုင်လည်း ပြုလုပ်၍ သူတပါးကိုလည်း တိုက်တွန်း နှိုးဆော်စည်းရုံး လုပ်ဆောင်သော ပုဂ္ဂိုလ်သည် နောင်တမလွန်တွင် အကျိုး ပေးသည့်အခါ ခြွေရံသင်းပင်း ပြည့်စုံစွာဖြင့် စည်းစိမ်ခံစားရသည်။

မြတ်စွာဘုရား လက်ထက်တော်က ပါယာသိစော်ဘွားကြီးသည် သံဃာတော် များအား ဆွမ်းဆက်ကပ် လှူဒါန်းရန် မိမိ၏ တပည့် ဥတ္တရလုလင်အား လွှဲအပ်ထားသည်။ ဥတ္တရလုလင်သည် ဆွမ်းအလှူဒါနကို ကိုယ်တိုင်ကိုယ်ကျ ပြုလုပ်သည့်အပြင် မိမိလက်အောက်ငယ်သားများကိုလည်း တိုက်တွန်းနှိုးဆော်၍ ပြုလုပ်စေခဲ့သည်။ ၎င်းတို့ ကွယ်လွန်၍ တမလွန်ဘဝ ရောက်ကြသောအခါ ပါယာသိစော်ဘွားကြီးမှာ အခြွေအရံမရှိ။ တစ်ဦးတည်းအထီးကျန်စွာ နတ်ဗိမာန် တစ်ခု၌ နတ်စည်းစိမ် ခံစားရသည်။ ဥတ္တရလုလင်မှာမူ စော်ဘွားကြီးထက် တဆင့်မြင့်သော နတ်ပြည်၌ ခြွေရံပရိသတ် စုံလင်စွာဖြင့် နတ်စည်းစိမ်ကို ခံစားရသည်။

---

# အခန်း (၁၀)

## ဒါနအစီပွါယ် ဖွင့်ဆိုခြင်း

ဒါန-ဟူသော စကားသည် ပါဠိစကား ဖြစ်၏။ ပါဠိနှင့် နီးစပ်သော ဗုဒ္ဓဘာသာ မြန်မာများအဖို့ ဒါနဆိုလျှင် မိမိပိုင်ဆိုင်သော ပစ္စည်းဝတ္ထုကို စွန့်ကြဲပေးကမ်း လှူဒါန်းခြင်းဟု သဘောပေါက် နားလည်ကြ၏။ ပါဠိစကားလုံး ဖြစ်စေကာမူ မြန်မာစကားအဖြစ် နားလည်နေကြပြီ ဖြစ်သည်။ ထို့ကြောင့် ဒါန ဟူသည် အလှူခံပုဂ္ဂိုလ်၏ အစီးအပွားကို အလိုရှိခြင်း, ပူဇော်သောအားဖြင့် မိမိပစ္စည်းဝတ္ထုကို အလှူခံ ပုဂ္ဂိုလ်တို့အား စွန့်ကြဲပေးကမ်း လှူဒါန်းခြင်းပင် ဖြစ်၏ဟု ကျမ်းဂန်တို့၌ ဖွင့်ဆိုတော်မူကြ၏ (သာရတ္ထ၊၃း၁၉၃။ ဒီ၊ဋီ၊၂။၆၀။ မ၊ဋီ၊၃။၃၇။ အံ၊ဋီ၊၃။၂၂၁)။

စင်စစ်အားဖြင့် ဒါန-ဟူသည် ပစ္စည်းဝတ္ထုကို စွန့်ကြဲပေးကမ်းလှူဒါန်းခြင်း သာမက သတ္တဝါတို့အား ပေးမွေပေးခြင်း၊ သတ္တဝါတို့၏ အသက်, စည်းစိမ်, အိုးအိမ်ကို သတ်ဖြတ် လုယက် ဖျက်ဆီးခြင်းမှ ရှောင်ကြဉ်ခြင်း၊ ဘေးရန် အမျိုးမျိုးမှ ကာကွယ် စောင့်ရှောက်ခြင်းများလည်း ဒါနပင် ဖြစ်သည် (စရိယာ၊ဋ္ဌ။၂၉၇)။

### ဒါန၏ အမည်ခွဲများ

ယင်းဒါနသည် ဆောက်တည်အပ်သော အကျင့်တစ်မျိုးဖြစ်၍ "ဝတ" လည်း မည်၏။ ပညာရှိများ ပညတ်ထားအပ်သောကြောင့် မြတ်သော အကျင့်, ဘုရားအစရှိသော သူတော်သူမြတ်တို့၏ အကျင့် ဖြစ်သောကြောင့် "ဗြဟ္မစရိယ" လည်း မည်၏။ ပစ္စုပ္ပန် ဘဝလွန်, နှစ်တန်သော ဘဝတို့၌ ဟောက်စည်းစိမ် ချမ်းသာနှင့် ဈာန်ဝိပဿနာ မဂ် ဖိုလ် နိဗ္ဗာန် ဟူသော လောကုတ္တရာချမ်းသာကို ပေးတတ်, ဆောင်နှင်းတတ်သောကြောင့် "နိဓိဒါန" လည်း မည်၏။ လူ့စည်းစိမ်, နတ်စည်းစိမ်တို့၏ အခြေခံအကြောင်းရင်း ဖြစ်၍ "မူလ" လည်း မည်၏။ သုံးဆောင်ခံစားအပ်သော နှစ်သက်ဖွယ် အာရုံတို့ကို မှီ၍ ဖြစ်ပေါ်လာသော ချမ်းသာတို့၏ တည်နေရာ ခိုင်မာသော ဌာနဖြစ်၍ "ပဘိဋ္ဌာ" လည်း မည်၏။

ဒါနသည် တစုံတရာ အခက်အခဲ အကျပ်အတည်းနှင့် တွေ့ကြုံ ဆုံဆည်း နေသူတို့၏ အကာအကွယ် အစောင့်အရှောက် အထောက်အကူ ဖြစ်၍ မှီခိုရာ ထောက်တည်ရာ, လားရာ, ကိုးကွယ်ရာ လဲလျောင်းရာ ဖြစ်သောကြောင့်

"အာဖွာ, ဓပေဓွာ, ပေါ်, ပဆုယဓွာ" တို့လည်း မည်၏။ သတ္တဝါတို့၏ ပဋ္ဌုပ္ပန် တမလွန် နှစ်တန်သော ဘဝတို့၌ တိုးတက်ကြီးပွားကြောင်းဖြစ်၍ "ဒက္ခိဏာ" လည်း မည်၏။ ပူဇော်အပ် ပူဇော်ကြောင်း ဖြစ်၍ "ယည, ယာဂ" တို့လည်း မည်၏။

## ကျမ်းဂန်လာ ဒါန၏ ဥပမာများ

ဒါနသည် သဗ္ဗညုပါရမီ၏ အခြေခံထားမှီခိုရာ ဖြစ်သောကြောင့် "သီဟာသန ပလ္လင်ကြီး" နှင့် တူ၏။ ဖြစ်လေရာရာ ဘဝတိုင်း၌ ထောက်တည်ရာကို ရစေတတ် သောကြောင့် "မဟာပထဝီ=မြေကြီး"နှင့်လည်း တူ၏။ သတ္တဝါတို့သည် မြဲမြံ တင်းကျပ်စွာ ကိုင်ထားအပ်သော တရားဖြစ်၍ "အာလမ္ဗဏရဇ္ဇု=လက်ကိုင် ကြိုးတန်း"နှင့်လည်း တူ၏။ ဒုဂ္ဂတိဘဝ ဆင်းရဲဒုက္ခ အမျိုးမျိုးမှ ထုတ်ဆယ် ကယ်တင်တတ်သော တရားဖြစ်၍ "နာဝါ=လှေသင်္ဘော" နှင့်လည်း တူ၏။ လိုချင်တပ်မက်မှု "လောဘ"၊ နှမြောဝန်တိုမှု "မစ္ဆရိယ" စသော ဆန့်ကျင်ဘက် ရန်သူဘေးမှ သက်သာရာကို ရစေတတ်သော တရားဖြစ်၍ "သင်္ဂါမသူရ= စစ်မြေပြင်ရောက် စစ်သူရဲကောင်း" နှင့်လည်း တူ၏။ ဆင်းရဲနွမ်းပါး ဥစ္စာ ရှားပါးခြင်း၏ ဘေးရန်မှ စောင့်ရှောက် ကာကွယ်တတ်သော တရားဖြစ်၍ "သုသင်္ခတနဂရ=ကောင်းစွာ တည်ဆောက်အပ်သော မင်းနေမြည် မြို့တော်" နှင့်လည်း တူ၏။ နှမြောဝန်တိုမှု "မစ္ဆရိယ"၊ မိမိပစ္စည်း တပ်မက်မှု "လောဘ" စသော စိတ်၏ အညစ်အကြေးတို့ မလိမ်းမကပ်ငြိနိုင်သော တရား ဖြစ်၍ "ပဒုမ=ပဒုမ္မာကြာပန်း"နှင့်လည်း တူ၏။

ထို့ပြင် ဒါနသည် ကိလေသာ လောင်စာ အမှိုက်တို့ကို လောင်မြိုက် တတ်သော တရားဖြစ်၍ "အဂ္ဂိ=မီး" နှင့်လည်း တူ၏။ သဒ္ဓါနည်းပါး၍ မစ္ဆရိယများသူကို ချဉ်းကပ်နိုင်ခဲသော တရားဖြစ်၍ "အာသိဝိသ=အဆိပ် ထန်သော မြွေ"နှင့်လည်း တူ၏။ ပစ္စုပ္ပန်, တမလွန် နှစ်တန်သော ဘဝတို့၌ ကြောက်ရွံ့ဖွယ်ကင်း ရဲတင်းသော တရားဖြစ်၍ "သီဟ=ခြင်္သေ့မင်း" နှင့်လည်း တူ၏။ ဒါနသည် ဒါနပြုသူ အလှူရှင်အား ယခု မျက်မှောက်ဘဝ၌ လိမ္မာ ယဉ်ကျေးသော ခြွေရံသင်းပင်းနှင့် ပြည့်စုံစေ၍ နောင်တမလွန်ဘဝ၌ သူတပါး တို့ထက် ခွန်အားသာလွန် ကောင်းမွန်စေတတ်သော တရားဖြစ်၍ "ဟတ္ထိ=ဆင် ပြောင်ကြီး" နှင့်လည်း တူ၏။ ခုရော နောင်ပါ နှစ်ဖြာသော ဘဝတို့၌ တိုးတက် ကြီးပွားကြောင်း ကောင်းမြတ်သော မင်္ဂလာဟု ဘုရားရှင်တို့ သမုတ်အပ်သော တရားဖြစ်၍ "သေတဥသဘ=ငွေတောင်အတူ ကိုယ်လုံးဖြူသော နွားလား ဥသဘ"နှင့်လည်း တူ၏။ ဘေးရန် ထူပြောလှသော ဒုဂ္ဂတိဘဝမှ ဘေးရန်

ကုန်ခန်း ငြိမ်းချမ်းသာယာသော သုဂတိဘဝသို့ ပို့ဆောင်တတ်သော တရားဖြစ်၍ "ဝလာဟကအဿရာဇာ=မြင်းပျံရတနာ" နှင့်လည်း တူ၏ (ဒီ၊ဋ္ဌ၊ ။၈၆၂။ မ၊ဋ္ဌ၊၃။၆၄ စသည်)။ အလှူရှင်၏ သိုမှီး သိမ်းဆည်းယားအပ်သော "နိဓိတာ-ဘဏ္ဍာကား=ဥစ္စာဘဏ္ဍာထုပ်" နှင့်လည်း တူ၏ (သံ၊ဋ္ဌ၊၁။၇၇)။

ပေးကမ်း စွန့်ကြဲ,ပေးကမ်း လှူဒါန်းခြင်းသည် စစ်တိုက်ခြင်းနှင့်လည်း တူ၏ (သံ၊၁။၂၀ စသည်)။ လောက၌ သေရမှာကြောက်ရှိသောသူသည် စစ်မတိုက်ဝံ့သကဲ့သို့ မိမိပစ္စည်းဥစ္စာကုန်မှာ ကြောက်ရှိသော သူသည်လည်း မပေးမလှူနိုင် အသက်ကို မငဲ့မကွက်ဘဲ "သေချင်သေပါစေ"ဟု ဆိုကာ စွန့်လွှတ်နိုင်မှသာ စစ်တိုက်နိုင်သကဲ့သို့ "ပစ္စည်းဥစ္စာကုန်သော်လည်း ကုန်ပါစေ"ဟု ဆိုကာ ပစ္စည်းဥစ္စာ၌ တွယ်တာကပ်ငြိမှု "အာလယ" ပြတ်မှသာ ပေးလှူနိုင်၏။

ထို့ပြင် စစ်တိုက်ရာ၌ စစ်သည် ဗိုလ်ပါ အနည်း,အများသည် လိုရင်းပဓာနမဟုတ်ဘဲ ရဲစွမ်းသတ္တိ ရှိ,မရှိသာ လိုရင်းပဓာနဖြစ်၏။ စစ်သည်အင်အား နည်းပါသော်လည်း ရဲစွမ်းသတ္တိရှိလျှင် ရန်သူစစ်သည် အင်အား အများကို အနိုင်ရနိုင်သကဲ့သို့ ယုံကြည်မှုသဒ္ဓါစသည်တို့နှင့် ပြည့်စုံသူသည် အနည်းငယ်သော လှူဖွယ်ဝတ္ထုကို လှူသော်လည်း များစွာသော နှမြောဝန်တိုမှု "မစ္ဆရိယ" ရန်သူကို နှင်းချေနိုင်၏။ ထို့ကြောင့် "ပေးလှူခြင်းသည် စစ်တိုက်ခြင်းနှင့် တူသည်"ဟု ဆိုပါသည်။

ယင်းဒါနသည် ပုညကိရိယ ဝတ္ထုတရား ၃-ပါး၊ ပုညာဘိသင်္ခါရတရား ၃-ပါး၊ သင်္ဂဟတရား ၄-ပါး၊ ရာဇဥပါယ်တရား ၄-ပါး၊ မင်းကျင့်တရား ၁၀-ပါး၊ ပါရမီအကျဉ်း ၁၀-ပါး, အကျယ်-၃၀၊ မင်္ဂလာတရား ၃၈-ပါး တရားအစုအသီးသီးတွင် တစ်ပါးအပါအဝင် ဖြစ်၏။

## ဒါန၏ လက္ခဏာ, ရသ, ပစ္စုပဋ္ဌာန်, ပဒဋ္ဌာန်

ဒါနသည် အလှူဝတ္ထု ပေးစွန့်ခြင်းလျှင် မှတ်ကြောင်း "လက္ခဏာ"ရှိ၏။ ပေးလှူအပ်သော ဝတ္ထု၌ တပ်မက်လိုခြင်း "လောဘ"ကို ဖျက်ဆီးခြင်းလျှင် သာယာအပ်သော "ကိစ္စရသ"ရှိ၏။ ပေးလှူအပ်သော အလှူဝတ္ထု၌ မကပ်ငြိ မတွယ်တာခြင်းလျှင် ရှေးရှုထင်လာသော အခြင်းအရာ "အာကာရပစ္စုပဋ္ဌာန်" ရှိ၏၊သို့မဟုတ် ဘဝစည်းစိမ်တို့၏ ပြည့်စုံခြင်းလျှင် အကျိုး "ဖလပစ္စုပဋ္ဌာန်"ရှိ၏၊ စွန့်လွှတ်ပေးလှူအပ်သော အလှူဝတ္ထုပစ္စည်းစုလျှင် နီးစွာသော အကြောင်း "ပဒဋ္ဌာန်" ရှိ၏ (စရိယာ၊ဋ္ဌ။၂၇၃)။

### ဒါနသည် ပုဂ္ဂိုလ်တိုင်းအတွက် အရေးကြီး

ဒါနသည် ပုဂ္ဂိုလ် အတန်းအစား မရွေး အလေးထား၍ ဖြည့်ကျင့်ဆည်းပူးရမည့် တရားဖြစ်၏။ သံသရာခရီးသည် အားလုံးနှင့် သက်ဆိုင်၏။ သံသရာခရီးသည်ကိုင်း မဖြစ်မနေ သယ်ဆောင်သွားရမည့် ရိက္ခာလည်း မည်၏။ လျှောက်လှမ်းရမည့် သံသရာခရီး ရှည်လျှင် ရှည်သလောက် ဒါနရိက္ခာထုပ်များများ ပါသွားဖို့ အရေးကြီး၏။ ကမ္ဘာအသင်္ချေချီ၍ သံသရာခရီးကို လျှောက်လှမ်းတော်မူကြရသည့် ဘုရားအလောင်းတော်ကြီးများ အရေးတကြီး ကျင့်ဆောင်ရမည့် ပါရမီအကျင့်တရားများကို ဆင်ခြင်တော်မူကြရာ၌ ဒါနပါရမီကို ရှေးဦးစွာ တွေ့မြင်တော်မူကြသည်။

### ဒါနအတွက် အခက် ၄-ပါး

ဒါနသည် ဤမျှအရေးကြီးသော်လည်း မိမိပိုင်ပစ္စည်းဝတ္ထုကို စွန့်ကြဲပေးကမ်းလှူဒါန်းနိုင်ရန်အတွက် သတ္တဝါတိုင်းအဖို့ အဟန့်အတားတွေက များလှ၏။ ယင်းအဟန့်အတားတရားများကား သံသရာနှင့် ချီ၍ အမြဲတတည်နေကြပြီးဖြစ်ရာ ယင်းအဟန့်တရားများ ကျော်လွှား၍ ပေးလှူနိုင်ရန် ခက်ခဲလှ၏။ ထို့ကြောင့် ဒါနအတွက် အခက် ၄-ပါးဟု ရှေးပညာရှိများ သတ်မှတ်တော်မူခဲ့ကြသည်။

(၁) မိမိ နှစ်သက်သော ပစ္စည်းဥစ္စာကို သဒ္ဓါကြည်ဖြူစွာ ပေးလှူအံ့ဟု စိတ်ထဲမှာ ကြံဖို့ရာ ခက်ခဲလှ၏။

(၂) ယင်းသို့ စိတ်ထဲမှာ ကြံထားသည့်တိုင် ပေးလှူအံ့ဟု နှုတ်ထွက်စကား ပြောဆိုနိုင်ခြင်းသည် ၃၃-လက်သစ်ရှိသောသန်လျက်ကို မျိုရခြင်းထက် ခက်ခဲ၏။

(၃) ယင်းသို့ ပေးလှူအံ့ဟု နှုတ်ထွက်စကား ပြောကြားနိုင်ခြင်းထက် ရက်ရက်ရောရော လက်တွေ့ပေးလှူနိုင်ဖို့က ပို၍ ခက်၏။

(၄) ယင်းသို့ ရက်ရက်ရောရော လက်တွေ့ ပေးလှူနိုင်ခြင်းထက် ပေးလှူပြီးနောက် နောင်တဘဝန် မပူပန်ဖို့က ပို၍ ခက်ခဲလှ၏။

ဤအကြောင်းနှင့် စပ်၍ ကျေးဇူးရှင် မန်လည်ဆရာတော်ဘုရားကြီးက—

မိမိဥစ္စာ၊ နှစ်သက်စွာကို၊ သဒ္ဓါကြည်ဖြူ၊ ပေးအံ့ဟူ၍၊ လှူမည်ဝမ်းထဲ၊ ကြံမရဲရှင့်၊ ကြံခဲစွာဘိ၊ ကြံသည်ရှိလည်း၊ မငြိမနား၊ မန္တန်ဒွာရဖြင့်၊ အသွားမငြင်း၊ ထိလျှင်ဆိုးမျှ၊ သုံးဆယ်သုံးဘန့်၊ လက်ထစ်ပြန့်သည့်

သန့်လျက်ခဲကို၊ ထင်ရှားပြက်ပြက်၊ မျိုးသောထက်လျှင်း၊ ရွှတ်ထွက်
ငါ့သည်၊ ပေးမည်မြွက်ခဲ၊ မြွက်တပဲလျက်၊ ရဲရဲရက်ရက်၊ အပေးခက်ရှင့်၊
ဆက်ဆက်မှုချ၊ ပေးပြီးမှလည်း၊ နှောင်တမပူ၊ ခဲစွဟူ၏" ဟု-

ဒါနအတွက် အခက် ၄-ပါးကို စပ်ဆိုတော်မူခဲ့၏ (မဃဒေဝလင်္ကာသစ်၊ ပုတ္တောဝါဒခဏ်း။ အပိုဒ်ရေ-၂၇၅)။

### ပေးလှူလိုသည့် စိတ်ကို ဟန့်တားတတ်သည့် တရားများ

ပေးလှူလိုစိတ်ကို ညစ်နွမ်းစေတတ် ဟန့်တားတတ်သော တရားတို့ကား များပြားလှ၏။ သတ္တဝါတိုင်းအဖို့ သံသရာက ထုနှင့် ထည်နှင့် ပါလာကြ၏။ ယင်းတို့ကား လိုချင်တပ်မက်မှု "လောဘ"၊ အမျက်ထွက်မှု "ဒေါသ"၊ ပေးလှူခြင်း၏အကျိုး ရှိ, မရှိကို မသိတွေဝေမှု "မောဟ"၊ ငြူစူမှု "ဣဿာ"၊ နှမြောဝန်တိုမှု "မစ္ဆရိယ"၊ ထောင်လွှားတက်ကြွမှု "မာန" စသည်တို့ ဖြစ်၏ (ဒီ၊ဋ္ဌ၊ ၁။၃၂၉။ သံ၊ဋီ၊သစ်၊၂။ ၉၁၃)။

### မလှူနိုင်ခြင်း အကြောင်းရင်း

နှမြော ဝန်တိုသူတို့သည် ပစ္စည်းဥစ္စာ များစွာ ရှိသော်လည်း မလှူရက် မဒါန်းရက်ကြ၊ မစ္ဆေရပြောထူ နှမြောဝန်တိုသူတို့သည် သူတော်ကောင်းတို့၏ လှူပုံလှူနည်းကို အတုလိုက်၍ မလှူနိုင်ကြကုန်(သံ၊၁။၁၈)။ ယင်းသို့ မလှူနိုင်ခြင်းသည် အလှူခံပုဂ္ဂိုလ်တို့ အပေါ်၌ အမျက်ထွက် မုန်းတီးခြင်း၊ လှူဖွယ်ဝတ္ထု၌ တပ်မက်ခင်တွယ်ခြင်းတို့ကြောင့် ဖြစ်တတ်၏ (ဤတိဝုတ်၊ဋ္ဌ။၂၂၇)။

ထို့ပြင် ပေးလှူလိုက်လျှင် ကုန်သွားလိမ့်မည်၊ ငါနှင့်တကွ ငါ့အိမ်သူအိမ်သားများ စားကြရတော့မည် မဟုတ်ဟု နှမြော ဝန်တိုမှု "မစ္ဆေရ"၊ မေ့လျော့မှု "ပမာဒ" ဟူသော အကြောင်း ၂-ပါးကြောင့်လည်း ဖြစ်တတ်၏ (သံ၊၁။၁၇ စသည်)။

### အငတ်ဘေးကြောက်သူ များများလှူ

နှမြောဝန်တိုသူ မှန်သမျှသည် ငတ်မည့်ဘေး ကြောက်၍ မပေးမလှူဘဲ ရှိတတ်ကြရာ ထိုကြောက်စရာ ထိုသူထံသို့ မကြာမီ ဆိုက်ရောက်လာတတ်၏။ ထို့ကြောင့် နှမြောဝန်တိုမှု "မစ္ဆရိယ" သည် စည်းစိမ်ဥစ္စာကို ရနိုင်ခြင်း၏ အကြောင်းဖြစ်သော ပေးကမ်း လှူဒါန်းမှုကို တားမြစ်တတ်ရကား ယင်း မစ္ဆရိယလောက် ယုတ်ညံ့သောတရားဆိုးမရှိဟုဖွင့်ပြတော်မူ၏ (သံ၊ဋီ၊၁။၁၂၆)။ အမှန်စင်စစ် ငတ်မည့်ဘေး ကြောက်လျှင် နှမြောဝန်တိုမှု "မစ္ဆေရ" ကို ပယ်ဖျောက်ကာ စွန့်ကြဲပေးကမ်း လှူဒါန်းကြရာ၏ (သံ၊၁။၁၈၊၃၀ စသည်)။

ဒါနမြောက်အောင် အလှူရှင်များ ဆင်ခြင်ဖွယ်

အလှူဒါန၏ အနှောင့်အယှက် အဟန့်အတား အပိတ်အပင် ဟူသမျှကို ကျော်လွှားကာ အလှူဒါန အထမြောက်အောင် နှလုံးသွင်း ဆင်ခြင်ထတ်ဖို့ အရေးကြီး၏၊ ဘုရားအစရှိသော ဘုံတော်ကောင်းကြီးများ၏ ဆင်ခြင်နှလုံးသွင်းမှုကို အတုယူကြရာ၏။

ချမ်းသာကြွယ်ဝ လိုတိုင်း ရစေရန် အလို့ငှါ ပစ္စည်းဥစ္စာ အသုံးအဆောင် ဘဏ္ဍာမ 'ကို အလျှံတပြောင်ပြောင် မီးတောက်လောင်နေသော အိမ်ကြီးထဲမှ ဆွဲထုတ်ယူငင်သကဲ့သို့ အိုမှု သေမှု စသော မီး ၁၁-ပါးတို့ တောက်လောင် ခံနေရသော လောကကြီးထဲမှ စွန့်ကြဲပေးကမ်း လှူဒါန်းမှုဒါနဖြင့် သံသရာ့ရိက္ခာ ကုသိုလ်ထုပ်ကြီးကို ဆွဲထုတ်ယူငင်နိုင်ပေပြီဟု နှလုံးသွင်းရာ၏ (သံ၊၁။၂၉ စသည်)။

ပေးလှူမှုဖြင့် အရယူလိုက်သော ကုသိုလ်သည်သာ ချမ်းသာသော အကျိုးကို ပေးစွမ်းနိုင်၏။ မပေးမလှူမိသော ပစ္စည်းဥစ္စာများသည် ရန်သူမျိုး ၅-ပါး နှိပ်စက်ဖျက်ဆီး၍ ပျက်စီး ဆုံးရှုံးတတ်၏။ ကျန်ပစ္စည်းစုများကိုလည်း သေလျှင် မုချ စွန့်ပစ်သွားရမည်ကို ပညာဉာဏ်ဖြင့် ဆင်ခြင်၍ မသေခင်က ကြိုတင်ပေးလှူသင့်ကြ၏၊ သို့မှသာ ဝေဿန္တရာမင်း စသည်တို့ကဲ့သို့ နတ်ရွာ သုဂတိသို့ လားရောက်ကြရပေမည် (သံ၊၁။၂၉ စသည်)။

လယ်ယာ ရွှေ ငွေ စသော ကိုယ်ပိုင် ပစ္စည်းဥစ္စာများကို တပ်မက် ခင်တွယ်သောစိတ် ရှိသူများအဖို့ အလှူဒါန ပြုလုပ်ဖြစ်အောင် အောက်ပါအတိုင်း နှလုံးသွင်း ဆင်ခြင်သင့်ကြပေသည်—

လိုလားတောင့်တ နှစ်သက်အပ်သော ပစ္စည်းဥစ္စာများသည် ရန်သူမျိုး ငါးပါးနှင့် ဆက်ဆံနေ၏။ ခြင်းခုံခြင်း၏ အကြောင်းဖြစ်၏၊ နိုက်ရန် ပြုနိုင်၏။ အနှစ်သာရ မဲ့၏။ ရရှိဖို့ အရေး, စောင့်ရှောက်ဖို့ အရေးတို့၌ သူတပါးကို ညှဉ်းဆဲမှ ဖြစ်မည်ဆိုလျှင် ညှဉ်းဆဲရခြင်း၏ အကြောင်းဖြစ်၏။ ယင်းပစ္စည်းများ ပျက်စီး ဆုံးရှုံးခဲ့သော် စိုးရိမ်ပူဆွေးရခြင်း စသော ဆင်းရဲအမျိုးမျိုးနှင့် ရင်ဆိုင်ရ တွေ့ကြုံရတတ်၏။ ပစ္စည်း ဥစ္စာများအပေါ် တပ်မက်မှုကြောင့် မချွေရစိတ် ရှိသူတို့မှာ အပါယ်သို့ လားရောက်နိုင်၏၊ “ပြိတ္တာတို့ဘောင် ဥစ္စာဆောင်” ဟု ဆိုရိုးစကား ပြုကြ၏၊ ဤသို့ စသည်ဖြင့် ကိုယ်ပိုင်ဝတ္ထု ပစ္စည်းစုတို့သည် အကျိုးမဲ့ အမျိုးမျိုးသာ ဆောင်နိုင်ကုန်၏။ ယင်းပစ္စည်း ဝတ္ထုတို့ကို စွန့်ကြဲ ပေးကမ်း လှူဒါန်းခြင်း တစ်ခုတည်းသည်သာ ချမ်းသာကြောင်း အမှန်ဖြစ်ပေသည်။

အလှူခံပုဂ္ဂိုလ် မိမိထံမှောက် ရောက်လာသည့်အခါ အကုသိုလ် မဖြစ်ဘဲ ကုသိုလ်တိုးပွား၍ အကျိုးများအောင် အလှူဒါနမြောက်အောင် ဆင်ခြင်ထတ်ဖို့ အရေးကြီးပြန်၏။ အလှူခံပုဂ္ဂိုလ်တို့သည် လှူဖွယ်ဝတ္ထုကို ဘယ်အခါများ လာယူကြပါကုန်မည်နည်း။ ဘယ်ပုံ ဘယ်နည်း ငါသည် အလှူခံပုဂ္ဂိုလ်တို့ ချစ်မြတ်နိုးသူ ဖြစ်ရပါအံ့နည်း။ အဘယ်သို့လျှင် အလှူခံပုဂ္ဂိုလ်တို့က မတောင်းရဘဲ အလိုက်သိစွာ ပေးလှူနိုင်ရာ ပါအံ့နည်း။ ယစ္စည်းဥစ္စာနှင့် အလှူခံပုဂ္ဂိုလ် ၂-ပါးစုံ ရှိပါလျက် မစွန့်မလှူခြင်းသည် ငါ့အဖို့ ကြီးစွာသော လှည့်စားမှုပင် ဖြစ်၏ (စရိယာ၊ ဋ္ဌ။ ၂၇၄-စသည်)။

အလှူဒါနပြုရာ၌ တောင်းခံလာသော အလှူခံပုဂ္ဂိုလ်သည် မိမိချစ်ခင်သော (ပိယ) ပုဂ္ဂိုလ်ဖြစ်လျှင် ငါချစ်အပ်သော သူက ငါ့ကို ဟောင်းခံလာပေသည်ဟု ဝမ်းမြောက်ဝမ်းသာ ဖြစ်စေရမည်၊ သို့မဟုတ် ချစ်လည်း မချစ်, မုန်းလည်း မမုန်းအပ်သော မဇ္ဈတ္တပုဂ္ဂိုလ်ဖြစ်လျှင် ငါ့ကို တောင်းခံလာသော ဤသူသည် ယခု စွန့်လှူခြင်းဖြင့် မိတ်ဆွေ ဖြစ်ရပေတော့မည်ဟု နှလုံးသွင်း ဆင်ခြင်၍ ဝမ်းမြောက်ဝမ်းသာ ဖြစ်စေရမည်၊ သို့မဟုတ် ရန်သူဖြစ်သော (ဝေရီ) ပုဂ္ဂိုလ်က တောင်းခံလာခဲ့သော် ငါ၏ ရန်သူသည် ငါ့ကို တောင်းခံလာပေသည်။ ငါ့ကို တောင်းခံလာသော ဤရန်သူသည် ယခု ငါပေးလှူခြင်းဖြင့် ကေန်မုချ ချစ်ကျွမ်းဝင်သော ပုဂ္ဂိုလ်ဖြစ်ရပေတော့မည်ဟု နှလုံးသွင်း ဆင်ခြင်၍ အထူးသဖြင့် ဝမ်းမြောက်ဝမ်းသာ ဖြစ်စေရမည်။ ပေးလှူတတ်သူကို အလှူခံပုဂ္ဂိုလ်များ ချစ်မြတ်နိုးကြ၏။ ဤပြခဲ့သောနည်းဖြင့် ချစ်အပ်သော ပိယပုဂ္ဂိုလ်၌ ကဲ့သို့ မဇ္ဈ, ဝေရီ ပုဂ္ဂိုလ်တို့၌လည်း မေတ္တာရှေ့သွားရှိသော ကရုဏာကို ဖြစ်စေ၍ ပေးလှူကြရမည်။

လှူဖွယ်ဝတ္ထု ပြည့်စုံပြီး အလှူခံပုဂ္ဂိုလ်လည်း မိမိမျက်မှောက်၌ ထင်ရှားဆိုက်ရောက်နေပါလျက် အချို့ပုဂ္ဂိုလ်များမှာ ပေးလှူလိုစိတ် မဖြစ်ပေါ်ဘဲ ရှိတတ်သည်။

ယင်းသို့ဖြစ်သော် "ငါသည် ကေန်မုချ ရှေးဘဝကပေးလှူခြင်း၌ အလေ့အထ မပြုလုပ်ခဲ့သည့်အတွက် ယခုအခါ ငါ့သန္တာန်မှာ ပေးလှူလိုစိတ် ဖြစ်ပေါ်မလာခြင်းဖြစ်သည်" ဟု ဆုံးဖြတ်၍ "နောက်နောင် ပေးလှူလိုစိတ် ဖြစ်ပေါ်လာအောင် ယနေ့မှ စ၍ ပေးလှူတော့အံ့၊ ငါသည် ရှေးမဆွကပင် ကြိုတင်၍ ကိုယ်တိုင် ဝတ္ထုပစ္စည်းစုကို အလှူခံများအား စွန့်လှူထားအပ်ပြီ မဟုတ်ပါလော" ဟု နှလုံးသွင်းဆင်ခြင်၍ ပေးလှူဖြစ်အောင် ပေးလှူကြရာ၏။

လှူဖွယ်ဝတ္ထုက ချို့တဲ့ နည်းပါးနေပြန်လျှင်လည်း ပေးလှူလိုစိတ်က မဖြစ်ပေါ်ဘဲ ရှိတတ်သည်။ ယင်းသို့ ဖြစ်ခဲ့သော် "ငါသည် ရှေးဘဝများစွာက မပေးလှူခဲ့သည့်အတွက် ယခုအခါ ပစ္စည်းဥစ္စာ ချို့တဲ့နွမ်းပါးရခြင်း ဖြစ်သည်။ မရှိလို့ မလှူ၊ မလှူလို့ မရှိ ဖြစ်ချေတော့မည်။ ထို့အတွက် ယခုအခါ ငါသည် နည်းသည်ဖြစ်စေ, ညံ့သည်ဖြစ်စေ ရသမျှ လှူဖွယ်ဝတ္ထုဖြင့် ဖျစ်ညှစ်၍ ပေးလှူသင့်ကြ၏။

၄

## အခန်း (၁၁)

### ဒါနအမျိုးမျိုး

အလှူဒါန၏ သဘော၊ အလှူဒါန ပြုနိုင်ရန် ခက်ခဲပုံနှင့် အလှူဒါန မြောက်အောင် နှလုံးသွင်းဆင်ခြင်ပုံ စသည်များ သိရှိပြီးနောက် ဒါနအမျိုးမျိုး သိရှိထားရန် လိုအပ်ပေသည်။ လှူဖွယ်ဝတ္ထုပစ္စည်းစုသည် ဒါနကံမြောက်ဖို့ရန် အရေးကြီးသော အကြောင်းဖြစ်၏။ သို့အတွက် ပစ္စည်းဝတ္ထုကို အကြောင်း ပြု၍ ကျမ်းဂန်တို့၌ ဒါနအမျိုးမျိုး ခွဲခြားပြဆိုထား၏။

ဝိနည်း ဒေသနာတော် အလိုအားဖြင့် ဆွမ်းအလှူဒါန၊ သင်္ကန်း အလှူဒါန၊ ကျောင်းအလှူဒါန၊ ဆေးအလှူဒါနဟု ၄-ပါး ရှိကြောင်း ဖွင့်ပြထား၏။ ဝိနည်းဒေသနာတော်မှာ ဒါန ၄-ပါးပြလိုရင်း မဟုတ်သော်လည်း ရဟန်းတော်များ သုံးဆောင်ရန် ပစ္စည်းလေးပါးကို မြတ်စွာဘုရားခွင့်ပြုတော်မူသည့်အတွက် လှူဒါန်းရာမှာလည်း လေးမျိုးဖြစ်သင့်ရကား ဝိနည်းအလို ဒါနလေးမျိုးရှိသည်ဟု ဖွင့်ဆိုတော်မူကြ၏။

အဘိဓမ္မာဒေသနာတော်အလိုအားဖြင့် လောက၌ ရှိရှိသမျှသော တရားအားလုံးကို သိမ်းကျုံးမိအောင် အာရုံ ၆-ပါးဖြင့် ပိုင်းခြားဝေဖန်၍ ဟောကြားထားရာ အဆင်းကို လှူဒါန်းခြင်း ရူပဒါန၊ အသံကို လှူဒါန်းခြင်း သဒ္ဒဒါန၊ အနံ့ကို လှူဒါန်းခြင်း ဂန္ဓဒါန၊ အရသာကို လှူဒါန်းခြင်း ရသဒါန၊ အတွေ့ကို လှူဒါန်းခြင်း ဖောဋ္ဌဗ္ဗဒါန၊ တရားသဘောကို လှူဒါန်းခြင်း ဓမ္မဒါန-ဟု ၆-ပါးရှိကြောင်း ဖွင့်ပြတော်မူကြ၏ (ဒီ၊ဋ္ဌ၊၃။၁၇၀။ အဘိ၊ဋ္ဌ၊၁။၂၀၁။ အံ၊ဋ္ဌီ၊ ၃။၂၃၄-၈)။

ဤအရာ၌ အဘိဓမ္မာဒေသနာတော်တွင် ဒါန ၆-ပါးကို တိုက်ရိုက် ဟောပြခြင်း မဟုတ်သော်လည်း အာရုံ ၆-ပါးကို ဟောပြလိုက်သဖြင့် ထိုအာရုံတို့ကို အသီးသီး လှူဒါန်းလျှင် အာရုံအပြားသို့ လိုက်၍ ဒါနခြောက်ပါး အပြား ရှိသည်ဟု အနက်ထုတ်ရကား အဘိဓမ္မာအလို ဒါနခြောက်မျိုးရှိကြောင်း ကျမ်းဂန်တို့၌ ဖွင့်ပြတော်မူကြသည်။

သုတ္တန်ဒေသနာတော် အလိုအားဖြင့် စားဖွယ်အမျိုးမျိုး လှူဒါန်းခြင်း အန္နဒါန၊ သောက်ဖွယ်အမျိုးမျိုး လှူဒါန်းခြင်း ပါနဒါန၊ အဝတ်အထည်

အမျိုးမျိုးလှူဒါန်းခြင်း ဝတ္ထုဒါန၊ စီးနင်းစရာ ယာဉ်လှူဒါန်းခြင်း ယာနဒါန၊ ပန်းအမျိုးမျိုး လှူဒါန်းခြင်း မာလာဒါန၊ နံ့သာအမျိုးမျိုး လှူဒါန်းခြင်း ဂန္ဓဒါန၊ လိမ်းခြယ်စရာ အမျိုးမျိုး လှူဒါန်းခြင်း ဝိလေပနဒါန၊ ညောင်စောင်း အင်းပျဉ် အိပ်ရာနေရာကို လှူဒါန်းခြင်း သေယျဒါန၊ အိမ်ကျောင်း စသော နေရာအဆောက်အဦ လှူဒါန်းခြင်း အာဝသထဒါန၊ မီးထွန်းရန် ဆီ စသည်ကို လှူဒါန်းခြင်း ပဒီပေယျဒါနအားဖြင့် ဒါန ၁၀-ပါး ရှိကြောင်း ဖွင့်ပြတော်မူကြ၏။

ဤဒ္ဒ ဒါနဝတ္ထု ဆယ်မျိုးသာ ဘုရားဟောသည်ဟု အကြောင်းပြကာ ဤဆယ်မျိုးကိုသာ လှူကောင်းသည်၊ အခြားဝတ္ထုတို့ကို မလှူကောင်းဟု မမှတ်ယူအပ်။ လောက၌ ယေဘုယျအားဖြင့် အလှူများရာကို လိုက်၍ ဤဆယ်မျိုးကို ဒါနဝတ္ထုဟု ဟောတော်မူခြင်း ဖြစ်သည်။ တနည်းအားဖြင့် အရာဝတ္ထုမှုသမျှကို ဤဆယ်ပါး၌ပင် သဘောတူရာ သွတ်သွင်း သိမှတ်နိုင်မည် ဖြစ်သောကြောင့် ဤဆယ်မျိုးကို ပြလိုက်သဖြင့်ပင် သူတော်ကောင်းများ သုံးစွဲနေကျဖြစ်သော အရာဝတ္ထုတို့ကို လှူဒါန်းနိုင်သည်ဟု သိမှတ်ရာ၏။

ပေးလှူမှုဒါနကို အလှူရှင်, အလှူခံ, လှူဖွယ်ဝတ္ထု, လှူပုံ အခြင်းအရာ, လှူရာအချိန်အခါ, လှူကြောင်းဒါန စေတနာ စသည်ကို အကြောင်းပြု၍ ၂-ပါးတွဲ ဒါနစု၊ ၃-ပါးတွဲဒါနစု စသည်ဖြင့် ခွဲခြမ်းဝေဖန်ကာ ပိဋကတ်တော် ပါဠိ, အဋ္ဌကထာ, ဋီကာတို့၌ ဟောပြ ဖွင့်ဆိုတော်မူကြ၏။

## နှစ်ပါးတွဲ ဒါနစုများ

**အာမိသဒါန၊ ဓမ္မဒါန**

ဆွမ်းစသောပစ္စည်းဝတ္ထုကို လှူဒါန်းခြင်းသည် အာမိသဒါနမည်၏။(အာမိသ နှင့် ပစ္စယအတူတူပင် ဖြစ်၍ ပစ္စယဒါနဟုလည်း ခေါ်နိုင်၏။) သူတပါးတို့အား တရားဟောခြင်း စသည်ဖြင့် တရားကို ပေးလှူခြင်းသည် ဓမ္မဒါနမည်၏။ ဤဒါန ၂-မျိုးတွင် ဓမ္မဒါနသည် အမြတ်ဆုံးဖြစ်၏။ ဤနှစ်မျိုးကို အာမိသပူဇာ, ဓမ္မပူဇာ-ဟူ၍လည်း ခေါ် အပ်၏။ အမည်မျှသာ ကွဲသည့် အဓိပ္ပာယ်မှာ အတူတူပင် ဖြစ်သည်။

လောက၌ အများအားဖြင့် အနိမ့်က အမြင့်ကို ပြုလုပ်ရာမှာ (ငယ်သူက ကြီးသူအား ပေးရာမှာ) ပူဇော်သည်ဟူသော စကားကို သုံးလေ့ရှိကြ၏။ ဤအဓိပ္ပာယ်ကို ယူဆပြီး ဒါနသည် ပူဇာဒါန, အနုဂ္ဂဟဒါန-ဟု ၂-မျိုးခွဲသင့်၏။

မြတ်ခသာ ပုဂ္ဂိုလ် ကြီးသောပုဂ္ဂိုလ်အား ငယ်သူက ပူဇော်သောအားဖြင့် ပေးလှူခြင်းသည် ပူဇာဒါန မည်၏။ ကြီးမြတ်သူက ငယ်ရွယ်သူအား ချီးမြှောက်သောအားဖြင့် ပေးလှူခြင်းသည် အနုဂ္ဂဟဒါနမည်၏။ (ဤပူဇာဒါန, အနုဂ္ဂဟဒါန နှစ်ပါးခွဲခြင်းမှာ ကေန္တ မဟုတ်ပါ၊ လောကဝေါဟာရ အသုံးအနှုန်း များရာသို့ လိုက်၍ ခွဲခြင်းဖြစ်သည်။)

**အဇ္ဈတ္တိကဒါန၊ ဗာဟိရဒါန**

ကိုယ်တွင်းဆိုင်ရာ အင်္ဂါကြီးငယ် အသက်ခန္ဓာတို့ကို လှူဒါန်းခြင်းသည် အဇ္ဈတ္တိကဒါနမည်၏။ အပြင်ပဖြစ်သော ပစ္စည်းဝတ္ထုတို့ကို လှူဒါန်းခြင်းသည် ဗာဟိရဒါနမည်၏။

**ဝတ္ထုဒါန၊ အဘယဒါန**

ပစ္စည်းဝတ္ထုတို့ကို လှူဒါန်းခြင်းသည် ဝတ္ထုဒါနမည်၏။ အသက်စည်းစိမ်ကို ဘေးမဲ့ ပေးခြင်းသည် အဘယဒါနမည်၏။ (ဤအဘယဒါနသည် အထူးသဖြင့် ရှင်ဘုရင်များနှင့် သက်ဆိုင်၏။)

**ဝဋ္ဋနိဿိတဒါန၊ ဝိဝဋ္ဋနိဿိတဒါန**

ဝဋ်ဆင်းရဲ၌ ဖြစ်သော လောကီစည်းစိမ် ချမ်းသာကိုသာ တောင့်တ၍ လှူအပ်သော အလှူသည် ဝဋ္ဋနိဿိတဒါနမည်၏။ ဝဋ်ဆင်းရဲကင်းရာ နိဗ္ဗာန်ကို တောင့်တ၍ လှူအပ်သော အလှူသည် ဝိဝဋ္ဋနိဿိတဒါနမည်၏။

**သာဝဇ္ဇဒါန၊ အနဝဇ္ဇဒါန**

သားငါး စသော သတ္တဝါများကို သတ်ဖြတ်၍ ကျွေးမွေး လှူဒါန်း အပ်သော ဒါနမျိုးသည် (အပြစ်နှင့်တကွဖြစ်သောကြောင့်) သာဝဇ္ဇဒါနမည်၏။ သားငါး စသော သတ္တဝါများကို သတ်ဖြတ်မှုမှ ကင်းရှင်းသော ဒါနမျိုးသည် (အပြစ်မရှိသောကြောင့်) အနဝဇ္ဇဒါနမည်၏။ အကုသိုလ် ခြံရံလျက် ရှိသော ဒါန, အကုသိုလ် မခြံရံသော ဒါနဟု ဆိုလိုသည်။

မှတ်ချက်။ ။ယခုလောက၌ အချို့သူတို့သည် တံငါအလုပ်ဖြင့် ဥစ္စာကြွယ်ဝ ချမ်းသာပြီးနောက် "ငါသည် မကောင်းမှုကို မပြုဘဲ တံငါ အလုပ်ကို စွန့်ပြီးလျှင် စင်ကြယ်သော အလုပ်ဖြင့်သာ လုပ်ကိုင်အသက်မွေးတော့ မည်" ဟု နေထိုင်လျှင် စည်းစိမ်ဥစ္စာ ဆုတ်ယုတ်သွားတတ်၏။ တဖန် တံငါ အလုပ်ကို ပြန်၍ လုပ်ကိုင်သောအခါ ကြွယ်ဝလာပြန်၏။ ဤသို့ ဖြစ်ရခြင်းမှာ

ရှေးဘဝက ပြုခဲ့သော သာဝဇ္ဇဒါနကံ အကျိုးပေးသည့်အတွက် ဖြစ်သည်။ ကံပြုစဉ်က ပါဏာတိပါတကံနှင့် တွဲဖက်၍ ပြုခဲ့သောကြောင့် အကျိုးပေးရာမှာလည်း ပါဏာတိပါတကံနှင့် တွဲဖက်ရမှ အကျိုးပေးသန်သည်။ မတွဲဖက်ရလျှင် ထိုကံအကျိုးမပေးနိုင်၍ ဆင်းရဲသွားရပြန်သည်။

**သာဟတ္ထိကဒါန၊ အာဏတ္တိကဒါန**

ကိုယ်တိုင် ကိုယ်ကျ မိမိလက်ဖြင့် ကိုင်တွယ် လှူဒါန်းအပ်သော ဒါနသည် သာဟတ္ထိကဒါနမည်၏။ သူတပါးကို စေခိုင်း (ကိုယ်စားလှယ်ထား)၍ လှူဒါန်းအပ်သော ဒါနသည် အာဏတ္တိကဒါနမည်၏။

ပါယာသိမင်းစား၏ အလှူပွဲ၌ ယင်းဒါနတို့ကို ဥတ္တရလုလင်သည် ကိုယ်စားအဖြစ်ဖြင့် ပေးလှူရသော်လည်း မိမိပစ္စည်းကဲ့သို့ သဘောထားကာ အားစိုက်၍ ပေးလှူခဲ့သောကြောင့် တာဝတိံသာနတ်ပြည်သို့ လားရောက်ရ၏။ အလှူရှင်ဖြစ်သော ပါယာသိမင်းစားသည်ကား မရိုမသေ တော်စွ လျော်စွ ပေးလှူခဲ့သောကြောင့် အောက်တန်းကျသော စတုမဟာရာဇ် နတ်ပြည်၌ အခြံအရံ နတ်သမီး, နတ်သား ကင်းမဲ့သော သေရီသကနတ်ဗိမာန်၌ ဖြစ်ရ၏။ (အကျယ်ကို ဒီဃနိကာယ်၊ မဟာဝဂ်၊ ပါယာသိသုတ်မြန်မာပြန်၌ ရှုပါ။)

**သက္ကစ္စဒါန၊ အသက္ကစ္စဒါန**

လှူဖွယ်ဝတ္ထုကို ကောင်းမွန်စွာ ပြုပြင်၍ လှူဒါန်းအပ်သော ဒါနသည် သက္ကစ္စဒါနမည်၏။ လှူဖွယ်ဝတ္ထုကို ကောင်းမွန်စွာ မပြုပြင်ဘဲ လှူဒါန်းအပ်သော ဒါနသည် အသက္ကစ္စဒါန မည်၏။

ပန်းပင်မှ ပန်းများကိုခူးပြီး ရေဆေး၍ မလှ-လှအောင် မတင့်တယ်-တင့်တယ်အောင် အကုံး အခိုင်စသည်ဖြင့် ကောင်းစွာ ပြုလုပ်ပြီးမှ လှူဒါန်းခြင်းသည် သက္ကစ္စဒါန၊ ဤသို့ မပြုပြင်ဘဲ ပန်းပင်မှ ခူးခဲ့ရင်းအတိုင်းသာ (ဘုရားအားအလှူမြောက်လျှင် ပြီးရောသဘောမျိုးဖြင့်)လှူဒါန်းခြင်းသည် အသက္ကစ္စဒါနဟု ဆိုလိုကြောင်း မှတ်သားရာ၏။

**ဉာဏသမ္ပယုတ္တဒါန၊ ဉာဏဝိပ္ပယုတ္တဒါန**

လှူဒါန်းရာ၌ ကံ,ကံ၏အကျိုးစသည်ကို သိမြင်၍ လှူဒါန်းခြင်းသည်(ဉာဏ်နှင့်ယှဉ်သည့်အတွက်) ဉာဏသမ္ပယုတ္တဒါန မည်၏။ ကံ, ကံ၏ အကျိုးစသည်ကို မသိ မမြင်ဘဲ သူတပါးတို့၏ အတုအပမျှသာ လှူဒါန်းခြင်းသည် (ဉာဏ်နှင့် မယှဉ်သောကြောင့်) ဉာဏဝိပ္ပယုတ္တဒါန မည်၏။

**သသင်္ခါရိကဒါန၊ အသင်္ခါရိကဒါန**

တိုက်တွန်းခြင်း ရှိ၍ ပြုအပ်သော ဒါနသည် သသင်္ခါရိကဒါန မည်၏။ တိုက်တွန်းခြင်း မရှိဘဲ ပြုအပ်သော ဒါနသည် အသင်္ခါရိကဒါန မည်၏။

**သောမနဿဒါန၊ ဥပေက္ခာဒါန**

စိတ်နေရွှင်လန်းချမ်းသာစွာ လှူဒါန်းအပ်သော ဒါနသည် သောမနဿဒါန မည်၏။ ဝမ်းလည်းမသာ ဝမ်းလည်းမနည်း အလယ်အလတ် ခံစားခြင်းသဘော ရှိ၍ လှူဒါန်းအပ်သော ဒါနသည် ဥပေက္ခာဒါန မည်၏။ (လှူဒါန်းသောအခါ သောမနဿဝေဒနာနှင့် ယှဉ်လျှင် သောမနဿဒါန, ဥပေက္ခာဝေဒနာနှင့် ယှဉ်လျှင် ဥပေက္ခာဒါနဟု ဆိုလိုသည်။)

**ဓမ္မိယဒါန၊ အဓမ္မိယဒါန**

တရားသဖြင့် ရှာဖွေရရှိသော ပစ္စည်းဝတ္ထုကို လှူဒါန်းခြင်းသည် ဓမ္မိယဒါန မည်၏။ တိုက်ခိုက်ခိုးဝှက် မတရားသဘောဖက်၍ ရှာဖွေရရှိသော ပစ္စည်းဝတ္ထုကို လှူဒါန်းခြင်းသည် အဓမ္မိယဒါန မည်၏။

**ဒိဋ္ဌဒါန၊ ဘုဇိဿဒါန**

လောကီစည်းစိမ် ချမ်းသာကို တောင့်တ၍ လှူဒါန်းအပ်သော ဒါနသည် ဒိဋ္ဌဒါန မည်၏။ (တဏှာသခင် အရှင်အကြိုက် အလိုလိုက်၍ တဏှာ၏ ကျွန်အဖြစ်ဖြင့် လှူဒါန်းခြင်းဟု ဆိုလိုသည်။) လောကုတ္တရာ မဂ် ဖိုလ်နိဗ္ဗာန်ကို ရည်သန်တောင့်တ၍ လှူဒါန်းအပ်သော ဒါနသည် ဘုဇိဿဒါန မည်၏။ (တဏှာသခင် အရှင်ကို တော်လှန်၍ လှူဒါန်းခြင်းဟု ဆိုလိုသည်။)

**ထာဝရဒါန၊ အထာဝရဒါန**

နေရာတည်မြဲနေသည့် ဘုရား တန်းဆောင်း ကျောင်း ဇရပ် ရေတွင်း ရေကန် စသည်တို့ကို လှူဒါန်းခြင်းသည် ထာဝရဒါန မည်၏။ ခဏ ခေတ္တမျှသာ သုံးဆောင်ရသော ဆွမ်းသင်္ကန်းစသည့် ပစ္စည်းကို လှူဒါန်းခြင်းသည် အထာဝရ ဒါန မည်၏။

**သပရိဝါရဒါန၊ အပရိဝါရဒါန**

အခါကအားဖြင့် သင်္ကန်းကို လှူလိုရာမှာ သင်္ကန်းတွင်သာမက အခြား လှူဖွယ်ဝတ္ထုများနှင့် ဖွယ်ဖွယ်ရာရာ စီစဉ်ခြံရံ၍ လှူဒါန်းခြင်းသည် ဗခြံအရံနှင့် တကွ လှူဒါန်းခြင်းဖြစ်သောကြောင့် သပရိဝါရဒါန မည်၏။ (၎င်း သပရိဝါရ

ဒါနကြောင့် အလောင်းတော်ကြီးများမှာ စက်လက္ခဏာပါရှိခြင်း အကျိုးရ၍ အခြံအရံများခြင်း အကျိုးဆက်ကို ရရှိတော်မူကြသည်။) အခြံအရံ မပါဘဲ သက်နှီးချည်းသက်သက် လှူခဲ့ပါလျှင် အပရိဝါရဒါန မည်၏။ (အပါးသော ပစ္စည်းတို့ကို လှူရာ၌လည်း ဤနည်းအတိုင်းပင် သိရာ၏။)

**နိဗဒ္ဓဒါန၊ အနိဗဒ္ဓဒါန**

နေ့စဉ်မပြတ် ဆွမ်းလောင်းခြင်း စသည်ဖြင့် အမြဲမပြတ် ပြုလုပ်အပ်သော ဒါနသည် နိဗဒ္ဓဒါနမည်၏။ နေ့စဉ်မဟုတ်ဘဲ တတ်နိုင်သည့်အခါ ပြုလုပ်အပ်သော ဒါနသည် အနိဗဒ္ဓဒါန မည်၏။

**ပရာမဋ္ဌဒါန၊ အပရာမဋ္ဌဒါန**

တဏှာဒိဋ္ဌိတို့ဖြင့် သုံးသပ်သော ဒါနသည် ပရာမဋ္ဌဒါန မည်၏။ တဏှာဒိဋ္ဌိ တို့ဖြင့် မသုံးသပ်အပ်သော ဒါနသည် အပရာမဋ္ဌဒါန မည်၏။

**ဥစ္ဆိဋ္ဌဒါန၊ အနုစ္ဆိဋ္ဌဒါန**

အကြွင်းအကျန် အညံ့အဖျင်းဖြစ်သော ပစ္စည်းကို လှူဒါန်းခြင်းသည် ဥစ္ဆိဋ္ဌ ဒါနမည်၏။ အကြွင်းအကျန် အညံ့အဖျင်း မဟုတ်သော ပစ္စည်းကို လှူဒါန်း ခြင်းသည် အနုစ္ဆိဋ္ဌဒါနမည်၏။ (အကောင်းအမြတ်ပစ္စည်းရှိပါလျက် အကောင်း အမြတ်ကို မလှူဘဲ အညံ့အဖျင်းကို လှူမှသာ ဥစ္ဆိဋ္ဌဒါန=အကြွင်းအကျန် အညံ့အဖျင်းအလှူဖြစ်သည်ဟူ၍ မှတ်ယူရာ၏။)

**သဇီဝဒါန၊ အစ္စယဒါန**

မိမိအသက် ထင်ရှားရှိစဉ် လှူဒါန်းအပ်သော ဒါနသည် သဇီဝဒါနမည်၏။ ငါသေပြီးနောက် ဤငါ့ပစ္စည်းစုကို မည်သူအား ငါပေးခဲ့သည် ထိုသူယူ၍ အလိုရှိတိုင်း သုံးဆောင်လေဘဲဟု သေသည့်နောက်အခါကို ရည်မှန်း၍ ပေးကမ်း ခြင်းသည် အစ္စယဒါနမည်၏။

မှတ်ချက်။ ။ရဟန်းတော်များမှာ ဤအစ္စယဒါနမျိုးဖြင့် ပေးခြင်းသည် အပေးလည်း မမြောက်၊ အပေးခံရသူမှာလည်း မပိုင်ဆိုင်၊ ရဟန်းတစ်ပါး ပိုင်ဆိုင်သော ပစ္စည်းကို ထိုရဟန်း အသက်ထင်ရှားရှိစဉ် အခြား တစ်ဦးဦးအား ပေးလျှင် အပေးခံရသူ အပိုင်ရ၏၊ သို့မဟုတ် ထိုပစ္စည်းရှင် ရဟန်း အသက်ရှင်စဉ်ပင် အခြား တစ်ဦးဦးအား ဝိဿာသဂ္ဂါဟ=(အကျွမ်းဝင် ခင်မင်၍ ယူခြင်းမျိုး)ဖြင့် ယူလည်း ထိုသို့ ယူသူ အပိုင်ရနိုင်၏၊ သို့မဟုတ်

ထိုပစ္စည်းရှင်ရဟန်း အသက်ရှင်စဉ် အခြားတစ်ဦးဦးနှင့် ဒွိသန္တက=(နှစ်ဦးဆိုင် ပစ္စည်းပြုလုပ်လျှင်လည်း ပစ္စည်းရှင် ရဟန်းသေလျှင် ကျန်တစ်ဦး ရ၏။ ထိုသို့ မဟုတ်ဘော ရဟန်းပိုင် ပစ္စည်းတို့မှာ ထိုရဟန်းသေလျှင် သံဃိက=သံဃာ ပိုင်သော ပစ္စည်းဖြစ်သည်။ သို့ဖြစ်၍ ပစ္စည်းရှင် ရဟန်းက "ငါသေလျှင် ငါပိုင် ပစ္စည်း အရပ်ရပ်ကို မည်သူ့ အား ပေးပါ၏၊ မည်သူ ယူရစ်လော့" ဟု ဆို၍ ပေးခြင်းမျိုးသည် သံဃိကဖြစ်မှ ယူရစ်တော့ဟု ဆိုရာကျသဖြင့် ထိုအစွယဒါန မျိုးဖြင့် ပေးသော ရဟန်းက ပေးသော်လည်း အပေးမမြောက်။ အပေးခံ ပုဂ္ဂိုလ်မှာလည်း ပိုင်ဆိုင်ခွင့်မရှိ။ လူတို့မှာမူကား ဤကဲ့သို့သော အစွယဒါနမျိုး အသုံးဝင် တရားဝင် အတည်ဖြစ်နိုင်သည်။

**ပုဂ္ဂလိကဒါန၊ သံဃိကဒါန**

ပုဂ္ဂိုလ် တစ်ဦးနှစ်ဦး စသည်အား ပိုင်းခြားသတ်မှတ်၍ လှူဒါန်းခြင်းသည် ပုဂ္ဂလိကဒါန မည်၏။ သံဃာတော်အား ရည်မှန်း၍ လှူဒါန်းခြင်းသည် သံဃိကဒါန မည်၏။

**ကာလဒါန၊ အကာလဒါန**

ကထိန်လျာသင်္ကန်း လှူဒါန်းခြင်း၊ ဝါဆိုသင်္ကန်း လှူဒါန်းခြင်း၊ ဂိလာန ဘတ်ခေါ် မကျန်းမမာသောရဟန်းတို့အား ဆွမ်းလှူခြင်း၊ အာဂန္တုကဘတ်ခေါ် ဧည့်သည်ရဟန်းတို့အား ဆွမ်းလှူခြင်း၊ ဂမိကဘတ်ခေါ် ခရီးထွက်မည့် ပုဂ္ဂိုလ် တို့အား ဆွမ်းလှူခြင်း စသည်တို့သည် အချိန်အခါနှင့် တိုက်ဆိုင်အောင် စီမံ လှူဒါန်းအပ်သည် ဖြစ်၍ ကာလဒါန မည်၏။ ဤသို့ အချိန်အခါကို ရွေးချယ် ရခြင်း မရှိဘဲ လှူလိုသည့်အခါ လှူလိုက်နိုင်သော ဒါနမျိုးသည် အကာလဒါန မည်၏။

**မှတ်ချက်။** ။ဤ၌ အကာလဒါနထက် ကာလဒါန-က အကျိုးထူး၏။ ထူးပုံမှာ လှူဒါန်းစဉ်အခါ အချိန်နှင့် သင့်လျော်ညီညွတ်အောင် လှူဒါန်း ရသည့်အတိုင်း အကျိုးပေးရာမှာလည်း အချိန်အခါနှင့် ညီညွတ်အောင် အကျိုး ပေးစွမ်းနိုင်သည်။ ထူးသောအစာ, ထူးသော အဝတ်များ စားလို ဝတ်လိုသည့် အခါ ထူးသောအစာ, ထူးသောအဝတ်များ အဆင်သင့်ဖြစ်ပေါ် လာတတ်သည်။

**ပစ္စက္ခဒါန၊ အပစ္စက္ခဒါန**

မျက်မြင်ကိုယ်တွေ့ ဖြစ်သော ဒါနသည် ပစ္စက္ခဒါန မည်၏။ မိမိမျက်ကွယ်၌ လှူအပ်သော ဒါနသည် အပစ္စက္ခဒါန မည်၏။

**သဟိသဒါန၊ အသဒိသဒါန**

အလှူဒါန ပြုကြရာမှာ တန်းတူညီမျှ ရနိုင်စကောင်းသော အလှူဒါန မျိုးသည် သဒိသဒါန မည်၏။ အချင်းချင်း အပြိုင်အဆိုင် လှူဒါန်းကြရာမှာ ထပ်ဖက်သားများ မတုပနိုင်အောင် အနိုင်ယူ၍ လှူဒါန်းအပ်သော အလှူဒါန မျိုးသည် အသဒိသဒါန မည်၏။

**မှတ်ချက်။** ။ဤအသဒိသဒါန အလှူရှင်သည် ဘုရားတစ်ဆူ တစ်ဆူတို့၏ လက်ထက်တော်မှာ တစ်ဦးတစ်ဦးသာလျှင် ပေါ်ပေါက်သည်ဟု ဓမ္မပဒအဋ္ဌကထာ ၁၃-ခုမြောက် လောကဝဂ် အသဒိသဒါနဝတ္ထု၌ ပြဆို ထား၏။ ဂေါတမ ဘုရားရှင်လက်ထက်တော်မှာ အသဒိသဒါန အလှူရှင်သည် ကောသလမင်းကြီး ဖြစ်၏။

## သုံးပါးတွဲ ဒါနစုများ

**ဉာတပယောဇနဒါန၊ ဉာဏမောက္ခဒါန၊ နိဒိဒါန**

မိဘတို့က သားသမီးတို့ကို နောင်အခါတွင် ငါတို့အား ဤကဲ့သို့ပင် ပြန်လည် ကျွေးမွေးလိမ့်မည်ဟု ရည်မှန်း၍ သားသမီးတို့အား ကျွေးမွေးခြင်းသည် ကျွေးသစ်ချသည်နှင့် တူသောကြောင့် ဉာဏပယောဇနဒါန မည်၏။ သားသမီး တို့က အိုမင်းမစွမ်းရှိသည့် မိဘတို့ကို ငါတို့ ငယ်စဉ်က ကျွေးမွေးခဲ့သော မိဘများပေတည်းဟု ကျေးဇူးဆပ်သောအားဖြင့် ပြန်လည် ကျွေးမွေးခြင်းသည် ကြွေးချေသည်နှင့် တူသောကြောင့် ဉာဏမောက္ခဒါန မည်၏။ ရဟန်း ပုဏ္ဏားမှ စ၍ အလှူခံ ပုဂ္ဂိုလ်အများအား လှူဒါန်း ကျွေးမွေးခြင်းသည် သံသရာတွင် စားသုံးဖို့ရန် ရွှေအိုးမြှုပ်သည်နှင့် တူသောကြောင့် နိဒိဒါန မည်၏။

**ဟီနဒါန၊ မဇ္ဈိမဒါန၊ ပဏီတဒါန**

ဒါနပြုရာ၌ ဆန္ဒ, စိတ္တ, ဝီရိယ, ဝီမံသ ဤတရား ၄-ပါးတို့ အညံ့စားဖြစ်လျှင် ဟီနဒါန= ညံ့သောအလှူ ဖြစ်၏။ ထိုတရားလေးပါးတို့ အလတ်စားဖြစ်ခဲ့လျှင် မဇ္ဈိမဒါန အလတ်စားအလှူ ဖြစ်၏။ ထိုတရား ၄-ပါးတို့ အမြတ်စား ဖြစ်ခဲ့လျှင် ပဏီတဒါန=မြတ်သော အလှူ ဖြစ်၏။

**မှတ်ချက်။** ။ဤ၌ ကုသိုလ်၏ အယုတ်, အလတ်, အမြတ် ဖြစ်ရခြင်းမှာ ဆန္ဒ, စိတ္တ, ဝီရိယ, ဝီမံသ ဤဘရား ၄-ပါးတို့ကို အစွဲပြု၍ ဖြစ်ရ၏။ လိုလားမှု သဘောသည် ဆန္ဒ မည်၏၊ ပိုင်းခြား၍ သိမြင်မှု သဘောသည် စိတ္တ မည်၏။ အားထုတ်မှုသဘောသည် ဝီရိယ မည်၏။ ထိုးထိုးထွင်းထွင်း သိမြင်မှု သဘောသည် ဝီမံသ မည်၏။

**တနည်းအားဖြင့်** အကျော်အစောကို တောင့်တ၍ ပြုအပ်သော ဒါနသည် ဟီနဒါန မည်၏။ လူချမ်းသာ နတ်ချမ်းသာဟူသော အကျိုးကို တောင့်တ၍ ပြုသော ဒါနသည် မဇ္ဈိမဒါန မည်၏။ အရိယာတို့၏ အလေ့အကျက်, အလောင်းလျာတို့၏ အလေ့အကျက်ကို အလေးဂရုပြု၍ လှူသော ဒါနသည် ပဏီတဒါန မည်၏။

**မှတ်ချက်။** ။ထိုထို ပိဋကတ် ပါဠိတော်များ၌ နှောင်းခေတ် ကုသိုလ်လိုလားသူတို့ ဒိဋ္ဌာနုဂတိ အတုရရှိ လှူဒါန်းနိုင်ကြရန် ရည်သန်၍ ပဏ္ဍမသင်္ဂါယနာတင် အရှင်မြတ်ဟူသည့် အနာထပိဏ် သူဌေး၏ ကျောင်းအာရာမ်၊ ဃောသိတ သူဌေး၏ ကျောင်းအာရာမ် စသည်ဖြင့် ကမ္ပည်းစာတမ်းထိုးတော်မူခဲ့ကြသည်ကို နှလုံးမူ၍ ယခုခေတ် အလှူရှင်များလည်း ကမ္ပည်းစာတမ်းထိုး မှတ်တမ်းတင်ကြရာ ကျော်စောလိုသောစိတ် မဖြစ်ပေါ်အောင် သတိဖြင့် ထိန်းချုပ်ကာ နှောင်းခေတ်ပုဂ္ဂိုလ်များ အတုယူ လှူဒါန်းနိုင်ရန်သာ ရည်သန်သော စိတ်ဖြင့် အထူးသတိချပ်သင့်ကြ၏။

တနည်းအားဖြင့် လူချမ်းသာ နတ်ချမ်းသာတို့ကို တောင့်တ၍ လှူသော ဒါနသည် ဟီနဒါန မည်၏။ သာဝကဗောဓိ, ပစ္စေကဗောဓိဉာဏ်ကို တောင့်တ၍ လှူသော ဒါနသည် မဇ္ဈိမဒါန မည်၏။ သမ္မာသမ္ဗောဓိ (သဗ္ဗညုတ) ဉာဏ်ကို တောင့်တ၍ လှူသော ဒါနသည် ပဏီတဒါန မည်၏။

မှတ်ချက်။ ။မဂ်ဉာဏ် ၄-ပါးကို ဗောဓိဟု ခေါ်၏၊ တစုံတခု ကုသိုလ်ပြုတိုင်း ဝိဝဋ္ဋနိဿိတ ကောင်းမှုမျိုးဖြစ်ရန် ရည်သန်၍ "ကုသိုလ်ပြုလျှင် အမှတ်တမဲ့ မပြုရာ၊ ဗောဓိ သုံးပါးတွင် တစ်ပါးပါးကို ရည်သန် တောင့်တရမည်" ဟု ရှေးသူတော်ကောင်းတို့ ဆုံးမညွှန်ကြားတော်မူကြ၏။

**ဒါနဒါသ၊ ဒါနသဟာယ၊ ဒါနသာမိ**

လောကတ္တ မိမိကိုယ်တိုင် ကောင်းမွန်သော အဝတ်အစားတို့ကို သုံးဆောင်၍ **အောက်လက်** ကျေးကျွန်များကိုကား ယုတ်ညံ့သော အဝတ်အစားတို့ကိုသာ **ပေးသကဲ့သို့** အလှူခံပုဂ္ဂိုလ်တို့အား သုံးဆောင်သော ပစ္စည်းမျိုးအောက်

ယုတ်ညံ့သော ပစ္စည်းဝတ္ထုကို လှူဒါန်းခြင်းသည် ဒါနဒါသ မည်၏။ (ကျွန်အား ပေးသည်နှင့် တူသော အလှူဟု ဆိုလိုသည်။)

လောက၌ မိတ်ဆွေများ လာရောက်သောအခါ မိမိသုံးဆောင်သည်နှင့် တူမျှသော အသုံးအဆောင်တို့ကိုသာ သုံးဆောင်စေသကဲ့သို့ အလှူခံပုဂ္ဂိုလ်တို့အားသည်း မိမိသုံးဆောင်နေကျအတိုင်းသာ တတန်းစားတည်း လှူဒါန်းခြင်းသည် ဒါနသဟာယ မည်၏။ (မိတ်ဆွေသင်္ဂဟအား ပြုသည်နှင့် တူသော ဒါနဟု ဆိုလိုသည်။)

လောက၌ မိမိ၏ အရှင်သခင်များအား မိမိ သုံးဆောင်သည်ထက် ပိုမို မြင့်မြတ်သော အသုံးအဆောင်တို့ကိုသာ ပေးပို့ရသကဲ့သို့ အလှူခံပုဂ္ဂိုလ်တို့အား မိမိ သုံးဆောင်သည်ထက် မြင့်မြတ်သော ပစ္စည်းဝတ္ထုတို့ကိုသာ လှူဒါန်းခြင်းသည် ဒါနသာမိ မည်၏။ (အရှင်သခင်အား ပေးပို့သည်နှင့် တူသော ဒါနဟု ဆိုလိုသည်။)

**ဒုက္ကရဒါန၊ မဟာဒါန၊ သာမညဒါန**

ဒါရုဘဏ္ဍက တိဿသည် မိမိရင်သွေး သမီးကလေးကို ရွေးထုတ်ရန် ခြောက်လ တိုင်တိုင် အပင်ပန်းခံ၍ ရှာဖွေမှ ရရှိခဲ့သော ငွေဆယ့်နှစ်ကျပ်ကို ရဟန်းစားသော ဆွမ်းတစ်နပ်အတွက် မတွန့်မတို ရဲရဲဝံ့ဝံ့ စွန့်စွန့်စားစား လှူဒါန်းနိုင်ခြင်းသည် ဒုက္ကရဒါန မည်၏။

သုခသာမဏေ အလောင်းသည် သူဆင်းရဲ ဖြစ်စဉ်အခါ ဂန္ဓသူဌေးကြီး၏ ထမင်းတစ်နပ်စာကို စားလိုသည့်အတွက် သုံးနှစ်တိုင်တိုင် အခစား လုပ်မှ ရရှိလာသော ထမင်းတစ်နပ်စာကို စားမည့်ဆဲဆဲတွင် ပစ္စေကဗုဒ္ဓါ ကြွလာသဖြင့် မတွန့်မတို လှူဒါန်းလိုက်ခြင်းသည်လည်း ဒုက္ကရဒါနပင်ဖြစ်၏။ (ဝတ္ထုအကျယ်ကို ဓမ္မပဒ၊ ဋ္ဌ၊ ၂။ နှာ—၁-၌ ရှုပါ။)

ထို့ပြင် ပဏ္ဍာသနိပါတ် ဥမ္မာဒန္တီဇာတ်လာ ဥမ္မာဒန္တီအလောင်း သူဆင်းရဲ မလေး သုံးနှစ် အခစားလုပ်မှ ရရှိသည့် ဝတ်ပန်းဆိုးသော အဝတ်ကို ဝမ်းသာ အားရ ဝတ်တော့မည့် ဆဲဆဲတွင် လူဆိုးများ သက်နှိုးအလုခံရသော ကဿပ မြတ်စွာဘုရား တပည့် ရဟန်းနှင့် တွေ့ကာ မိမိအလွန်တရာ ဝတ်ချင်လှသော အဝတ်ကို မဝတ်ဘဲ လှူဒါန်းလိုက်ခြင်းသည်လည်း ဒုက္ကရဒါနပင် ဖြစ်၏။

အကြီးအကျယ် အံ့ဩလောက်အောင် လှူဒါန်းခြင်းသည် မဟာဒါန မည်၏။ သီရိဓမ္မာသောကမင်းကြီး၏ ဓမ္မက္ခန္ဓာ ရှစ်သောင်းလေးထောင်အား ပူဇော်လှူဒါန်းပွဲကြီးသည် အလွန်တရာ ကြီးကျယ်သော မဟာဒါနကြီးပင် ဖြစ်၏။

ပြုလုပ်ရန် ခဲယဉ်းသည်လည်း မဟုတ်၊ ကြီးကျယ်များပြားလှသည်ဟု ပြောဆိုဖွယ်ရာလည်း မရှိသော အလှူဟူသမျှသည် သာမညဒါနချည်းသာ ဖြစ်၏။

**ဓမ္မိကဒါန ၃-ပါး**

(၁) သံဃာတော်အား လှူဒါန်းမည်ဟု နှုတ်မြွက် ညွှတ်ကိုင်းထားပြီးသော ပစ္စည်းကို ညွှတ်ကိုင်းရင်း သံဃာတော်အား လှူဒါန်းခြင်း၊

(၂) စေတီတော်အား လှူဒါန်းမည်ဟု နှုတ်မြွက် ညွှတ်ကိုင်းထားပြီးသော ပစ္စည်းကို ညွှတ်ကိုင်းရင်း စေတီအား လှူဒါန်းခြင်း၊

(၃) ပုဂ္ဂိုလ် တစ်ပါးပါးအား လှူဒါန်းမည်ဟု နှုတ်မြွက် ညွှတ်ကိုင်းထားပြီးသော ပစ္စည်းကို ညွှတ်ကိုင်းရင်း ပုဂ္ဂိုလ်အားသာ လှူဒါန်းခြင်း။

### လေးပါးတွဲ ဒါနစုများ

ကျမ်းဂန်တို့၌ ဒါန ၄-ပါးကို တိုက်ရိုက်မပြဆိုသော်လည်း ဝိနည်းဒေသနာတော်အလို ပစ္စည်း ၄-ပါး ရှိသဖြင့် လေးပါးစုဒါနကို အောက်ပါအတိုင်း မှတ်သားနိုင်၏—

(၁) စီဝရဒါန=အဝတ်သင်္ကန်း လှူဒါန်းခြင်း၊

(၂) ပိဏ္ဍပါတဒါန=ဆွမ်းခဲဖွယ်တောဇဉ် လှူဒါန်းခြင်း၊

(၃) သေနာသနဒါန=ကျောင်းအိပ်ရာနေရာ လှူဒါန်းခြင်း၊

(၄) ဘေသဇ္ဇဒါန=ဆေးပစ္စည်း လှူဒါန်းခြင်း။

ထို့ပြင် ဒက္ခိဏာဝိသုဒ္ဓိ=အလှူ၏ စင်ကြယ်ခြင်းနှင့် စပ်လျဉ်း၍ ဒါနလေးပါးရှိကြောင်းကိုလည်း မှတ်သားနိုင်ပြန်၏၊

(၁) လှူသူ သီလရှိ၍ ခံယူသူ သီလ မရှိသော ဒါန၊

(၂) ခံယူသူ သီလရှိ၍ လှူသူ သီလ မရှိသော ဒါန၊

(၃) လှူသူ ခံယူသူ နှစ်ဦးလုံးပင် သီလ မရှိသော ဒါန၊

(၄) လှူသူ ခံယူသူ နှစ်ဦးလုံးပင် သီလ ရှိသော ဒါန။

## ငါးပါးတွဲ ဒါနစုများ

**ကာလဒါနငါးပါး**

(၁) ဧည့်သည်အာဂန္တုအား လှူဒါန်းခြင်း၊

(၂) ခရီးသွားမည့် ပုဂ္ဂိုလ်အား လှူဒါန်းခြင်း၊

(၃) မကျန်းမာသော ပုဂ္ဂိုလ်အား လှူဒါန်းခြင်း၊

(၄) ငတ်မွတ်ခေါင်းပါးသောအခါ လှူဒါန်းခြင်း၊

(၅) လုပ်ကိုင် ရရှိသော ကောက်ပဲသီးနှံတို့မှ ဦးဦးဖျားဖျားကို သီလဝန္တ ပုဂ္ဂိုလ်များအား လှူဒါန်းခြင်း။

**မှတ်ချက်။** ။ဤ၌ ငါးခုမြောက်ဒါနမှာ တောင်သူလယ်သမားအား ရည်ရွယ်၍ ဟောထားသော်လည်း လယ်သမားမဟုတ်သော သူတို့မှာလည်း မိမိဆိုင်ရာ အလုပ်အကိုင်မှ ရရှိသော ပစ္စည်း ဦးဦးဖျားဖျားများကို လှူဒါန်းခြင်းသည်လည်း သဘောတူပင် ဖြစ်သည်။

**အသပ္ပုရိသဒါနငါးပါး**

**(သူတော်ကောင်း မဟုတ်သူတို့၏ လှူခြင်း ငါးမျိုး)**

(၁) လှူဖွယ်ဝတ္ထုကို စင်ကြယ်ကောင်းမွန်အောင် စီမံပြုပြင်ခြင်းမျိုး မရှိဘဲ လှူဒါန်းခြင်း၊

(၂) စိတ်ထဲမှာ ရိုသေလေးမြတ်မှုမရှိဘဲ လှူဒါန်းခြင်း (လှူဖွယ်ဝတ္ထုကို ဂရုမစိုက် စိတ်၌ မထားဘဲ လှူဒါန်းခြင်း)၊

(၃) မိမိကိုယ်တိုင် ကိုင်တွယ်၍ လှူဒါန်းသင့်ပါလျက် ကိုင်တွယ်၍ မလှူဒါန်းခြင်း (ပါယာသိ မင်းကဲ့သို့ ကိုယ့်ပစ္စည်းကို ကိုယ်တိုင် မလှူ၊ ဥတ္တရလုလင်တို့ကဲ့သို့ အစေအပါးတို့ကို လှူစေခြင်း)၊

(၄) ထမင်းကြွင်း၊ ဟင်းကျန်စသည့် စွန့်ပစ်အပ်သော ပစ္စည်းကဲ့သို့ လှူဒါန်းခြင်း၊

(၅) ဤလှူဒါန်းမှုကြောင့် နောက်အခါဝယ် ကောင်းကျိုးကောန် ရောက်လာလိမ့်မည်ဟု သိရှိသော ကမ္မဿကတာပညာ မရှိဘဲ လှူဒါန်းခြင်း (အံ၊ ၂။၁၅၂။ အံ၊ဋ္ဌ၊၃။၅၃။ အံ၊ဋီ၊၃။၅၈)။

သပ္ပုရိသဒါန ငါးပါး (သူတော်ကောင်းတို့၏ လှူခြင်း ငါးမျိုး)

(၁) လှူဖွယ်ဝတ္ထုကို စင်ကြယ် ကောင်းမွန်အောင် စီမံ ပြုပြင်၍ လှူဒါန်းခြင်း၊

(၂) စိတ်ထဲမှာ ရိုသေလေးမြတ်မှုရှိ၍ လှူဒါန်းခြင်း (လှူဖွယ်ဝတ္ထုကို ဂရုတစိုက် စိတ်၌ ထား၍ လှူဒါန်းခြင်း)၊

(၃) မိမိကိုယ်တိုင် ကိုင်တွယ် လှူဒါန်းခြင်း (အစမထင် သံသရာတခွင်၌ လက်ခြေကို မရသည့်ဘဝကား များလှပြီ၊ လက်ခြေ အင်္ဂါ ပြည့်စုံသည့် ယခု ဘဝဝယ် ရသော လက်ဖြင့် ဘဝလွတ်မြောက်ရေးကို အားထုတ်မည်ဟု ဆင်ခြင်၍ ကိုယ်တိုင် ကိုင်တွယ်၍ လှူဒါန်းခြင်း)၊

(၄) ထမင်းကြွင်း ဟင်းကျန် စသည့် စွန့်ပစ်အပ်သော ပစ္စည်းမျိုးကို ကဲ့သို့ မဟုတ်ဘဲ ဂရုတစိုက် လှူဒါန်းခြင်း၊

(၅) ဤလှူဒါန်းမှုကြောင့် နောက်အခါဝယ် ကောင်းကျိုးကေန် ရောက်လိမ့်မည်ဟု သိရှိသော ကမ္မဿကတာပညာ ရှေ့သွားပြု၍ လှူဒါန်းခြင်း။

(တနည်း) သပ္ပုရိသဒါန ငါးပါး

(၁) သဒ္ဓါဒါန=ကံ,ကံ၏အကျိုးကို ယုံကြည်သော သဒ္ဓါတရားဖြင့် လှူဒါန်းခြင်း၊

(၂) သက္ကစ္စဒါန=လှူဖွယ်ဝတ္ထုကို စင်ကြယ်မွန်မြတ်အောင် ကောင်းစွာ ပြုလုပ်၍ လှူဒါန်းခြင်း၊

(၃) ကာလဒါန = အချိန်အခါနှင့် သင့်လျော်စွာ လှူဒါန်းခြင်း၊ သင့်လျော် လျောက်ပတ်သော အချိန်၌ လှူဒါန်းခြင်း (ဆွမ်းလှူသင့်သော အချိန်၌ ဆွမ်းကို လှူခြင်း၊ သင်္ကန်းလှူသင့်သော အချိန်၌ သင်္ကန်းကို လှူခြင်း စသည်)၊

(၄) အနုဂ္ဂဟဒါန=အလှူခံပုဂ္ဂိုလ်ကို ချီးမြှောက်လိုသောစိတ်ထားဖြင့် လှူဒါန်းခြင်း (အနုဂ္ဂဟိတဒါန= မစွဲလမ်းဘဲ လွတ်လွတ်စွန့်ကြဲလိုသော စိတ်ဖြင့် ပေးလှူခြင်းဟု မှတ်ကွဲရှိ၏)၊

(၅) အနုပဟစ္စဒါန=မိမိ သူတပါး မည်သူ့အားမျှ ဂုဏ်ပျက်ပြား အောင် အစွန်းအခြံ အထိအခိုက် မရှိစေဘဲ လှူဒါန်းခြင်း။

**ယင်းဒါနငါးမျိုး၏ အကျိုးတရားများ**

ဤအလှူဒါန ငါးမျိုးလုံးကြောင့်ပင် ကြွယ်ဝ ချမ်းသာ ဥစ္စာ စီးပွား များပြားခြင်းအကျိုးကို ရနိုင်၏။ အထူးအားဖြင့်—

(၁) သဒ္ဓါဒါနကြောင့် အဆင်းလှခြင်း၊

(၂) သက္ကစ္စဒါနကြောင့် သားမယား ကျေးကျွန် အစေခံအလုပ်သမား စသော အခြွေအရံ ပရိသတ်များ မိမိစကားကို လိုက်နာခြင်း၊

(၃) ကာလဒါနကြောင့် လိုအပ်သော အချိန်ကာလ၀ယ် လိုအပ်သော အကျိုးတရားတို့ကို ရနိုင်ခြင်း (အိုမင်းရင့်ရော်ချိန်မှ မဟုတ်၊ သင့်လျော်လျောက်ပတ်ရာ ယော်ရွယ်စဉ်အခါကပင်လျှင် ဖွံ့ဖွံ့ဖြိုးဖြိုး များစွာသော အကျိုးထူးကို ရရှိနိုင်သည်ဟု ဆိုလိုသည်)၊

(၄) အနုဂ္ဂဟဒါနကြောင့် ရရှိသော စည်းစိမ်တို့ကို ရန်သူမျိုးငါးပါးတို့ အထိအပါး မခံရခြင်း တည်းဟူသော အကျိုးထူး အသီးသီးကို ရရှိနိုင်ကြောင်း မှတ်သားရာ၏ (အံ၊ ၂။၁၅၂။ အံ၊ ၄၊ ၃။၅၃)။

အထက်ပါ သပ္ပုရိသဒါန ငါးမျိုးကို အပြန်ယူလျှင် အသပ္ပုရိသဒါနငါးမျိုး ဖြစ်နိုင်၏။ ပါဠိတော်မူရင်း၌ တိုက်ရိုက် ပြောင်းပြန်လှန်၍ ဟောထားချက်မရှိ သော်လည်း ဖြစ်သင့်သမျှ ပြောင်းပြန် လှန်၍ ယူလျှင် အောက်ပါအတိုင်း ဖြစ်၏—

(၁) အသဒ္ဓိယဒါန=ကံ၊ ကံ၏ အကျိုးကို ယုံကြည်သော သဒ္ဓါတရား မရှိဘဲ အကဲ့ရဲ့ လွတ်ရုံမျှ လှူဒါန်းခြင်း (ဤဒါနကြောင့် စည်းစိမ် ဥစ္စာ ရှိပါသော်လည်း အင်္ဂါအဆင်း မပြည့်စုံဘဲ ရှိတတ်သည်)၊

(၂) အသက္ကစ္စဒါန=လှူဖွယ်ဝတ္ထုကို စင်ကြယ် မှန်မြတ်အောင် ကောင်းစွာမပြုဘဲ ဖြစ်ကတတ်ဆန်း လှူဒါန်းခြင်း(ဤဒါနကြောင့် စည်းစိမ်ဥစ္စာ ရှိပါသော်လည်း အခြွေအရံ ပရိသတ်များ မိမိ စကားကို မလိုက်နာဘဲ ရှိတတ်သည်)၊

(၃) အကာလဒါန=အချိန်အခါ မဟုတ်ဘဲ လှူဒါန်းခြင်း (ဤဒါန်ကြောင့် စည်းစိမ်ဥစ္စာ ရှိပါသော်လည်း လိုအပ်သော အချိန်အခါ၌ လိုအပ်သော အကျိုးတရားတို့ကို များများ မရနိုင်ဘဲ ရှိတတ်သည်)၊

(၄) အနုဂ္ဂဟဒါန=အလှူခံပုဂ္ဂိုလ်ကို ချီးမြှောက်လိုသော စိတ်မရှိဘဲ ဝတ်ကျေတမ်းကုန် လှူဒါန်းခြင်း (ဤဒါနကြောင့် စည်းစိမ်ဥစ္စာ ရှိပါသော်လည်းမွန်မြတ်သောအသုံးအဆောင်တို့ကိုသုံးဆောင်ရန် စိတ်ဆန္ဒ မရှိ၊ မသုံးဆောင်ရဘဲ ရှိတတ်သည်)၊

(၅) ဉပဟစ္စဒါန=မိမိဂုဏ်ကို ဖြစ်စေ၊ သူတပါးဂုဏ်ကို ဖြစ်စေ စွန်းငြိထိပါး၍ လှူဒါန်းခြင်း (ဤဒါနကြောင့် စည်းစိမ်ဥစ္စာ ရပါသော်လည်း ရန်သူမျိုးငါးပါးတို့ ဖျက်ဆီး၍ ဖျက်စီးတတ်သည်)။

လူတို့က ကုသိုလ်ကောင်းမှုဟု သမုတ်အပ်သော်လည်း စင်စစ်မှာ အကုသိုလ်မကောင်းမှုသာ ဖြစ်နေသော ဒါန ၅-မျိုး ရှိသေး၏၊ ၎င်းတို့မှာ—

(၁) မဇ္ဇဒါန=သေရည်အရက်အလှူ၊

(၂) သမဇ္ဇဒါန=ပွဲသဘင်အလှူ၊

(၃) ဣတ္ထိဒါန=မည်သူမဆို အလိုရှိသော သူများ သွားလာကြရန် ပြည့်တန်ဆာမများကို ငှားထားသော အလှူ၊

(၄) ဉသဘဒါန=နွားမများ ရှိရာသို့ နွားသိုးကို အလိုရှိသလို မြူးထူးပျော်ပါးရန် လွှတ်ပေးခြင်းအလှူ၊

(၅) စိတ္တကမ္မဒါန=မသင့် မလျော်သော ရုပ်ပုံများကို ရေးသားလှူဒါန်းခြင်းအလှူ (ဝိ၊၅။ ၂၃၀။ ဝိ၊ဋ္ဌ၊၄။၁၇၃)။

မှတ်ချက်။ ။ဤငါးမျိုးကို လှူဒါန်းရာ၌ စိတ်စေတနာကောင်း ထားနိုင်ဖွယ် မရှိသောကြောင့် မကောင်းမှု အကုသိုလ်သာ ဖြစ်သည်ဟု ဟောတော်မူခြင်းဖြစ်၏။ လူအများအနေဖြင့် အရက်ပြတ်လပ်၍ သေတော့မည် ဖြစ်နေသော အရက်သမားကို တွေ့ရသည့်အခါ အရက်မသောက်ရလျှင် ကေန် သေမည် ဖြစ်သောကြောင့် သူ၏ အသက်ကို ဆက်ပေးလိုသော စေတနာဖြင့် အရက်တိုက်ပေးလိုက်လျှင် ဇီဝိတဒါန ကုသိုလ်ဖြစ်သည်ဟု ထင်မှတ်တတ်၏။ အမှန်စင်စစ် ကုသိုလ်စိတ် မဖြစ်နိုင်။ မသောက်သင့်သော အရက်သေစာကို သောက်စေလိုခြင်းသည် ကုသိုလ်စိတ် မဖြစ်၊ အကုသိုလ်စိတ်သာ ဖြစ်သည်။

အလောင်းတော် ဝေဿန္တရာမင်းကြီးသည် မဟာဒါနကြီးကို ပေးလှူရန် လှူဖွယ်ဝတ္ထု ခင်းကျင်းစီစဉ်ရာ၌ သေရည်အရက်ကိုပင် မကျန်ရအောင် စီစဉ်ထားသည်ဟု အဋ္ဌကထာ၌ ဖွင့်ပြထား၏။ ဤအချက်၌ အပြင်ပ လိမ်းကျံခြင်းစသော ကိစ္စအတွက် အလိုရှိသူများအား လှူဒါန်းခြင်းကြောင့် ထည့်သွင်းထားခြင်း ဖြစ်သည်ဟု မှတ်ယူသင့်ပေသည်။

**မဟာဒါန ငါးပါး**

အင်္ဂုတ္တိုရ်ပါဠိတော် အဋ္ဌကနိပါတ် လေးခုမြောက် ဒါနဝဂ် နဝမသုတ်၌ ငါးပါးသီလကိုပင် မဟာဒါနကြီး ငါးပါးဟူ၍ အကျယ်ဟောကြားတော်မူ၏။

**မှတ်ချက်။** ဤပါဠိတော်၌ ငါးပါးသီလကိုပင် မဟာဒါနကြီး ငါးပါးအဖြစ် အကျယ်ဟောထားသည့်အတွက် သီလကိုပင် ဒါနခေါ်သည်ဟု မမှတ်ယူအပ်။ မြတ်စွာဘုရားကလည်း ဒါနနှင့် သီလတရားကို နှစ်ခုမပြား တစ်သားတည်းအနေဖြင့် ဟောတော်မူလိုသည်မဟုတ်။ သီလဟူသည် ကိုယ်နှုတ်နှစ်ပါးကို ကောင်းစွာ ထိန်းသိမ်းခြင်း ဖြစ်၍ ဒါန ဟူသည်ကား တစုံတရာ ပေးစွန့်ခြင်းဖြစ်သည်။ ထို့ကြောင့် သီလကိုပင် ဒါနခေါ်သည်ဟု မမှတ်ယူအပ်။ စင်စစ်ကား ပါဏာတိပါတ ဝိရတိ သိက္ခာပုဒ်ကို ဆောက်တည်၍ သီလနှင့် ပြည့်စုံလျှင် ထိုသီလရှိသော သူတော်ကောင်းသည် သတ္တဝါတို့ကို သတ်ဖြတ်ခြင်း အမှု မပြုလုပ်တော့ဘဲ အဘယဒါန=သတ္တဝါတို့အား ဘေးကင်းစေခြင်း အမှုကို ပေးသည် မည်၏။ ဤနည်းအတိုင်း သိက္ခာပုဒ်ငါးပါးလုံးကို စောင့်ထိန်းလိုက်သဖြင့် သတ္တဝါတို့အား ဘေးကင်းစေခြင်းအမှုကို ပေးလျှင် သီလအရင်းခံရှိသော ဒါနကိစ္စ ပါဝင် ပြီးစီးသွားသောကြောင့် သီလငါးပါးကို မဟာဒါနငါးပါးဟု မြတ်စွာဘုရား ဟောတော်မူသည်။

**ခြောက်ပါးတွဲ ဒါနစုများ**

ခြောက်ပါးအပြားရှိသော ဒါနကို ပါဠိတော်၌ တိုက်ရိုက်ဟောပြခြင်း မရှိသော်လည်း အဘိဓမ္မာ ပရိယာယ်အားဖြင့် အာရုံ ၆-ပါးကို ခွဲ၍ ထိုအာရုံ ၆-ပါးကို ဒါနဝတ္ထုပြုကာ—

(၁) ရူပဒါန=အဆင်းအလှူ၊
(၂) သဒ္ဒဒါန=အသံအလှူ၊
(၃) ဂန္ဓဒါန=နံ့သာအလှူ၊
(၄) ရသဒါန=အရသာအလှူ၊
(၅) ဖောဋ္ဌဗ္ဗဒါန=အတွေ့အထိအလှူ၊
(၆) ဓမ္မဒါန=တရားအလှူ—

ဟူ၍ ၆-ပါးရှိကြောင်း(ဒီ၊ဋ္ဌ၊၃။၁၇၀။ အဘိ၊ဋ္ဌ၊၁။၂၀၁)၌ အကျယ်ဖွင့်ပြထား၏။

**အချိန်မရွေး ကုသိုလ်တိုးသော အလှူ ၆-မျိုး**

(၁) အာရာမဒေယျဒါန=ပန်းအာရာမ် သစ်သီးအာရာမ်ကို စိုက်ပျိုး၍ လှူဒါန်းခြင်း၊

(၂) ဝနဒေယျဒါန = အရိပ်ကောင်းသော သစ်ပင် စသည်တို့ကို စိုက်ပျိုး၍ လှူဒါန်းခြင်း၊

(၃) သေတုကာရကဒါန=တံတားခင်း၍ လှူဒါန်းခြင်း၊

(၄) ပပါဒါန=ရေအိုးစင် တည်၍ လှူဒါန်းခြင်း၊

(၅) ဥဒပါနဒါန=ရေတွင်း ရေကန် ရေမြောင်း တူး၍ လှူဒါန်းခြင်း၊

(၆) ဥပဿယဒါန = စရပ် တန်ဆောင်း ဂူ ကျောင်း ပြာသာဒ် လှူဒါန်းခြင်း—

တို့၍ ၆-ပါးရှိ၏။ ယင်းအလှူခြောက်ပါးတမျိုးမျိုးကို လှူသော အလှူရှင်သည် နေ့ရောညဉ့်ပါ အခါခပ်သိမ်း ကုသိုလ်တရား ပွားများ၍ သေလျှင် နတ်ပြည်သို့ သွားရောက်ရ၏ (သံ၊၁။၃၀၊၃၁။ သံ၊ဋ္ဌ၊၁။၈၃။ သံ၊ဋီ၊၁။၁၂၃)။

## ခုနစ်ပါးတွဲ ဒါနစုများ

ဤ ၇-ပါးတွဲ ဒါနအစုကို ပါဠိတော်တိုက်ရိုက် ဟောပြခြင်း မရှိသော်လည်း သံဃိကဒါန ခုနစ်ပါးကိုပင် ခုနစ်တွဲ ဒါနအစုအဖြစ် မှတ်ယူနိုင်ပါသည်။

(၁) ဗုဒ္ဓပ္ပမုခဉဘတောသံဃိကဒါန = မြတ်စွာဘုရား၊ သက်တော်ထင်ရှားရှိစဉ်အခါ ဘုရားအမှူးရှိသော ဘိက္ခုသံဃာနှင့် ဘိက္ခုနီသံဃာအား လှူဒါန်းခြင်း၊

(၂) တထာဂတေ ပရိနိဗ္ဗုတဉဘတောသံဃိကဒါန = မြတ်စွာဘုရား ပရိနိဗ္ဗာန် စံတော်မူပြီးသောအခါ ဘိက္ခုသံဃာနှင့် ဘိက္ခုနီသံဃာအား လှူဒါန်းခြင်း၊

(၃) ဧကတော ဘိက္ခုသံဃိကဒါန=ဘိက္ခုသံဃာ တစ်မျိုးအားသာ လှူဒါန်းခြင်း၊

(၄) ဧကတော ဘိက္ခုနီသံဃိကဒါန=ဘိက္ခုနီသံဃာ တစ်မျိုးအားသာ လှူဒါန်းခြင်း၊

(၅) ဥဘတောသံဃဥဒ္ဒိဿသံဃိကဒါန = ဤမျှ အတိုင်းအရှည်ရှိသော ရဟန်းယောကျ်ား, ရဟန်းမိန်းမတို့ကို သံဃာထဲမှ ညွှန်းချပါဟု လျှောက်ထား၍ နှစ်ဖက်သံဃာက ညွှန်းချသူအား လှူဒါန်းခြင်း၊

(၆) ဧကတောဘိက္ခုသံဃဥဒ္ဒိဿသံဃိကဒါန = ယခင်နည်းတူ ရဟန်း ယောကျ်ားကို လျှောက်ထား၍ ညွှန်းချရာ ရဟန်းယောကျ်ားအား လှူဒါန်းခြင်း၊

(၇) ဧကတော ဘိက္ခုနီသံဃဥဒ္ဒိဿ သံဃိကဒါန= ယခင်နည်းတူပင် ရဟန်းမိန်းမကို လျှောက်ထား၍ ညွှန်းချရာ ရဟန်းမိန်းမအား လှူဒါန်းခြင်း (မ၊၃။၂၉၈။ မဋ္ဌ၊၄။၂၂၄-၅။ မဋီ၊၃။၄၁၁)။

## ရှစ်ပါးတွဲ ဒါနစုများ

(၁) အာသဇ္ဇဒါန=အလှူခံရောက်လာလျှင် ကြန့်ကြာ၍ မနေစေရဘဲ အရေးတယူ လှူဒါန်းခြင်း၊

(၂) ဘယာဒါန = အကဲ့ရဲ့ ခံရမည်ကိုလည်းကောင်း, အပါယ်သို့ ကျရောက်မည်ကိုလည်းကောင်း ကြောက်၍ လှူဒါန်းခြင်း၊

(၃) အဒါသိ မေ ဒါန=ဤသူသည် ရှေးက ငါ့အား ဤမည်သော ဝတ္ထုကို ပေးကမ်းဖူးပြီဟု နှလုံးသွင်း၍ အထံ့ပြန်သောအားဖြင့် လှူဒါန်းခြင်း၊

(၄) ဒဿတိ မေ ဒါန=ယခု ငါက ပေးလှူလိုက်လျှင် နောင်အခါ ငါ့အား ပြန်၍ ပေးလိမ့်မည်ဟု ရည်ရွယ်၍ ပေးလှူခြင်း၊

(၅) သာဟုဒါန=လှူဒါန်းခြင်းဟူသည် ဘုရားအစရှိသော ပညာရှိ သူတော်ကောင်းတို့ ချီးမွမ်းအပ်သည်ဖြစ်၍ ကောင်းသောအလုပ် ဖြစ်သည်ဟု နှလုံးသွင်း၍ ပေးလှူခြင်း၊

(၆) အဒါတုံ နာရဟာမိ ဒါန=ငါသည်ချက်ပြုတ်စားနေသူဖြစ်ပါလျက် မချက်မပြုတ်နေသော သူအား မလှူဒါန်းဘဲ စားသုံးခြင်းငှာ မသင့်ပေဟု နှလုံးသွင်း၍ ပေးလှူခြင်း၊

(၇) ဣမံ မေ ဒါနံ ဒဒတော ကလျာဏော ကိတ္တိသဒ္ဒေါ အဗ္ဘုဂ္ဂစ္ဆတိ ဒါန = ဤအလှူကို ငါလှူလိုက်လျှင် ငါ၏ ကောင်းသတင်း ကျော်စောသံ လွှမ်းမိုး ပျံ့နှံ့သွားလိမ့်မည်ဟု နှလုံးသွင်း၍ ပေးလှူခြင်း၊

(၈) စိတ္တာလင်္ကာရဒါန=သမထ, ဝိပဿနာ ဘာဝနာစိတ် တည်ကြည်စေရန် ရည်ရွယ်၍ စိတ်၏ အဆင်းတန်ဆာ အခြံအရံအဖြစ် ပေးလှူခြင်း။

ဤရှစ်ပါးတွင် နောက်ဆုံး ရှစ်ခုမြောက် ဒါနသည်သာ အမြတ်ဆုံးဖြစ်သည်။ သမထ, ဝိပဿနာ ဘာဝနာတရားအားထုတ်ရာ၌ စိတ်တည်ကြည်လာအောင် အားပေးအားမြောက်ပြုကာ ချန်မင်ပိုလ်ရကြောင်း သမထဝိပဿနာတို့အား ကျေးဇူးများသော ဒါနဖြစ်သောကြောင့် အမြတ်ဆုံးဖြစ်သည် (အံ၊၃။၆၈။ အံ၊ဋ္ဌ၊၃။၂၂၆)။

(တနည်း) ဒါန ၈-ပါး

(၁) ဆန္ဒာ ဒါန=ချစ်ခင်စေလိုသဖြင့် ပေးလှူခြင်း၊

(၂) ဒေါသာ ဒါန=မလှဲမရှောင်သာသည့် အတွက် မုန်းလျက်နှင့်ပင် ဆောင့်ဆောင့်အောင့်အောင့် ပေးလှူခြင်း၊

(၃) မောဟာ ဒါန=အကြောင်း အကျိုး မသိဘဲ မိုက်မဲ တွေဝေ၍ ပေးလှူခြင်း၊

(၄) ဘယာ ဒါန=အမျှား ကဲ့ရဲ့မည်ကိုလည်းကောင်း, အပါယ်ကျမည်ကို လည်းကောင်း, အလှူခံ ပုဂ္ဂိုလ်က တစုံတရာ ရန်ပြုမည်ကို လည်းကောင်း ကြောက်၍ ပေးလှူခြင်း၊

(၅) ဟာပေတွံ့ နာဓရဟာမိ ဒါန=ငါ၏ မိဘ ဘိုးဘွားများအဆက်ဆက် ကပင် ပေးကမ်းလှူဒါန်းခဲ့သည်။ ဤမိဘ ဘိုးဘွားတို့၏ အဆက် အနွယ် ပဝေဏီကို ယုတ်လျော့ခြင်းငှာ မသင့်လျော်ဟု နှလုံး သွင်း၍ ပေးလှူခြင်း၊

(၆) သဂ္ဂလောကပတ္တနာဒါန=ဤအလှူကို လှူ၍ သေလွန်ပြီးနောက် နတ်ပြည်သို့ ရောက်ရန် ရည်သန်၍ ပေးလှူခြင်း၊

(၇) စိတ္တပသာဒဒါန=ဒါနပြုလျှင် စိတ်ကြည်လင်မည်၊ နှစ်သက် ဝမ်းမြောက်ခြင်း ဖြစ်လိမ့်မည်ဟု စိတ်နှစ်သက် ရွှင်လန်းမှုကို ရှမျှော်၍ ပေးလှူခြင်း၊

(၈) စိတ္တာလင်္ကာရဒါန=သမထ ဝိပဿနာစိတ် တည်ကြည်စေရန် ရည်ရွယ်၍ စိတ်၏ အဆင်းတန်ဆာ အခြံအရံအဖြစ်ပေးလှူခြင်း။

ဤရှစ်ပါးတွင်လည်း ရှစ်ခုမြောက် ဒါနသာ အမြတ်ဆုံးဖြစ်၏ (အံ၊၃။၆၉။ အံ၊ဋ္ဌ၊၃။၂၂၆)။

သပ္ပုရိသဒါန ၈-ပါး

(၁) သုစိဒါန=ပစ္စည်းဝတ္ထုကို သန့်ရှင်းစင်ကြယ် တင့်တယ်လှပအောင် ပြု၍ လှူဒါန်းခြင်း၊

(၂) ပဏီတဒါန=မွန်မြတ်သော အရာကို လှူဒါန်းခြင်း၊

(၃) ကာလဒါန=သင့်လျော်လျောက်ပတ်သော အခါ၌ လှူဒါန်းခြင်း၊

(၄) ကပ္ပိယဒါန=အလှူခံ ပုဂ္ဂိုလ်တို့နှင့် အပ်စပ်သော ပစ္စည်းကိုသာ လှူဒါန်းခြင်း၊

(၅) ဝိစေယျဒါန=အလှူခံ ပုဂ္ဂိုလ်နှင့် လှူဖွယ်ဝတ္ထုကို ရွေးချယ် စိစစ်ပြီး လှူဒါန်းခြင်း၊

(၆) အဘိဏှဒါန=မိမိစွမ်းနိုင်သမျှ မပြတ်မလပ် ပေးလှူခြင်း၊

(၇) စိတ္တပသာဒဒါန= ပေးလှူစဉ်အခါ စိတ်ကို ကြည်လင်စေ၍ ပေးလှူခြင်း၊

(၈) အတ္တမနဒါန = လှူဒါန်းပြီးနောက် ဝမ်းမြောက် ဝမ်းသာ ဖြစ်ရအောင် ပေးလှူခြင်း (အံ၊၃။၇၄။ အံ၊ဋ္ဌ၊၃။၂၃၁)။

မှတ်ချက်။ ။ဤ၌ "ဝိစေယျဒါန"ဟူသည် အလှူခံကို ရွေးချယ်ခြင်း,လှူဖွယ်ဝတ္ထုကို ရွေးချယ်ခြင်းဟု ရွေးချယ်ခြင်း နှစ်မျိုးရှိ၏။ ထိုတွင် လုံးဝ သီလမရှိသော ဗာဟီရက အလှူခံပုဂ္ဂိုလ်တို့ကို ပယ်ရှား၍ သီလ စသော ဂုဏ်ကျေးဇူးနှင့် ပြည့်စုံသော သာသနာတွင်းသား အလှူခံများအား လှူဒါန်းခြင်းသည် အလှူခံကို ရွေးချယ် လှူဒါန်းခြင်း မည်၏၊ မိမိ၌ ကောင်းကောင်း ဆိုးဆိုး လှူဖွယ်ဝတ္ထု နှစ်မျိုး ရှိနေရာဝယ် ယုတ်ညံ့သော လှူဖွယ်ဝတ္ထုကို ပယ်ရှား၍ ကောင်းနိုးရာရာ လှူဖွယ်ဝတ္ထုကို လှူဒါန်းခြင်းသည် ဝတ္ထုကို ရွေးချယ်လှူဒါန်းခြင်း မည်၏။

အသပ္ပုရိသဒါန ၈-ပါး

ဤနေရာ၌ အသပ္ပုရိသဒါနဟူ၍ သီးခြား မဟောသော်လည်း တိုက်ရိုက် ဟောသည့် သပ္ပုရိသဒါန ရှစ်ပါးကို ပြောင်းပြန် လှန်လိုက်လျှင် အသပ္ပုရိသဒါန ရှစ်ပါး ဖြစ်နိုင်၏။

(၁) မစင်မကြယ် မပွယ်မရာ လှူဒါန်းခြင်း၊

(၂) အညံ့စားများကိုသာ လှူဒါန်းခြင်း၊

(၃) သင့်လျော်သည့်အခါ မဟုတ်ဘဲ လှူဒါန်းခြင်း၊
(၄) အလှူခံတို့နှင့် မအပ်စပ်သော ပစ္စည်းကို လှူဒါန်းခြင်း၊
(၅) အလှူခံပုဂ္ဂိုလ်နှင့် လှူဖွယ်ပစ္စည်းကို မရွေးချယ်ဘဲ လှူဒါန်းခြင်း၊
(၆) စွမ်းနိုင်ပါလျက် စွမ်းနိုင်သမျှမလှူဘဲ ပြတ်တောင်း ပြတ်တောင်း လှူဒါန်းခြင်း၊
(၇) လှူစဉ်အခါ စိတ်မကြည်လင်ဘဲ လှူဒါန်းခြင်း၊
(၈) လှူပြီးနောက် စိတ်မနှစ်လို တွန့်တိုနေခြင်း။

## ကိုးပါးတွဲ ဒါနစုများ

ဤ၌ ၉-ပါးစုဒါနနှင့် စပ်၍ ဝိနည်း ပရိဝါပါဠိတော်၌ အဓမ္မိကဒါန ၉-ပါး ရှိကြောင်း ဟောကြားတော်မူ၏။ ယင်း ၉-ပါးအကျယ်ကို အဋ္ဌကထာ၌ အကျယ် ဖွင့်ထား၏။ ၉-ပါး သရုပ်မှာ—

(၁) သံဃာတော်အား (လှူပါသည်ဟု နှုတ်မြွက် ဝန်ခံထားသဖြင့်) ညွတ်ကိုင်းထားပြီးသော လာဘ်ကို ညွတ်ကိုင်းရင်း သံဃာမှ တပါး အခြားသော သံဃာတော်အား ညွတ်ကိုင်း လှူစေခြင်း (ကျောင်းတိုက်တစ်ခုရှိ သံဃာအား လှူရန် ရည်ရွယ်ပြီး ပစ္စည်း ဝတ္ထုကို ရည်ရွယ်ရင်း ကျောင်းတိုက်မှ အခြားကျောင်းတိုက်ရှိ သံဃာအား လှူပါဟု အလှူရှင်အား မပြောဆိုကောင်းဟု မှတ်ပါ)၊

(၂) ယင်းနည်းတူ သံဃာအား ညွတ်ပြီးသော လာဘ်ကို စေတီ တော်အား ညွတ်ကိုင်းလှူစေခြင်း၊

(၃) ယင်းနည်းတူ သံဃာအား ညွတ်ပြီး လာဘ်ကိုပင် ပုဂ္ဂိုလ်အား ညွတ်ကိုင်း လှူစေခြင်း၊

(၄) စေတီတော်အားညွတ်ကိုင်းထားပြီးသောလာဘ်ကို ညွတ်ကိုင်းရင်း စေတီမှတပါး အခြားစေတီတစ်ဆူဆူအား ညွတ်ကိုင်းလှူစေခြင်း (စေတီတစ်ဆူအတွက် သတ်မှတ်၍ စိုက်ပျိုးအပ်သော ပန်းခြံမှ ပန်းပွင့်ကို အခြားစေတီ တစ်ဆူဆူ၌ မတင်မလှူကောင်း၊ စေတီ တစ်ဆူအား လှူပြီးသော ထီးတံခွန်တို့မှ အကြွင်းအကျန် အပို အလျှံကိုမှ အခြားစေတီ တစ်ဆူဆူအား လှူစေကောင်း၏)၊

(၅) ယင်းနည်းတူ စေတီတော်အား ညွှတ်ပြီးသော လာဘ်ကို သံဃာအား ညွှတ်ကိုင်း လှူစေခြင်း၊

(၆) ယင်းနည်းတူ စေတီညွှတ်ပြီး လာဘ်ကိုပင် ပုဂ္ဂိုလ်တပါးပါးအား ညွှတ်ကိုင်းလှူစေခြင်း၊

(၇) ပုဂ္ဂိုလ်အား ညွှတ်ကိုင်းထားပြီးသော လာဘ်ကို ညွှတ်ကိုင်းရင်း ပုဂ္ဂိုလ်မှတပါး အခြားပုဂ္ဂိုလ်တစ်ဦးဦးအား ညွှတ်ကိုင်းလှူစေခြင်း (ယုတ်စွအဆုံးခွေးတစ်ကောင်အား ကျွေးဖို့ရန် ရည်ရွယ်ထားသော ဝတ္ထုကို ရည်ရွယ်ရင်း ခွေးမှတပါး အခြားခွေးတစ်ကောင်အား သော်မှ ပြောင်းရွှေ့ကာ မကျွေးစေကောင်း၊ သင့်လျော်ရာ ညွှန်ပြပါဟု အလှူရှင်က ပြောဆိုပါမူ ညွှန်ပြကောင်း၏)၊

(၈) ယင်းနည်းတူ ပုဂ္ဂိုလ်ညွှတ်ပြီး လာဘ်ကို သံဃာတော်အား ညွှတ်ကိုင်းလှူစေခြင်း၊

(၉) ယင်းနည်းတူ ပုဂ္ဂိုလ်ညွှတ်ပြီး လာဘ်ကို စေတီတော်အား ညွှတ်ကိုင်းလှူစေခြင်း။

**အဓမ္မိကဒါန ၉-ပါးနှင့် စပ်၍ မှတ်သားဖွယ်အချက်များ**

ဤ ၉-ပါးစု ဒါနသည် ရဟန်းတော်များနှင့် ပတ်သက်၍ ပရိဝါပါဠိတော် အဋ္ဌကထာတို့၌လာသော ဒါနအမျိုးအစားများဖြစ်၏။ ယင်း ၉-ပါး ဟောကြားရခြင်း၏ အကြောင်းဝတ္ထုများသည် ပါရာဇိကဏ် ပါဠိတော်နှင့် ပါစိတ္တိယ ပါဠိတော်တို့၌ လာရှိ၏။ အကြောင်းရင်းဝတ္ထု အကျဉ်းချုပ်မှာ—

မြတ်စွာဘုရား သာဝတ္ထိပြည် ဇေတဝန်ကျောင်း၌ သီတင်းသုံးတော်မူခိုက် သာဝတ္ထိပြည်တွင်း အသင်းအဖွဲ့တစ်ခုက "သံဃာတော်အား ဆွမ်းကျွေးပြီးလျှင် သင်္ကန်းကိုပါ လှူကုန်အံ့"ဟု တိုင်ပင်ဆွေးနွေးပြီး သံဃာတော်အတွက် လှူဒါန်းရန် သင်္ကန်းရော ဆွမ်းပါ ပြင်ဆင်ထား၏။

ထိုအခါ ဆဗ္ဗဂ္ဂီရဟန်းတို့သည် ထိုအသင်းရှိရာသို့ သွားရောက်၍ မိမိတို့အား ထိုစီမံပြီး သင်္ကန်းများကို လှူဒါန်းရန် အတင်းအကျပ် မငြင်းဆန်နိုင်အောင် ပြောဆို အလှူခံကြသဖြင့် သင်္ကန်းများကို ဆဗ္ဗဂ္ဂီ ရဟန်းတို့အား လှူ၍ သံဃာတော်အား ဆွမ်းကိုသာ လှူကြရတော့သည်။

ထိုအကြောင်းကို ရဟန်းတော်များ သိ၍ မြတ်စွာဘုရားအား လျှောက်ထားကြရာ မြတ်စွာဘုရားရှင်က "သံဃာတော်အား လှူမည်ဟု နှုတ်မြွက် ပြောဆို၍ ညွတ်ပြီးသော လာဘ်ကို သိလျက် မိမိအား ညွတ်စေသော ရဟန်းအား နိဿဂ္ဂိယပါစိတ်သင့်စေ" ဟု သိက္ခာပုဒ် ပညတ်တော်မူ၍ ယင်းသိက္ခာပုဒ် အကျယ် ပဒဘာဇနီ၌ ဤအဓမ္မိကဒါန ၉-ပါးကို ဟောကြားတော်မူ၏။

ဤ၌ အကြောင်းရင်းဝတ္ထုကို ကြည့်ခြင်းအားဖြင့် အလှူပွဲစား ကြားသမားတို့ ဝင်ရောက်စွက်ဖက်မှုကြောင့် အလှူမှာ အဓမ္မိကဒါနအမည်ကို ရရှိခြင်း ဖြစ်၏။ မှန်၏၊ သံဃာအားဖြစ်စေ, စေတီအားဖြစ်စေ, ပုဂ္ဂိုလ်အားဖြစ်စေ ဤဝတ္ထုကို ပေးလှူအံ့ဟု အလှူရှင်က နှုတ်မြွက်ပြောဆိုပြီး ဖြစ်လျှင် ထိုဝတ္ထုသည် နှုတ်မြွက်ပြောကြားခြင်း ခံရသော သံဃာ, စေတီ, ပုဂ္ဂိုလ်တစ်မျိုးမျိုးတို့၏ ဥစ္စာတစ်ဝက်တစ်ပျက် ဖြစ်လေပြီ။

ဤသို့ သံဃာ, စေတီ, ပုဂ္ဂိုလ်တစ်မျိုးမျိုးအား ညွတ်ပြီးမှန်း သိလျက် ညွတ်ကိုင်းရင်း သံဃာ, စေတီ, ပုဂ္ဂိုလ်မှ အခြား သံဃာ, စေတီ, ပုဂ္ဂိုလ်အား လှူဒါန်းရန် ဝင်ရောက်စွက်ဖက် လှူဒါန်းစေသောအခါ ကြားသမားတို့၏ မတရားစွက်ဖက်ခြင်း ခံရသဖြင့် အဓမ္မိကဒါန ဖြစ်ရတော့သည်။

ဤအဓမ္မိကဒါန ၉-ပါးကို ခံယူခြင်း, သုံးဆောင်ခြင်းများလည်း အဓမ္မိက ချည်းဖြစ်၍ အဓမ္မိကပဋိဂ္ဂဟ ၉-ပါးနှင့် အဓမ္မိက ပရိဘောဂ ၉-ပါးကို ဆက်လက် ဟောကြားတော်မူ၏။

ဤ၌ ကြားသမားတို့ မတရား စွက်ဖက်ပြောဆို ညွတ်ကိုင်းစေသဖြင့် ညွတ်ကိုင်းရင်း သံဃာ, စေတီ, ပုဂ္ဂိုလ်မှ အခြား သံဃာ, စေတီ, ပုဂ္ဂိုလ်အား လှူဒါန်းခြင်းကိုသာ အဓမ္မိကဟု မှတ်ယူရမည်။ ထို့ကြောင့် မူလ ညွတ်ကိုင်း ရင်းမှ တပါးတခြားသို့ တရားသဖြင့် ညွတ်ကိုင်းစေခြင်းနှင့် အလှူရှင်ကိုယ်တိုင် အသိမှန်ရ၍ မူလ ညွတ်ကိုင်းရင်းမှ အခြားတပါးသို့ ပြောင်းရွှေ့လှူဒါန်းခြင်း တို့ကို အဓမ္မိကဟု မဆိုထိုက်ပါ။

သို့ဖြစ်၍ မြတ်စွာဘုရားအား လှူအံ့ဟု နှုတ်မြွက်ညွတ်ကိုင်း၍ ရက်လုပ်သော မိထွေးတော် မဟာပဇာပတိ ဂေါတမီ၏ သင်္ကန်းအစုံကို သံဃာအား လှူဒါန်းရန် မိန့်တော်မူရာ၌လည်းကောင်း၊ ပသေနဒီကောသလမင်းကြီး တိတ္ထိတို့ ထံမှ အသပြာတစ်သိန်း လာဘ်စား၍ ဇေတဝန်ကျောင်းတိုက်အနီး တိတ္ထိကျောင်း ဆောက်လုပ်ရန် မြေနှင့် သစ်ဝါးချပေးရာမှ မြတ်စွာဘုရား မိန့်တော်မူချက်အရ

မင်းကြီးအမြင်မှန်ရ၍ မူလပေးရင်းမြေနှင့် သစ်ဝါးများကိုပါ မင်းဘဏ္ဍာအဖြစ် သိမ်းယူ၍ မြတ်စွာဘုရားအား လှူဒါန်းရာ၌ လည်းကောင်း အဓမ္မိကဒါန မဖြစ်ကြောင်း မှတ်သားကြရာ၏။

## ဆယ်ပါးတွဲ ဒါနစုများ

ဤဆယ်ပါးတွဲ ဒါနစုမှာလည်း လေးပါးစု၊ ခြောက်ပါးစု၊ ခုနစ်ပါးစုဒါနတို့ကဲ့သို့ ဒါန၏သဘောရင်းအားဖြင့် ၁၀-ပါးရှိကြောင်း ပါဠိတော်များ၌ တိုက်ရိုက်အယောမရှိသော်လည်း သုတ္တန်နည်းဖြင့် အလှူများ၌ ထင်ရှားသော ဒါနဝတ္ထု ဆယ်မျိုးရှိသည်ကို (အစွဲပြုကာ အန္နဒါန၊ ပါနဒါနစသော ဒါနဝတ္ထု ၁၀-ပါးကို ၁၀-တွဲ ဒါနစုအဖြစ် မှတ်သားနိုင်၏။ (ယင်း ၁၀-ပါး သရုပ်ကို အခန်း(၁၁)၊ ဒါနအမျိုးမျိုးပြရာ စာမျက်နှာ ၂၉၁-၂ ၌ ပြခဲ့ပြီ။)

**အပါယ်ချမည့် ဒါန ၁၀-မျိုး**

(၁) မဇ္ဇဒါန =သေရည်အရက်ကို ပေးလှူခြင်း၊

(၂) သမဇ္ဇဒါန =ပွဲသဘင်ဖြင့် လှူဒါန်းပူဇော်ခြင်း၊

(၃) ဣတ္ထိဒါန =မိန်းမကို ပေးလှူခြင်း၊

(၄) ဥသဘဒါန =နွားမအုပ်ပေါင်း၏ အလယ်၌ နွားလားဥသဘကို လွှတ်ပေးခြင်း၊

(၅) စိတ္တကမ္မဒါန =မိန်းမ,ယောကျ်ားတို့၏မေထုန်မှီဝဲဟန်ပုံသဏ္ဌာန် စသော ကိလေသာဖြစ်ခြင်း၏ အကြောင်းဖြစ်သော ပန်းချီ ဆေးရေးကားချပ် ပေးလှူခြင်း၊

(၆) သတ္ထဒါန =လက်နက်ကို ပေးလှူခြင်း၊

(၇) ဝိသဒါန =အဆိပ်ကို ပေးလှူခြင်း၊

(၈) သင်္ခလိကဒါန =သံခြေချင်းကို ပေးလှူခြင်း၊

(၉) ကုက္ကုဋသူကရဒါန=ကြက်ဝက်တို့ကို ပေးလှူခြင်း၊

(၁၀) တုလာကူဋမာနကူဋဒါန = ချိန်စဉ်းလဲ, တောင်းစဉ်းလဲကို ပေးလှူခြင်း။

ဤ ၁၀-ပါးကို လောက၌ အလှူစာရင်း မသွင်းသင့်သည့်ပြင် လှူသူမှာ အပါယ်ကျနိုင်သည် (မိလိန္ဒ။၂၇၀)။

**အလှူခံ တစ်ကျိပ်လေး**

ဥပရိပဏ္ဏာသပါဠိတော် ဒက္ခိဏာဝိဘင်္ဂသုတ်၌ မြတ်စွာဘုရားဟောကြားတော်မူသော ပုဂ္ဂလိကဒါန ၁၄-ပါးနှင့် စပ်၍ ၁၄-ပါးတွဲ ဒါနစုကို အောက်ပါအတိုင်း မှတ်သားနိုင်၏—

(၁) မြတ်စွာဘုရားအား လှူဒါန်းခြင်း၊

(၂) ပစ္စေကဗုဒ္ဓါတို့အား လှူဒါန်းခြင်း၊

(၃) ဘုရားတပည့်သား ရဟန္တာပုဂ္ဂိုလ်အား၊ သို့မဟုတ် အရဟတ္တဖိုလ်၌ တည်သော ပုဂ္ဂိုလ်အား လှူဒါန်းခြင်း၊

(၄) အရဟတ္တဖိုလ်ကို မျက်မှောက်ပြုရန် ကျင့်ကြံနေသော ပုဂ္ဂိုလ်၊ သို့မဟုတ် အရဟတ္တမဂ်၌ တည်သော ပုဂ္ဂိုလ်အား လှူဒါန်းခြင်း၊

(၅) အနာဂါမ်ပုဂ္ဂိုလ်၊ သို့မဟုတ် အနာဂါမိဖိုလ်၌ တည်သော ပုဂ္ဂိုလ်အား လှူဒါန်းခြင်း၊

(၆) အနာဂါမိဖိုလ်ကို မျက်မှောက်ပြုရန် ကျင့်ကြံသော ပုဂ္ဂိုလ်၊ သို့မဟုတ် အနာဂါမိမဂ်၌ တည်သော ပုဂ္ဂိုလ်အား လှူဒါန်းခြင်း၊

(၇) သကဒါဂါမ် ပုဂ္ဂိုလ်၊ သို့မဟုတ် သကဒါဂါမိဖိုလ်၌ တည်သော ပုဂ္ဂိုလ်အား လှူဒါန်းခြင်း၊

(၈) သကဒါဂါမိဖိုလ်ကို မျက်မှောက်ပြုရန် ကျင့်ကြံနေသော ပုဂ္ဂိုလ်၊ သို့မဟုတ် သကဒါဂါမိမဂ်၌ တည်သော ပုဂ္ဂိုလ်အား လှူဒါန်းခြင်း၊

(၉) သောတာပန်ပုဂ္ဂိုလ်၊ သို့မဟုတ် သောတာပတ္တိဖိုလ်၌ တည်သော ပုဂ္ဂိုလ်အား လှူဒါန်းခြင်း၊

(၁၀) သောတာပတ္တိဖိုလ်ကို မျက်မှောက်ပြုရန် ကျင့်ကြံနေသောပုဂ္ဂိုလ်၊ သို့မဟုတ် သောတာပတ္တိမဂ်၌ တည်သော ပုဂ္ဂိုလ်အား လှူဒါန်းခြင်း၊

(၁၁) သာသနာတော်ပအခါ ဈာန်အဘိညာဉ်ရသော ရသေ့တို့အား လှူဒါန်းခြင်း၊

(၁၂) သီလရှိသော သီလဝန္တ လူပုထုဇဉ်တို့အား လှူဒါန်းခြင်း၊

(၁၃) သီလမရှိသော (ဒုဿီလ) လူပုထုဇဉ်တို့အား လှူဒါန်းခြင်း၊
(၁၄) တိရစ္ဆာန်တို့အစား လှူဒါန်းခြင်း။

[ဆောင်] ဘုရားမြတ်စွာ၊ ပစ္စေကာနှင့်၊ ရိယာရှစ်ဝ၊ ဈာန်ရ ဗာဟိ၊ နွှစ်လီပုထုဇန်၊ တိရစ္ဆာန်၊ လှူခံတစ်ကျိပ်လေး။

---

# အခန်း (၁၂)

## ဒါနအကျိုးတရားများ

ကုသိုလ်ကံဖြစ်စေ၊ အကုသိုလ်ကံဖြစ်စေ တူသော အကျိုးပေးတတ်၏။ သူတပါးကို သတ်သော ပါဏာတိပါတကံကြောင့် ဖြစ်ရာ ဘဝ၌ အသက်တိုရ တတ်၏၊ ရောဂါ များတတ်၏။ ဤသို့ စသည်ဖြင့် မိမိ ပြုလုပ် ဆည်းပူး အားထုတ်သော ကောင်းမှု, မကောင်းမှုတို့၏ ကောင်းမွေ, ဆိုးမွေကို ခံကြရ၏။ ထိုကောင်းကံ ဆိုးကံတို့၏ အရှိန်သတ္တိတွေ မိမိတို့၏ သန္တာန်၌ အကြောင်း တိုက်ဆိုင် အခွင့်သင့်ရာ အချိန်ဝယ် အကျိုးပေးရန် အမြဲ လိုက်ပါနေ၏။ ထိုစေတနာကံသည် ဥပါဒ်, ဌီ, ဘင် အရ ချုပ်ပျောက်သွားသော်လည်း ထိုစေတနာကံ၏ သတ္တိကား မိမိတို့ ခန္ဓာအစဉ်ဝယ် အမြဲ လိုက်ပါလည်ရှိနေ၏။ မိမိ ပြုလုပ်သော ကုသိုလ်ကံ၏ သတ္တိသည် မိမိသန္တာန်မှာ (လူသွားရာသို့ အရိပ်လိုက်ပါသလို) မိမိကို စောင့်ရှောက်ဖို့ရန် အမြဲလိုက်ပါ၏။ မိမိပြုအပ်သော အကုသိုလ်ကံ၏ သတ္တိများလည်း (လှည်း၌ တပ်အပ်သော နွား၏ နောက်သို့ လှည်းဘီးပါသကဲ့သို့) မိမိနှိပ်စက်ဖို့ရန် အမြဲလိုက်ပါနေ၏။

ငွေ့ကြဲပေးကမ်း လှူဒါန်းသောအခါ အလှူခံပုဂ္ဂိုလ်ကို စားစေချင်, ကောင်းကောင်းမွန်မွန် ဝတ်စေချင်, နေစေချင်သော စေတနာသည် ဒါန မည်၏။ ထို ဒါနကြောင့် ဖြစ်လေရာ ဘဝ၌ ကောင်းကောင်းမွန်မွန် စားရဝတ်ရ နေထိုင်ရသော အကျိုးတရားများ ရရှိခံစားရမည်မှာ သိသာထင်ရှား၏။ "မနာပဒါယီ လဘတေ မနာပံ=မြတ်နိုးဖွယ်ရာ အရာဝတ္ထုကို ပေးလှူသူသည် မြတ်နိုးဖွယ် အရာဝတ္ထုကို ရရှိနိုင်၏" ဟူသော ဒေသနာတော်အရ ဒါန၏ တူညီသော အကျိုးတရားကို ရရှိခံစားရမည်မှာ သေချာလှ၏။

ဒါနသည် အလှူပေး အလှူခံ ၂-ဦးလုံး၏ စိတ်ကို နူးညံ့ပျော့ပျောင်းအောင် ပြုနိုင်၏။ မလိမ္မာ မယဉ်ကျေးသောသူကို လိမ္မာယဉ်ကျေးစေနိုင်၏။ မိမိစကားကို နားမထောင်သူကိုလည်း နားထောင်စေနိုင်၏ (ဒီ၊ ဌ၊ ၃။ ၂၂၇-စသည်)။

မိမိသူတပါး ၂-ဦးသား၏ အကျိုး, ပစ္စုပ္ပန်လောကအကျိုး,တမလွန်လောက အကျိုး အမျိုးမျိုးကို ပြီးစေနိုင်၏။ အခြံအရံ အကျော်အစော, ကျက်သရေ, စည်းစိမ်ချမ်းသာတို့ကိုလည်း ပေးစွမ်းနိုင်၏။ တရားသဖြင့် ရသော ပစ္စည်း ဝတ္ထုကို တရားထူးရသော ပုဂ္ဂိုလ်တို့အား ပေးလှူလျှင် ရေကြီး ရှစ်ထပ်

ငရဲငယ် ၁၆-ထပ်တို့ကို လွန်မြောက်၍ နတ်ပြည်သို့ လားရောက်နိုင်၏ (သံ၊၁။ ၂၈-စသည်)။ လွန်ကဲ ထူးချွန်မွန်မြတ်သော လောကီစည်းစိမ် လောကုတ္တရာ စည်းစိမ် အားလုံးကိုလည်း ဖြစ်ထွန်း ပေါ်ပေါက်လာစေနိုင်၏ (ဒီ၊ဋီ၊၂။၆၈-စသည်)။

ထို့ပြင် သိကြားမင်းစည်းစိမ်, မာရ်နတ်မင်းစည်းစိမ်, ဗြဟ္မာမင်းစည်းစိမ်, စကြာမင်းစည်းစိမ် စသော လောကီစည်းစိမ်, သာဝကပါရမီဉာဏ်, ပစ္စေက ဗောဓိဉာဏ်, အဘိသမ္ဗောဓိဉာဏ်ဟု ဆိုအပ်သော လောကုတ္တရာစည်းစိမ် တို့ကိုလည်း ပေးစွမ်းနိုင်၏ (ဒီ၊ဋ္ဌ၊၂။၆၁-စသည်)။ ယင်းဒါနကြောင့် လူ့ပြည်, နတ်ပြည်သို့ လားရောက်နိုင်သည်မှာ ထင်ရှားလှ၏။ ဗြဟ္မာ့ပြည်သို့မူကား ပေးလှူကာမျှဖြင့် မလားရောက်နိုင်။ သို့ရာတွင် ဒါနစေတနာသည် သမထ, ဝိပဿနာ စိတ်၏ အခြံအရံ တန်ဆာဖြစ်၍ ပေးလှူပြီးနောက် ရန်ငြိုးဖွဲ့ တတ်သော ရန်သူ၌သော်လည်း နူးညံ့သောစိတ် ပေါ်ပေါက်လာပြီးလျှင် ဗြဟ္မဝိဟာရ ခေါ်သော ဗြဟ္မစိုရ်တရားတို့ကို များများ အားထုတ်ခဲ့ပါမူ ဗြဟ္မာ့ပြည်သို့ လားရောက်စေနိုင်သည် (ဒီ၊၃။၂၁၄-၅-စသည်)။ ဒါနသည် ဈာန်, ဝိပဿနာ, မဂ်, ဖိုလ်, နိဗ္ဗာန်ချမ်းသာအားလည်း အားကြီးသော မှီရာအကြောင်း အထောက်အပံ့ ဥပနိဿယ ပစ္စယသတ္တိဖြင့် ကျေးဇူးပြုပေး နိုင်၏။

လှည်းဘီးသည် လှည်းကို ဆွဲသောနွား နောက်သို့ ကပ်၍ လိုက်သကဲ့သို့ ဒါနသည် အလှူရှင်နောက်သို့ တကောက်ကောက် ကပ်၍ လိုက်၏။ ပစ္စုပ္ပန် လောက၌ဖြစ်စေ, တမလွန်လောက၌ ဖြစ်စေ ပေးလှူသူ ဒါယကာသို့ အစဉ် လိုက်၍ အကျိုးပေးလေသည် (သံ၊၁။၃၈-စသည်)။

သူတပါးကို နှိပ်စက်၍ မတရားသဖြင့် ရထားသော အသပြာ ၁၀-ကုဋေတန် အလှူသည် တောင်းရမ်း၍, ကောက်သင်းကောက် ရှာဖွေ၍ သားမယားကို လုပ်ကျွေးမွေးမြူသော ဆင်းရဲသား တစ်ယောက်၏ အသပြာ တစ်ကျပ်တန် အလှူကို ၂၅၆-ပုံ ပုံ၍ တစ်ပုံမျှ မမီနိုင်။ လှူဖွယ်ဝတ္ထုတန်ဖိုး နည်းသော်လည်း သဒ္ဓါစေတနာ ထက်သန် များပြားလျှင် ထောင်ပေါင်းများစွာ တန်ဖိုးရှိသော အလှူနှင့် ထပ်တူထပ်မျှ အကျိုးရနိုင်၏။

### သောတာပန်ပမာ လားရာဂတိ မြဲစေနိုင်သည့် အလှူဒါနများ

သောတာပန်ပမာ လားရာဂတိ မြဲစေနိုင်သော အကျိုးတရားကို ပေးစွမ်း နိုင်သည့် အလှူဒါနများလည်း ရှိသေး၏။ စာရေးတံမဲ လက်မှတ်၌ ဆွမ်း ဒါယကာ၏ နာမည်ကို ရေး၍ သံဃာထဲမှ မဲကျသော ရဟန်းများအား

လှူဒါန်းအပ်သော သလာကဘတ် အလှူ၊ လဆန်း လဆုတ် ၅-ရက်၊ ၈-ရက်၊ ၁၄-ရက်၊ ၁၅-ရက်နေ့ များ၌ ဥပုသ်စောင့်သုံးကာ လှူဒါန်းအပ်သော ပက္ခိကဘတ် အလှူ၊ ဝါဆိုသင်္ကန်းအလှူ၊ ရေကန်အလှူနှင့် ကျောင်းအလှူ များကို လှူဒါန်းသော အလှူရှင်များသည် အမြဲမပြတ် နိဗ္ဗာန်ကုသိုလ်ကို ပြုရာရောက်သောကြောင့် သောတာပန်နှင့်မခြား အလားတူကြ၏။ သောတာပန် ပမာ လားရာဂတိ မြဲသော အကျိုးကို ရရှိနိုင်သော အလှူဒါနများ ဖြစ်၍ သူတော်စင်များ အထူးအားကျဖွယ် ကောင်းလှ၏ (အံ၊၄၊၃။ ၂၆၅)။

ဆုတောင်း၍ လှူရန်

ထို့ပြင် သဒ္ဓါ၊ သီလ၊ သုတ၊ စာဂ၊ ပညာ-ဟူသော တရား ၅-ပါး တည်ရှိ၍ ဆုတောင်းမှုလည်း ရှိသော သူ၏ လားရာဂတိသည် မြဲ၏၊ ဆုတောင်းမှု မရှိခဲ့ မူကား အထက်ကောင်းကင်သို့ မြောက်တင်ပစ်လွှင့်အပ်သော တုတ်လုံးတံသည် အောက်မြေပြင်သို့ အဖျားပိုင်းဖြင့် ကျမည်၊ အလယ်ပိုင်းဖြင့် ကျမည်ဟု တိတိကျကျ မှတ်သား၍ မရနိုင်သကဲ့သို့ လားရာဂတိ မမြဲနိုင်ပေ။ ထို့ကြောင့် ကုသိုလ်ကောင်းမှု တစ်ခုခုပြုခဲ့သော် သုဂတိဘုံဌာန တစ်ခုခုသို့ ဆုတောင်း၍ ပြုသင့်ကြပေသည် (မ၊၄၊၄။ ၁၀၄)။

## ဒါန၏ မျက်မှောက်အကျိုး ငါးပါး

ဘုရားရှင် ဝေသာလီပြည် မဟာဝုန်တော စုလစ်မွမ်းချွန် အထွတ်တပ်သော ကျောင်း၌ သီတင်းသုံးတော်မူစဉ် သီဟစစ်သူကြီး မေးလျှောက်ချက်အရ ဒါန၏ မျက်မှောက်လက်ငင်းအကျိုး ၅-မျိုးကို ဟောတော်မူ၏။

ဒါနဝတ္ထုလှူဒါန်းသော အလှူရှင်သည်—

(၁) လူအများတို့ မျက်နှာမြင်လျှင် ချစ်ခင်နှစ်သက်ခြင်း၊

(၂) သူတော်ကောင်းတို့ မှီခို ဆည်းကပ်လာခြင်း၊

(၃) ဂုဏ်ကျေးဇူးသတင်း ပျံ့နှံ့ကျော်ကြားခြင်း၊

(၄) ပရိသတ် ၄-ပါးသို့ ရွံ့ရှားခြင်းကင်း ရဲတင်းစွာ ချဉ်းကပ်နိုင်ခြင်း၊

(၅) သေဆည်၏ အခြားမဲ့၌ နတ်ပြည်သို့ လားရောက်ခြင်း—

ဟူသော အကျိုးထူးတို့ကို ရရှိခံစားရ၏ (အံ၊၂။ ၃၃-၅)။

တို့ဖြင့်—

(၁) ကိလေသာကင်းကွာ ရဟန္တာအရှင်မြတ်တို့၏ အချီးအမြောက်ကို ရှေးဦးစွာ ရယူရရှိခြင်း၊

(၂) ရဟန္တာအရှင်မြတ်တို့ ရှေးဦးစွာ ချဉ်းကပ်ခံရခြင်း၊

(၃) လှူဖွယ်ဝတ္ထုကို ရှေးဦးစွာ လှူဒါန်းခွင့်ရခြင်း၊

(၄) တရားတော်ကို ရှေးဦးစွာ နာယူခွင့်ရခြင်း၊

(၅) ကောင်းသော ဂုဏ်သတင်း ပျံ့သင်းကျော်ကြားခြင်း၊

(၆) ပရိသတ် ၄-ပါးသို့ ရဲဝံ့စွာ ချဉ်းကပ်နိုင်ခြင်း၊

(၇) သေသည်၏ အခြားမဲ့၌ နတ်ပြည်သို့ လားရောက်ရခြင်း—

ဟူသော အကျိုးထူးတို့ကို ရရှိခံစားရ၏ (အံ၊၂။၄၅၇–၉)။

**သင်္ကန်းလှူရအကျိုး**

"လူမှာအဝတ် တောင်းမှာအကွပ်" ဆိုသကဲ့သို့ အဆင်းလှသူပင် ဖြစ်စေကာမူ ဟောင်းနွမ်းညစ်ပေသော အဝတ်ကို ဝတ်ဆင်ခဲ့သော် လည်းကောင်း၊ လုံးဝ အဝတ် မဝတ်ဘဲ နေခဲ့သော် လည်းကောင်း၊ အဆင်းပျောက်ပြီး အကျည်းတန်အရုပ်ဆိုး၏။ အဝတ်အဆင်လှလှ ဝတ်ဆင်ရလျှင် အရုပ်ဆိုးသူပင် ဖြစ်စေကာမူ နတ်သားတမျှ တင့်တယ်လှပနိုင်သောကြောင့် အဝတ်အထည်ကို လှူဒါန်းခြင်းသည် အဆင်းကို လှူဒါန်းသည်နှင့် တူ၏ (သံ၊၁။၂၉။ သံ၊ဋ္ဌ၊၁။၇၇)။ မိန်းမများ သင်္ကန်းလှူလျှင် ရတနာ ၇-ပါးဖြင့် စီခြယ်မွမ်းမံ ထားအပ်သော မဟာလတာ တန်ဆာကို ရနိုင်၏။ ယောကျ်ားများ သင်္ကန်းလှူလျှင် တန်ခိုးဖြင့် ပြီးသော သပိတ်သင်္ကန်းကို ရနိုင်၏ (ဓမ္မ၊ဋ္ဌ၊၁။၂၄၉)။

**ထင်ရှားသော သင်္ကန်းအလှူရှင်များ**

ကျောင်းအမကြီး ဝိသာခါသည် မြတ်စွာဘုရား သာဝတ္ထိမြို့ ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးတော်မူစဉ်က မြတ်စွာဘုရားထံ ဆုရှစ်မျိုးကို တောင်းခံ၍ မြတ်စွာဘုရား၏ ခွင့်ပြုချက်ဖြင့် သံဃာတော်တို့အား မိုးရေခံ သင်္ကန်းကို လှူဒါန်းခဲ့ပါသည် (ဝိ၊၃။၄၀၆၊၄၁၀)။

ကျောင်းအမကြီး ဝိသာခါလောင်းလျာသတို့သမီးသည် ကဿပဘုရားရှင် လက်ထက်တော်က ရဟန်းတော် နှစ်သောင်းတို့အား မိမိပိုင်ဥစ္စာဖြစ်သော အပ်ချည်, အပ်, ဆိုးရည်အပါအဝင် သင်္ကန်းလျာ အဝတ် (သင်္ကန်းချုပ်စရာ အဝတ်)ကို လှူဒါန်းခဲ့ပါသည် (ဓမ္မ၊ဋ္ဌ၊၁။၂၄၉)။

သမားတော်ကြီး ဇီဝကသည် မြတ်စွာဘုရားရှင်အား ကမ္ဗလာသင်္ကန်းကို လှူဒါန်းခဲ့ပါသည် (ဝိ၊၃။၃၉၃)။

ဝေရဉ္ဇာပြည်သား ဥဒယပုဏ္ဏားသည် သံဃာတော်အပါး ငါးရာအား တစ်ပါးလျှင် သင်္ကန်းတစ်စုံကျစီ လှူဒါန်းခဲ့ပါသည်(ဝိ၊၁။၁၂။ ဝိ၊ဋ္ဌ၊၁။၁၆၇-၈)။

အပေါ်ရုံ တင်ထည်တည်းသာ ရှိ၍ ဧကသာဋကအမည်ရသော ပုဏ္ဏားသည် မိမိ၏ အပေါ်ရုံကို ဘုရားရှင်အား လှူဒါန်း၍ "ဇိတံ မေ၊ ဇိတံ မေ=ငါ အောင်ပွဲရပြီ၊ ငါ အောင်ပွဲရပြီ"ဟု ဟစ်အော်ကြွေးကြော်သံကို ပသေနဒီ ကောသလမင်း ကြား၍ မေးမြန်းရာတွင် ထောင်ပေါင်းများစွာသော မစ္ဆရိယ "နှမြောဝန်တိုမှုကို အောင်ပွဲရပြီ"ဟု ကြွေးကြော်ခြင်း ဖြစ်ကြောင်း အဖြေ ပေးရာ သဘောကျ၍ ချီးမြှင့်အပ်အော ဝတ်စုံပုဆိုးတွင် နောက်ဆုံးရအပ်သော တစ်ဆယ့်ခြောက်စုံမှ မိမိအတွက် တစ်ထည်, ပုဏ္ဏေးမအတွက် တစ်ထည်မျှကိုသာ လက်ခံ၍ ကျန်အထည် သုံးဆယ်တို့ကို ဘုရားရှင်အားသာ လှူဒါန်းခဲ့ပါသည် (ဓမ္မ၊ဋ္ဌ၊၂။၂)။

မဏ္ဍုကသူဌေးလောင်းလျာ အဝရောဇ သူကြွယ်သည် အထူးထူး မွမ်းမံ ခြယ်လှယ်ကာ ကူဋရသာလာမည်သော ကျောင်းဆောင်တော်ကို ဆောက်လုပ် စေပြီးနောက် ရဟန်းတော်ပေါင်း ခြောက်သန်း ရှစ်သိန်းနှင့်တကွ ဝိပဿီ မြတ်စွာဘုရားအား လေးလပတ်လုံး အလှူကြီး ပေး၍ နောက်ဆုံးနေ့၌ တိစီဝရိတ်သင်္ကန်းကို လှူဒါန်းခဲ့ပါသည် (ဓမ္မ၊ဋ္ဌ၊၂။၂၃၂-၃)။

ဥမ္မာဒန္တီလောင်းလျာ သူဆင်းရဲ အမျိုးသမီးသည် ကြာဖြင့်စွာ ကျွန်ခံမှု ရအပ်သော နီမြန်းသော ဝတ်ပန်းအဝတ်ကို ကဿပဘုရားရှင်၏ သာဝက ရဟန်းတော် တစ်ပါးအား "အရှင်ဘုရား—တပည့်တော်မသည် ဘဝတိုင်း လှပသူ ဖြစ်ရပါလို၏၊ တပည့်တော်မကို မြင်လျှင် ယောကျ်ားအားလုံး တည်တည်ငြိမ်ငြိမ် မနေနိုင်ပါစေသတည်း၊ ရူးပါစေသတည်း"ဟု ဆုတောင်း၍ လှူဒါန်းခဲ့ပါသည် (ဇာ၊ဋ္ဌ၊၅။၂၂၃)။

မလ္လမင်းသား ပုက္ကုသ သည် သိင်္ဂီရွှေအဆင်းရှိသော သက္ကန်းတစ်စုံကို မြတ်စွာဘုရားရှင်နှင့် အရှင်အာနန္ဒာတို့အား လှူဒါန်းခဲ့ပါသည် (ဒီ၊၂။၁၁၀)။

**ဆွမ်းလှူရကျိုး**

အလှူခံ ကာယခွန်အား ကြီးမားသူပင် ဖြစ်စေကာမူ အစာ ၂-ရက်၊ ၃-ရက် စသည် မစားရလျှင် နေရာမှ မထနိုင်သည်အထိ အားအင်ချိနဲ့လာ၍ အစာစားရလျှင် ကာယခွန်အား နည်းပါးသူပင် ဖြစ်စေကာမူ အားခွန်ဗလ ပြည့်ဝလာသောကြောင့် ဆွမ်းကို လှူဒါန်းခြင်းသည် ကာယခွန်အားကို လှူဒါန်းသည်နှင့် တူ၏ (သံ၊၁။၂၉။ သံ၊ဋ္ဌ၊၁။၇၈)။

**ထင်ရှားသော ဆွမ်းအလှူရှင်များ**

မြတ်စွာဘုရား ဝေရဉ္ဇာမြို့ ဝါကပ်တော်မူစဉ်က ဝေရဉ္ဇာမြို့သည် ဒုဗ္ဘိက္ခန္တရကပ် (စာနပ်ရိက္ခာ ရှားပါးခြင်းဘေး)ဆိုက်ရောက်လျက် ရှိရာ ဘုရားမှူးရှိသော ရဟန်းတော်ငါးရာတို့ ဆွမ်းခံမရ ဖြစ်ကြသည်။ ထိုအချိန်၌ ဥတ္တရာပထတိုင်းသား မြင်းကုန်သည်တို့သည် ဝေရဉ္ဇာမြို့၌ မိုးလေးလ မိုးခိုနေကြရင်း ရဟန်းတော်များအား တစ်စလယ် တစ်စလယ်စီသော ရိက္ခာမုယောဆန်ကို ဆွမ်းအတွက် လှူဒါန်းကြသည်။ ထိုဥတ္တရာပထတိုင်းသား မြင်းကုန်သည်တို့ လှူဒါန်းသော မုယောဆွမ်းကို ဘုရားနှင့် ရဟန်းတော်များ ဘုဉ်းပေးတော်မူကြပါသည် (ဝိ၊၁။၇။ ဝိ၊ဋ္ဌ၊၁။၁၄၆)။

ဗာရာဏသီမြို့၌ နေထိုင်ကြသော သုပ္ပိယဥပါသကာနှင့် သုပ္ပိယာဥပါသိကာ ဇနီးမောင်နှံတို့သည် ဂေါတမာပန်များဖြစ်ကြသည်။ အလှူအတန်းဝါသနာပါ၍ သံဃာ့အလုပ်အကျွေးများဖြစ်ကြ၏။ သုပ္ပိယာဥပါသိကာမသည် ကျောင်းတိုက်များသို့ သွားရောက်ကာ တစ်ကျောင်းတက်ဆင်း လှည့်လည်၍ ရဟန်းတော်များထံ ချဉ်းကပ်ပြီး "အဘယ်ရဟန်း နေထိုင်မကောင်းပါသလဲ၊ အဘယ်ရဟန်းအတွက် ဘာကို လာရောက်လှူဒါန်းရပါမလဲ"ဟု လျှောက်ထားမေးမြန်းလေ့ရှိသည်။ ထိုအချိန်၌ ရဟန်းတစ်ပါးက စွပ်ပြုတ်အလိုရှိကြောင်း ပြောရာ ပံ့သကူအသား ရှာမရသဖြင့် မိမိပေါင်သားကိုလှီးဖြတ်ပြီး စွပ်ပြုတ်လုပ်၍လှူဒါန်းသည်။ ထိုပေါင်၌ ဖြစ်သော ဝေဒနာလည်း ဘုရားရှင်ကို ဖူးမြင်ရသည်နှင့် တပြိုင်နက် အသားနုတက်၍ ပျောက်ကင်းလေ၏ (ဝိ၊၃။၃၁၁)။

မြတ်စွာဘုရားသည် ဘဂ္ဂတိုင်း သုသုမာရဂိရိမြို့ ဘေသကဠာဝုန်တော၌ သီတင်းသုံးတော်မူစဉ် ဗောဓိမင်းသားသည် သူ၏ လက်တလော ဆောက်လုပ်ပြီးစ ကောကနဒပြာသာဒ်သို့ ပင့်၍ ဘုရားအမှူးရှိသော သံဃာတော်များအား ဆွမ်းကပ် လှူဒါန်းခဲ့သည် (ဝိ၊၄။၂၆၆)။

**အနာထပိဏ်** သူဌေးကြီးသည် လှည်းငါးရာနှင့် အတူ ကုန်ပစ္စည်းများ တင်ဆောင်၍ ရာဇဂြိုဟ်မြို့ရှိ သူဌေးချင်းအိမ်သို့ သွားရာ ဘုရားပွင့်တော်မူကြောင်း သိရ၍ ဘုရားရှင်ထံ ချဉ်းကပ်ပြီး တရားတော်များ နာယူရသဖြင့် သောတာပန်ဖြစ်သည်။ နောက်တစ်နေ့တွင် ရာဇဂြိုဟ်ရှိ သူဌေးချင်းအိမ်မှာပင် ဘုရားအမှူးရှိသော သံဃာတော်များအား ဆွမ်းကပ်၍ အကြီးအကျယ်လှူဒါန်း ပူဇော်ခဲ့သည် (အံ၊ဋ္ဌ၊၁။၂၉၆)။

အရှင်အနုရုဒ္ဓါအလောင်း အန္နဘာရ ဆင်းရဲသားသည် ဂန္ဓမာဒနတောင်မှ နိရောဓသမာပတ်ဝင်စားပြီး ကြွလာသော ဥပရိဋ္ဌပစ္စေကဗုဒ္ဓါ အရှင်မြတ်အား မိမိအတွက် ချန်ထားသော ထမင်းကို လှူဒါန်းခဲ့သည် (အံ၊ဋ္ဌ၊၁။၁၄၅)။

ဝိသာခါ ကျောင်းအမကြီးသည် ဘုရားရှင်ထံ ဆုရှစ်မျိုးကို တောင်းရာ ဘုရားရှင်ခွင့်ပြုတော်မူသဖြင့် အာဂန္တုရဟန်း သံဃာတော်များ၊ ခရီးသွားရဟန်း သံဃာတော်များ၊ ဂိလာနရဟန်း သံဃာတော်များနှင့် ဂိလာနပြုစုသောရဟန်း သံဃာတော်များအတွက် ဆွမ်းဝတ်အသီးသီးကို အမြဲလှူဒါန်းပူဇော်သည်။

ကျောင်းလှူရကျိုး

ကျောင်းကို လှူဒါန်းခြင်းသည် ကာယခွန်အား, အဆင်း, ချမ်းသာ, မျက်စိတို့ကို လှူဒါန်းသည် မည်၏ (သံ၊၁။၂၉၊ ဝိ၊ဋ္ဌ၊၄။၅၈)။ မှန်၏၊ ရွာ ၂-ရွာ ၃-ရွာ ဆွမ်းခံ လှည့်လည်၍ ဆွမ်းတစ်ဇွန်းမျှ မရဘဲ ပြန်လာရသော်လည်း အေးမြသော ရေကန်၌ ရေမိုးချိုးပြီးနောက် ကျောင်းသို့ ဝင်ရောက်ကာ တစ်မုဟုတ်မျှ အိပ်စက် နားနေလိုက်ရလျှင် ကိုယ်ခန္ဓာ၌ ကာယခွန်အား တောင့်တင်းလာမြဲ ဖြစ်၍ ကျောင်းကို လှူဒါန်းခြင်းသည် ကာယခွန်အားကို လှူဒါန်းသည် မည်၏။

ကျောင်းပြင်ပ၌ လှည့်လည် သွားလာ၍ လေပူ, နေပူတို့ဖြင့် လောင်မြိုက်ခံရသောအခါ ရုပ်အဆင်း ဖောက်ပြန်လာ၏။ ကျောင်းတွင်းသို့ ဝင်၍ တံခါးပိတ်ကာ တစ်မုဟုတ်မျှ လျောင်းစက်နေလိုက်လျှင် ဝိသဘာဂရုပ်စဉ်ငြိမ်းပျောက်၍ သဘာဂရုပ်စဉ် သက်ရောက်ပြီးလျှင် ရုပ်ဆင်းကြည်လင်လာမြဲဖြစ်၍ ကျောင်းကို လှူဒါန်းခြင်းသည် အဆင်းကိုလည်း လှူဒါန်းသည် မည်၏။

ကျောင်းပြင်ပ၌ လှည့်လည် သွားလာလျှင် ခြေ၌ ဆူးစူးခြင်း၊ သစ်ငုတ်, ခလုတ် ထိခိုက် တိုက်မိခြင်း၊ မြွေ, သူခိုး စသော ဘေးရန်တို့နှင့် တွေ့ကြုံရခြင်း အန္တရာယ်တို့ ဖြစ်ပေါ်ကတတ်၍ ကျောင်းသို့ ဝင်ကာ တံခါးပိတ်၍ လျောင်းစက်

နွားနေလိုက်လျှင် ယင်းဘေးရန်တို့ မဖြစ်ပေါ်နိုင်သဖြင့် ကိုယ်ချမ်းသာမှု ရခြင်း၊ တရားကျိန်းဂန် ရွတ်အံ သရဇ္ဈာယ်နေလျှင် တရား၌ နှစ်သက်သော ဓမ္မပီတိ ချမ်းသာ ဖြစ်ပေါ်ခြင်း၊ ကမ္မဋ္ဌာန်း နှလုံးသွင်းနေလျှင် အကုသိုလ်ဘေးတို့ ငြိမ်းအေးမှု (ဥပသမာ) ချမ်းသာကို ရခြင်းဟူသော ဂုဏ်ကျေးဇူးကို ရသော ကြောင့် ကျောင်းကို လှူဒါန်းခြင်းသည် ချမ်းသာကိုလည်း လှူဒါန်းသည် မည်၏။

ကျောင်းပြင်ဘက်၌ လှည့်လည် သွားလာလျှင် ကိုယ်ခန္ဓာမှ ချွေးကျခြင်း၊ မျက်စိ တုန်လှုပ်ခြင်းတို့ ဖြစ်တတ်၍ ကျောင်းတွင်းသို့ ဝင်လျှင် ဝင်ချင်း ဘာမျှ မမြင်ရသော်လည်း တစ်မုဟုတ်မျှ ထိုင်နေလိုက်လျှင် မျက်စိကြည်လင်လာ ခြင်းကြောင့် ကျောင်းကို လှူဒါန်းခြင်းသည် မျက်စိကိုလည်း လှူဒါန်းသည် မည်၏(သံ၊ဋ္ဌ၊၁။၇၈—၉။ ဗုဒ္ဓဝံ၊ဋ္ဌ။၂၆။ သာရတ္ထ၊၃။၃၉၄။ ဒီ၊ဋ္ဌီ၊၁။၃၃၁ စသည်)။

ကျောင်းအလှူ၏ အကျိုးအာနိသင်ကြီးမားပုံကို ဘုရားရှင်မှတပါး အဘယ် သူသည် ကုန်စင်အောင် ဟောပြစွမ်းနိုင်ပါအံ့နည်း။ ပါးစပ်ပေါင်း တစ်သောင်း ရှိသော ပုဂ္ဂိုလ်သော်မှ ကုန်စင်အောင် မဟောပြစွမ်းနိုင် (ဗုဒ္ဓဝံ၊ဋ္ဌ။၂၅)။

**ထင်ရှားသော ဇရပ်တန်ဆောင်း ကျောင်းအလှူရှင်များ**

ရာဇဂြိုဟ်သူဌေးသည် ဘုရားရှင် ကျောင်း ခွင့်မပြုရသေးသဖြင့် "တော၊ သစ်ပင်ရင်း၊ တောင်၊ ချောက်၊ တောင်ခေါင်း၊ သင်္ချိုင်း၊ တောအုပ်၊ လွင်ပြင်၊ ကောက်ရိုးပုံ"ဟူသော ထိုထိုအရပ်များ၌ ရဟန်းတော်များ နေထိုင်ကြသည်ကို တွေ့မြင်လေရာ ကျောင်းဆောက် လှူဒါန်းလိုသော သဒ္ဓါတရားပေါက်၍ ရဟန်းတော်များမှ တဆင့် ဘုရားရှင်ထံ ကျောင်းဆောက် လှူဒါန်းခွင့် လျှောက်ထားသောအခါ ခွင့်ပြုတော်မူသဖြင့် တစ်နေ့တည်းဖြင့် ကျောင်းပေါင်း ခြောက်ဆယ် ဆောက်လုပ်လှူဒါန်းခဲ့သည် (ဝိ၊၄။၂၉၁)။

အနာထပိဏ်သူဌေးကြီးသည် ၅၄-ကုဋေ အကုန်အကျ ခံ၍ ဇေတဝန် ကျောင်းတော်ကြီးကို ဆောက်လုပ် လှူဒါန်းသည်။ ကျောင်းမြေဝယ်ရာ၌ ၁၈-ကုဋေ၊ ကျောင်းဆောက်ရာ၌ ၁၈-ကုဋေ၊ ကျောင်းပူဇော်ပွဲ၌ ၁၈-ကုဋေ အားဖြင့် စုစုပေါင်း ၅၄-ကုဋေ အကုန်အကျ ခံ၍ ဆောက်လုပ် လှူဒါန်းသည်။

ဝိသာခါသည် ပုဗ္ဗာရုံကျောင်းတိုက်ကြီးကို ၂၇-ကုဋေ အကုန်အကျ ခံ၍ ဆောက်လုပ်လှူဒါန်းသည်။ ကျောင်းမြေဝယ်ရာ၌ ၉-ကုဋေ၊ ကျောင်းဆောက် ရာ၌ ၉-ကုဋေ၊ ကျောင်းပူဇော်ပွဲ၌ ၉-ကုဋေအားဖြင့် စုစုပေါင်း ၂၇-ကုဋေ အကုန်အကျ ခံ၍ ဘုရားသာသနာတော်၌ စွန့်လွှတ်လှူဒါန်းသည်။

သီရိဓမ္မာသောက မင်းကြီးသည် နိဂြောဓထေရ်ကို အကြောင်းပြု၍ သာသနာ့မတော်၌ သက်ဝင် ယုံကြည်ကာ အသောကာရုံကျောင်းတော်ကြီး ဆောက်လုပ် လှူဒါန်းသည်၊ ဓမ္မက္ခန္ဓာပေါင်း ရှစ်သောင်းလေးထောင် ရှိ၍ တရားတော်ကို ပူဇော်သောအားဖြင့် တစ်နေ့တည်း ၉၆-ကုဋေ ဒင်္ဂါးကုန်အကျ ခံကာ တစ်မြို့လျှင် တစ်ကျောင်းကျစီ ကျောင်းပေါင်း ရှစ်သောင်းလေးထောင် ဆောက်လုပ်လှူဒါန်းသည်။

ဗိမ္ဗိသာရမင်းကြီးသည် ဘုရားအမှူးရှိသော သံဃာတော်များ သီတင်း သုံးရန် သင့်လျော်လျောက်ပတ်သည့် သူ၏ ဝေဠုဝန်ဥယျာဉ်ကြီးကို ကျောင်း တိုက်အဖြစ် လှူဒါန်းသည်။

နန္ဒိယသူဌေးသားသည် ကျောင်းဆောက်လှူဒါန်းခြင်း၏ အကျိုးအာနိသင် ကို ကြားနာရ၍ ဣသိပတန မိဂဒါဝုန်တောအတွင်း၌ ကျောင်းတော်ကြီး ဆောက်လုပ်၍ ခုတင်ညောင်စောင်းများပါ ဘုရားအမှူးရှိသော သံဃာတော် များအား လှူဒါန်းသည်။ ရေစက်သွန်းချသည်နှင့် တပြိုင်နက် တာဝတိံသာ နတ်ပြည်၌ အကျယ် ၁၂-ယူဇနာ, အမြင့် ယူဇနာ ၁၀၀-ရှိ၍ (ရတန ၇-ပါး) အတိပြီးသော နတ်သမီးဖောပေါင်း အခြံအရံပါရှိသည့် နတ်ဘုံပြာသာဒ်ပေါ် ထွက် ခဲ့သည် (ဓမ္မ၊ဋ္ဌ၊၂။၁၇၉–၁၈၀)။

အရှင်အနုရုဒ္ဓါမထေရ်၏ နှမ ရောဟိနီ သာကီဝင်မင်းသမီးသည် မထေရ် မြတ်၏ စီမံပေးချက်အရ နှစ်ထပ်ဆွမ်းစားကျောင်း ဆောက်လုပ်လှူဒါန်းသည်။ ဆွမ်းစားဆောင်အောက်ထပ် ရဟန်းတော်များ ဆွမ်းဘုဉ်းပေးရာ အရပ်၌ အမြဲ တံမြက်လှည်း၍ နေရာခင်းကျင်းသည်။ ရဟန်းတော် များအတွက် သောက်ရေအမြဲခပ်သည်။ ထိုကုသိုလ်ကြောင့် ကိုယ်ရေပြားရောဂါပျောက်ကင်း သည် (ဓမ္မ၊ဋ္ဌ၊၂။၁၉၂)။

မဂဓတိုင်း မစလရွာသား မာဃလုလင် အမှူးပြုသော ၃၃-ယောက်သော အမျိုးသားတို့သည် လမ်းခင်းခြင်း၊ လမ်းပြင်ခြင်း၊ လမ်းဆုံလမ်းမများ၌ လူအများ အပန်းဖြေ နားနေနိုင်ရန် ဇရပ်များ ဆောက်လုပ်လှူဒါန်းခဲ့ကြသည် (ဓမ္မ၊ဋ္ဌ၊၁။၁၆၉)။

ဆေးလှူရကျိုး

ဆေးကို လှူဒါန်းခြင်းသည် အသက်ကို ရှည်စေနိုင်၏။ အသက်ရှည်ခြင်း အကြောင်းတရားများတွင် ဆေးလှူခြင်းလည်း အကြောင်းတစ်ပါးဖြစ်သည်။ ထို့ကြောင့် မန်လည် ဆရာတော်ဘုရားကြီးက—

"ရေစစ်, ဆေး, ကျောင်း၊ အဟောင်း ပြုပြင်၊ ပဋ္ဌင် အဋ္ဌ၊ ဤငါးဝကား၊ လောကလူပေါင်း၊ သက်ရှည်ကြောင်းတည်း" ဟု– မိန့်ဆိုတော်မူခဲ့ပါသည်။

ဆေးကို လှူဒါန်းခြင်းသည် ခွန်အားကြီးခြင်း အကျိုးကိုလည်း ရရှိစေနိုင်သည်။ ဘုရားရှင် ခွင့်ပြုသည့် ဆေးများတွင် ထောပတ်ဆီဦး စသော ဆေးများသည် အားအင်ကို ပြည့်ဖြိုးစေနိုင်သော ဆေးများ ဖြစ်သည်။ အလှူရှင်များလည်း ထိုကဲ့သို့ တူညီသော အကျိုးကို ရရှိစေနိုင်သည်။

ဆေးလှူဒါန်းခြင်းသည် ပညာဉာဏ်ကြီးခြင်း အကျိုးကိုလည်း ရရှိစေနိုင်သည်။ အားအင် ချိနဲ့နေသော ဂိလာနပုဂ္ဂိုလ်သည် နက်နဲသော အဓိပ္ပာယ်များကို မကြံစည် မဆင်ခြင်နိုင်။ အားအင်ကို ဖြစ်စေနိုင်သည့် ဆေးကို သုံးဆောင်ရသည့်အခါ အားအင် ပြည့်ဖြိုးပြီး အသိဉာဏ်များ ပွင့်လင်းလာ၏။ နက်နဲသော အနက် အဓိပ္ပာယ်များကိုလည်း ကြံစည် စဉ်းစားနိုင်လာ၏။ ဆေးအလှူရှင်များလည်း ထိုကဲ့သို့သော တူသောအကျိုးကို ရရှိစေနိုင်သည်။ ဆေးလှူခြင်း အကျိုးများကား ပိဋကတ်တော်၌ များစွာ ရှိ၏။ ဆေးလှူခြင်းကြောင့် အဆင်းလှခြင်း, အခြံအရံများခြင်း စသော အကျိုးတရားများစွာကိုလည်း ရရှိနိုင်ပါသည်။

ထို့ပြင်—

(၁) အသက်ရှည်ခြင်း၊

(၂) ခွန်အားကြီးခြင်း၊

(၃) ပညာကြီးခြင်း၊

(၄) အဆင်းလှခြင်း၊

(၅) အခြံအရံများ၍ ကျော်စောခြင်း၊

(၆) ဆင်းရဲကင်း၍ ချမ်းသာခြင်း၊

(၇) ဘေးဥပဒ် ကင်းခြင်း၊

(၈) ရောဂါရန်မန် ကင်းခြင်း၊

(၉) လူ, နတ်တို့၏ အပူဇော်ကို ခံရခြင်း၊

(၁၀) ချစ်သူနှင့် မကွဲမကွာရခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

**ထင်ရှားသော ဆေးအလှူရှင်များ**

မြတ်စွာဘုရား ကပိလဝတ်ပြည် နိဂြောဓာရုံ ကျောင်းတော်၌ သီတင်းသုံးတော်မူစဉ် မဟာနာမ် သာကီဝင်မင်းသည် သံဃာတော်များအား လေးလ ပတ်လုံး ဆေးပစ္စည်းလှူဒါန်းခွင့် ဘုရားရှင်အား တောင်းရာ ဘုရားရှင်ခွင့်ပြုတော်မူ၍ ဆေးပစ္စည်းများ လေးလပတ်လုံး လှူဒါန်းခဲ့သည် (ဝိ၊၂။၁၃၅)။

သိရိမ္ဗာသောကမင်းကြီး ဘိသိက်ခံပြီး၍ ရှစ်နှစ်မြောက် အချိန်တွင် ကောန္တပုတ္တတိဿထေရ်သည် လေနာရောဂါ ကုစားရန်အတွက် တစ်လက်ဖက်မျှသော ထောပတ်ကို မရခြင်းကြောင့် ထိုလေနာရောဂါဖြင့်ပင် ပရိနိဗ္ဗာန်စံတော်မူရကြောင်း မင်းကြီးကြားသိရာ "ငါကဲ့သို့သော ပုဂ္ဂိုလ်မျိုး တိုင်းပြည်အုပ်ချုပ်မင်းလုပ်စဉ် ရဟန်းတော်များ ဤကဲ့သို့ ပစ္စည်းလေးပါး ရှားပါးခြင်း မဖြစ်သင့်"ဟု ကြံ၍ မြို့၏ တံခါးလေးပေါက်တို့တွင် လေးထောင့်ကန်ကြီးများ ပြုလုပ်ပြီး ဆေးအပြည့်တည့်၍ လှူဒါန်းစေခဲ့သည် (ဝိ၊ဋ္ဌ၊၁။၃၉)။

စိတ္တအမတ်ကြီးသည် သူ၏ အိမ်သို့ ကြွရောက်လာသော ရဟန်းတော်များအား ပစ္စည်းလေးပါး ချို့တဲ့မှု မရှိရလေအောင် စီမံထားသည်။ တစ်နေ့ ဆေးဖိုးခြောက်ဆယ် အကုန်အကျ ခံ၍ လှူဒါန်းသည် (အာဘိ၊ဋ္ဌ၊၂။၃၂၇)။

အရှင်ဗာကုလအလောင်း ရသေ့သည် အနောမဒဿီဘုရားရှင် လေနာရောဂါ ဖြစ်တော်မူရာ ဟိမဝန္တာတောင်ခြေမှ ဆေးအမျိုးမျိုး ယူဆောင်၍ ဘုရားရှင်အား ဆက်ကပ်လှူဒါန်းခဲ့သည်။ ယင်းဆေးကို ဘုဉ်းပေးရသဖြင့် လေနာရောဂါ ပျောက်ကင်းပြီး ချမ်းချမ်းသာသာ ဖြစ်နေသော ဘုရားရှင်ထံ ချဉ်းကပ်၍ "ဤဆေးလှူရသည့်အကျိုးကြောင့် ဖြစ်လေရာဘဝ၌ နို့တစ်ညှစ်စာ အချိန်မျှ ဘုရားတပည့်တော်၏ ကိုယ်၌ အနာရောဂါ မဖြစ်ပါစေသတည်း"ဟု ဆုတောင်းခဲ့သည်။ ယင်းဆုတောင်းပြည့်သဖြင့် "အနာမဲ့သူ ရှင်ဗာကုလ"ဟု အများတွင်ခဲ့သည် (အံ၊ဋ္ဌ၊၁။၂၃၆)။

ကျောင်းအမကြီး ဝိသာခါသည် ဂိလာန ရဟန်းတော်များအတွက် လျောက်ပတ်သော ဆေးဝါးပစ္စည်းကို မရလျှင် ရောဂါဝေဒနာသော်လည်း တိုးနိုင်သည်၊ ကွယ်လွန်သော်လည်း ကွယ်လွန်နိုင်သည်။ ထိုသို့ မဖြစ်စေရန် အတွက် သံဃာတော်များအား အသက်ထက်ဆုံး ဆေးပစ္စည်း လှူဒါန်းသည် (ဝိ၊၃။၄၀၇)။

### အလှူဒါနအမျိုးမျိုး၏ အကျိုးတရားများ

အလှူဒါနအမျိုးမျိုး၏ အကျိုးတရား အမျိုးမျိုးကို ထိုထိုပါဠိတော်များ၌ ဟောကြားထားရာ ဤနေရာ၌ အကျိုးတရား အကျဉ်းချုပ် သရုပ်မျှကို ဖော်ပြဦးအံ့။ အကျယ်ကို အလိုရှိပါက ထိုထိုပါဠိတော် ကျမ်းဂန်တို့မှ ယူကြပါကုန်။

ဆွမ်းလှူရကျိုး ၄-ပါး

(၁) အသက်ရှည်ခြင်း၊

(၂) အဆင်းလှခြင်း၊

(၃) ချမ်းသာကြီးခြင်း၊

(၄) ခွန်အားကြီးခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

ဆွမ်းလှူရကျိုး ၅-ပါး

(၁) အသက်ရှည်ခြင်း၊

(၂) အဆင်းလှခြင်း၊

(၃) ချမ်းသာကြီးခြင်း၊

(၄) ခွန်အားကြီးခြင်း၊

(၅) ဉာဏ်ပညာကြီးခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

အဝတ်ပုဆိုး လှူရကျိုး ၆-ပါး

(၁) ဖြစ်လေရာ ဘုံဘဝတို့၌ ရွှေနှင့် တူသော အဆင်းရှိခြင်း၊
(၂) အညစ်အကြေး ကင်းစင်ခြင်း၊
(၃) ကိုယ်ရောင်ထွက်ခြင်း၊
(၄) နူးညံ့ပျော့ပျောင်းသော ကိုယ်ရှိခြင်း၊
(၅) ဦးခေါင်းထက်၌ အရောင် အမျိုးမျိုး ရှိသော ပုဆိုးပေါင်း တစ်သိန်းတို့ မိုးကာခြင်း၊
(၆) ပိုးထည်, ကမ္ဗလာထည်, ဖဲထည်, ဝါထည် ပုဆိုးတို့ကို အလိုရှိသမျှ ရနိုင်ခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

ထီး လှူရကျိုး ၈-ပါး

(၁) အချမ်း အပူ မခံရခြင်း၊
(၂) ဖုံမှုန့် အညစ်အကြေး မလိမ်းမကပ်ခြင်း၊
(၃) ဘေး ဥပဒ္ဒဝေါ မရှိခြင်း၊
(၄) ရောဂါရန်မန် ဒဏ်အမျိုးမျိုးတို့မှ ကင်းရှင်းခြင်း၊
(၅) လူ, နတ် အပေါင်းတို့၏ အပူဇော်ကို ခံရခြင်း၊
(၆) အရေအသား နူးညံ့သိမ်မွေ့ခြင်း၊
(၇) စိတ်နှလုံး သန့်ရှင်းကြည်လင်ခြင်း၊
(၈) သံသရာတခွင်၌ တန်ဆာဆင်အပ်သော ထီးပေါင်း တစ်သိန်းတို့ မိုးကာခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

သပိတ် လှူရကျိုး ၈-ပါး

(၁) ရွှေခွက်, မြခွက်, ငွေခွက်, ပတ္တမြားခွက်တို့ကို ရရှိ သုံးဆောင်ရခြင်း၊
(၂) ဘေးဥပဒ် မရှိခြင်း၊
(၃) ရောဂါရန်မန် ကင်းရှင်းခြင်း၊

(၄) လူ, နတ်အပေါင်းတို့၏ ပူဇော်မြတ်နိုးသည်ကို ခံရခြင်း၊
(၅) လာဘ်များခြင်း၊
(၆) စည်းစိမ်ချမ်းသာ မပျက်စီးနိုင်ဘဲ တည်ခိုင်ခြင်း၊
(၇) စိတ်နှလုံး တည်တံ့ခြင်း၊
(၈) ကိလေသာ အာသဝေါ နည်းပါးစွာနှင့် အမြတ်တရားကိုသာ လိုလားခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

ပဲကွပ်လှူရကျိုး ၇-ပါး

(၁) ရဲရင့်ခြင်း၊
(၂) ထိတ်လန့် တုန်လှုပ်မှု ကင်းခြင်း၊
(၃) ရဲရင့်မှု ဝေသာရဇ္ဇဂုဏ်နှင့် ပြည့်စုံခြင်း၊
(၄) မယိမ်း မယိုင် ခိုင်ခံ့ခြင်း၊
(၅) ဝီရိယစွမ်းအင် ထက်သန်ခြင်း၊
(၆) စိတ်နေစိတ်ထား မြင့်မားခြင်း၊
(၇) ကိလေသာကို ဖြတ်နိုင်သော အရဟတ္တမဂ်ဉာဏ်နှင့် ပြည့်စုံခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

ခေါင်းငယ်လှူရကျိုး ၅-ပါး

(၁) မိတ်ဆွေကောင်းကို ရရှိခြင်း၊
(၂) ဝီရိယစွမ်းအင် ထက်သန်ခြင်း၊
(၃) သည်းခံခြင်း ဂုဏ်နှင့် ပြည့်စုံခြင်း၊
(၄) မေတ္တာလက်နက်ကို ကိုင်ဆောင်ရခြင်း၊
(၅) ဝရဇိန်လက်နက် မိုးကြိုးစက်နှင့် တူသည့် အရဟတ္တ မဂ်ဉာဏ် လက်နက်ကို ရရှိခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

လက်သည်းထိုးစား လှူရကျိုး ၅-ပါး

(၁) ကျွန်မိန်းမ, ကျွန်ယောကျ်ားတို့ကို ရရှိခြင်း၊

(၂) နွား, မြင်း အစရှိသည့် ယာဉ် တိရစ္ဆာန်များကို ရရှိခြင်း၊

(၃) အလုပ်သမားတို့ကို ရရှိခြင်း၊

(၄) မှီခို ခစားလာသော သူတို့ကို ရရှိခြင်း၊

(၅) ဆတ္တာသည်, တင်းပြင်သမား, တင်းချက်သမားတို့ကို ရရှိခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

အပ်လှူရကျိုး ၇-ပါး

(၁) မိမိကိုယ်တိုင် ယောင်ယောင်ဝါးဝါးနှင့် ယုံမှားတွေဝေမှု မရှိခြင်း၊

(၂) သူတပါးတို့၏ ယုံမှား သက်ာကို ပယ်ဖျောက်နိုင်ခြင်း၊

(၃) အဆင်းလှခြင်း၊

(၄) စည်းစိမ် ချမ်းသာ များပြားခြင်း၊

(၅) ပညာထက်မြက်ခြင်း၊

(၆) နက်နဲ သိမ်မွေ့သည့် သဘော အဓိပ္ပာယ်တို့ကို လွယ်ကူစွာ သိမြင်နိုင်ခြင်း၊

(၇) မောဟမှောင်ကြီးကို ဖျက်ဆီးနိုင်သော အရဟတ္တမဂ်ဉာဏ်ကို ရရှိခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

နှီး/ထန်းရွက် ယပ်တောင်လှူရကျိုး ၃-ပါး

(၁) အချမ်း အပူဖြင့် မတွေ့ထိရခြင်း၊

(၂) သူတပါးအတွက်လည်း မပူရ, မိမိအတွက်လည်း မပူရ, စိတ်နှလုံး ချမ်းမြေ့ခြင်း၊

(၃) ရာဂမီး, ဒေါသမီး, မောဟမီး, မာနမီး, ဒိဋ္ဌိမီး မီးအမျိုးစုံ အကုန် ချုပ်ငြိမ်းခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

**ဓမ္မကရိုဏ်း, ရေစစ် လှူရကျိုး ၄-ပါး**

(၁) နတ်ပြည်၌ ဖြစ်ရသောအခါ အခြားနတ်တို့ထက် သာလွန်သော နတ်သက်ကို ရရှိခြင်း၊

(၂) ခိုးသူနှင့် ရန်သူတို့ မနှိပ်စက်နိုင်ခြင်း၊

(၃) ဓား, လှံ, သေနတ် ငြိမ်းစီးခြင်း၊

(၄) ဥပစ္ဆေဒကကံမျိုးဖြင့် မသေနိုင်ခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

**ဆီကျည်တောက်—ဆီဗူးလှူရကျိုး ၅-ပါး**

(၁) ရုပ်အဆင်း တင့်တယ်ခြင်း၊

(၂) ကြွန်အင်လက္ခဏာ ကောင်းခြင်း၊

(၃) စိတ်နေ စိတ်ထား ကြီးမား မြင့်မြတ်ခြင်း၊

(၄) စိတ် မပျံ့လွင့်ခြင်း၊

(၅) အစောင့်အရှောက်တို့ဖြင့် လုံခြုံစွာ စောင့်ရှောက်အပ်ခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

**အပ်ကျည်—အပ်ဗူးလှူရကျိုး ၃-ပါး**

(၁) စိတ်၏ ချမ်းသာခြင်း၊

(၂) ကိုယ်၏ ချမ်းသာခြင်း၊

(၃) ဣရိယာပုထ်လေးပါးစုံ အကုန်ချမ်းသာခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

**ပခုံးလွယ်ကြိုး (အံသကိုဋ္ဌိ) လှူရကျိုး ၃-ပါး**

(၁) သူတော်ကောင်းတရားတို့၌ ထောက်တည်ရာ ရရှိနိုင်ခြင်း၊

(၂) ဖြစ်ပြီး ဖြစ်လတ္တံ့သော ဒုတိယဘဝကို သိမြင်နိုင်ခြင်း၊

(၃) အရေအဆင်း ကောင်းခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

ခါးပန်းကြိုး လှူရကျိုး ၆-ပါး

(၁) သမာဓိ မပျက်စီးခြင်း၊

(၂) သမာဓိကို စိုးပိုင်ခြင်း၊

(၃) ပရိသတ် မပြိုမကွဲခြင်း၊

(၄) သူတပါးတို့ နားဝင်အောင် ပြောဆိုနိုင်ခြင်း၊

(၅) သတိ ခိုင်မြဲခြင်း၊

(၆) ထိတ်လန့် တုန်လှုပ်မှု မရှိခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

သပိတ်ခြေ လှူရကျိုး ၅-ပါး -

(၁) မတုန်မလှုပ်ခြင်း၊

(၂) အကြွားအမြင် မျှားခြင်း၊

(၃) သတိဉာဏ်တို့ဖြင့် အဖန်ဖန် နှိုးဆော်၍ ပေးနိုင်ခြင်း၊

(၄) အကြွားအမြင် ဟူသမျှ မပျက်စီးဘဲ ခိုင်မြဲခြင်း၊

(၅) ဆုံးဖြတ်နိုင်သော ဉာဏ်ပညာနှင့် ပြည့်စုံခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

အိုးလှူရကျိုး ၇-ပါး

(၁) ရွှေအိုး, မြအိုး, ဖန်အိုး, ပတ္တမြားအိုးတို့ကို ရရှိခြင်း၊

(၂) ချစ်ဖွယ်ကောင်းသော မယား, ကျွန်ယောကျ်ား, ကျွန်မိန်းမ တို့ကို ရရှိခြင်း၊

(၃) လင်၏ အကြိုက် အလိုလိုက်သော မိန်းမကို ရရှိခြင်း၊

(၄) ပစ္စည်း ပရိဘောဂ အသုံးအဆောင် အမျိုးမျိုးကို ရရှိခြင်း၊

(၅) ဝိဇ္ဇာတို့နှင့် သက်ဆိုင်သော ဂါထာမန္တန် အမျိုးမျိုးတို့ကို တတ်ကျွမ်းခြင်း၊

(၆) ယုတ္တိအာဂုံ အမျိုးမျိုးတို့ကို ရရှိခြင်း၊

(၇) တစ်ဆယ့်ရှစ်ရပ်သော အတတ်အမျိုးမျိုးကို တတ်ကျွမ်းခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

**ခွက်လှူရကျိုး ၂-ပါး**

(၁) ရွှေခွက်, မြခွက်, ဖန်ခွက်, ပတ္တမြားခွက်, ခရုသင်းခွက်တို့ကို ရရှိခြင်း၊

(၂) ကျင့်ဝတ် ပဋိပတ်နှင့် ပြည့်စုံခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

**ဖိနပ်လှူရကျိုး ၄-ပါး**

(၁) ဆင်ယာဉ်, မြင်းယာဉ်, ထမ်းစင် သန်လျင်းပေါင်း ခြောက်သိန်း ရရှိခြင်း၊

(၂) ခြေလှမ်းတိုင်း ခြေလှမ်းတိုင်း မြခြေနင်း, ကမ္ဗလာခြေနင်း, ရွှေခြေနင်း, ငွေခြေနင်းတို့က ဖဝါး လှမ်းတိုင်း လှမ်းတိုင်း ခံလာရခြင်း၊

(၃) သံသရာမှ ထွက်မြောက်ရာ ဖြစ်သော လမ်းသို့ သတိတရား ပြေးသွားခြင်း၊

(၄) အကျင့်စင်ကြယ်အောင် သုတ်သင်ခြင်း၌ သတိပြန်လာခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

**ခြေနင်းလှူရကျိုး ၁-ပါး**

တန်ခိုးခြေနင်းကို တက်စီးပြီး အလိုရှိသလို နေနိုင်ခြင်း—

ဟူသော အကျိုးထူးကို ခံစားရသည်။

**ရေသုတ်ပဝါလှူရကျိုး ၆-ပါး**

(၁) ရွှေအဆင်းနှင့် တူသော အဆင်းရှိခြင်း၊

(၂) အညစ်အကြေး ကင်းစင်ခြင်း၊

(၃) ကိုယ်ရောင်ကိုယ်ဝါ ထွက်ခြင်း၊

(၄) တန်ခိုးရှိန်စော် အာနုဘော်ကြီးခြင်း၊

(၅) ကိုယ်ရေကိုယ်သား နူးညံ့ပျော့ပျောင်းခြင်း၊

(၆) ကိုယ်၌ ဖုံမှုန့်မလိမ်း မကပ်ခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

**တောင်ဝှေးလှူရကျိုး ၆-ပါး**

(၁) သားကောင်းရတနာများ ထွန်းကားခြင်း၊
(၂) ကြောက်ရွံ့ထိတ်လန့်မှု မရှိခြင်း၊
(၃) သူတကာတို့ မနှိပ်စက်နိုင်ခြင်း၊
(၄) အလုံးစုံသော အစောင့်အရှောက်တို့ဖြင့် စောင့်ရှောက်အပ်ခြင်း၊
(၅) ချွတ်ချော်တိမ်းပါးမှု မရှိခြင်း၊
(၆) စိတ်ခိုင်မြဲခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

**မျက်စဉ်းဆေးလှူရကျိုး ၈-ပါး**

(၁) လှပကျယ်ဝန်းသော မျက်လုံးကောင်းကို ရရှိခြင်း၊
(၂) မျက်စိ၌ ဖြူသင့်ရာ ဖြူခြင်း၊
(၃) မျက်စိ၌ ဝါသင့်ရာ ဝါခြင်း၊
(၄) မျက်စိ၌ နီသင့်ရာ နီခြင်း၊
(၅) အလွန်ကြည်လင်သော မျက်လုံးကို ရရှိခြင်း၊
(၆) ရောဂါဥပဒ်သီမ်းမှ ကင်းရှင်းခြင်း၊
(၇) နတ်မျက်စိနှင့် တူသော မျက်စိကို ရရှိခြင်း၊
(၈) အတုမရှိသော ပညာမျက်စိကို ရရှိခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

**သော့လှူရကျိုး ၁-ပါး**

နိဗ္ဗာန်တံခါးကို ဖွင့်စေနိုင်သော ဉာဏ်တည်းဟူသော သော့ကို ရရှိခြင်း–

ဟူသော အကျိုးထူးကို ခံစားရသည်။

**သော့အိမ်– သော့ခလောက် လျှုရကျိုး ၂-ပါး**

(၁) အမျက်ဒေါသ နည်းပါးခြင်း၊

(၂) မပင်ပန်းခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

**အာယောဂပတ်လျှုရကျိုး ၅-ပါး**

(၁) ပဥ္စမဈာန်စသော သမာဓိတို့၌ မတုန်လှုပ်ခြင်း၊

(၂) ပဥ္စမဈာန်စသော သမာဓိတို့၌ အလေ့အကျင့်ရှိသူ ဖြစ်ခြင်း၊

(၃) ပရိသတ် မပြိုကွဲခြင်း၊

(၄) အခါခပ်သိမ်း မိမိစကားကို လေးစားလိုက်နာကြခြင်း၊

(၅) စည်းစိမ်ဥစ္စာနှင့် ပြည့်စုံခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

**ဆေးလိပ်, ဆေးတံလျှုရကျိုး ၃-ပါး**

(၁) ဖြောင့်မတ်သော သတိရှိခြင်း၊

(၂) ကောင်းစွာ ဖွဲ့အပ်သော အကြောရှိခြင်း၊

(၃) နတ်မျက်စိနှင့် တူသော မျက်စိကို ရရှိခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

**ဆီမီးတိုင်လျှုရကျိုး ၃-ပါး**

(၁) အမျိုးမြတ်ခြင်း၊

(၂) ကြွန်အင်သဏ္ဌာနနှင့် ပြည့်စုံခြင်း၊

(၃) ပညာကြီးခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

**ဗူးနှင့် ကြုတ်လှူရကျိုး ၁၀-ပါး**

(၁) ဘေးရန်အမျိုးမျိုးမှ လုံခြုံခြင်း၊

(၂) ချမ်းသာခြင်း၊

(၃) များသော အခြံအရံ ရှိခြင်း၊

(၄) ဂတိဝိပတ္တိမှ ကင်းခြင်း၊

(၅) နူးညံ့သိမ်မွေ့ခြင်း၊

(၆) ဆင်းရဲကင်းခြင်း၊

(၇) ကြီးကျယ်ပြန့်ပြောသော ဂုဏ်တို့ကို ရခြင်း၊

(၈) ခြေဖဝါး ညီညွတ်ခြင်း၊

(၉) ထိတ်လန့်မှု ကင်းခြင်း၊

(၁၀) ရွှေ ငွေ မြ ဖန် အဆင်း ၄-မျိုး ရှိသော ဗူးနှင့် ကြုတ်များ, ဆင်ရတနာများ, မြင်းရတနာများကို ရသည့်အပြင် ထိုရတနာ အားလုံး ပျောက်ပျက်မသွားခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

**လက်သုတ်ပဝါ လှူရကျိုး ၅-ပါး**

(၁) ကောင်းခြင်း လက္ခဏာအားလုံးနှင့် ပြည့်စုံခြင်း၊

(၂) အသက်ရှည်ခြင်း၊

(၃) ဉာဏ်ပညာကြီးခြင်း၊

(၄) သမာဓိအား ကောင်း (စိတ်တည်ကြည်) ခြင်း၊

(၅) နွမ်းနယ်မှုကင်း အမြဲရွှင်လန်းခြင်း—

ဟူသော အကျိုးထူးများကို ခံစားရပါသည်။

**သင်တုန်းဓားလှူရကျိုး ၁-ပါး**

ကိလေသာကို ဖြတ်နိုင်သော သန့်စင်သော အတုမဲ့ဉာဏ်ကို ရရှိခြင်း—

ဟူသော အကျိုးထူးကို ခံစားရသည်။

**ဓမ္မနုဿဿတိ လျှုရကျိုး ၁-ပါး**

ကိလေသာကို နှုတ်ပယ်နိုင်သော သန့်စင်သော အတုမဲ့ဉာဏ်ကို ရရှိခြင်း— ဟူသော အကျိုးထူးကို ခံစားရသည်။

**နှာခွပ်တံ လှူရကျိုး ၈-ပါး**

(၁) သဒ္ဓါတရားရှိခြင်း၊
(၂) သီလရှိခြင်း၊
(၃) ဟိရီရှိခြင်း (မကောင်းမှုမှ ရှက်ခြင်း)၊
(၄) ဩတ္တပ္ပရှိခြင်း (မကောင်းမှုမှ လန့်ခြင်း)၊
(၅) ဗဟုသုတ ရှိခြင်း၊
(၆) စွန့်ကြဲပေးကမ်း လှူဒါန်းခြင်း၊
(၇) သည်းခံခြင်း၊
(၈) ပညာဉာဏ်ရှိခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

**မင်းပျဉ် လှူရကျိုး ၅-ပါး**

(၁) အမျိုးမြတ်ခြင်း၊
(၂) ပစ္စည်းဥစ္စာ ပေါများခြင်း၊
(၃) သူခပ်သိမ်းတို့၏ အပူဇော်ကို ခံယူရခြင်း၊
(၄) ကောင်းသတင်း ကျော်စောခြင်း၊
(၅) ကမ္ဘာတစ်သိန်းပတ်လုံး ရတနာပလ္လင်၌ စံနေရခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

ဘုံလျှိုမွေ့ ရာလှူရကျိုး ၆-ပါး

(၁) ပြေပြစ်ညီညွတ်သော ခန္ဓာကိုယ် ရှိခြင်း၊

(၂) အပူဇော်ခံရခြင်း၊

(၃) နူးညံ့သူ ဖြစ်ခြင်း၊

(၄) ရှုချင်စဖွယ် လှပတင့်တယ်သူ ဖြစ်ခြင်း၊

(၅) အခြံအရံနှင့် တကွဖြစ်သော ဉာဏ်ကို ရခြင်း၊

(၆) ကောင်းမွန်သော အခင်း အမျိုးမျိုးကို ရရှိ၍ ချွန်တည်း ဟူသော ညောင်စောင်းကို ရခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

ခေါင်းအုံးလှူရကျိုး ၆-ပါး

(၁) သားမွေး သွတ်သော ခေါင်းအုံး, ပဒုမ္မာဝတ်ဆံ သွတ်သော ခေါင်းအုံး, စန္ဒကူးအဆာသွတ်သော ခေါင်းအုံးတို့ကို အုံးရခြင်း၊

(၂) မဂ်ဖိုလ်အကြောင်းကို သိခြင်း၊

(၃) ပေးကမ်းရမှန်း, ဣန္ဒြေများကို ဆုံးမရမှန်း, ကိုယ်နှုတ် နှလုံးတို့ကို စောင့်စည်း ရမှန်း သိ၍ ဗြဟ္မဝိဟာရတရား လေးပါးနှင့် ရူပဈာန်များ အကြောင်းကို သိခြင်း၊

(၄) ဝတ်အကျင့် သီလစသော ဂုဏ်, အလေ့အကျင့်တို့ကို တတ်သိ နားလည်ခြင်း၊

(၅) စင်္ကြံသွားနည်း, ကမ္မဋ္ဌာန်း အားထုတ်နည်း, ဝီရိယအကြောင်း ဗောဓိပက္ခိယ တရားအကြောင်း သိနိုင်ခြင်း၊

(၆) (လောကုတ္တရာ) သီလ, သမာဓိ, ပညာ, အရဟတ္တဖိုလ်တို့ကို သိရ၍ ချမ်းသာစွာ နေရခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

ပျဉ်ချပ်အင်းပျဉ်လှူရကျိုး ၂-ပါး

(၁) ရွှေပလ္လင်, ပတ္တမြားပလ္လင်တို့ကို ရခြင်း၊

(၂) များစွာသော ဆင်စွယ်ပလ္လင်, စန္ဒကူးပလ္လင်တို့ကို ရခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

**ခြေဆေးအင်းပျဉ်လှူရကျိုး ၂-ပါး**

(၁) များစွာသော ယာဉ်တို့ကို ရခြင်း၊

(၂) အစေခံများ, ဇနီးများ, မှီခို နေသူများက ကောင်းစွာ လုပ်ကျွေးခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

**ခြေနယ်ဆီလှူရကျိုး ၅-ပါး**

(၁) အနာရောဂါကင်းခြင်း၊

(၂) အဆင်းလှခြင်း၊

(၃) လျင်စွာ တရားကို စူးစမ်းနိုင်ခြင်း၊

(၄) ထမင်းအဖျော်တို့ကို လွယ်ကူစွာ ရခြင်း၊

(၅) အသက်ရှည်ခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

**ထောပတ်ဆီ လှူရကျိုး ၅-ပါး**

(၁) ခွန်အားကောင်းခြင်း၊

(၂) အဆင်းလှခြင်း၊

(၃) အခါခပ်သိမ်း ရွှင်လန်းသော မေ့းညင်းရှိခြင်း (အခါခပ်သိမ်း ရွှင်လန်းတင့်တယ်သော ကိုယ်ရှိခြင်း)၊

(၄) အနာရောဂါ ကင်းခြင်း၊

(၅) သန့်ရှင်းခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

**သွားတိုက်ဆေး လှူရကျိုး ၅-ပါး**

(၁) လည်ချောင်း သန့်ရှင်းခြင်း၊

(၂) အသံ သာယာခြင်း၊

(၃) ချောင်းဆိုးရောဂါ ကင်းခြင်း၊

(၄) ပန်းနာရောဂါ ကင်းခြင်း၊

(၅) ခံတွင်းမှ ကြာညိုနံ့ သင်းခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

နို့ဓမ်းလှူရကျိုး ၂-ပါး

(၁) ကာယဂတာသတိကို ရခြင်း၊

(၂) ကောင်းမြတ်သော အာဟာရကို ရခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

ပျားရည်လှူရကျိုး ၁-ပါး

အရဟတတ္တဖိုလ်ကို ရခြင်း—

ဟူသော အကျိုးထူးကို ခံစားရသည်။

အရသာရှိသော အဟာရ လှူရကျိုး ၁-ပါး

ဖိုလ် ၄-ပါးကို ရခြင်း—

ဟူသော အကျိုးထူးကို ခံစားရသည်။

ထမင်းအဖျော်လှူရကျိုး ၁၀-ပါး

(၁) အသက်ရှည်ခြင်း၊

(၂) ခွန်အားကောင်းခြင်း၊

(၃) တည်ကြည်ခြင်း၊

(၄) အဆင်းလှခြင်း၊

(၅) အခြံအရံများခြင်း

(၆) ချမ်းသာကြီးခြင်း

(၇) ထမင်းကို ရခြင်း၊

(၈) အဖျော်ကို ရခြင်း၊

(၉) ရဲရင့်ခြင်း၊

(၁၀) အခါခပ်သိမ်း ပညာရှိသူ ဖြစ်ရခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည်။

အစမွှးတိုင် အခိုးအလျှံလှူရကျိုး ၁၀-ပါး

(၁) ကိုယ်အနံ့မွှေးသူ ဖြစ်ရခြင်း၊

(၂) အခြံအရံများသူ ဖြစ်ရခြင်း၊

(၃) သွက်လက် လျင်မြန်သော ဉာဏ်ပညာရှိသူ ဖြစ်ရခြင်း၊

(၄) ကျော်စောသူ ဖြစ်ရခြင်း၊

(၅) ထက်မြက်သော ပညာရှိသူ ဖြစ်ရခြင်း၊

(၆) မြေကြီးအထုနှင့် တူသော ပညာရှိသူ ဖြစ်ရခြင်း၊

(၇) ရွှင်သော ပညာ(ဟာသပညာ)ရှိသူ ဖြစ်ရခြင်း၊

(၈) နက်နဲသော ပညာရှိသူ ဖြစ်ရခြင်း၊

(၉) ပြန့်ပြော(ကျယ်ပြန့်)သော ပညာရှိသူ ဖြစ်ရခြင်း။

(၁၀) နိဗ္ဗာန်ချမ်းသာကို ရခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

**တံတားလှူရကျိုး ၁၀-ပါး**

(၁) ချောက်ကမ်းပါး၊ တောင်၊ သစ်ပင်များမှကျသော်ဆောက်တည်ရာ တစ်ခုခုရနိုင်ခြင်း၊ စုတေသော် သုဂတိဘဝကိုရခြင်း၊

(၂) ရန်သူတို့က မနှိပ်စက်နိုင်ခြင်း၊

(၃) ခိုးသူတို့က မနှိပ်စက်နိုင်ခြင်း၊

(၄) မင်းတို့က မထီမဲ့မြင် မအောက်မေ့ခြင်း၊

(၅) ရန်သူခပ်သိမ်းတို့ကို လွန်မြောက်ခြင်း၊

(၆) လှိုင်းထီးခေါင်၌ နေစေကာမူ ကြမ်းတမ်းသော နေပူက မနှိပ်စက်နိုင်ခြင်း၊

(၇) နတ်ပြည်၌ဖြစ်စေ၊ လူ့ပြည်၌ဖြစ်စေ လိုလားရာအခါ၌ ကောင်းစွာ ဖန်ဆင်းအပ်သော ဆင်ယာဉ် ပေါ်လာခြင်း၊

(၈) လေကဲ့သို့ လျင်မြန်သော သိန္ဓောမြင်း တစ်ထောင် ညအချိန် နံနက်အချိန်များ၌ ချဉ်းကပ်လာခြင်း၊

(၉) ဆင်ပျံရတနာဖြင့် ကောင်းကင်၌ သွားနိုင်ခြင်း၊

(၁၀) အာသဝေါ ကုန်ခန်း ရဟန္တာဖြစ်၍ ပရိနိဗ္ဗာန်ပြုရခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

**ယာဉ်လှူရကျိုး ၁၀-ပါး**

(၁) တာဝတိံသာနတ်ပြည်သို့ ရောက်ရခြင်း၊

(၂) ပဋ္ဌမြားနတ်ဗိမာန်၌ နတ်သမီးများနှင့် အတူ ဝမ်းမြောက်ဝမ်းသာ ပျော်မွေ့ရခြင်း၊

(၃) သုံးဆယ့်သုံးကြိမ် သိကြားမင်း ဖြစ်ရခြင်း၊

(၄) အကြိမ် သုံးဆယ် စကြဝတေးမင်း ဖြစ်ရခြင်း၊

(၅) ပဒေသရာဇ်မင်း စည်းစိမ်ကို အပိုင်းအခြား မရှိအောင် ခံစားရခြင်း၊

(၆) နောက်ဆုံးဘဝ၌ ရဟန်းပြုရ၍ ဆံချသည်နှင့် တပြိုင်နက် ဇာရေးထူးကို ရခြင်း၊

(၇) ဘဝသစ်၌ သိက္ခာပုဒ်ကို မဆောက်တည်ရသေးမီ (သရဏဂုံ မဆောက်တည်ရသေးမီ) အရဟတ္တဖိုလ်ကို ရခြင်း၊

(၈) နိဗ္ဗာန်သို့ ရောက်ရခြင်း၊

(၉) စိုးရိမ် ငိုကြွေးမှု မဖြစ်ရခြင်း၊

(၁၀) ဖျားနာမှု မဖြစ်ရခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

ယာဂုလှူရကျိုး ၅-ပါး (တနည်း)

(၁) အနာရောဂါ ကင်းခြင်း၊

(၂) အဆင်းလှခြင်း၊

(၃) တရားကို လျင်မြန်စွာ သိခြင်း၊

(၄) ထမင်း အဖျော်ကို လွယ်ကူစွာ ရခြင်း၊

(၅) အသက်ရှည်ခြင်း–

ဟူသော အကျိုးထူးများကို ခံစားရသည်။

ဒါနပြုသူ, မပြုသူတို့ ကွာခြားပုံ

ဒါနပြုသူ ဒါနရှင်သည် လူဖြစ်စေ, နတ်ဖြစ်စေ ဖြစ်လေရာ ဘဝတိုင်း၌ ဒါနပြုသူ ဒါနရှင်ကသာ ဒါနမဲ့သူထက် အာယု, ဝဏ္ဏ, သုခ, ယသ, အာဓိပတေယျ (အသက်ရှည်ခြင်း, အဆင်းလှခြင်း, ကိုယ်စိတ်ချမ်းသာခြင်း, အခြံအရံအကျော် အစောများခြင်း, အစိုးရခြင်း)ဟူသော အကျိုးငါးပါးဖြင့် ထူးကဲသာလွန်၏။ တခြားကုသိုလ်ကြောင့် လူနတ်ဖြစ်ချင်း တူသော်လည်း ဒါနရှင်ကသာ သာလွန် မြင့်မြတ်သည်။

ပေးလှူသူနှင့် မပေးလှူသူတို့သည် သဒ္ဓါ၊ သီလ၊ ပညာ တူမျှကြသော်လည်း နတ်လူရဟန်း အဖြစ်တို့၌ မတူကြဘဲ ဒါနရှင်ကသာ ဒါနမဲ့သူထက် အကျိုး ၅-မျိုးဖြင့် ထူးကဲသာလွန်၏။

**ထူးကဲသာလွန်ပုံ**

နတ်ဖြစ်ခဲ့သော် နတ်၌ ဖြစ်သော အသက်၊ အဆင်း၊ ချမ်းသာ၊ အခြံအရံ (အကျော်အစော) အစိုးရခြင်းဟူသော ဤအကြောင်း ၅-မျိုးဖြင့် ပေးလှူသူက မပေးလှူသူထက် ထူးကဲသာလွန်၏။

လူဖြစ်ခဲ့သော် အရှင်မဟာကဿပ၊ အရှင်ဗာကုလ၊ အရှင်အာနန္ဒာတို့ကဲ့သို့ အသက်ရှည်ခြင်း၊ အရှင်မဟာကစ္စည်းထေရ်၊ ဥပ္ပလဝဏ်ထေရီ၊ ခေမာထေရီ၊ ဇနပဒကလျာဏီတို့ကဲ့သို့ အဆင်းလှခြင်း၊ ရဋ္ဌပါလသံတို့သား၊ သောဏ သူဌေးသား၊ ယသ သတို့သားတို့ကဲ့သို့ ချမ်းသာကြီးခြင်း၊ ဓမ္မာသောကမင်းကဲ့သို့ အခြံအရံ (အကျော်အစော) များခြင်း၊ အစိုးရခြင်းဟူသော ဤအကြောင်း ၅-မျိုးတို့ဖြင့် ပေးလှူသူ ဒါနရှင်က မပေးမလှူသူ ဒါနမဲ့ထက် ထူးကဲသာလွန်၏။

ရဟန်းဖြစ်ခဲ့သော် အရှင်ဗာကုလ၊ အရှင်သီဝလိ၊ အရှင်အာနန္ဒာ စသည်တို့ကဲ့သို့ "အလှူခံတော်မူပါ"ဟု တောင်းပန်ခံရသည် ဖြစ်၍ သင်္ကန်း၊ ဆွမ်း၊ ကျောင်း၊ ဆေး ပစ္စည်း ၄-ပါးကို သုံးဆောင်ရသည်က များပြီး တောင်းပန်မခံရဘဲ သုံးဆောင်ရသည်က နည်းပါးခြင်း၊ ချစ် နှစ်လိုဖွယ်သော ကိုယ်၊ နှုတ်၊ စိတ်၊ အမူရာတို့ဖြင့် ပြောဆို ဆက်ဆံကြသော သီတင်းသုံးဖော်တို့နှင့်သာ အတူတကွ နေထိုင်ရခြင်းဟူသော ဤအကြောင်း ၅-မျိုးတို့ဖြင့် ပေးလှူသူက မပေးလှူသူထက် ထူးကဲသာလွန်၏ (အံ၊ ၂။ ၂၇၈။ အံ၊ဋ္ဌ၊၃။၁၇)။

ဒါနပြုသူ၊ မပြုသူ နှစ်ဦးတို့ ကွာခြားသည့် သာဓကဝတ္ထုမှာ ကဿပ ဘုရားရှင် လက်ထက်တော်အခါတုန်းက မိတ်ဆွေ ရဟန်း ၂-ပါးရှိရာ တစ်ပါးက ဒါနရှင် တစ်ပါးက ဒါနမဲ့ ဖြစ်ခဲ့ကြ၏။ ၂-ပါးလုံးပင် သီလပြည့်စုံသဖြင့် ကျွန်ုပ်တို့ ဂေါတမဘုရားလက်ထက်တိုင်အောင် လူ့ပြည် နတ်ပြည်ကျင်လည်ရာဝယ် ဒါနရှင်ကသာ အထက်တန်းကျခဲ့၏။ နောက်ဆုံးဘဝ၌ ကောသလမင်း၏ နန်းတော်တွင် ထိုမိတ်ဆွေရဟန်း ၂-ဦး တွေ့ဆုံကြပြန်ရာ ဒါနရှင်က မင်းသား၊ ဒါနမဲ့သူက အထိန်းတော်သား ဖြစ်၍ ပုခက် ၂-လုံးတွင် ဒါနရှင်က ထီးဖြူဆောင်းလျက် ရွှေပုခက်၊ ဒါနမဲ့က သစ်သား ပုခက်ကို စီးကာ ဘိုကဲ့သို့ အရည်အချင်း ကွာခြားမှုဖြင့်ပင် ကျတ်တမ်းဝင်ကြလေသည်။

ရေအကျိုး ၁၀- ပါး

(၁) သန့်ရှင်းကြည်လင်ခြင်း၊

(၂) ကျော်စောထင်ရှားခြင်း၊

(၃) အခြံအရံ ပေါ်များခြင်း၊

(၄) လျှင်မြန်ဖျတ်လတ် သွက်လက်ပေါ့ပါးခြင်း၊

(၅) ရေငတ်မွတ်သိပ်မှု ကင်းဝေးခြင်း၊

(၆) အသက်ရှည်ခြင်း၊

(၇) အဆင်းလှခြင်း၊

(၈) ကြီးပွားချမ်းသာခြင်း၊

(၉) ခွန်အားကြီးမားခြင်း၊

(၁၀) ပညာဉာဏ် ကြီးပွားခြင်း။

ရေလှူရကျိုး

"ထမင်းအသက် ခုနစ်ရက်၊ ရေအသက် တစ်မနက်" ဆိုသကဲ့သို့ ထမင်းကို ခုနစ်ရက် မစားဘဲ နေနိုင်သော်လည်း ရေကိုမူ တစ်မနက်မျှ မသောက်ရလျှင် မနေနိုင်ပေ။ တန်ဖိုး မဖြတ်နိုင်သော စိန်ရွှေရတနာ ထောင်ပေါင်းများစွာ တို့သည် ရေရှားပါးသော သဲကန္တာရ ခရီးခတွင် လူ၏ အသက်ကို မကယ်တင် နိုင်ဘဲ ရေတစ်ခွက်သည်သာ လူ၏ အသက်ကို ကယ်တင်နိုင်ပေသည်။ ထို့ကြောင့် ရေကို လှူဒါန်းခြင်းသည် အသက်ကို လှူဒါန်းသည်နှင့် တူ၏။ ပကတိ ရေသည် ဗဟိဒ္ဓ အညစ်အကြေးမှန်သမျှကို စင်ကြယ်စေနိုင်သကဲ့သို့ ရေကို လှူဒါန်းခြင်း ဟူသော ကုသိုလ်စေတနာသည် အဇ္ဈတ္တကိလေသာ အညစ်အကြေး အားလုံးကို စင်ကြယ်နိုင်ပေသည်။ ရေကိုလှူဒါန်းလျှင်—

(၁) နတ်မင်းအပေါင်းထက် မြတ်သော နတ်အဖြစ် အကြိမ်များစွာ ဖြစ်ရခြင်း၊

(၂) စကြဝတေးမင်းအဖြစ် အကြိမ်များစွာ ဖြစ်ရခြင်း၊

(၃) အပါယ်လေးပါးသို့ တစ်ကြိမ်တစ်ခါမျှ မရောက်ရခြင်း၊

(၄) ရောက်လေရာအရပ်၌ ရေမရှားခြင်း၊

(၅) ရောဂါကင်း၍ အဆင်းလှခြင်း၊

(၆) ဆောင်းရာသီ၊ နွေရာသီများ၌ လိုအပ်၍ တောင့်တလျှင် ကြီးစွာသော မိုးကို ရွာသွန်းစေနိုင်ခြင်း၊

(၇) ကိလေသာတည်း ဟူသော မြူကင်းခြင်း—

ဟူသော အကျိုးထူးများကို ခံစားရသည် (အပ၊ ၂။၁၉၇)။

ထင်ရှားသော ဓရအလှူရှင်များ

ဥဒကဒါယက မထေရ်သည် ပဒုမုတ္တရ မြတ်စွာဘုရား လက်ထက်တော်က အမြတ်ဆုံး ဖြစ်သော ရဟန်းသံဃာ၌ ကြည်ညို ဝမ်းမြောက်သောစိတ် ရှိသည် ဖြစ်၍ သောက်ရေ သုံးရေတို့ကို လှူဒါန်းသည် (အပ၊ ၂။၇၈)။

ဥဒကဒါယိကာ မထေရီမသည် ဂေါတမ မြတ်စွာဘုရား မပွင့်ပေါ်မီ ကိုးဆယ့်လေးကမ္ဘာထက်၌ ဝိပဿီမြတ်စွာဘုရား လက်ထက်တော်က ဗန္ဓုမတီ မည်သော မြို့တွင် ရေခပ်ခြင်းဖြင့် အသက်မွေးမှုရသော သူဆင်းရဲမ တစ်ယောက် ဖြစ်ခဲ့၏။ ဗန္ဓုမတီမြို့၌ သူဌေး သူကြွယ် မှူးမတ် အိမ်ရှေ့မင်း ပြည့်ရှင်မင်းတို့ သူ့ထက်ငါ အလှူဒါန ပြုကြသည်ကို တွေ့မြင်ရသော ထိုသူဆင်းရဲမသည်—

“အော်– သူတကာတွေမှာတော့ ပစ္စည်းဥစ္စာ ပြည့်စုံသဖြင့် အလှူဒါန ပြုနိုင်ကြပေသည်၊ ငါ့မှာတော့ လှူစရာ ပစ္စည်းဥစ္စာ မရှိပါတကား။ လှူစရာမရှိ၍ အမှုမဲ့ အမှတ်မဲ့ နေခဲ့သော် နောင်ဘဝ သံသရာ တစ်လျှောက်လုံး၌ သည့်ထက်မက ဆင်းရဲဒုက္ခ ကြုံတွေ့ရတော့မည်”—

ဟု စိတ်အကြံ ဖြစ်ပေါ်လာသည်နှင့် တပြိုင်နက် ဆိုင်းနှင့် ရေအိုးကို ယူ၍ မြစ်မှ ရေကို ခပ်ပြီးလျှင် ကျောင်းတိုင်း ကျောင်းတိုင်း၌ သောက်ရေ သုံးရေတို့ကို အဆက်မပြတ် လှူဒါန်းခဲ့၏ (အပ၊ ၂။၁၉၇)။

## အခန်း (၁၃)

### ဒါနစေတနာ သုံးတန်

ဒါနပြုရာ၌ ပြုနည်းမှန်ကန်မှ အကျိုးပေး ထက်သန်နိုင်၏။ အလှူပေး ပုဂ္ဂိုလ်အတွက် အင်္ဂါ ၃-ပါးနှင့် အလှူခံ ပုဂ္ဂိုလ်အတွက် အင်္ဂါ ၃-ပါး ဤသို့ အားဖြင့် အလှူပေး, အလှူခံ ပြည့်စုံရမည့် အင်္ဂါ ၆-ပါးရှိ၏။ ယင်းအင်္ဂါ ၆-ပါးနှင့် ပြည့်စုံသော ဒါနသာ ပြုနည်းမှန်ကန်သော ဒါနဟု ဆိုအပ်၏။ အလှူပေး, အလှူခံ နှစ်ဘက်စလုံး တာဝန်ကျေသော ဒါနလည်းမည်၏။

အလှူပေးပုဂ္ဂိုလ် အလှူဒါယကာဘက်၌ အလှူဒါန တစ်ခုကို ပြုရာတွင်—

- ပုဗ္ဗစေတနာ၊
- မုဉ္စစေတနာ၊
- အပရစေတနာ-ဟု အင်္ဂါ ၃-ပါးရှိ၏။

**ပုဗ္ဗစေတနာ**

မလှူမီ ရှေးအဖို့၌ လှူဖွယ်ဝတ္ထုကို စုဆောင်းရှာဖွေရာ အခါမှ စ၍ "ငါသည် လောကီ, လောကုတ္တရာ များစွာသော စည်းစိမ်တို့၏ အကြောင်းဖြစ်သော အနုဂါမိက (ဘဝစဉ်ဆက် လိုက်တတ်သော) အလှူမျိုးကို လှူရတော့မည်"ဟု ဝမ်းမြောက်ခြင်း ကုသိုလ်စေတနာသည် ပုဗ္ဗစေတနာမည်၏။ ဤ ပုဗ္ဗစေတနာ အခိုက်၌ အလှူဒါနကို အကြောင်းပြု၍ အလှူဒါယကာ အလှူအမ-ဟု ထင်ရှား ကျော်စောလိုသော စိတ်နှင့် မိမိလှူနိုင်ကြောင်း ကြွားဝါလိုသောစိတ်များ မဖြစ် ပေါ်အောင် သတိပြုရမည်။ လှူဖွယ်ဝတ္ထု ပစ္စည်းစုခိုက် အိမ်သားအချင်းချင်း လုပ်ဖော်ကိုင်ဖက်အချင်းချင်း မကျေမနပ်မှု ဒေါသ စသော အကုသိုလ်များ မဖြစ်စေဘဲ အလှူအတွက် တစုံတခုကြောင့် တွန့်တိုစိတ်ပျက်သော မလှူလို ဝန်တိုမစ္ဆရိယစိတ်များ အလျဉ်းမဖြစ်အောင် အရာရာသတိနှင့် စောင့်ထိန်းလျက် လှူဖွယ်အရပ်ရပ်ကို ပျော်ရွှင်ဝမ်းမြောက်စွာ စီစဉ်နိုင်လျှင် ပုဗ္ဗစေတနာအတွက် ပြည့်စုံနေပြီဟု မှတ်ယူနိုင်၏။

**မုဉ္စစေတနာ**

လှူဖွယ်ဝတ္ထု ပစ္စည်းစုကို အလှူခံပုဂ္ဂိုလ်၏ လက်ထဲသို့ ထည့်၍ စွန့်လွှတ် လှူဒါန်းဆဲ လှူဒါန်းတုန်းအခိုက်၌ "အနှစ်သာရ မရှိသော ပစ္စည်းဥစ္စာမှ

အနှစ်သာရရှိသော ကုသိုလ်မျိုးစေ့ကို ထုတ်ယူနေပါတကား"ဟု စိတ်ကြည်လင်ရွှင်ပျသော ကုသိုလ်စေတနာသည် မုဉ္စစေတနာ မည်၏။ ဤ မုဉ္စစေတနာအခိုက်၌လည်း ဖော်ပြခဲ့သော အကုသိုလ်စိတ်များနှင့် အလှူခံပုဂ္ဂိုလ်အပေါ် တွယ်တာသော တဏှာလောဘစိတ်များ မဖြစ်စေဘဲ ယခု လှူဒါန်းလိုက်သည့်အတွက် မိမိကိစ္စကို ကူညီ ဆောင်ရွက်လိမ့်မည်ဟု လောကီအကျိုးတစုံတရာကို မမျှော်လင့်ဘဲ ရက်ရက်ရောရော လှူဒါန်းနိုင်ပါလျှင် "မုဉ္စစေတနာ အတွက်ပြည့်စုံနေပြီ"ဟု မှတ်ယူရမည်။

### အပရစေတနာ

အလှူဒါနပြုပြီးနောက် "ငါသည် ပညာရှိတို့ ချီးမွမ်းအပ်သော လှူဒါန်းမှုကို အတုလိုက်၍ ပြုလုပ်ရပေပြီ၊ ကောင်းလေစွ" ဟု အဖန်ဖန် အထပ်ထပ် အောက်မေ့ အမှတ်ရကာ ဝမ်းမြောက်ဝမ်းသာ ဖြစ်ခြင်းသည် အပရစေတနာ မည်၏။ အလှူဒါန ပြုပြီးနောက် ထိုအလှူဒါနကို သတိရတိုင်း ထပ်ကာ ထပ်ကာ ဝမ်းမြောက်ဝမ်းသာ ဖြစ်နေပြန်လျှင် အပရစေတနာကုသိုလ်တွေ ထပ်မံတိုးပွား၏။ ထိုသို့ မဟုတ်ဘဲ အလှူပေးပြီးနောက် ပစ္စည်းပျက်ပြား၍ ဖြစ်စေ, အလှူခံ ပုဂ္ဂိုလ်အပေါ် မကျေနပ်၍ ဖြစ်စေ "လှူမိတာ မှားလေစွ"ဟု အပရစေတနာပျက်လျှင် ထိုအလှူနှင့်စပ်၍ မကျေနပ်မှု ဒေါသအကုသိုလ်တွေ ဖြစ်ပွားတတ်သေးသဖြင့် ထိုအဖြစ်မျိုးမှ လွတ်ကင်းအောင် သတိနှင့် ထိန်းသိမ်းကြရာ၏။

အလှူပေးပုဂ္ဂိုလ်၌ ဖော်ပြပါ စေတနာ ၃-မျိုးနှင့် ပြည့်စုံလျှင် အလှူပေးပုဂ္ဂိုလ်ဘက်က အင်္ဂါရပ်ပြည့်စုံပြီဟု ဆိုနိုင်၏။

ထို့အတူ အလှူခံပုဂ္ဂိုလ်ဘက်၌လည်း—

(၁) ရာဂကင်းမှု၊ သို့မဟုတ် ရာဂကင်းရန် ကျင့်မှု၊

(၂) ဒေါသကင်းမှု၊ သို့မဟုတ် ဒေါသကင်းရန် ကျင့်မှု၊

(၃) မောဟကင်းမှု၊ သို့မဟုတ် မောဟကင်းရန် ကျင့်မှု အင်္ဂါ ၃-ပါး—

ဤသို့အားဖြင့် အလှူပေး, အလှူခံ အင်္ဂါ ၆-ပါးရှိ၏။ သမုဒ္ဒရာရေ အတိုင်းအရှည် ပမာဏကို ကွမ်းစားတစ်ရာ, ကွမ်းစားတစ်ထောင် ကွမ်းစားတစ်သိန်းရှိ၏ဟု မရေတွက် မမှန်းဆနိုင်သကဲ့သို့ ပြဆိုခဲ့ပြီးသော အင်္ဂါ ၆-ပါးနှင့်ပြည့်စုံသော အလှူဒါန၏ အကျိုးအာနိသင် အတိုင်းအရှည် ပမာဏကိုလည်း ဤမျှ ဤမျှ ရှိ၏ဟု မရေတွက် မမှန်းဆနိုင်။ စင်စစ်အားဖြင့် မဟာသမုဒ္ဒရာ၌

ရှိသော ရေအစုကို မရေမတွက်နိုင်သော ရေအစုဟုသာ (လက်လျော့ကာ) ခေါ်ဆိုရသကဲ့သို့ ထို့အတူ အင်္ဂါခြောက်ပါးနှင့် ပြည့်စုံသော အလှူကိုလည်း အတိုင်းမသိအောင် အကျိုးပေးခြင်းရှိသော အလှူဟူ၍သာ ခေါ်ဆိုရသည်။

ဤအင်္ဂါ ၆-ပါးနှင့် ပြည့်စုံလျှင် ဒါနအာနုဘော် ကြီးမြင့်သည်။ ဤအင်္ဂါ ၆-ပါး ယုတ်လျော့လျှင် ဒါနအာနုဘော် ဆုတ်ယုတ်သည်ဟု မှတ်ယူအပ်၏။

**စေတနာသုံးတန် ညီညွတ်ခြင်း၏ လက်ငင်းအကျိုး**

ဒသကနိပါတ် မဟာဓမ္မပါလ ဇာတ်တော်၌ ခမည်းတော် သုဓမ္မဒေါ မင်းကြီး၏ အလောင်းဖြစ်သော မဟာဓမ္မပါလပုဏ္ဏားကြီးကို ဒိသာပါမောက္ခ ဆရာကြီးက "သင်တို့၏ မဟာဓမ္မပါလ အမျိုး၌ အဘယ့်ကြောင့် အသက်တမ်း မပြည့်ဘဲ ကလေးသူငယ်များ မသေကြသနည်း" ဟူသော အမေးကို ဖြေကြားရာ၌—

> "ငါတို့သည် မလှူမီ ရှေးအဖို့က ကောင်းစွာ ဝမ်းမြောက်ဝမ်းသာ ဖြစ်ကြပါကုန်၏၊ လှူဆဲမှာလည်း စင်စစ်နှစ်သက်ဝမ်းမြောက်သော စိတ်ရှိကြပါကုန်၏၊ လှူပြီးသည့်နောက်မှာလည်း စင်စစ် တွန့်တိုပူပန်ခြင်း မရှိကြပါကုန်။ ဤအကြောင်း သုံးရပ်ကြောင့် ငါတို့၏ မဟာဓမ္မပါလ အမျိုး၌ (အသက်တမ်း မပြည့်ဘဲ) ကလေးသူငယ်များ မသေကြကုန်" ဟု-

ဖြေကြားသည်ကို ထောက်ထား၍ ဤ "စေတနာသုံးတန် ညီညွတ်ခြင်းသည် လက်ငင်းဒိဋ္ဌ အသက်ရှည်ခြင်း" ဟူသော အကျိုးပေးနိုင်သည့် အာနုဘော် ရှိကြောင်းကိုလည်း အထူးမှတ်သားကြရာ၏။

**စေတနာသုံးတန် ပျက်ပြယ်လျှင် ဆက်နွယ်လာမည့် အပြစ်များ**

အလှူဒါနပြုလုပ်ကြသူတို့သည် မလှူမီ, လှူဆဲ, လှူပြီး သုံးဌာနတို့တွင် တစ်ပါးပါး၌ စေတနာ ပျက်ကွက်လှုပ်ရှား တတ်ကြ၏။ ပုဗ္ဗ, မုဉ္စ, အပရစေတနာ သုံးပါးလုံး မလှုပ်မယိုင် ကြံ့ခိုင်စွာ တည်တံ့ပါမှ အလှူဒါနသည် အကျိုး များ၏ (ဒီ၊ဋ္ဌ၊၁။၂၆၇-၈)။

ထိုသို့ မဟုတ်ဘဲ မလှူမီ ရှေးအဖို့ ပုဗ္ဗစေတနာ အခိုက် တွန့်တိုဆုတ်နစ်မှု မစ္ဆရိယ စသည်များဖြစ်က ပုဗ္ဗစေတနာချို့တဲ့ ပျက်စီးပါက အရွယ်သုံးပါးတွင် ပထမအရွယ်၌ စီးပွားဥစ္စာ ချို့တဲ့နွမ်းပါးတတ်၏။ ရုပ်လက္ခဏာအားဖြင့် မဟာကုသမင်းနှင့် ပဥ္စပါပီ မိဖုရားတို့ကဲ့သို့ ချို့တဲ့ပျက်စီးတတ်၏။

လှူဆဲ လှူတုန်း မုဉ္စစေတနာအခိုက်၌ အလှူအပေါ် တွန့်တိုဆုတ်နစ်ကာ မုဉ္စစေတနာ ချို့တဲ့ပျက်စီးခဲ့သော် အင်္ဂါခြောက်ပါး ချို့တဲ့ခြင်း၊ ဂုဏ်မဲ့သော အမျိုးအနွယ်၌ ဖြစ်ရခြင်းနှင့် တန်ခိုးအရှိန်အဝါ သေးနုတ်ခြင်း စသော မကောင်းကျိုးများ ဖြစ်ပေါ်တတ်၏။

ပေးလှူပြီးနောက် အပရစေတနာအဖို့၌ တွန့်တို ဆုတ်နစ်၍ စိတ်မချမ်းမသာ ပူပန်မှု ဖြစ်ခဲ့သော် လူဖြစ်လာ၍ ချမ်းသာ ကြွယ်ဝသော အမျိုး၌ ဖြစ်ရစေကာမူ ထူးထွေ ကောင်းမြတ် သာယာ နှစ်သက်အပ်သော စားဖွယ် သောက်ဖွယ် အဝတ်တန်ဆာ, အသုံးအဆောင် ဘဏ္ဍာတို့ကို သုံးဆောင် ခံစားလိုစိတ် မဖြစ်ပေါ်တတ်ခြင်း, သုံးဆောင်ခံစားဖို့ရန် စိတ်မညွတ်တတ်ခြင်း, သုံးဆောင်ခံစားလိုစိတ်ဖြင့် သုံးဆောင် ခံစားနေသော စည်းစိမ် ဥစ္စာများ ရုတ်တရက် ဆုတ်ယုတ်ပျက်စီးတတ်ခြင်း, ရာထူး အချခံရတတ်ခြင်း, အိုမင်းသည့် အခါ ဆင်းရဲဒုက္ခ အမျိုးမျိုး ခံစားရခြင်း စသော အနိဋ္ဌအကျိုး အမျိုးမျိုးကို ခံစားရတတ်၏။ သာဓကအဖြစ် သာဝတ္ထိမြို့သား ပထမ အပုတ္တကသူဌေး (သံ၊၁။၉၀)၊ ဒုတိယ အပုတ္တကသူဌေး (သံ၊၁။၉၂-၃ စသည်)၊ ဗာရာဏသီမင်း၏မိဖုရား ပဒုမဝတီ(အံဋ္ဌ၊၁။၂၇၀-၁။ ထေရီဋ္ဌ၊၁၉၃-၄)တို့ကို မှတ်ယူရာ၏။

များသောအားဖြင့် အလှူရှင်တို့အား နောင်တတဖန် ပြင်းစွာ ပူပန်မှု ဖြစ်ရခြင်းသည် အလှူခံပုဂ္ဂိုလ်ကြောင့် ဖြစ်ရတတ်၏။ အလှူပေးမည့် သူသည် ပညာရှင်တို့နှင့် တိုင်ပင် ဆွေးနွေးပြီးမှ ပေးလှူသင့်၏။ ပညာရှင်တို့နှင့် မတိုင်ပင် မဆွေးနွေးဘဲ လှူဒါန်းမှု ပြုလိုက်လျှင် နောင်အခါ၌ "မှားလေစွ"ဟု နောင်တ ရတတ်၏ (ဒီ၊ဋ္ဌ၊၁။၂၆၄)။

ထို့ကြောင့် အလှူပေးသောအခါ နောင်တတဖန် ပူပန်မှု "ဝိပ္ပဋိသာရ" မဖြစ်ရလေအောင် သီလ မရှိသော ဒုဿီလအလှူခံ ပုဂ္ဂိုလ်တို့ကို မရည်မှန်း အာရုံမပြုဘဲ သီလရှိသော "သီလဝန္တ" အလှူခံ ပုဂ္ဂိုလ်တို့ကိုသာ ရည်မှန်း အာရုံပြု၍ လှူဒါန်းရမည်။ သို့မှသာ စေတနာ တိုးပွား၍ အကျိုးများပေလိမ့်မည်။

ဒါနဟူသည်၊ ပြုအံ့ရည်သော်၊ မူနည်းယုတ်မြတ်၊ မမှတ်အညီ၊
လာရောက်ပြီတိုင်၊ ဒုဿီသုသီ၊ အလဇ္ဇီက၊ လဇ္ဇီမကြွင်း၊ မချန်ခြွင်းဘဲ၊
ဝမ်းတွင်းခိုင်ကျည်၊ သူမည်မည်၌၊ မလည်မသုန်၊ သဒ္ဓါဟုန်ဖြင့်၊
မတုန်မလှုပ်၊ ထိန်းအုပ်မစွဲ၊ မတွန့်စေနှင့်၊ လှူတွေ့ရှေးဖို့၊ ဉာဏ်မဲ့ချို၍၊
တွန့်တိုတုံက၊ ပထမရှုယ်၊ နောင်ခါဝယ်၌၊ နှမ်းနယ်ချမ်းသာ၊ ဆိုးရှုပ်
ဝါနှင့်၊ မဟာကုသ၊ ပဋ္ဌပါပီ၊ မဟောသီသို့၊ ယက္ခိ ယက္ခ၊ တူတမျှဖြင့်၊

ရှုပလက်ဆွာ၊ ပျက်တတ်စွာ၏၊ နောက်မှာ တွန့်ဖြွား၊ သားသမီးမဲ့၊ ချိုတဲ့ယှဉ်းယို၊ ထန်းရေတိုသို့၊ အိုခါဒုက္ခ၊ ရသည်ဆင်းရဲ၊ တိမ်းလွဲစည်းစိမ်၊ ဂုဏ်သိမ်နိမ့်ကျ၊ ဖြစ်တတ်ကြ၏။ ပဒုမဝတီ၊ ဒေဝီနေမြွတ်၊ သန္ဓေနတ်နှင့်၊ ပညာမည်ထုတ်၊ အပုတ္တက၊ သူဌေး စသည့်၊ ထိုမျှဝတ္ထု၊ အစုစုကို၊ မျှော်ရှုနိုင်းဆ၊ ထောက်အပ်စွာရှင့်၊ မုဋ္ဌအခါ၊ တွန့်တိုပါသော်၊ အင်္ဂါချိုတွဲ၊ ဂုဏ်မဲ့မျိုးနွယ်၊ မတင့်တယ်ဘဲ၊ ငယ်၏တန်ခိုး၊ မပြည့်ဖြိုးသည်။ ။နှမ်းညှိုးယေ်ာရမည်ကိုကား (မဃဒေဝလင်္ကာသစ်၊ ပုတ္တောဝါဒခဏ်း။ အပိုဒ်ရေ ၂၇၅)။

စွန့်ကြဲပေးကမ်း လှူဒါန်းမှုဒါနကုသိုလ်နှင့် စပ်၍ ပုဗ္ဗ, မုဉ္စ, အပရ စေတနာဟု စေတနာသုံးမျိုး ခွဲခြားနားလည်ပြီးနောက် ဒွိဟိတ်ကုသိုလ်,တိဟိတ်ကုသိုလ်, ဩမကကုသိုလ်, ဥက္ကဋ္ဌကုသိုလ်များ ဖြစ်ပုံကိုလည်း ခွဲခြားနားလည်သင့်၏။ ထိုသို့ နားလည်ပြီး ပြုသော ကုသိုလ်မှသာ ဘုရားသာသနာတော်နှင့် ကြုံကြိုက်ရကျိုး နပ်ပေလိမ့်မည်။

မှန်၏၊ စွန့်ကြဲ ပေးကမ်း လှူဒါန်းမှုကို ဗုဒ္ဓသာသနာတော်အတွင်း၌လည်း ပေးလှူကြ၏။ ဗုဒ္ဓသာသနာတော် အပြင်ပ၌လည်း ပေးလှူကြ၏။ ဗုဒ္ဓသာသနာတော် ကြုံကြိုက်ပါလျက် တိဟိတ်ကုသိုလ်, ဥက္ကဋ္ဌကုသိုလ်များ ဖြစ်အောင် နှလုံးမသွင်းတတ်, မဆင်ခြင်တတ်လျှင် သာသနာတော်နှင့် ကြုံကြိုက်ရကျိုးမနပ်ပြီ၊ သာသနာတော်နှင့် ကြုံရကျိုးနပ်အောင် ခွဲခြားနားလည်အောင် လေ့လာမှတ်သားသင့်၏။

## ဒွိဟိတ်, တိဟိတ်ကုသိုလ် ခွဲခြားပုံ

အဘိဓမ္မတ္ထ သင်္ဂြိုဟ် စေတသိက်ပိုင်း၌ လာသော အလောဘ, အဒေါသ, အမောဟ (ပညာ) စေတသိက် ၃-ပါးကို ပါဠိလို "ဟေတု" မြန်မာလို "ဟိတ်" ဟု ခေါ်၏။ ဤနေရာ၌ "ဟေတု" သဒ္ဒါသည် "အခြေအမြစ်" ဟူသော အနက်ကို ဟော၏။ သစ်ပင်၌ ရှေသောက်မြစ်သည် သစ်ပင်တစ်ပင်လုံး ခိုင်မြဲ စည်ကားကြီးထွားအောင် ပြုသကဲ့သို့ အလောဘ စသော ထို ဟိတ်တရားများသည်း မိမိတို့နှင့် ယှဉ်ဖက်စိတ်ကို ခိုင်မြဲစည်ကား အကျိုးများအောင် ပြုနိုင်ကြပေသည်။ ထို့ကြောင့် ကုသိုလ်စိတ်ကို ဟိတ် ၂-ပါးနှင့် ယှဉ်လျှင် ဒွိဟိတ် ကုသိုလ်စိတ်၊ ဟိတ် ၃-ပါးနှင့် ယှဉ်လျှင် တိဟိတ်ကုသိုလ်စိတ်ဟု ခွဲခြားမှတ်သားရမည်။

**ဒွိဟိတ်ကုသိုလ်စိတ်**

အလောဘ, အဒေါသ, ဟိတ် ၂-ပါးနှင့် ယှဉ်သော ကုသိုလ်စိတ်သည် ဒွိဟိတ် ကုသိုလ်စိတ် မည်၏။ အမောဟ ဆိုသည်မှာ သမ္မာဒိဋ္ဌိ ဖြစ်သည်။ ကံ, ကံ၏ အကျိုး ကေန် ရှိ၏ဟု ယုံကြည်သော ဉာဏ်ပညာတည်း။ ထိုဉာဏ်ကိုပင် "ကမ္မဿကတာဉာဏ်" ဟု ခေါ်၏။ ကလေးသူငယ်များနှင့် ကံ, ကံ၏ အကျိုး နားမလည်သော ပုဂ္ဂိုလ်များ ပစ္စည်းဝတ္ထု တစုံတခုကို ပေးလှူရာ၌ "ယခု ပြုသော ပေးလှူမှု ကုသိုလ်ကံသည် မိမိသန္တာန်မှာ အကျိုးပေးရန် သတ္တိရှိနေ၏။ ထို ကံကြောင့် နောင်အခါ အကျိုးခံစား ရမည်" ဟု သိသော (သမ္မာဒိဋ္ဌိ=ကမ္မဿကတာဉာဏ်) အမောဟဟိတ် မပါ၊ အလောဘ, အဒေါသ ဟိတ် ၂-ပါးသာ ပါ၏။ ထို့ကြောင့် ထိုကုသိုလ်စိတ်မျိုးကို "ဒွိဟိတ်ကုသိုလ်စိတ်=ဉာဏ်မပါသော ကုသိုလ်စိတ်" ဟု ခေါ်ကြရသည်။

ယခုအခါ အချို့ ဗုဒ္ဓဘာသာဝင်များလည်း ကံ, ကံ၏အကျိုးကို နားမလည် ကြဘဲ သူများလှူလို့ လှူကြရသူတွေ များစွာ ရှိ၏။ ထိုသူများ၏ ကုသိုလ် စိတ်လည်း ဒွိဟိတ်ကုသိုလ်ပင် ဖြစ်၏။ ပင်ကိုဉာဏ် ရှိသူ (တတ်သိနားလည်သူ) ဖြစ်သော်လည်း အမှတ်တမဲ့ ပေးကမ်း လှူဒါန်းရာ၌ ဒွိဟိတ်ကုသိုလ်စိတ်ပင် ဖြစ်တတ်၏။ အချုပ်အားဖြင့် ကုသိုလ်ပြုတုန်း ဉာဏ်ပညာ မပါလျှင် ဒွိဟိတ် ကုသိုလ်ချည်းသာ မှတ်ယူရမည်။

**တိဟိတ်ကုသိုလ်စိတ်**

အလောဘ, အဒေါသ, အမောဟ ဟိတ် ၃-ပါးနှင့် ယှဉ်သော ကုသိုလ်စိတ် သည် တိဟိတ်ကုသိုလ်စိတ်မည်၏။ ကုသိုလ်ပြုနေတုန်းအခါ ကံကိုလည်းကောင်း, ကံ၏ အကျိုးကို လည်းကောင်း နားလည်သော ကမ္မဿကတာဉာဏ်ပါလျှင် တိဟိတ်ကုသိုလ်စိတ် ဖြစ်သည်။ တစုံတခုပစ္စည်းကို ပေးလှူသောအခါ ထိုပစ္စည်းသည် ရုပ်ကလာပ်အစုသာ ဖြစ်သည်။ ထိုရုပ်ကလာပ်ကား အနိစ္စ, ဒုက္ခ, အနတ္တပါတကား။ ငါ,သူတပါး, ယောကျ်ား, မိန်းမစသော ပုဂ္ဂိုလ်စွဲ အတ္တစွဲကို ပယ်ဖျောက်၍ အလှူပေး, အလှူခံ ပုဂ္ဂိုလ်တို့သည် ရုပ်နာမ် အစု မျှသာ ဖြစ်သည်ကို ထင်မြင်အောင် ရှု၍ ထိုရုပ်နာမ်တို့သည် အနိစ္စ,ဒုက္ခ,အနတ္တတို့ ပါတကားဟု ဝိပဿနာတင်၍ လှူတတ်လျှင် တိဟိတ်ကုသိုလ် ဖြစ်ကြောင်း ဖာထူးပြောဖွယ် မလိုတော့ပါ၊ အလွန်ကောင်းသော တိဟိတ်ကုသိုလ် ဖြစ်ပါ တော့သည်။ ထိုကုသိုလ်မျိုးဖြစ်အောင် ဆရာတော် သံဃာတော်များက အလှူ ပေးခါနီး, ရေစက်ချခါနီး၌ ကံ, ကံ၏ အကျိုးကိုလည်းကောင်း, အနိစ္စ, ဒုက္ခ, အနတ္တ အကြောင်းကိုလည်းကောင်း နားလည်အောင် ပြောလေ့ ရှိတော်မူကြ ပါသည်။

သတ္တဝါမျှားဖြစ်ကြသော ပိုးရွချပုန်း, ကြမ်းပိုး, သန်းဥ, ခရု, ယောက်သွား ကျ, နွား, တိရစ္ဆာန် စသည့်တို့၏ အသက်ကို မသတ်ရပေ၊ သတ်လျှင် ပါဏာတိပါတဖြစ်၏။

ပါဏာတိပါတကံ၌ အောက်ဖော်ပြပါ အင်္ဂါ ၅-ပါး ရှိသည်၊—

(၁) သတ္တဝါလည်း မှန်ခြင်း၊

(၂) သတ္တဝါဟူသော အမှတ်ရှိခြင်း၊

(၃) သေစေလိုသော စိတ်ရှိခြင်း၊

(၄) လုံ့လလည်း ပြုခြင်း၊

(၅) သေလည်း သေခြင်း(ခုဒ္ဒကဋ္ဌ။၂၂)။

ဤအင်္ဂါ ၅-ပါးနှင့် ညီလျှင် ပါဏာတိပါတ ကမ္မပထမြောက်လေသည်၊ ကမ္မပထဆိုသည်မှာ အပါယ်သို့ ရောက်ဖို့ရန် လမ်းကြောင်း ဖြစ်သောကံဟု ဆိုလိုသည်။ ပါဏာတိပါတ ကမ္မပထမြောက်လျှင် အပါယ်ဘုံ၌ ပဋိသန္ဓေကျိုး ပေးနိုင်သော ဇနကသတ္တိကေန်ရှိ၏၊ ကမ္မပထမမြောက်လျှင် ပဋိသန္ဓေကျိုး ပေးရန် ကိန်းသေမဟုတ်ပေ။

အင်္ဂါ ၅-ပါး အနက် တစ်ခုခုချို့တဲ့လျှင်သော် လည်းကောင်း၊ သေစေလို သော စိတ်မရှိခြင်း၊ လုံ့လပြုမှုမရှိခြင်း၊ ဥပမာ—လမ်းသွားရင်းနင်းမိ၍ ပိုးကောင် ငယ်များ သေရာ၌ ပါဏာတိပါတကံမထိုက်။ ရှေ့အင်္ဂါ ၄-ပါးစုံသော်လည်း နောက်ဆုံး အင်္ဂါတစ်ပါး ဖြစ်သော သေဆုံးခြင်းဟူသော အင်္ဂါချို့တဲ့လျှင် ပါဏာတိပါတကံ မမြောက်ပါ။

## အပြစ်ကြီးမှု အပြစ်ငယ်မှု

သတ္တဝါတို့၏ ကိုယ်ကာယ အကြီးအငယ်ကို လိုက်၍ လည်းကောင်း, သတ္တဝါ တို့၏ အကျင့်သီလ ဂုဏ်သိက္ခာကို လိုက်၍ လည်းကောင်း အပြစ်အကြီးအငယ် ကွဲပြားသည်။

သတ္တဝါက ကိုယ်ခန္ဓာကြီးလျှင် လုံ့လ ပယောဂ စိုက်ထုတ်ရမှု များသော ကြောင့် အပြစ်ကြီး၏၊ သေးလျှင် ပယောဂ စိုက်ထုတ်ရမှု နည်းသောကြောင့် အပြစ်ငယ်၏၊ ဥပမာ—ဆင်ကြီးသတ်လျှင် လုံ့လပယောဂစိုက်ထုတ်ရမှု များ၏၊ ကြမ်းပိုးသတ်လျှင် လုံ့လပယောဂ အားထုတ်ရမှု မများပေ။ ထို့ကြောင့် အပြစ် အကြီးအသေး ကွာခြား၏။

အကျင့်သီလ သိက္ခာဂုဏ်ရှိသော သူကို သတ်လျှင် ထိုသူ၏ အကျင့်သီလ သိက္ခာဂုဏ်ကြောင့် အပြစ်ကြီး၏၊ ဥပမာ– ပုထုဇဉ်တစ်ယောက် သတ်မှုမှာ ရဟန္တာသတ်မှုလောက် သိပ်အပြစ်မကြီးသော်လည်း အကျင့်သီလနှင့် ပြည့်စုံပြီး ဖြစ်သော ရဟန္တာကို သတ်လျှင် အလွန် အပြစ်ကြီး၏။ ပဉ္စာနန္တရိယကံ ထိုက်သည်။

**ကံကြီးငါးပါး (ပဉ္စာနန္တရိယကံ)**

သတ်ဖြတ်မှုနှင့် စပ်လျဉ်း၍ အသတ်ခံရသူ၏ သီလ သမာဓိ စသော ဂုဏ်ကျေးဇူး ကြီးမားမှုကို အကြောင်းပြု၍ အလွန် ကြီးလေးသော အပြစ် ဖြစ်ရသည်။ ယင်း အပြစ်များကို ဂရုကံ=ကြီးလေးသော ကံဟု ခေါ်သည်။ ကံကြီးငါးပါး၊ ပဉ္စာနန္တရိယကံဟု ခေါ်ကြသည်။ (ပဉ္စ=ငါးပါး+အနန္တရ= နောက်ဘဝ၊ အနန္တရိယ=နောင်ဘဝ၌ သေချာပေါက် အဝီစိငရဲ ကျရောက် မည့်ကံ။)

ယင်း ကံကြီးငါးပါးမှာ—

(၁) မာတုဃာတက=အမိသတ်ကံ၊

(၂) ပိတုဃာတက=အဖသတ်ကံ၊

(၃) အရဟန္တဃာတက=ရဟန္တာသတ်ကံ၊

(၄) လောဟိတုပ္ပါဒက=မြတ်စွာဘုရားအား သွေးစိမ်း တည်အောင် ပြုသောကံ၊

(၅) သံဃဘေဒက=သံဃာသင်းခွဲသောကံ။

မှတ်ချက်။ ။နောက်ဆုံးဖြစ်သည့် သံဃဘေဒက ကံမှာ ပါဏာတိပါတကံ၌ အကျုံးမဝင်၊ ရှေ့ကံကြီး ၄-ပါးသာလျှင် ပါဏာတိပါတကံ၌ အကျုံးဝင်၏။

ကိုယ်ကာယ အကောင်အထည်လည်း တူညီ၊ အကျင့်သီလ ဂုဏ်သိက္ခာချင်း တူနေလျှင် သတ်သောအခါ၌ လုံ့လပယောဂ စိုက်ထုတ်မှုကြီးက အပြစ်ကြီး၍ လုံ့လပယောဂနည်းက အပြစ်ငယ်ပေသည်။ လုံ့လပယောဂစိုက်ထုတ်မှုနှင့် ပတ်သက်၍ ပယောဂ ၆-ပါး ရှိသည်။

(၁) သာဟတ္ထိကပယောဂ=ဓားဖြင့် ခုတ်, တုတ်ဖြင့် ရိုက် စသည်ဖြင့် ကိုယ်ထိလက်ရောက် သတ်ဖြတ် ပုတ်ခတ်မှု၊

(၂) အာဏတ္တိကပယောဂ=နှုတ်ဖြင့် ဖြစ်စေ, စာဖြင့် ဖြစ်စေ အရိပ်နိမိတ်ပြ၍ဖြစ်စေ အသတ်ခိုင်းမှု၊

(၃) နိဿဂ္ဂိယပယောဂ=လေး မြား လက်နက် သေနတ် စသည်ဖြင့် ပစ်ခတ်၍ သတ်ဖြတ်မှု၊

(၄) ထာဝရပယောဂ = အမြဲ ထာဝရ တည်ရှိသော လမ်းခရီး၌ လာသမျှ လူများ ကျသေအောင် တွင်းတူး ညှောင့်ထောင်ထားမှု၊ သတ်ဖြတ်ရန် ဓား, လှံ, သေနတ် လက်နက် စသည်များကို လုပ်ကိုင်ထားမှု၊

(၅) ဝိဇ္ဇာမယပယောဂ = အင်းအိုင် ခါးလှည့် လက်ဖွဲ့ မန္တန် စသည်များဖြင့် သူတပါးသေအောင် ဆောင်ရွက်ပြုလုပ်ထားမှု၊

(၆) ဣဒ္ဓိမယပယောဂ=ကံကြောင့် ဖြစ်သော တန်ခိုးဖြင့် သတ်ဖြတ်မှု။

သီဟိုဠ်ကျွန်းတွင် ပိတုမင်းအမျက်ထွက်၍ မိမိအစွယ်ကို ခေါက်လိုက်ရုံမျှဖြင့် စူဠသုမနသူဌေး ချက်ချင်း သေခြင်း၊ ဝေဿဝဏ်နတ်မင်း (အရိယာမဖြစ်မီက) မျက်စောင်းထိုးလျှင် ဘီလူးများ သေကြရခြင်း၊ ဤသို့ အစွယ်ခေါက်မှု, မျက်စောင်းထိုးမှုများသည် ဣဒ္ဓိမယပယောဂမည်၏ (သင်္ဂြိုဟ်ဘာသာဋီကာ။ ၃၈၅)။

**အာဏတ္တိကပယောဂ၌ သတ်အပ်သောသူ(ဝတ္ထု)၊ သတ်ရာအချိန် (ကာလ)၊ သတ်ရာဒေသ (ဩကာသ)၊သတ်ကြောင်းလက်နက်(အာဝုဓ)၊ သတ်ဆဲဣရိယာပုတ်(ဣရိယာပထ)၊သတ်ဟန်အမူအရာ(ကိရိယာဝိသေသ)၊ ဤခြောက်ပါးတို့ကို မှတ်၍ စေခိုင်းခဲ့သော် စေခိုင်းတိုင်း သတ်လျှင် ခိုင်းသောသူ ပါဏာတိပါတကံ မြောက်သည်၊ သတ်သော သူသည်း ပါဏာတိပါတကံ မြောက်သည်၊ ထိုခြောက်ပါးကို မှတ်၍ စေခိုင်းသော် စေခိုင်းသည့်အတိုင်း မသတ်ဘဲ ချွတ်ယွင်းလျှင် သတ်သောသူသာ ပါဏာတိပါတဖြစ်၏၊ ခိုင်းသောသူမဖြစ်။ စေခိုင်းသည့်အခါ သတ်လိုသောစေတနာနှင့် ဒေါသသည်သာလျှင် ပဓာနဖြစ်၏။**

***ပါဏာတိပါတ၏ အထူးမှတ်ဖွယ်***

**သတ္တဝါအများကို တချက်တည်းဖြင့် အသေသတ်လျှင် ပါဏာတိပါတကံ တစ်ချက်မဟုတ် ကိစ္စ၏ အစွမ်းဖြင့် အများဖြစ်၏၊ မင်္ဂလာဥ္စ သတ်တစ်ခု, ဝိနိုယတစ်ခုတည်းပင် ဖြစ်သော်လည်း ကိစ္စအစွမ်းဖြင့် သတ်ပဋ္ဌာန် ၄-ပါး၊ အမှုပ္ပဓာန် ၄-ပါး ဖြစ်သကဲ့သို့ဟု သာရတ္ထဒီပနီဋီကာ(ဒုတွဲ။ ၂၆၆)၌ ပြဆိုထား၏။**

ရည်မှန်း၍ သတ်ရာ၌ ရည်မှန်းသောပုဂ္ဂိုလ် မသေဘဲ မရည်ရွယ်သောပုဂ္ဂိုလ် သေလျှင် ပါဏာတိပါတကံ မထိုက်ပေ၊ ဥပမာ—ကြက်နှစ်ကောင် အစာစား၍ နေရာ လက်ဝဲကြက်ကို သတ်အံ့ဟု နှလုံးသွင်းပြီး တုတ်ဖြင့် ပစ်ရာ လက်ယာဘက် ကြက်သေ၏။ ပါဏာတိပါတကံ မထိုက်ဟု ကင်္ခါအဋ္ဌကထာ (၁၂၁)၌ ပြဆို သည်။ မရည်မှတ်ဘဲ သတ်၍ အမှတ်မရှိသောသူ သေရာ၌ ပါဏာတိပါကကံ ကေန်မုချထိုက်၏။

အမိအိပ်နေစဉ် အဘအိပ်နေစဉ် မှောင်မဲမဲ၌ သိုးဟု ထင်မှတ်၍ အမိ၊ အဘကို သတ်မိအံ့၊ သေလျှင် အာနန္တရိယကံထိုက်၏၊ မာတုဃာတကကံ၊ ပိတုဃာတက ကံ ထိုက်ကြောင်း ပါရာဇိကဏ်အဋ္ဌကထာ (ဒုတွဲ။၄၃)၌ လာသည်။

တိရစ္ဆာန်ဖြစ်သော သားသည် လူဖြစ်သောအမိကို သတ်လျှင် မာတုဃာတက ကံ မထိုက်ပေ၊ လူသားဖြစ်သော အမိရင်းကို လူသားဖြစ်သော သူကသာ သေစေလိုသော စိတ်စေတနာဖြင့် သတ်မှ အာနန္တရိယကံ ဖြစ်သည်၊ မာတုဃာတကကံ ထိုက်၏ဟု ဝိနည်းမဟာဝါအဋ္ဌကထာ (၃၀၄)၌ ပြ၏။

အမိဣတ္ထိလိင်မှ ပုလ္လိင်ဖြစ်၍ နေစဉ် သတ်သော် အာနန္တရိယကံ ထိုက်၏။ ရှေ့အစဉ်ကို ဗီဝိတိန္ဒြေမှ ချခြင်းကြောင့် အသက်ခံရသောသူသည် ဝေါဟာရ အားဖြင့် မိန်းမဖြစ်စေ, ယောကျ်ားဖြစ်စေ အာနန္တရိယကံမှ မလွတ်သော ကြောင့် လိင်ပြန်သော်လည်း အာနန္တရိယကံထိုက်၏ဟု သာရတ္ထဒီပနီဋီကာ (ဒုတွဲ။၂၆၉)၌ ပြဆိုလေသည်။

ပုထုဇဉ်အဖြစ်၌ ပုထုဇဉ်ပုဂ္ဂိုလ်ကို ပုတ်ခတ်၍လည်းကောင်း, အဆိပ်ပေး၍ လည်းကောင်း သတ်ရာ ထိုပယောဂကြောင့် ထိုပုထုဇဉ်ပုဂ္ဂိုလ်သည် ရဟန္တာ ဖြစ်မှ သေအံ့၊ ထိုသတ်သော ပုဂ္ဂိုလ်သည် အရဟန္တဃာတကကံထိုက်၏ဟု သမ္မောဟဝိနောဒနီအဋ္ဌကထာ (၄၈၈)၌ ပြလေသည်။

နတ်ရဟန္တာကို သတ်လျှင် အရဟန္တဃာတကကံ မထိုက်ပါ၊ အကြောင်းမှာ လူ့ဇာတ်ဖြစ်သော ရဟန္တာကို သတ်မှသာလျှင် အရဟန္တဃာတကကံ ထိုက်သောကြောင့် ဖြစ်၏ (ဝိနည်းမဟာဝါအဋ္ဌကထာ။၃၀၅)။

တိရစ္ဆာန်သည် လူရဟန္တာကို သတ်လျှင် အရဟန္တဃာတကကံမထိုက်ချေ၊ အကြောင်းမှာ လူသားဖြစ်သော သူက လူသားရဟန္တာကို သတ်မှသာလျှင် အရဟန္တဃာတကကံ ထိုက်၏။

**ပါဏာတိပါတ၏ အပြစ်များ**

ပါဏာတိပါတကံကို လွန်ကျူးခြင်းကြောင့် အောက်ဖော်ပြပါ အပြစ်များ ခံစားရသည်။ ဆိုခဲ့ပြီးသော ပါဏာတိပါတကံတို့တွင် ပဥ္စာနန္တရိယကံဖြစ်သော–

- – မာတုဃာတကကံ (အမိစစ်သတ်ခြင်း)၊
- – ပိတုဃာတကကံ (အဘစစ်ကို သတ်ခြင်း)၊
- – အရဟန္တဃာတကကံ (ရဟန္တာစစ်ကိုသတ်ခြင်း)–

တို့ကြောင့် အဝီစိငရဲ၌ ခံစားရကြောင်း မူလဋီကာ၌ ဖော်ပြထားပါသည်။

[မြတ်စွာဘုရားမှာ ပရိနိဗ္ဗာန်စံတော်မူပြီး ဖြစ်၍ ယခုအခါ ဤကံ မထိုက်နိုင်ပါ၊ သံဃဘေဒကကံလည်း ဤသိက္ခာပုဒ်နှင့် မဆိုင်ပါ။ ရဟန်း သူတော်မြတ်ကို သတ်ခြင်းကြောင့် ကာလသုတ်ငရဲ၌ ခံစားရကြောင်း ပါဠိတော်၌ ဖော်ပြထားပါသည်။]

မြတ်စွာဘုရားရှင်သည် သာဝတ္ထိပြည်မှန် ဇေတဝန်ကျောင်းတော်၌ နေတော်မူစဉ် တောဒေယျပုဏ္ဏား၏ သားဖြစ်သော သုဘလုလင်က အသက်ရှည်မှု အသက်တိုမှု အကြောင်း မေးလျှောက်ရာ မြတ်စွာဘုရားက သူတပါး အသက် သတ်လျှင် သေပြီးနောက် အပါယ်ငရဲကျတတ်ကြောင်း၊ အပါယ် ငရဲ မကျလျှင် အသက်တို၍ ရောဂါများတတ်ကြောင်း ဟောကြားတော် မူသည်။ ထို့အပြင် ဝဋ်လိုက်သောအားဖြင့် ဖြစ်လေရာ ဘဝတို့၌ အနာရောဂါ များခြင်း၊ အင်္ဂါ ချို့တဲ့ခြင်း စသော အပြစ်များကို ခံစားရလေသည်။

သူတပါး အသက်ကို သတ်လျှင် ငရဲကျပြီးနောက် လူဖြစ်လာလျှင်လည်း အောက်ပါ အပြစ်များကို ခံစားရလေသည်။

(၁) မျက်စိ နား နှာ အင်္ဂါခြေလက် ချို့ယွင်းခြင်း၊

(၂) ဖြစ်ရာ ဘဝ၌ ရုပ်အဆင်းအသွင်အပြင် မှဲ့ခြောက်၍ စိုစိုပြည်ပြည် မရှိခြင်း၊

(၃) အားအင်ချို့ယွင်းခြင်း၊

(၄) လျင်မြန်ဖျတ်လတ်မှု ကင်းဝေးခြင်း၊

(၅) ဘေးရန်ပေါ်ပေါက်လျှင် ကြောက်ရွံ့တတ်ခြင်း၊

(၆) သူတပါးအသက် ခံရတတ်ခြင်း၊ မိမိကိုယ်တိုင် အဆိပ်သောက်၊ ကြိုးဆွဲချ သေရတတ်ခြင်း၊

(၇) အနာရောဂါ များတတ်ခြင်း၊

(၈) အခြွေအရံ ပျက်စီးတတ်ခြင်း၊

(၉) အသက်တိုတတ်ခြင်း—

ဟူသော အပြစ်များကို ခံစားရတတ်လေသည်။

**မှတ်ရန်လင်္ကာ**

ပါဏာတိပါတ၊ သူ့အသက်သတ်က၊ ချိုတတ်အင်္ဂါ၊ မွဲပြာရုပ်သွင်၊ အားအင်ချိုယွင်း၊ လျင်ခြင်းလည်း ဝေး၊ ဘေးကို ကြောက်တတ်၊ အသတ်ခံရ၊ အနာများလျက်၊ ခြွေရံပျက်၏၊ အသက်တိုလျ၊ ပြစ်များစွာ၏။

ပါဏာတိပါတ၊ စသည့်ငါးတန်၊ စောင့်ထိန်းမှန်လည်း၊ အပြန်ထိုမှ၊ ကောင်းကျိုးရဟု၊ သာရတ္ထသင်္ဂဟ၊ ကျမ်းဆိုပေသည်၊ ငါးထွေသီလ၊ ကျိုးပြစ်တည်း(မဟာဝိသုဒ္ဓါရုံ ဆရာတော်)။

သူတပါး၏ အသက်ကို မသတ်ခြင်းကြောင့် လူ့ပြည် နတ်ရွာ သုဂတိဘဝ ရောက်ရလေသည်၊ လူဖြစ်သောအခါတွင်လည်း အနာရောဂါကင်း၍ အသက်ရှည်ခြင်း စသည်နှင့် ပြည့်စုံရလေသည်။

ယင်းတို့မှာ—

(၁) မျက်စိ နား နှာ အင်္ဂါခြေလက် မချို့တဲ့ခြင်း၊

(၂) ဖြစ်ရာဘဝ၌ ရုပ်အသွင် ညှိုးခြောက်ခြင်းမရှိဘဲ စိုစိုပြည်ပြည်ရှိခြင်း၊

(၃) အားအင်ပြည့်ဖြိုးခြင်း၊

(၄) လျင်မြန်ဖျတ်လတ်ခြင်း၊

(၅) ဘေးရန်ပေါ်ပေါက်လျှင် ရဲရင့်ခြင်း၊

(၆) သူတပါး၏ လုံ့လပယောဂကြောင့် မသေခြင်း၊(ဥပက္ကမဒကကါမှ လွတ်ခြင်း)၊

(၇) အနာရောဂါကင်းခြင်း၊
(၈) အခြေအရံ ပြည့်စုံခြင်း၊
(၉) အသက်ရှည်ခြင်း–
ဟူသော ကောင်းကျိုးများကို ခံစားရပါသည်။

ခုဒ္ဒကပါဌ-အဋ္ဌကထာ စာမျက်နှာ(၂၂)၌မူ ပါဏာတိပါတမှ ရှောင်ကြဉ်ခြင်း အကျိုး ၂၃-မျိုးလာ၏၊ မရှောင်ကြဉ်လျှင် ၎င်းအပြစ်များကို ရရှိမည်ဖြစ်ပေသည်။

အပြစ်များမှာ——
(၁) ကိုယ်အင်္ဂါချို့တဲ့ခြင်း၊
(၂) ကိုယ်အင်္ဂါအချိုးအစား မကျခြင်း၊
(၃) နုန့်နှေးလေးဖင့်ခြင်း၊
(၄) ခြေဖဝါးလက်ဖဝါး မညီညွတ်ခြင်း၊
(၅) မလှပ မတင့်တယ်ခြင်း၊
(၆) အရောင်အဆင်းမပြောင်ဝင်းခြင်း၊
(၇) အသားအရေကြမ်းတမ်းခြင်း၊
(၈) ကြောက်ရွံ့ထိတ်လန့်ခြင်း၊
(၉) ခွန်အားဗလ နည်းပါးခြင်း၊
(၁၀) စကားပြေပြစ်စွာ မပြောတတ်ခြင်း၊
(၁၁) လူအများ မုန်းခြင်း၊
(၁၂) မိမိပရိသတ် အကြိမ်ကြိမ် ပျက်စီးခြင်း၊
(၁၃) ထိတ်လန့်တတ်ခြင်း၊
(၁၄) လက်နက်ဘေး, အဆိပ်ဘေး သင့်တတ်ခြင်း၊
(၁၅) သူတပါးပယောဂကြောင့် သေရတတ်ခြင်း၊
(၁၆) တွေ့ဝေမိုက်မဲခြင်း၊

(၁၇) ခြေရုံပရိသတ် နည်းပါးခြင်း၊
(၁၈) ရွှံရှာဖွယ်သော ရုပ်အဆင်းရှိခြင်း၊
(၁၉) ကုန်းကော့သော ကိုယ် ရှိခြင်း၊
(၂၀) အနာရောဂါ များခြင်း၊
(၂၁) စိုးရိမ်ကြောင့်ကြမှု များခြင်း၊
(၂၂) ချစ်ခင်သော သားသမီးတို့နှင့် ကွေကွင်းရခြင်း၊
(၂၃) ဖြစ်လေရာ ဘဝ၌ အသက်တိုခြင်း—

တို့ဖြစ်ပါသည်။

သူ့အသက်ကို သတ်ခြင်းမှ ရှောင်ကြဉ်လျှင် နတ်ရွာသုဂတိသို့ ရောက်ပြီး လူဖြစ်လျှင်လည်း ခုဒ္ဒကပါဌ အဋ္ဌကထာ စာမျက်နှာ(၂၃)၌ ဖော်ပြထားသော အကျိုး ၂၃-မျိုးကို ခံစားရတတ်ပါသည်။ ယင်းအကျိုးများမှာ——

(၁) အင်္ဂါကြီးငယ်နှင့် ပြည့်စုံခြင်း၊
(၂) အလုံးအရပ်အချိုးအစား ကျခြင်း၊
(၃) လျှင်မြန်ဖျတ်လတ်ခြင်း၊
(၄) ညီညွတ်သော ခြေဖဝါးလက်ဖဝါး ရှိခြင်း၊
(၅) တင့်တယ်ပြေပြစ်ခြင်း၊
(၆) အသားအရေ နူးညံ့သိမ်မွေ့ခြင်း၊
(၇) စင်ကြယ်သန့်ရှင်းခြင်း၊
(၈) ရဲရင့်ခြင်း၊
(၉) ခွန်အားဗလကြီးခြင်း၊
(၁၀) စကားပြေပြစ်ချောမောခြင်း၊
(၁၁) လူအများ ချစ်ခင်မြတ်နိုးခြင်း၊
(၁၂) မိမိပရိသတ် မပျက်စီးဘဲ စည်းစည်းလုံးလုံး ညီညီညွတ်ညွတ် ရှိခြင်း၊
(၁၃) ကြောက်ရွံ့ခြင်း ကင်းခြင်း၊
(၁၄) အဆိပ်အတောက် မသင့်နိုင်ခြင်း၊
(၁၅) သူတပါး လှုံ့လပယောဂကြောင့် မသေရခြင်း၊
(၁၆) တွေဝေမိန်းမောမှု မရှိခြင်း၊
(၁၇) အခြံအရံ ပရိသတ်များခြင်း၊
(၁၈) အဆင်းလှခြင်း၊
(၁၉) ကောင်းသော ရုပ်ရည် သဏ္ဌာန်ရှိခြင်း၊

(၂၀) အနာရောဂါ ကင်းခြင်း၊
(၂၁) စိုးရိမ်ကြောင့်ကြမှု မရှိခြင်း၊
(၂၂) ချစ်ခင်မြတ်နိုးသူများနှင့် အတူနေရခြင်း၊
(၂၃) အသက်ရှည်ခြင်း–

ဟူသော အကျိုးများကို ခံစားရပါသည်။

မြတ်စွာဘုရား၏ ကျောင်းဒါယိကာမ ဖြစ်သော ကောသလမင်းကြီး၏ မိဖုရား မလ္လိကာ အလောင်းသည် ရှေးအခါက သတို့သမီး ဖြစ်၍ မိတ်ဆွေ ခည်သည်အတွက် ချက်ပြုတ်ကျွေးရန် ဟင်းလျာမရှိသောကြောင့် အိမ်မှာ ရှိသော ဆိတ်မကလေးကို လည်လှီးသတ်၍ ချက်ပြုတ်ကျွေးခဲ့၏၊ ထိုမကောင်းမှု ပါဏာတိပါတကံကြောင့် သေသောအခါအဝီစိငရဲ၌ ဆိတ်မွေးအရေအတွက်နှင့် အမျှ နှစ်ပေါင်းများစွာ ခံစားရ၏၊ ငရဲမှ လွတ်သောအခါ၌လည်း ဘဝပေါင်း များစွာ သူတပါးက လည်ချောင်းကို နင်း၍ အသတ်ခံခဲ့ရသည်။

**စုန္ဒဝက်ထိုးသမား**

မြတ်စွာဘုရားရှင်သည် ရာဇဂြိုဟ်ပြည်၌ ဝေဠုဝန်ကျောင်းတော်၌ သီတင်း သုံးနေတော်မူစဉ် စုန္ဒမည်သော သူသည် ဝက်များကို မွေးမြူသတ်ဖြတ်၍ အသက်မွေး၏၊ တစ်နေ့တွင် စုန္ဒဝက်သတ်သမားသည် အနာရောဂါ ဖြစ်ပြီး အသက်ရှင်စဉ်ပင် အဝီစိငရဲမီး အလောင်ခံရ၍ ဝက်ကဲ့သို့ အိမ်တွင် လှည့်လည် အော်မြည်နေရလေ၏၊ ၇-ရက်မြောက်သော နေ့တွင် သေ၍ အဝီစိငရဲ၌ ခံစားရ လေသည်။

**နန္ဒနွားသတ်သမား**

နန္ဒနွားသတ်သမားလည်း ငါးဆယ့်ငါးနှစ်တိုင်အောင် နွားတို့ကို သတ်၍ အသက်မွေး၏၊ သေသည်၏ အခြားမဲ့၌ မဟာအဝီစိငရဲသို့ ကျရောက် လေသည်။

**ခမ္ဗဒိန္နာ**

ခမ္ဗဒိန္နာသည် ဗာရာဏသီပြည်၌ သူဆင်းရဲမဖြစ်၍ ဧည့်သည်ကျွေးမွေးရန် ဆိတ်မ၏လည်ကိုလှီး၍ ကျွေးမွေးလေသည်၊ သေသည်၏ အခြားမဲ့၌ အဝီစိ၌ များစွာ ခံရပြီးမှ လည်ချောင်းကို နင်း၍ အသတ်ခံရသော ဆိတ်မ၏အဖြစ် ဖြင့် ဆိတ်မွေးနှင့်အမျှ ခံရလေသည်။

**ပုတိဂတ္တထေရ်**

ပုတိဂတ္တမထေရ်သည် ငှက်မုဆိုးဖြစ်ခဲ့ဖူး၍ ငရဲ၌ ဆင်းရဲများစွာကို ခံစားပြီးလျှင် နောက်ဆုံးဘဝ၌ အရိုးအဆစ်ကျိုးပဲ့သည့် ဝေဒနာနှင့်တကွ နိဗ္ဗာန်ဝင်ရလေသည်။

**မဏ္ဍူဗျရသေ့**

မဏ္ဍူဗျရသေ့သည် လက်သမားဖြစ်စဉ်အခါက သစ်သားချောင်းဖြင့် ယင်ငယ်တို့ကို ထိုးသတ်ဖူးသောကြောင့် ငရဲ၌ ဆင်းရဲများစွာ ခံစားရပြီး ရသေ့ဘဝ၌ တံကျင် လျှိုခံရလေသည်။

**အဘသတ်သော အဇာတသတ်မင်း**

သောတာပန် တည်ပြီး၍ တရားသဖြင့် မင်းပြုသော ကျေးဇူးရှင် ခမည်းတော် ဗိမ္ဗိသာရမင်းကို သတ်မိသောကြောင့် အဇာတသတ်မင်းသည် မဂ်ဖိုလ် ရထိုက်သော ကံပါသော်လည်း မဂ်ဖိုလ်မရဘဲ ငရဲသို့ကျရသည်၊ ဘခမည်းတော်အား ပြစ်မှားမိသော အပြစ်ကိုဖော်ပြ၍ မြတ်စွာဘုရားအား ကန်တော့သောကြောင့်သာ အဝီစိငရဲ၌ မကျခံရဘဲ လောဟကုမ္ဘီငရဲ၌ အနှစ်ခြောက်သောင်း ခံရလေသည်။

**ဒေဝဒတ်**

ဒေဝဒတ်သည် ရာဇဂြိုဟ်ပြည် ဂိဇ္ဈကုဋ်တောင်ပေါ်မှ ကျောက်ယန္တရားဆင်၍ ကျောက်တုံးလိမ့်ချခြင်းဖြင့် မြတ်စွာဘုရားအား သွေးစိမ်းတည်အောင် ပြုသောကြောင့် အဝီစိငရဲ၌ ခံစားရလေသည်။

**နာဠိကေရမင်း**

ကလိင်္ဂတိုင်း နာဠိကေရမင်းသည် ရသေ့ငါးရာတို့ထံ တရားနာရာ ရသေ့ကြီးက သူ့အသက်ကို မသတ်ကောင်း၊ သတ်လျှင် ငရဲခံရတတ်သည်၊ အသက်တိုရသည် စသည်ဖြင့် ငါးပါးသီလ မလုံခြင်း၌ အပြစ်ကို ပြ၍ ဟောလေရာ ရသေ့တို့သည် ငါ့ကို စောင်းချိတ်၍ တရားဟောသည်ဟု ရန်ငြိုးဖွဲ့၏၊ ဆွမ်းစားပင့်ဖိတ်ပြီး ရသေ့တို့ ကြွလာသောအခါ မစင်တို့ကို ခွက်တွင် ထား၍ စားပါသောက်ပါဟု ဆိုရာ ရသေ့တို့ စက်ဆုပ်၍ ပြန်သော် ခွေးတို့ဖြင့်ကိုက်စေ၍ မင်းချင်းတို့အား ရှားနှစ်တုတ်တို့ဖြင့် အသေရိုက်နှက် စေ၏၊ ဤသို့ ပြစ်မှားသည့်အတွက် လက်နက်မိုးရွာ၍ တတိုင်းတပြည်လုံး သေကြေပျက်စီးကြလေသည် (ပရမတ္ထစက္ကူ။ ၂၄၄)။

## ရှင်မောဂ္ဂလ္လာန်

ရှင်မောဂ္ဂလ္လာန်သည် ရှေးက အမိအဘကို သတ်ခဲ့ဖူးသော အကုသိုလ်ကံကြောင့်ခိုးသားငါးရာ၏ လက်ချက်ဖြင့် ပရိနိဗ္ဗာန်စံရသည်မှာ ပါဏာတိပါတကံ၏အကျိုး ဖြစ်လေသည်။

## ကလာဗုမင်း

ကလာဗုမင်းသည် အရက်မူး၍ မောင်းမတစ်ဦး၏ ရင်ခွင်၌ အိပ်ပျော်နေစဉ် ကချေသည် ရံရွေဖော်များက ကုဏ္ဍလကုမာရ ရသေ့ထံ တရားနာယူနေကြသည်၊ နိုးလာသောအခါ အမျက်ဒေါသ ခြောင်းခြောင်းထွက်၍ ရသေ့ကလေးကို အဏာပါးကွက်သားတို့အား အမျိုးမျိုး နှိပ်စက်စေသည်၊ ရသေ့ကလေးသည် ခန္တီတရား လက်ကိုင်ထား၍ ပြန်၍ အမျက်မထွက်၊ ထိုအကုသိုလ်ကံကြောင့် ထိုနေ့မှာပင် မြေမျို၍ အဝီစိရောက်ရလေသည် (ဇာ၊ ဋ္ဌ၊ ၃။၃၇–၄၀)။

## ပါဏာတိပါတမှ ရှောင်ကြဉ်ခြင်း၏ အကျိုး

သီဟိုဠ်ကျွန်း၌ စက္ကန ဥပါသကာသည် ငယ်ရွယ်စဉ်က မကျန်းမမာသော မိခင်အတွက် လတ်ဆတ်သော ယုန်သား ခတ်စာ ကျွေးသောကြောင့် လယ်တောသို့ သွားရာ ကောက်နှံကို စားရန် လာသော ယုန်ငယ်ကို အဆင်သင့် ဖမ်းမိ၍ သတ်တော့မည်ဟု ကြံပြီးမှ ပါဏာတိပါတအပြစ်ကို သတိရသဖြင့် မသတ်ဘဲ လွှတ်လိုက်သည်၊ အိမ်သို့ ရောက်လျှင် မိခင်ထံမှောက်၌ "ကျွန်ုပ်သည် နားလည်သော အရွယ်မှ စ၍ သူ၏ အသက်ကို မသတ်ဖူးပါ" ဟု ဆိုသဖြင့် မိခင်ရောဂါ ပျောက်ကင်းခဲ့လေသည်၊ ပါဏာတိပါတမှ ရှောင်ကြဉ်ခြင်း၏ အကျိုးဖြစ်လေသည် (အဘိ၊ ဋ္ဌ၊ ၁။၁၄၆)။

ရှေးအခါက ဥပါသကာ တစ်ယောက်သည် သီလဆောက်တည်ပြီး၍ လယ်ထွန်ပြီးနောက် ပျောက်သောနွားတို့ကို ရှာစဉ် ဥတ္တရဝဍ္ဍမာန တောင်ပေါ်၌ စပါးကြီးမြွေက ရစ်ပတ်လေသော် လက်၌ ပါသော ပဲကွပ်ဖြင့် ခုတ်သတ်ရန် ကြံပြီးမှ ဆောက်တည်ခဲ့သော သီလကို သတိရ၍ ပဲကွပ်ကို လွှင့်ပစ်လေသည်၊ သီလတန်ခိုးကြောင့် မြွေလည်း လွတ်သွားလေသည် (အဘိ၊ ဋ္ဌ၊ ၁။၁၄၆)။

ရှေးအခါက ဝိပဿီမြတ်စွာဘုရား လက်ထက် ဗန္ဓုမတီပြည်၌ သူတပါး၏ အစေခံကျွန်မ အမျိုးသမီး တစ်ယောက်သည် တကြိမ်တခါ ဥပုသ်သီလကို ခံယူဆောက်တည်ခဲ့ဖူးသော ကုသိုလ်ကံကြောင့် သိကြားမင်းအဖြစ် (၆၄)ကြိမ်

ကိုယ်သားကိုယ်ရေ ရွှေအဆင်းနှင့် ပြည့်စုံခြင်း၊ ဘဝဆက်တိုင်း တုဖက်ကင်းရှိ စည်းစိမ်ချမ်းသာကို ခံစားရပြီး ဂေါတမဘုရားရှင် လက်ထက်တော်၌ သာဝတ္ထိပြည် သူဌေးတစ်ဦး၏ သမီးဖြစ်၍ အရွယ်ရောက်သော် ဃရာဝါသ ကိစ္စမှ ရှောင်ကြဉ်၍ ဘုရားရှင် သာသနာတော်၌ ရဟန်းပြုကာ ရဟန္တာဖြစ်၍ ခေတုပေါသထ ဘိက္ခုနီဟု ထင်ရှားလေသည်။

## အဒိန္နာဒါနအဖွင့်

"သူတပါးဥစ္စာကို ခိုးယူခြင်းမှ ရှောင်ကြဉ်ပါ၏" ဆိုရာ၌ သူတပါးဟူသည် မိမိမှတပါး အခြားသော လူ နတ် တိရစ္ဆာန် ဟူသမျှကို သူတပါးဟု ဆိုပါသည်၊ ထိုသူတပါးတို့က ကိုယ်ဖြင့် ဖြစ်စေ, နှုတ်ဖြင့် ဖြစ်စေ, စာဖြင့် ဖြစ်စေ မပေးအပ်သော ဥစ္စာကို ခိုးယူခြင်း, ခေးပြတိုက်ယူခြင်း, လိမ်ညာခြင်း, လုည့်ပတ်ယူခြင်း, အရောင်းအဝယ် ပြုလုပ်ရာ၌ အလေး တင်း တောင်း ချိန်စသည်တို့ကို မမှန်မကန်ပြုခြင်း၊ ရောင်းကုန်တိုးအောင် ရေထိုးခြင်း စသော မရိုးမသားပြုလုပ်ယူခြင်း မှန်သမျှ အဒိန္နာဒါနချည်း ဖြစ်သည်။ ဝိနည်းတော် အလိုအားဖြင့် တိရစ္ဆာန်၏ဥစ္စာကို ယူရာ၌ အာပတ်မသင့်သော်လည်း အဘိဓမ္မာ သဘော သုတ္တန်သဘောအားဖြင့် အဒိန္နာဒါနပင် ဖြစ်၏။

အဒိန္နာဒါနကံ၌ အောက်ဖော်ပြပါ အင်္ဂါ ၅-ပါး ရှိ၏—

(၁) သူတပါး၏ ဥစ္စာဖြစ်ခြင်း၊

(၂) သူတပါး ဥစ္စာဟု သိခြင်း၊

(၃) ခိုးယူလိုသော စိတ်ရှိခြင်း၊

(၄) ခိုးယူကြောင်းဖြစ်သော ကိုယ်မှု နှုတ်မှု လုံ့လ တစ်ခုခုကို ပြုခြင်း

(၅) ခိုးယူခြင်း (ခုဒ္ဒကပါဌ။ ၂၁။ အဋ္ဌသာလိနီ အဋ္ဌကထာ။ ၁၄၁)။

ဖော်ပြပါ အင်္ဂါ ၅-ပါးစုံလျှင် အဒိန္နာဒါနကံ အထမြောက်၏၊ ဿိက္ခာပုဒ်ပျက်၏၊ ကံမြောက်လျှင် အပါယ်ဘုံ၌ ပဋိသန္ဓေအကျိုး ပေးနိုင်သော (ဇနက) သတ္တိ ကျေန်ရှိ၏၊ ကံမမြောက်လျှင် ပဋိသန္ဓေကျိုးပေးရန် ကိန်းသေမဟုတ်ပေ။ ဤ အင်္ဂါ ၅-ပါး မညီညွတ်ပါက ကံ မမြောက်ပါ။

အဒိန္နာဒါန၌ လို့လပ္ပို့မှုပယောဂမှာ ပါဏာတိပါတ၌ ပြခဲ့သော ၆-မျိုးပင် ဖြစ်၏။

(၁) သာဟတ္ထိကပယောဂ = ကိုယ်တိုင် ခိုးယူခြင်း၊

(၂) အာဏတ္တိကပယောဂ = သူတပါးကို နှုတ်ဖြင့် ဖြစ်စေ, စာဖြင့် ဖြစ်စေ အခိုးခိုင်းခြင်း၊

(၃) နိဿဂ္ဂိယပယောဂ = သွင်းကုန်ထုတ်ကုန်ကို အကောက်ခွန်ကင်း ကျော်လွန်စေရန် လွှင့်ပစ်၍ ခိုးယူခြင်း၊

(၄) ထာဝရပယောဂ =ပစ္စည်းကို ပုံမပျက် အနေအထား မပျက်စေဘဲ ခိုးခြင်း၊ (ဥပမာ– ထောပတ် ဆီအိုး စသည့်တို့၌ ပုဆိုး, ဂွမ်း စသည်ချ၍ ခိုးခြင်း)၊

(၅) ဝိဇ္ဇာမယပယောဂ = အင်းအိုင် ခါးလှည့် လက်ဖွဲ့ မန္တန် စုပ်၍ ခိုးယူခြင်း၊

(၆) ဣဒ္ဓိမယပယောဂ = တန်ခိုးဖြင့် ခိုးယူခြင်း—

တို့ဖြစ်ပါသည်။ ဤပယောဂ ၆-မျိုးတွင် တစ်မျိုးမျိုးဖြင့် ယူသော် ကံမြောက်၏။

## ခိုးခြင်း ၂၅-ပါး

အဒိန္နာဒါနကို ဝိနည်းပါဠိတော်နှင့် အဋ္ဌကထာကျမ်းများ၌ ခိုးယူသည့် ပစ္စည်း အချိန်ကာလ, နေရာဒေသ, အခြေအနေနှင့် ခိုးပုံ ခိုးနည်းများအရ ခိုးခြင်း ၂၅-ပါးကို ခွဲခြားရေတွက် ဖော်ပြထားသည်ကို အောက်ပါအတိုင်း မှတ်သားနိုင်သည်—

### ၁။ မတရားအမှုဆင်၍ ရယူခြင်း

သူတပါးပိုင်သော တိုက်တာ, အိမ်မြေ, ခြံမြေ, လယ်ယာ, ဥယျာဉ်, ဈေးဆိုင်, ရွှေငွေ စသော(သက်မဲ့)ပစ္စည်းများကို မတရားအမှုဆင်၍ တရားစွဲပြီး ရယူခြင်း၊ တရားရုံးက ပိုင်ရှင်မဟုတ်သူကို ပိုင်ရှင်အဖြစ်ဖြင့် အနိုင်ပေး၍ ဆုံးဖြတ်သောအခါ ပိုင်ရှင်က လက်လျှော့လျှင် ခိုးမှုမြောက်၏၊ ပိုင်ရှင်က လက်မလျှော့ဘဲ အယူခံတက်နေသေးလျှင် ခိုးမှုမမြောက်သေး၊ အယူခံမှု ပြီးဆုံး၍ ပိုင်ရှင်လက်လျှော့လျှင် ခိုးမှုမြောက်၏။ (အာဒိယန)

## ၂။ ကိုယ်တိုင်သယ်ယူနေစဉ် ခိုးခြင်း

သူတပါးပိုင်(သက်မဲ့)ပစ္စည်းကို ကိုယ်တိုင် သယ်ယူပို့ဆောင်မှု ပြုသောအခါ ပိုင်ရှင်ထံသို့ ရောက်အောင် မပို့ဘဲ လမ်းခရီး၌ ခိုးယူခြင်း၊ ဤသို့ ခိုးယူရာ၌ ခိုးလိုသောစိတ်ဖြင့် မိမိသယ်ဆောင်လာသော ပစ္စည်းကို နေရာရွှေပြောင်းလျှင် ဥပမာ–ခေါင်းဖြင့် ရွက်လာခဲ့သော ပစ္စည်းကို ခိုးလိုစိတ်ဖြင့် ပခုံးပေါ်သို့ ပြောင်းရွှေလျှင်၊ သို့မဟုတ် အမှန်သွားရောက်ရမည့် လမ်းကြောင်းမှ ဘေးဖဲ့၍ လမ်းကြောင်းပြောင်းသွားခဲ့လျှင် ဒုတိယခြေလှမ်း၌ ခိုးမှုမြောက်၏။ (ဟရဏ)

## ၃။ ငြင်းကွယ်၍ ခိုးခြင်း

မိမိထံ ယုံကြည်သဖြင့် အပ်နှံထားသော (သက်မဲ့)ပစ္စည်း၊ မိမိက ချေးငှား ယူငင်ထားသော ပစ္စည်းကို ပိုင်ရှင်က ပြန်လည်တောင်းခံသည့်အခါ ပြန်မပေးလိုသဖြင့် မသိဘူး, မရှိဘူးဟု ငြင်းကွယ်ခြင်း၊ ဤသို့ ငြင်းကွယ်၍ ခိုးရာ၌ ပိုင်ရှင်ဖြစ်သူက သူ့ပစ္စည်းဆုံးပါပြီဟု လက်လျှော့သည့် အချိန်၌ (ဝန်ချသည့် အချိန်၌) ခိုးမှုမြောက်သည်။ (အဝဟရဏ)

## ၄။ သယ်ဆောင်သူကို လမ်းကြောင်းပြောင်းစေခြင်း

ခိုးသူသည် သူတပါးပိုင် (သက်မဲ့) ပစ္စည်းကို သယ်ဆောင်လာသည့် လူတစ်ဦးကို ဖြားယောင်းသွေးဆောင်၍ ဖြစ်စေ, ခြိမ်းခြောက်၍ ဖြစ်စေ, အခြား တနည်းနည်းနှင့်ဖြစ်စေ ပိုင်ရှင်ထံသို့ မပို့စေဘဲ အခြားတစ်နေရာသို့အပို့ခိုင်းသည်၊ ထိုသို့ ခိုင်းသည့်အတိုင်း ပစ္စည်းသယ်ဆောင်သူသည် အမှန်သွားရောက်ရမည့် လမ်းကြောင်းမှ ပြောင်းလွှဲ၍ အခြား လမ်းကြောင်းသို့ သွားလျှင် ဒုတိယ ခြေလှမ်း၌ ခိုးမှုမြောက်၏။ (ဣရိယာပထဝိကောပန)

## ၅။ နေရာရွှေပြောင်း၍ ခိုးခြင်း

ခိုးလိုသောစိတ်ဖြင့် ဓန္ဒ ငွေ ဆန်စပါး ဇ. စရှိသော သူတပါးပိုင် (သက်မဲ့) ပစ္စည်းတစုံတခုကို ပိုင်ရှင်ထားသည့်နေရာမှ ဆံခြည်တစ်ပင်စာမျှ ရွေ့ရှား အောင် ပြုလုပ်လျှင် ခိုးမှု အထမြောက်သည်။ ထို့ကြောင့် ရဟန်းတော်များအား သူတပါးပိုင် ပစ္စည်းတစုံတခုကို အမှတ်တမဲ့ ကောက်ယူ ကိုင်တွယ်ကြည့်ရှုခြင်း မပြုလုပ်ရန် ဝိနယဂရုက ဆရာတော်ကြီးများက ဆုံးမတော်မူကြသည်။ မူလက ရိုးသားသောစိတ်ဖြင့် ကိုင်တွယ်ကြည့်ရှုနေစဉ် လိုချင်တပ်မက်သောစိတ် ဖြစ်ပေါ် လာ၍ မရိုးသားသောစိတ်ဖြင့် ပစ္စည်းကိုင်ထားသောနေရာမှ လှုပ်ရှားရွှေပြောင်း မိပါက ထိုရဟန်းကိုယ်တိုင် မသိလိုက်ရဘဲ ပါရာဇိက ကျသွားတတ်သည်။ ထို့ကြောင့် ဒုတိယပါရာဇိကသိက္ခာပုဒ်တော်သည် အလွန်နူးညံ့သိမ်မွေ့ကြောင်း

ပါရာဇိကာကျူမှန်းမသိ ကျူတတ်ကြောင်း ရှေးဆရာစဉ်ဆက် မိန့်တော်မူခဲ့သည်။ (ရှာနာဓာဝန)

မှတ်ချက်။ ။နံပါတ် ၁-မှ နံပါတ် ၅-အထိ ခိုးခြင်းငါးပါးနှင့် နံပါတ် ၆-မှ နံပါတ် ၁၀-အထိ ခိုးခြင်းငါးပါးသည် တူညီကြ၍ သက်မဲ့ ပစ္စည်းနှင့် သက်ရှိပစ္စည်းအဖြစ်သာ ကွာခြားမှု ရှိသည်။

### ၆။ မတရားအမှုဆင်၍ ရယူခြင်း

သူတပါးပိုင် ဆင်, မြင်း, ကျွဲ, နွား အစရှိသော (သက်ရှိ) ပစ္စည်းများကို မတရားအမှုဆင်၍ တရားစွဲပြီး ရယူခြင်း၊ တရားရုံးက ပိုင်ရှင်မဟုတ်သူကို ပိုင်ရှင်အဖြစ်ဖြင့် အနိုင်ပေး၍ ဆုံးဖြတ်သည့်အခါ ပိုင်းရှင်က လက်လျှော့လျှင် ခိုးမှုမြောက်သည်။ အထက်အပိုဒ် (၁)နှင့် တူပြီ။ (အာဒိယန)

### ၇။ ကိုယ်တိုင် သယ်ယူနေစဉ် ခိုးခြင်း

သူတပါးပိုင် ကျွဲ၊ နွားအစရှိသော (သက်ရှိ) ပစ္စည်းတို့ကို ကိုယ်တိုင် သယ်ယူပို့ဆောင်မှု ပြုသောအခါ ပိုင်ရှင်ထံသို့ ရောက်အောင် မပို့ဘဲ ထမ်းခရီးနှင့် ခိုးယူခြင်း၊ ဤသို့ ခိုးယူရာ၌ ခိုးယူသည့် တိရစ္ဆာန်ကို အမှန်သွားရမည့် ထမ်းကြောင်းမှ ပြောင်းရွှေ့သွားစေခဲ့လျှင်၊ သို့မဟုတ် ထမ်းသယ်ဆောင်လာခဲ့သော ကြက်, ငှက် စသည်ကို မူလနေရာမှ ရွှေ့ပြောင်းလျှင် ခိုးမှုမြောက်သည်။ (ဟာရဏ)

### ၈။ မြင်းကွယ်၍ ခိုးခြင်း

မိမိအား ယုံကြည်သဖြင့် အပ်နှံထားသော၊ သို့မဟုတ် ငှါးရမ်းထားသော ကျွဲ, နွား, ကြက်, ဝက် စသော (သက်ရှိ)ပစ္စည်းများကို ပိုင်ရှင်က ပြန်လည် တောင်းခံသည့်အခါ ငြင်းကွယ်၍ ခိုးခြင်း၊ ဤသို့ ခိုးရာ၌ ပိုင်ရှင်က သူ့ပစ္စည်း ဆုံးပါပြီဟု လက်လျှော့သည့်အချိန်၌ (ဝန်ချသည့်အချိန်၌) ခိုးမှုမြောက်သည်။ (အဝဟရဏ)

### ၉။ သယ်ဆောင်သူကို ထမ်းကြောင်းပြောင်းစေ၍ ခိုးခြင်း

သူတပါးပိုင် ကျွဲ, နွား စသော (သက်ရှိ) ပစ္စည်းကို သယ်ဆောင်လာသည့် သူကို မြှားယောင်း သွေးဆောင် ခြိမ်းခြောက်၍ ပိုင်ရှင်ထံသို့ မပို့စေဘဲ မိမိ အလိုရှိရာသို့ သယ်ဆောင်နိုင်ခြင်း၊ ထိုသို့ ခိုးသည့်အတိုင်း တိရစ္ဆာန်

သယ်ဆောင်လာသူသည် အမှန်သွားရောက်မည့် လမ်းကြောင်းမှ ခပြောင်းလဲ၍ အခြား လမ်းကြောင်းသို့ သွားလျှင် ဒုတိယခြေလှမ်း၌ ခိုးမှုမြောက်သည်။ (ဗှူရိယာပထ ဝိကောပန)

### ၁၀။ နေရာရွှေ့ပြောင်း၍ ခိုးခြင်း

ကျွဲ၊ နွား၊ ကြက်၊ ဝက်စသော (သက်ရှိ) သတ္တဝါတို့ကို ခိုးယူလိုသောစိတ်ဖြင့် ပိုင်ရှင်ထားသည့် နေရာမှ ရွှေ့ပြောင်း ယူဆောင်၍ ခိုးခြင်း၊ ပိုင်ရှင်ထားရှိသည့် နေရာမှ ရွှေ့သည်နှင့် တပြိုင်နက် ခိုးမှုမြောက်သည်။ (ဌာနာစာဝန)

မှတ်ချက်။ ။နံပါတ် ၁-မှ ၁၀-အထိ ခိုးခြင်း ၁၀-ပါးမှာ ခိုးသည့် ပစ္စည်း၏ အနေအထားကို ပြဆိုခြင်း ဖြစ်သည်။

### ၁၁။ ကိုယ်တိုင် ခိုးခြင်း

သူတပါးကို မခိုင်းစေဘဲ ကိုယ်တိုင် ကိုယ်ကျ ခိုးယူခြင်း၊ ကိုယ်တိုင်ကိုယ်ကျ ဓားပြတိုက်ခြင်း၊ လုယက်ခြင်း၊ ပစ္စည်းကို ယူရန် လှမ်းကိုင်လျှင် ထိုပစ္စည်းသည် မူလနေရာမှ ရွေ့လျှင် ခိုးမှုမြောက်၏။ (သာဟတ္ထိက)

### ၁၂။ သူတပါးအား ခိုးစေခြင်း

ကိုယ်တိုင် မခိုးဘဲ သူတပါးကို အခိုး ခိုင်းခြင်း၊ လုယက် ခိုင်းခြင်း၊ ခိုးရာပါ ပစ္စည်းမှန်းသိလျက် လက်ခံခြင်း၊ သူခိုးနှင့်ခါးပိုက်နှိုက်များကိုသိလျက် သဘောတူ လက်ခံထားရှိခြင်း၊ ဓားပြ မွေးထားခြင်း၊ သူတပါးကို ခိုးခိုင်းရာ၌ အခိုင်းခံရသောပုဂ္ဂိုလ်က ထိုပစ္စည်းကို ခိုးလျှင် နှစ်ဦးလုံး ခိုးရာရောက်၏။ (အာဏတ္တိက)

### ၁၃။ ကိုယ်လွတ်ထက်လွတ် ခိုးခြင်း (ကိုယ်နှင့် ကင်းလွတ်အောင် ပြု၍ ခိုးခြင်း)

ခိုးသူသည် ခိုးလိုသည့်ပစ္စည်းကို မိမိနှင့် တပါတည်း ယူဆောင်ခြင်း မပြုဘဲ အစောင့်အရှောက် ကင်းလွတ်သည့် နေရာ၌ ချထား၍ ဖြစ်စေ၊ လှမ်းပစ်၍ဖြစ်စေ ပြုလုပ်ပြီးလျှင် ခိုးသူကိုယ်တိုင်က အစောင့်အရှောက်များ၏ ရှေ့မှောက်တွင် ကိုယ်လွတ်ထက်လွတ် ဖြတ်သန်းသွား၍ ခိုးသည်။ ဥပမာ– ဇက်ရုံ အလုပ်ရုံနှင့် ရုံများ၌ ပစ္စည်းများခိုးလုတ် ခိုးသွင်းခြင်း မပြုနိုင်စေရန် အဝင်အထွက် ပြုသူများကို လုံခြုံရေး အစောင့်၏ ရှေ့မှောက်မှ ဖြတ်သန်းသွားစေရန် စီစဉ်ထားရှိသည်၊ ခိုးသူသည် ထိုဇက်ရုံ အလုပ်ရုံ၊ သို့မဟုတ် ရုံးသို့ ကိစ္စတခုဖြင့် သွားရောက်စဉ် မိမိခိုးလိုသည့် ပစ္စည်းကို အစောင့်နှင့် ဝေးကွာသည့် ခြံစည်းရိုး တံတိုင်း၏ ပြင်ပသို့ လွှင့်ပစ်ခြင်း၊ ချထားခြင်း၊ ပြင်ပရှိ အဖော်ထံသို့ လှမ်းပစ်ပေးခြင်း စသည်ပြုလုပ်၍ လုံခြုံရေးကင်းကို ဖြတ်သန်းသွားပြီးလျှင် အပြင်

ရောက်မှ မိမိလှမ်းပစ်သောပစ္စည်း ချထားသော ပစ္စည်းကို ရယူ၍ ခိုးခြင်းမျိုး ဖြစ်သည်။ ပစ္စည်းကို ပစ်လိုက်ရာ၌ လက်မှ လွတ်လျှင် ခိုးမှုမြောက်၏။

ရှေးခေတ်က နယ်ခြားကင်း ကြည်းကင်း ရေကင်းချထား၍ အခွန် ကောက်ခံလေ့ရှိ၏၊ ဤခေတ်၌ ပြည်ပလေဆိပ် သင်္ဘောဆိပ်နှင့် နယ်စပ် အကောက်ခွန်ဌာနတို့၌ ပြည်ပမှ တင်သွင်းသော ပစ္စည်းများကို အခွန်ကောက် ယူလေ့ရှိသည်၊ ထိုအကောက်ခွန်ဌာနကို ဖြတ်သန်းသွားသောအခါ အခွန် ဆောင်ရမည့် ပစ္စည်းကို အကောက်ခွန်ဌာနကို ကျော်လွန်သွားအောင် ပြင်ပသို့ လှမ်းပစ်ခြင်း၊ ချထားခြင်း၊ အကောက်ခွန်ဌာနကို ဖြတ်ကျော်သွားမည့် ယာဉ် တခုခု၌ တင်ဆောင်ပေးလိုက်ခြင်း ပြုလုပ်၍ မိမိသည် ကိုယ်လွတ် လက်လွတ် အကောက်ခွန်ဌာနကို ဖြတ်ကျော်သွား၏၊ ထို ပစ္စည်းကို လှမ်းပစ်လိုက်သော အခါ လက်မှ လွတ်သော ခဏ၌ ခိုးမှုမြောက်သည်။

(က) ယဉ်ပါးသော ခွေးစသော တိရစ္ဆာန်တစ်ကောင်၏ လည်ပင်း၌ အခွန်မလွတ် ပစ္စည်းကို ဆွဲထား၍ မိမိက အကောက်ခွန်ဌာန၏ တစ်ဖက်သို့ ကိုယ်လွတ် လက်လွတ် ဖြတ်ကျော်သွား၏၊ အပြင် ရောက်သောအခါ ထိုတိရစ္ဆာန်ကို ခေါ်ယူ၏၊ ထိုတိရစ္ဆာန်သည် အခွန်တော်ဌာနကို ဖြတ်ကျော်သော ခဏ၌ ခိုးမှုမြောက်၏။

(ခ) သယ်ဆောင်ခွင့်နှင့် လက်ဝယ်ထားရှိခွင့်မပြုသော ကျောက်စိမ်း, ဘိန်းကဲ့သို့သော တရားမဝင် ပစ္စည်းများကို ပြောင်းရွှေ့ သယ်ဆောင်ရာ၌ စီးပွားရေး လောဘဖြင့် မူလရှိနေရာမှ ရွှေ့စေလျှင်၊ သို့မဟုတ် လက်ခံသိမ်းဆည်း သိုဝှက်ထားလျှင် ခိုးမှုမြောက်၏။ (နိဿဂ္ဂိယ)

## ၁၄။ ခိုးရန်အချိန်နှင့် နည်းလမ်း မသတ်မှတ်ဘဲ အခိုးခိုင်းခြင်း

ခိုးရန်အချိန်နှင့် ခိုးရန်နည်းလမ်းကို သတ်မှတ်ခြင်း မပြုဘဲ သင့်လျော်သည့် အချိန်, ဖြစ်နိုင်သည့် နည်းဖြင့် ခိုးယူရန် စေခိုင်းသည်၊ အခိုင်းခံရသူသည် တချိန်ချိန်တွင် အမှန်တကယ် ခိုးယူပါက ခိုင်းသော ပုဂ္ဂိုလ်သည် ခိုင်းသည့် အချိန်မှာပင် ခိုးမှုကျူးလွန်ရာရောက်သည်။ (အဋ္ဌသာဝက)

## ၁၅။ ပိုင်ရှင်လက်လျှော့အောင် ပြု၍ ခိုးခြင်း

ယုံကြည်၍ အပ်နှံထားသော ပစ္စည်းကို ပိုင်ရှင်က ပြန်လည် တောင်းခံသော အခါ မိမိထံ၌ မအပ်နှံဖူးကြောင်း ငြင်းကွယ်၍ ခိုးသည်။ ပစ္စည်းရှင်က ငါ့ပစ္စည်း

ပြန်မရလော့ဟု စိတ်ဆုံးဖြတ် လက်လျှော့သောအခါ ခိုးသူသည် ခိုးမှုအထမြောက်၏၊ ငှားရမ်းပစ္စည်း ပြန်မပေးခြင်း၊ ချေးငွေကို ပြန်မဆပ်ခြင်း၊ သူတပါးပစ္စည်း ထိခိုက် နစ်နာမှုအတွက် အစားပေးလျော်ရမည်ကို မလျော်ဘဲ နေခြင်း၊ လောင်းကစားရာ၌ ကတိအတိုင်း အလျော်အစားမပြုဘဲ ကတိ ပျက်ကွက်ခြင်း၊ ပစ္စည်းပိုင်ဆိုင်မှုအတွက် မတရားအမှုဆင်၍ တရားစွဲရာ၌ ပိုင်ရှင်ဘက်က တရားရှုံးခြင်း၊ သူတပါးပစ္စည်းကို ပိုင်ရှင် ရှာမတွေ့စေရန် ပိုင်ရှင်ထားသည့် နေရာမှသယ် တခုခုဖြင့် ဖုံးဖိဝှက်ထားခြင်းတို့၌ ပစ္စည်းရှင်က "သူ့ပစ္စည်း ဆုံးပါပြီ၊ ရတော့မှာ မဟုတ်ပါဘူး"ဟု စိတ်ဖိုးဒိုးချ လက်လျှော့သည့်အခါနှ်၌ ခိုးသူမှာ ခိုးမှုမြောက်သည်။ (ဓုရနိက္ခေပ)

**မှတ်ချက်။** ။ဤခိုးခြင်းမှာ အမှတ်စဉ် (၁) (၃) (၆) (၈)နှင့် (၂၄)တို့၌ ဖော်ပြထားသည့် ခိုးခြင်းတို့နှင့် တူညီသည်။ ၎င်းတို့မှာ ခိုးသူဘက်မှ ခိုးနည်းကို ဖော်ပြထားခြင်း ဖြစ်၍ ဤအမှတ်စဉ် (၁၅)မှာ ပိုင်ရှင်ဘက်မှ စိတ်နေစိတ်ထားကို ဖော်ပြခြင်း ဖြစ်ပါသည်။

### ၁၆။ မခိုးမီက ခိုးမှုအထမြောက်ခြင်း

သူတပါးအား အခိုးခိုင်းခြင်း, လုယက်ခိုင်းခြင်း ပြုရာ၌ အခိုင်းခံရသူက ခိုးခြင်း လုယက်ခြင်း ကောန်ပြုလုပ်မည်ဖြစ်ပါက ခိုင်းသောပုဂ္ဂိုလ်သည် ခိုင်းသောခဏ၌ ခိုးမှုမြောက်သည်။ ခိုးခြင်းကိစ္စ မပြုလုပ်မီကပင် ခိုးမှုမြောက်လေသည်။ အခိုင်းခံရသူက မကျူးလွန်လျှင်မူ ခိုးမှုမမြောက်ချေ။ (ပုဗ္ဗပယောဂ)

### ၁၇။ ချက်ချင်း ခိုးမှုမြောက်ခြင်း

ရွှေ့ပြောင်းနိုင်သော ပစ္စည်းများကို ခိုးယူရာ၌ နေရာရွှေ့သည်နှင့် တပြိုင်နက် ခိုးမှုမြောက်သည်၊ မရွှေ့ပြောင်းနိုင်သော ဥယျာဉ် ခြံမြေ၊ လယ်ယာမြေကို ခိုးယူရာ၌ ခြံစည်းရိုးတိုင်ကို သူတပါးပိုင် မြေဘက်သို့ ရွှေ့ပြောင်းစိုက်လျှင် ခြံစည်းရိုးတိုင် မြေသို့ ထိသည်နှင့် တပြိုင်နက် ခိုးမှုမြောက်သည်။ မြေတိုင်းသူအရာရှိအား လာဘ်ထိုး၍ သူတပါး မြေဘက်သို့ တိုးချဲ့တိုင်းစေ၏။ မြေတိုင်းသူက ပေကြိုးဆွဲပြီး ငုတ်တိုင် ရိုက်သောအခါ ပထမတစ်ချက် ရိုက်ချိန်၌ ခိုးမှုအထမြောက်သည်။ လယ်ကန်သင်းရိုးကို မိမိဘက်က တူးဖြို၍ သူတပါးဘက်သို့ ကန်သင်းရိုး ရွှေ့ပြောင်းပါက မြေခိုးမှုဖြစ်သည်။ ကန်သင်းရိုးကို ထွန်စောင်းတိုက်ခြင်း၊ လမ်းမြေဘက်သို့ ခြံဝင်းတိုးချဲ့ခြင်း အမှုများသည် ခိုးခြင်း (၂၅) ပါး၌ ပါဝင်နေသည်ကို သတိပြုသင့်ကြသည်။ (သဟပယောဂ)

၁၈။ တိုင်ပင်ညှိနှိုင်း၍ ခိုးခြင်း (ကြံရာပါ)

ပစ္စည်းတစ်ခုကို အခွင့်သာသူက ခိုးစတမ်းဟု လူနှစ်ယောက် သုံးယောက် စသည် တိုင်ပင် ညှိနှိုင်းထား၏။ ၎င်းတို့အထဲမှ တစ်ဦးဦးက ခိုးလျှင် တိုင်ပင် ညှိနှိုင်းရာ၌ ပါဝင်သော လူအားလုံးသည် ခိုးမှု လွန်ကျူးရာ ရောက်သည်။ ကိုယ်တိုင် မခိုးဘဲလျက် သူတပါး ခိုးသည်ကို သဘောတူသည့်အတွက် သူခိုးအဖြစ်သို့ ရောက်ရသည်။ (သံဝိဓာဝဟာရ)

၁၉။ သတ်မှတ်၍ အခိုးခိုင်းခြင်း

အချိန်ကာလကို လည်းကောင်း, ခိုးပုံ ခိုးနည်းကိုလည်းကောင်း, ခိုးရမည့် ပစ္စည်းကိုလည်းကောင်း သတ်မှတ်ပေး၍ အခိုးခိုင်းခြင်း ဖြစ်သည်။ ယနေ့ အခိုးခိုင်းသည်ကို နက်ဖန်မှခိုးလျှင် ခိုးခိုင်းသူမှာ အပြစ်မရှိချေ။ တဖန် ခိုင်းသည့် ပစ္စည်းကိုမခိုးဘဲ အခြားပစ္စည်းကို ခိုးလျှင် ခိုင်းသူမှာ အပြစ်မရှိချေ။ သို့ရာတွင် ဝိနည်းရှောင်သည့် အနေဖြင့် ဉာဏ်နီဉာဏ်နက်သုံး၍ အချိန်နှင့် ပစ္စည်းကိုသတ်မှတ် အခိုးခိုင်းရာ၌ ခိုင်းသူမှာ ခိုးခြင်းအပြစ်မှ မလွတ်ချေ။ (သင်္ကေတကမ္မ)

၂၀။ အချက်ပြ၍ အခိုးခိုင်းခြင်း

မျက်စိမှိတ်ပြခြင်း, မျက်စပစ်ပြခြင်း, လက်လှုပ် ခြေလှုပ် ပြခြင်း, မီးဖြင့် အချက်ပြခြင်း၊ မှန်ဖြင့် အချက်ပြခြင်း၊ လေချွန်သံ၊ တုံးခေါက်သံ စသော အသံဖြင့် အချက်ပြခြင်း ဤသို့စသည် အချက်ပြနည်း တခုခုဖြင့် အခိုးခိုင်းခြင်း၊ လုယက်ခိုင်းခြင်း ဤသို့ ခိုးယူလုယက်မှုပြုရာ၌ အချက်ပြသော ပုဂ္ဂိုလ်သည် အချက်ပြဆည့်အချိန်၌ ခိုးမှုမြောက်၏။ (နိမိတ္တကမ္မ)

မှတ်ချက်။ ။နံပါတ် ၁၆-မှ ၂၀-အထိ ခိုးခြင်း ၅-ပါးမှာ ခိုးမှုမြောက်သည့် အချိန်ကို ဖော်ပြသည်။

၂၁။ မသိအောင် ခိုးခြင်း

ပစ္စည်းရှင်မသိအောင် ဖောက်ထွင်းခိုးယူခြင်း၊ အလစ်သုတ်ခြင်း၊ ခါးပိုက် နှိုက်ခြင်း၊ ငွေစက္ကူအတု ပြုလုပ်ခြင်း၊ ငွေအတု ပြုလုပ်သုံးစွဲခြင်း၊ အင်္ဂလိပ် ရွှေအတု ပြုလုပ်သုံးစွဲခြင်း၊ ဝင်ငွေခွန် ( အမြတ်တော်ကြေး ) မပေးရအောင် ဝင်ငွေစာရင်း လိမ်ပြခြင်း၊ အလေး တင်း တောင်း လိမ်ခြင်း စသော နည်းလမ်း တခုခုဖြင့် ပိုင်ရှင်မသိအောင် ခိုးယူလျှင် ခိုးမှုမြောက်သည်။

(က) အလေးလိမ်ခြင်း။ ။မျက်မြင်အားဖြင့် တူညီသောအလေး နှစ်ခု မှုလုပ်ထား၍ ယူသည့်အခါ အလေးကြီးဖြင့် ချိန်၍ ပေးသည့်အခါ အလေးငယ်ဖြင့် ချိန်ခြင်း၊ ဆီစိမ်ထားသော ဒွေးစေ့ဖြင့် ရွှေကို ချိန်၍ ယူခြင်း၊

(ခ) ချိန်ခွင်လိမ်ခြင်း။ ။ချိန်ခွင်ကို တစ်ဖက်လေး ဘာဝ်ဖက်ပေါ့ ပြုလုပ်ထား၍ မိမိက ပေးသည့်အခါ လေးသည့်ဘက်၌ ပစ္စည်း ထည့်ချိန်ခြင်း၊ ချိန်ခွင်ပေါင်ကို တစ်ဖက်တိုရှည်ထား၍ မိမိက ပေးသည့်အခါ ရှည်သည့်ဘက်၌ ပစ္စည်းထည့်၍ ချိန်ခြင်း၊ ချိန်ခွင်ပေါင်ကို အခေါင်းဖောက်ထား၍ အခေါင်းထဲ၌ သံမှုန့် များထည့်ထားပြီး လေးစေလိုသည့်ဘက်ကို သံမှုန့်များ လျောကျသွားအောင် ချိန်ခွင်ပေါင်ကို စိုက်ထောင် မ-ယူ၍ ချိန်တွယ်ခြင်း၊ ချိန်ခွင်လျှာတွက်အောင် လက်ဖြင့် ကော့ပေး ခြင်း၊ ချိန်ခွင်လျှာကို ကန့်လန့် ( ဂလန့် ) တပ်သည့်နေရာ၌ ရှည်မျှော့မျှော့ အပေါက်ဖောက်ထားပြီး ချိန်တွယ်သည့်အခါ၌ မိမိလိုသည့်ဘက်သို့ ချိန်ခွင်လျှာ၏ အပေါက်ကို ရွှေ့ပြောင်း၍ တစ်ဖက်ဖက်သို့ ကပ်ပေးသည်၊

(ဂ) တင်းတောင်းလိမ်ခြင်း။ ။ကောက်ပဲသီးနှံကို တင်းတောင်းဖြင့် ခြင်ရာ၌မောက်နေအောင် စတုတ်တိုက်ခြင်း၊ခွက်ဝင်သွားအောင် စတုတ်တိုက်ခြင်း၊ အဝင်နည်းအောင် မြန်မြန်လောင်းထည့်ခြင်း၊ ပိုမိုဝင်အောင် ဖြည်းဖြည်းလောင်းထည့်ခြင်း၊ ယူသည့်အခါ တောင်းကြီးဖြင့်ယူ၍ ပေးသည့်အခါ တောင်းငယ်ဖြင့်ပေးခြင်း၊

(ဃ) ခြင်ခွက်လိမ်ခြင်း။ ။ဆီ, ရေနံဆီ စသည်တို့ကို ရောင်းဝယ်ရာ၌ ယူသည့်အခါ ခွက်ကြီးဖြင့်ယူ၍ ပေးသည့်အခါ ခွက်ငယ်ဖြင့် ပေးခြင်း၊ အဝင်နည်းအောင် မြန်မြန် လောင်းထည့်ခြင်း၊ ပို၍ဝင်အောင် ဖြည်းဖြည်း လောင်းထည့်ခြင်း၊ ခြင်ခွက်ဖင်ကို ဖောက်ထား၍ ခွက်ပြည့်ခြင်ပြီးနောက် အောက်ခံခွက်ထဲ၌ ယိုစိမ့်ကျအောင် ကြာရှည်ထား၍ ခြင်ခြင်း၊ ခြင်ခွက်ဖင်ကို အတွင်းချိုင့်အောင် ပြုထားခြင်း၊

(င) အခြားလိမ်နည်းအမျိုးမျိုး။ ။မသိနားမလည်သူများအား အဆမတန် ဈေးတင်ရောင်းချခြင်း၊ ပစ္စည်းအတုကို အစစ်ဟု ပြော၍ ရောင်းချခြင်း၊ ဖဲသုံးချပ်လိမ်နည်း၊ ငွေပွားနည်း၊

အင်္ဂရိတ်ရွှေလုပ်နည်းစသော လိမ်နည်းများဖြင့် လိမ်ယူခြင်း၊ ဘုရားအတွက် ကျောင်းအတွက်ဟု အကြောင်းပြ၍ အလှူခံပြီးလျှင် မိမိကိုယ်ကျိုးသုံးစွဲခြင်း၊ ခရီးစရိတ် ကုန်ကျသည့်ထက် (တရားဝင် ခွင့်ပြုသည်ထက်)ပိုမို ထုတ်ယူခြင်း၊ ဤခိုးနည်းများမှာ ပိုင်ရှင်မသိအောင် ခိုးခြင်း၌ ပါဝင်၏။

**မြို့သားလူလည်နှင့် တောမုဆိုး ပုံဝတ္ထု**

ပိုင်ရှင်မသိအောင် ခိုးယူခြင်းနှင့်စပ်လျဉ်း၍ အဋ္ဌကထာ၌ ဖော်ပြထားသော လိမ်လည်နည်း ပုံဝတ္ထုတစ်ခုကို ထုတ်ဆောင်ပြသပါဦးမည်၊

တောမုဆိုးတစ်ယောက်သည် သမင်ကြီးတစ်ကောင်နှင့် သမင်ငယ်တစ်ကောင်ကို ရောင်းချရန် မြို့သို့ ယူဆောင်လာသည်။ လမ်းခရီး၌ မြို့သားလူလည်က ဈေးနှုန်းကိုမေးရာ မုဆိုးက သမင်ကြီး ၂/- သမင်ငယ် ၁/-ဟု ပြောလည်း။ မြို့သားလူလည်သည် ငွေ ၁/-ပေး၍ သမင်ငယ်ကို ဆွဲယူသွားသည်၊ အတန်ငယ်သွား၍ ပြန်လာပြီးလျှင် မုဆိုးအား "ယခင် မိမိပေးခဲ့သော ငွေ ၁/- ယခု ဤသမင်လေးကို ၁/-ဖြင့် တန်ဖိုးထား၍ ပြန်ပေးမည်။ စုစုပေါင်း ၂/-ဖြစ်၍ သမင်ကြီးကို ပေးရမည်"ဟု ပြောသည်။ တောသားမုဆိုးသည် မျက်စိလည်၍ သမင်ကြီးကို ပေးလိုက်သည်။ ဤပုံဝတ္ထုမှာကဲ့သို့ ခိုးသူသည် လူတစ်ယောက်ထံမှ ပစ္စည်းကို လိမ်လည်လှည့်ဖြားယူလျှင် ခိုးမှုမြောက်၏။ (ထေယျာဝဟာရ)

**၂၂။ အနိုင်အထက် လုယက်ယူခြင်း**

လက်နက်အင်အား၊ လူအင်အား၊ ပစ္စည်းအင်အားတခုခုဖြင့် ခြိမ်းခြောက်၍ သူတပါးပစ္စည်းကို ရယူခြင်း၊ အကြပ်ကိုင် ငွေညှစ်ခြင်း၊ လုပ်တောင်းခြင်း၊ လာဘ်စားခြင်း၊ ပစ္စည်းရှင်က မကျေနပ်ဘဲ ကြောက်လန့်၍ ပေးရသောကြောင့် ခိုးခြင်းတစ်မျိုးအဖြစ် သတ်မှတ်ရသည်။ (ပသယှာဝဟာရ)

**၂၃။ ရည်ရွယ်သတ်မှတ်၍ ခိုးခြင်း (သံသယစိတ်ဖြင့် ခိုးခြင်း)**

ပစ္စည်းတခုကို စတင်ယူဆောင်စဉ်က ခိုးမည်ဟု ယတိပြတ် စိတ်ဆုံးဖြတ်ချက် ချဘဲ အခွင့်သာလျှင် ခိုးမည်။ အခွင့်မသာလျှင် ပြန်ပေးမည်၊ မိမိအလိုရှိသော ပစ္စည်းဖြစ်က ခိုးမည်၊ အလိုမရှိသော ပစ္စည်းဖြစ်က ပြန်ထားမည်ဟု ရည်ရွယ် သတ်မှတ်ချက်ဖြင့် ခိုးခြင်းမျိုး ဖြစ်သည်။

လူတစ်ယောက်သည် လူပြတ်လပ်နေသော အိမ်တစ်အိမ်သို့ ဝင်၍ ပစ္စည်းတစ်ခုကို အထင်အရှား ယူဆောင်ခဲ့သည်။ ပိုင်ရှင်မြင်လျှင် ပြန်ထားမည်၊ ပိုင်ရှင်မမြင်လျှင် ခိုးမည်ဟူသော ကြံရွယ်ချက်ဖြင့် ပစ္စည်းကို သယ်ဆောင်လာသည်။ အိမ်တံခါးပေါက်၏ အပြင်ဘက်သို့ ရောက်သည်နှင့် တပြိုင်နက် ထိုလူမှာ ခိုးခြင်းမြောက်သည်။ အကယ်၍ ထိုပစ္စည်းကို အစကတည်းက ဖုံးဖိသိုဝှက် ယူဆောင်လာလျှင် အိမ်တံခါးပေါက်ကို ကျော်လွန်သည်ဖြစ်စေ၊ မကျော်လွန်သည်ဖြစ်စေ၊ ထိုအိမ်အတွင်းမှာပင် ပစ္စည်းကို ကိုင်သောခဏ၌ ခိုးမှု ကျူးလွန်ပြီးဖြစ်၍ ခိုးမှုမြောက်လေသည်။

တဖန် လူတယောက်သည် အိမ်တစ်အိမ်သို့ ဝင်ရောက်ခိုးယူရာ အမှောင်ထဲ၌ အဝတ်တစ်ထည်ကို တွေ့ရှိ၏၊ ထိုလူ့စိတ်ထဲ၌ ပုဆိုးဖြစ်လျှင် ယူမည်။ ထမီဖြစ်လျှင် မယူဟု ကြံစည်၍ ထိုအဝတ်ကို အိမ်အပြင်သို့ ယူဆောင်လာသည်။ ပုဆိုးဖြစ်ပါက သူ၏ရည်ရွယ်ချက်နှင့် ကိုက်ညီသည့်အတွက် စတင်ယူစဉ်ကပင် ခိုးမှုမြောက်သည်။ အကယ်၍ ထိုယူလာသော အဝတ်သည် ထမီဖြစ်နေသဖြင့် မယူတော့ဘဲ ထားခဲ့လျှင် ခိုးမှုအထမမြောက်ချေ။ "ယူမိမှတော့ မထူးပါဘူး ရတာပဲ ယူသွားတော့မယ်" ဟု စိတ်ကို ဆုံးဖြတ်လိုက်လျှင် ထိုအချိန်၌ ခိုးမှုမြောက်လေသည်။ (ပရိကပ္ပါဝဟာရ)

## ၂၄။ ဖုံးဖိဝှက်ထား၍ ခိုးခြင်း

ရေချိုးဆိပ်၊ သို့မဟုတ် ရေဘုံဘိုင်၌ ရေချိုးသူတစ်ဦးသည် လက်စွပ်ကို ချွတ်၍ မလှမ်းမကမ်း၌ ချထား၍ ရေချိုးနေသည်။ လူတစ်ယောက်သည် ပိုင်ရှင်ရှာမတွေ့စေရန် ခိုးလိုစိတ်ဖြင့် ထိုလက်စွပ်ကို မြက်သစ်ရွက် တစ်ခုခုဖြင့် ဖုံးအုပ်ခဲ့သည်။ ပစ္စည်းရှင်သည် ရှာမတွေ့၍ ပြန်သွားသောအခါ ခိုးသူသည် ထိုလက်စွပ်ကို လာယူသည်။ ပိုင်ရှင်ဖြစ်သူက သူ့လက်စွပ် မတွေ့တော့ပါဟု လက်လျှော့သည့်အချိန်၌ ခိုးမှုမြောက်သည်။ အကယ်၍ ခိုးသူသည် ထိုလက်စွပ်ကို ပိုင်ရှင်ပြန်မတွေ့စေရန် ဖုံထဲ၌ထဲ နစ်မြုပ်သွားအောင် ဖိနင်းခဲ့သော် သို့မဟုတ် နေရာရွှေ့အောင် ခြေဖြင့်ခတ်ပစ်ခဲ့သော ထိုအခိုက်အတန့်မှာပင် ခိုးမှုအထမြောက်သည်။ (ပဋိစ္ဆန္နာဝဟာရ)

## ၂၅။ စာအမှတ်တံဆိပ်ပြောင်းလဲ၍ ခိုးခြင်း

ပစ္စည်းများကို မဲချဝေငှရာ၌ မိမိရသော မဲလိပ်နှင့် သူတပါးမဲလိပ်ကို မသိအောင် လဲလှယ်ခြင်း၊ ကြိုတင်၍ ပေါက်မဲကို ရယူထားခြင်း၊ နာမည်အတု၊ တံဆိပ်အတု ပြုလုပ်၍ ကုန်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း၊ သူတပါး၏

စာမေးပွဲအောင်လက်မှတ်ဖြင့် ရာထူးအဆင့် တစ်ခုရအောင် နာမည်လိမ်ဖြင့် အယောင်ဆောင် ပုံမှားရိုက်ခြင်း၊ တန်ဖိုးရှိသော သူတပါးပစ္စည်းကို ရယူရန် အတွက် ထိုပစ္စည်းနှင့် အလားတူ မစ္စည်းတစ်ခုပြုလုပ် အတူယှဉ်တွဲထားပြီးလျှင် လဲလှယ်ခိုးယူခြင်း၊ သူတပါးပိုင်ပစ္စည်းမှ အမှတ်အသားစာလုံး၊ တံဆိပ်တို့ကို ဖျက်ဆီး၍ မိမိပစ္စည်းဖြစ်စေရန် အသစ်ပြင်ရေးခြင်း။ (ကူသာဝဟာရ)

မှတ်ချက်။ ။နံပါတ် ၂၁-မှ ၂၅-အထိ ခိုးခြင်း ၅-ပါးမှာ ခိုးနည်းများကို ဖော်ပြသည်။

ဤဖော်ပြပါ ခိုးခြင်း ၂၅-ပါးတွင် တစ်ပါးပါးကို ကျူးလွန်ပါက ခိုးမှု အထမြောက်သည်။ (အဒိန္နာဒါနသိက္ခာပုဒ်ကို ကျူးလွန်ရာရောက်သည်။)

အပြစ်ကြီးမှု အပြစ်ငယ်မှု

အပြစ်ကြီးမှု အပြစ်ငယ်မှုမှာ ဥစ္စာရှင်၏ အကျင့်သီလဂုဏ်သိက္ခာကို လိုက်၍ လည်းကောင်း၊ ဥစ္စာ၏ တန်ဖိုးအနည်းအများကို လိုက်၍လည်းကောင်း ဖြစ်၏။

ပစ္စည်းဥစ္စာရှင်သည် အကျင့် သီလ သိက္ခာဂုဏ်နှင့် ပြည့်စုံ၍ ထိုသူ၏ ဥစ္စာကို ခိုးယူပါက အပြစ်ကြီး၏၊ အကျင့်သီလသိက္ခာဂုဏ် နည်းပါးသူ၏ ပစ္စည်းကို ခိုးယူခဲ့သော် အပြစ်နည်း၏၊ ဥပမာ– ကျောင်းဒကာပစ္စည်း ခိုးယူ ခြင်းသည် အပြစ်ကြီး၍ သူခိုးလက်မှ သူဝှက်လုခြင်းဖြစ်ပါမူ အပြစ်နည်း၏။ ထို့ပြင် လုလ္လပယောဂခွန်အားကြီးစွာ စိုက်ထုတ်ခိုးရာ၌ အပြစ်ကြီး၍ လွယ်ကူ သက်သာစွာ ခိုးရာ၌ အပြစ်သေးငယ်၏၊ ပစ္စည်းတန်ဖိုးကြီးလျှင် အပြစ်ကြီး၍ တန်ဖိုးငယ်လျှင် အပြစ်သေး၏၊ တန်ဖိုးကြီးမှု ငယ်မှုမှာလည်း ခေတ်ကာလ အလျောက်၊ ဒေသအလျောက်၊ အသုံးဝင်မှုအလျောက်ဖြစ်ရသည်။ ထို့ကြောင့် ကာလံ၊ ဒေသံ၊ အဋ္ဌံ၊ ခနံ-ဟူ၍ ဆိုးရိုးပြုကြသည်။

ကာလံ=ကာလအလိုက်၊

ဒေသံ=ဒေသအလိုက်၊

အဋ္ဌံ=တန်ဖိုးအလိုက်၊

ခနံ=ပစ္စည်းဥစ္စာအလိုက် အပြစ်ကြီးမှု ငယ်မှုကို သတ်မှတ်ရသည်။

နတ်သိကြား တိရစ္ဆာန်တို့၏ပစ္စည်းဥစ္စာကို ခိုးယူသော် အဒိန္နာဒါန်မထိုက်ဟု ပါရာဇိကဏ် အဋ္ဌကထာကို ကိုးကား၍ လယ်တီဆရာတော်ကြီး ဆုံးဖြတ်တော်မူခဲ့သည်။

**အဒိန္နာဒါန၏ အပြစ်များ**

သူတပါး ဥစ္စာကို ခိုးယူသော သူသည် ငရဲ၊ ပြိတ္တာ၊ဘုံတို့၌ ဖြစ်ရ၍ ကြီးစွာသော ဆင်းရဲဒုက္ခကို ခံစားရမည်၊ ထိုပြင် ဝဋ်လိုက်သောအားဖြင့် ဖြစ်ရာဘဝတိုင်း၌ ပစ္စည်းဥစ္စာ ရှားပါးခြင်း စသော အောက်ဖော်ပြပါ ဆိုးကျိုးတရားများကို ခံစားရပါသည်—

(၁) မွဲတေခြင်း၊
(၂) ဆင်းရဲပင်ပန်းခြင်း၊
(၃) ငတ်မွတ်ခေါင်းပါးခြင်း၊
(၄) လိုရာမရနိုင်ခြင်း၊
(၅) စည်းပွားရှာဖွေနေစဉ်မှာပင် စီးပွားပျက်တတ်ခြင်း၊
(၆) ရေ၊ မီး၊ မင်း၊ သူခိုး၊ အမွေခံသားသမီးဆိုးဟူသော ရန်သူမျိုး ငါးပါးကြောင့် စီးပွားဥစ္စာပျက်စီးခြင်း။

**မှတ်ရန်လင်္ကာ**

သူများဥစ္စာ၊ ခိုးမိပါမူ၊ ဥစ္စာနည်းမွဲ၊ ဆင်းရဲငတ်ထ၊ လိုမရနှင့်၊ ဘောဂပျက်စီး၊ ရေ့မီး့သူခိုး၊ မွေခံဆိုးနှင့်၊ မင်းဆိုးအပြား၊ ရန်မျိုးငါးကြောင့်၊ ပျက်ပြားဥစ္စာ၊ ပြစ်များစွာသည်၊ ရှောင်ခါ အပြန် အကျိုးတည်း (ဝိသုဒ္ဓါရုံဆရာတော်)။

အဒိန္နာဒါနကို ရှောင်ကြဉ်သူသည် နတ်ရွာသုဂတိသို့ လားရောက်၍ နတ်စည်းစိမ် ခံစားရ၏၊ ဘဝအဆက်ဆက်တွင်လည်း အောက်ဖော်ပြပါ ကောင်းကျိုးများ ခံစားရ၏—

(၁) ပစ္စည်းဥစ္စာ ပေါကြွယ်ဝခြင်း၊
(၂) မပင်မပန်း ချမ်းသာခြင်း၊
(၃) အစာရေစာ ပေါများခြင်း၊
(၄) အလိုရှိသော ပစ္စည်းကို အလွယ်တကူ ရရှိခြင်း၊
(၅) ကူးသန်းရောင်းဝယ်မှု စသည် ကျွမ်းကျင်လိမ္မာ၍ စည်းစိမ်ဥစ္စာ တိုးပွားခြင်း၊
(၆) ရေ၊ မီး၊ မင်း၊ သူခိုး၊ အမွေခံဆိုး ဟူသော ရန်သူမျိုးငါးပါး၏ ဖျက်ဆီးမှု မခံရခြင်း။

ခုဒ္ဒကပါဌအဋ္ဌကထာ၌မူ အဒိန္နာဒါနမှ ရှောင်ကြဉ်ခြင်း၏ အကျိုး ၁၁-ပါးကို ပြထားပါသည်။

(၁) များပြတ်သော ဥစ္စာရှိခြင်း၊
(၂) စပါး၊ ဆန်၊ ရွှေ၊ ငွေ၊ ဥစ္စာ ပေါများခြင်း၊
(၃) သုံး၍မကုန်နိုင်သော စည်းစိမ်နှင့် ပြည့်စုံခြင်း၊
(၄) မဖြစ်သေးသော စီးပွားဥစ္စာများ ဖြစ်ပွားလာခြင်း၊
(၅) ရရှိပြီးသော စည်းစိမ်ဥစ္စာ ရတနာများ ကြာရှည်စွာ အမြဲတည်ခြင်း၊
(၆) အလိုရှိအပ်သော ပစ္စည်းဥစ္စာများကို လျင်မြန်စွာ ရရှိခြင်း၊
(၇) ရန်သူမျိုးငါးပါး မဖျက်ဆီးနိုင်သော ဥစ္စာရှိခြင်း၊
(၈) သူတစ်ပါးနှင့် မဆက်ဆံသော စီးပွားဥစ္စာ ရရှိခြင်း၊
(၉) လောကုတ္တရာတရားကို ရခြင်း၊
(၁၀) မရှိသည်ကို မသိရခြင်း၊
(၁၁) ချမ်းသာစွာ နေထိုင်ရခြင်း (ခုဒ္ဒက၊ဋ္ဌ။ ၂၂၉)။

အဒိန္နာဒါန ကျူးလွန်သူသည် အောက်ပါ မကောင်းကျိုးများကို ခံစားရကြောင်း ဖော်ပြထားပါသည်—

(၁) များပြတ်သော ဥစ္စာ မရနိုင်ခြင်း၊
(၂) စပါး၊ ဆန်၊ ရွှေ၊ ငွေ၊ ဥစ္စာ ရှားပါးခြင်း၊
(၃) စည်းစိမ်ဥစ္စာ နွမ်းပါးခြင်း၊
(၄) စီးပွားအသစ်များ မဖြစ်ခြင်း၊
(၅) ရရှိပြီးသော စည်းစိမ်ဥစ္စာ၊ ရတနာများ အမြဲ မတည်ခြင်း၊
(၆) အလိုရှိအပ်သော ဥစ္စာကို မရနိုင်ခြင်း၊
(၇) ရန်သူမျိုးငါးပါးနှင့် ဆက်ဆံတွေ့ကြုံရခြင်း၊
(၈) အများနှင့်ဆိုင်သော စီးပွားဥစ္စာသာ ရရှိခြင်း၊
(၉) လောကုတ္တရာဥစ္စာကို မရရှိနိုင်ခြင်း၊
(၁၀) မရှိစကားကို ကြားနေရခြင်း၊
(၁၁) ချမ်းသာစွာ မနေထိုင်ရခြင်း (ခုဒ္ဒက၊ဋ္ဌ။ ၂၄)။

### သတ္တိသူဗနရေဲ

ဝနေမိဇာတ်တော်၌ နေမိမင်းကြီးသည် ငရဲပြည်သို့ နတ်ရထားဖြင့် သွား၍ ကြည့်ရာ သတ္တိသူဗနငရဲ၌ အရှင် မပေးသော သူတပါး၏ ဥစ္စာကို ခိုးယူသော မှုကိုလ်သည် အလျှံပြောင်ပြောင် တောက်လောင်နေသော လှံမတိုဖြင့် နံပါးနှစ်ဘက် ထိုးသွင်းမှုကို ခံနေရသည်ကို တွေ့မြင်ရကြောင်း ဖော်ပြထားသည်။

### ဈေးသည်မ ၄-ယောက်

ရှေးအခါက ဈေးသည်မ ၄-ယောက်တို့သည် အလေးချိန်ခွင် စဉ်းလဲခြင်း စသည်ဖြင့် ပစ္စည်းများကို စုဆောင်းပြီးနောက် အရွယ်ကောင်းချိန်မှာပင် သေကြပြီး ပြိတ္တာဖြစ်လေ၏၊ မိမိတို့၏ ရှေးဟောင်း နှောင်းဖြစ်များကို မြင်ရုံမက ကျန်ရစ်သော ယောကျ်ားတို့က နောက်မယားယူ၍ မိမိတို့ စုဆောင်းထားခဲ့သော ပစ္စည်းများကို သုံးဖြုန်းနေကြသည်ကိုပါ မြင်ရ၍ မခံနိုင်သဖြင့် "တရားရော့,မတရားရော့ ငါတို့ စုဆောင်းထားသော ပစ္စည်းတွေကို နောက်သား နောက်မယားတွေက အပင်းဆို့နေကြသတဲ့၊ ငါတို့တော့ ဒုက္ခရောက်ကုန်ပြီ"ဟု မြို့ရိုးပေါ်က ဟစ်အော်ကြသည် (ရတနာဂုဏ်ရည် စာမျက်နှာ ၁၅၃)။

### နတ်သမီး တစ်ဦး

မြတ်စွာဘုရားသည် ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် သာဝတ္ထိပြည်သား ကုန်သည် ခုနစ်ရာတို့သည် သင်္ဘောဖြင့် သွားကြသောအခါ ဆန်းကြယ်သော ဗိမာန်တစ်ခု၌ ထမီအဝတ် မဝတ်ရသော နတ်သမီးကို တွေ့မြင်ကြရ၍ ရှေးက ပြုလုပ်ဖူးသည်ကို မေးရာ နတ်သမီးက ပြန်ဖြေသည်မှာ ရဟန်းတစ်ပါးအား နှမ်းဖတ်လှူခဲ့သောကြောင့် ဤနတ်သမီး ဗိမာန်၌ ခံစားရကြောင်း၊ သူတပါး၏ အဝတ်ပုဆိုးကို ခိုးယူခဲ့သောကြောင့် ထမီ အဝတ်ကို မရကြောင်း၊ အကုသိုလ်ကံ မကုန်သေး၍ လေးလမြောက်လျှင် အဝီစိငရဲ၌ ခံရဦးမည် ဖြစ်ကြောင်းတို့ကို နတ်သမီးက ပြောဆိုလေသည်။

### ခုပ္ပိပါသ ပြိတ္တာ

ကိုးဆယ့်နှစ်ကမ္ဘာထက် ဖုဿဘုရားပွင့်တော်မူစဉ် ဖုဿဘုရား၏ အဖေတူ အမေကွဲ ညီတော်သုံးယောက်တို့သည် ကျောင်းဆောက်လှူဒါန်း၍ ဘုရားရှင်နှင့် သံဃာတော်များထံ ဝါတွင်းသုံးလပတ်လုံး ဥပုသ်ဆောက်တည်ကြ၏၊ ဘဏ္ဍာစိုးအား ဆွမ်းဝတ်ချက်၍ကပ်လှူစေရန် တာဝန်ပေးထား၏၊ ဘဏ္ဍာစိုး

လင်မယားတို့ကား သဒ္ဓါတရားဖြင့် ဆောင်ရွက်ကြ၏၊ ဘဏ္ဍာစိုး၏ တပည့်များအနက် အချို့သော လူများသည် ဘုရားရှင်နှင့် သံဃာတော်များအား လုပ်ကျွေးရန် ရည်သန်ထားသော ဆီ ဆန် ထောပတ်စသည်တို့ကို ခိုးယူစားသုံးပြီးလျှင် လှောင်ထားရာ ကျီကြကို မီးတိုက်ကြကုန်၏၊ ထိုလူများသည် ခိုးမှုလွန်ကျူးသောကြောင့် ကိုးဆယ့်နှစ်ကမ္ဘာပတ်လုံး ငရဲမှာ သေ၍ ငရဲ၌သာ ဆက်ကာ ကျလေ၏၊ ဤဘဒ္ဒကမ္ဘာတွင် အဝတ်အချည်းအနှီး အစာရေစာ ဆာလောင်မွတ်သိပ်သော ခုပ္ပိပါသပြိတ္တာများ ဖြစ်ကြသည်။

ရှေးဦးစွာ ကကုသန်မြတ်စွာဘုရား ပွင့်တော်မူသောအခါ ထိုပြိတ္တာများသည် တပည့်တော်တို့ ဘယ်အခါ အစာစားကြရပါမည်နည်းဟု မေးလျှောက်ကြ၏၊ မြတ်စွာဘုရားရှင်က ငါ၏ညီတော် ကောဏာဂုမ်ဘုရား ပွင့်သောအခါ မေးရစ်ကြလော့ဟု မိန့်တော်မူ၏၊ ပြိတ္တာများမှာ ဆာလောင်မွတ်သိပ်စွာဖြင့် ကာလအသချေ စောင့်ဆိုင်းနေကြပြီး ကောဏာဂုမ်ဘုရား ပွင့်တော်မူလာသောအခါ၌ ချဉ်းကပ်မေးမြန်းပြန်ရာ ငါ၏ညီတော် ကဿပဘုရားပွင့်သောအခါ မေးရစ်ကြလော့ဟု မိန့်တော်မူ၏၊ ထို့နောက် ကာလအသချေကြာသောအခါ ကဿပဘုရားပွင့်တော်မူ၍ မေးလျှောက်ကြသောအခါ ငါ၏ညီတော် ဂေါတမဘုရားလက်ထက်၌ သင်တို့၏ ဆွေမျိုးဖြစ်ခဲ့သူ ဘဏ္ဍာစိုးသည် ဗိမ္ဗိသာရအမည်ရှိသော မင်းကြီး ဖြစ်လတ္တံ့၊ ထိုမင်းသည် ဂေါတမဘုရားရှင်အား ဝေဠုဝန်ကျောင်းတော်ကြီး ရေစက်ချပွဲပြုလုပ်၍ အမျှဝေသောအခါ သင်တို့ စားကြရလိမ့်မည်ဟု မိန့်တော်မူ၏၊ ပြိတ္တာများသည် နက်ဖြန်စားရတော့မည်ဟုပင် ထင်ကြ၏၊ သို့ရာတွင် ဝေဠုဝန်ကျောင်းတော်ကြီး ရေစက်ချပွဲတွင် ဗိမ္ဗိသာရမင်းကြီးသည် သတိမေ့လျော့၍ ထိုပြိတ္တာများအား ရည်ညွှန်း၍ အမျှမဝေမိချေ၊ ခဲလေသမျှ သဲရေကျဖြစ်ရသော ပြိတ္တာများသည် မကျေမနပ်ဖြစ်ကြ၍ ညအချိန်တွင် ဗိမ္ဗိသာရမင်းကြီး၏ နန်းတော်အထဲသွား၍ စူးစူးဝါးဝါး ဟစ်အော်ကြ၏၊ မင်းကြီးလည်း မြတ်စွာဘုရားထံ မေးလျှောက်၍ အကျိုးအကြောင်း သိရှိသည့်အခါ ဘုရားအမှူးရှိသော သံဃာတော်မြတ်တို့အား အလှူကြီး ပေး၍ အမျှဝေမှ သာဓုခေါ်ရသဖြင့် ဝဝလင်လင် စားကြရ လသည် (ပေတ၊ ၄၊ ၁၇၊ တိရောကုဍ္ဍပေတဝတ္ထု)။

## ကာမေသုမိစ္ဆာစာရအဖွင့်

"ကာမဂုဏ်တို့၌ ဖောက်ပြန်မှားယွင်း ပြုကျင့်ခြင်းမှ ရှောင်ကြဉ်ပါ၏"ဟု သီလဆောက်တည်ထားသူ အမျိုးကောင်းသားသည် မိမိ၏ သီလ မကျိုးမပေါက်စေရန် အောက်ပါ အဂမနီယဝတ္ထု=မသွားလာအပ်သော မိန်းမ (၂၀)ကို ရှောင်ကြဉ်ရပေမည်—

(၁) မာတုရက္ခိတာ=မိခင်အုပ်ထိန်းသောမိန်းမ၊
(၂) ပိတုရက္ခိတာ=ဖခင်အုပ်ထိန်းသော မိန်းမ၊
(၃) မာတာပိတုရက္ခိတာ=မိဘနှစ်ပါးအုပ်ထိန်းသော မိန်းမ၊
(၄) ဘာတုရက္ခိတာ=မောင်ကြီး, မောင်ငယ်အုပ်ထိန်းသော မိန်းမ၊
(၅) ဘဂိနီရက္ခိတာ=အစ်မ, ညီမ စောင့်ထိန်းသော မိန်းမ၊
(၆) ဉာတိရက္ခိတာ=ဆွေမျိုးသားစပ်သူ ဆွေမျိုးအုပ်ထိန်းသောမိန်းမ၊
(၇) ဂေါတ္တရက္ခိတာ=အမျိုးအနွယ်က အုပ်ထိန်းသော မိန်းမ၊
(၈) ဓမ္မရက္ခိတာ=တရားကျင့်ဖော်ချင်း အုပ်ထိန်းသော မိန်းမ၊
(၉) သာရက္ခာ=ကိုယ်ဝန်ကတည်းက မှတ်သား သိမ်းဆည်းခံရသော မိန်းမ (ပြောဆိုကြောင်းလမ်းပြီးသော မိန်းမ)၊
(၁၀) သပရိဒဏ္ဍာ=ဤမိန်းမကို သွားလာလျှင် ဒဏ်သင့်စေဟု မင်းမိန့် ထုတ်ထားသော မိန်းမ (တော်ကောက်ထားသော မိန်းမ)၊
(၁၁) ဓနက္ကီတာ=ဥစ္စာဖြင့် ဝယ်ယူပေါင်းသင်းနေသော မိန်းမ၊
(၁၂) ဆန္ဒဝါသိနီ=အလိုတူ၍ပေါင်းသင်းနေသော မိန်းမ၊
(၁၃) ဘောဂဝါသိနီ=ဥစ္စာစည်းစိမ်အပ်နှင်း၍ ပေါင်းသင်းနေသော မိန်းမ၊
(၁၄) ပဋဝါသိနီ=အဝတ်တန်ဆာ ဆင်ပေး၍ ပေါင်းသင်းနေသော မိန်းမ၊
(၁၅) ဩဒပတ္တကိနီ=လူကြီးစုံရာ လက်ထပ်ပေါင်းသင်းရသော မိန်းမ၊
(၁၆) ဩဘဋစုမ္ဗဋာ=ထင်းခွေရေခပ် လုပ်ကိုင်ရသော မိန်းမအား ထိုအလုပ်ကို မလုပ်စေဘဲ မယားအဖြစ်ပေါင်းသင်းသောမိန်းမ၊
(၁၇) ဒါသီဘရိယာ=ကျွန်လည်း ဟုတ်၊ မယားလည်း ဟုတ်သော မိန်းမ (မယားပြုခံရသော ကျွန်မ)၊
(၁၈) ကမ္မကာရီ=အလုပ်သမားလည်းဟုတ်၊ မယားလည်းဟုတ်သော မိန်းမ (မယားပြုခံရသော အလုပ်သူမ)၊
(၁၉) ဓဇာဟဋာ=မယားအဖြစ်ပေါင်းသင်းခံရသော သုံ့ပန်းမိန်းမ၊
(၂၀) မုဟုတ္တိကာ=ခေတ္တငှားရမ်းပေါင်းသင်းသော မိန်းမ (ပြည့်တန်ဆာမ)၊

**မှတ်ချက်။** ။အမှတ်စဉ်(၁)မှ (၇)အထိ မိန်းမ ၇-ဦးသည် အုပ်ထိန်းခြင်း မကင်းသူဖြစ်သော်လည်း ကာမပိုင်မရှိ။ အမှတ်စဉ် (၉) မှ (၂၀) အထိ မိန်းမ ၁၂-ဦးသည် အုပ်ထိန်းခြင်း မကင်းသူ ဖြစ်သည့်အပြင် ကာမပိုင်ရှိသူများလည်း ဖြစ်ကြ၏။

မာတုရက္ခိတမှ ဓမ္မရက္ခိတအထိ (၁-မှ ၇) မိန်းမရှစ်မျိုးကို မိဘစသူတို့က အုပ်ထိန်းသည်ဆိုရာ၌ မိဘစသူတို့သည် ထိုမိန်းမတို့၏ "ဖဿ"အတွေ့အထိ အာရုံခံစားမှုကို အစိုးလည်းမရ၊ ပိုင်ဆိုင်မှုလည်းမရှိသဖြင့် မစောင့်ရှောက်နိုင်၊ ဖဿကို စောင့်ရှောက်ကြသည်မဟုတ်။ အမှန်မှာ ယုတ်မာသောအကျင့်၊ ယောကျ်ားတပါးနှင့် သွားလာနေထိုင်မှု၊ သူတပါးစော်ကားမှုကိုသာ တားမြစ်စောင့်ရှောက်နိုင်ကြသည်။

ထို့ကြောင့် ထိုမိန်းမရှစ်မျိုးတို့သည် အရွယ်ရောက်သူဖြစ်နေပါက ကာမပိုင်လင်ယောကျ်ားမရှိသောကြောင့် ယောကျ်ားတပါးနှင့် နှစ်ဦးသဘောတူပြုမူကြလျှင် ကာမေသုမိစ္ဆာစာရကံ မထိုက်ပေ၊ သို့ရာတွင် ယင်းမိန်းမရှစ်မျိုးတို့သည် ကာမပိုင်လင်ယောကျ်ား မရှိသောကြောင့် ကာမေသုမိစ္ဆာစာရကံ မထိုက်သော်လည်း ကာမဖောက်ပြန်သော အကုသိုလ်ကံဖြစ်၏။ မိဘဆွေမျိုး အရှက်တကွဲ အကျိုးနည်းဖြစ်ရ၏။ ပူပန်သောကရောက်ရ၏။ ထိုအကုသိုလ်ကံကြောင့် အပါယ်ကျရောက်ရန် အကြောင်းလုံလောက်၏။ သာရက္ခသပရိဒဏ္ဍ(၉–၁၀) မိန်းမနှစ်မျိုးမှာ ရည်စူးသတ်မှတ်ထားသူ ရှိသောကြောင့် ယောကျ်ားတပါးနှင့် ဖောက်ပြန်လျှင် ကာမေသုမိစ္ဆာစာရကံထိုက်၏။

အထက်ပါမိန်းမ (၂၀)မျိုးတို့တွင် သာရက္ခမှ မုဟုတ္တိကာ-အထိ (၉-မှ ၂၀) မိန်းမ (၁၂)မျိုးတို့သည် ကာမပိုင်ရှိသော်ကြောင့် ကာမပိုင်မှတစ်ပါး အခြားယောကျ်ား၊ သို့မဟုတ် တိရစ္ဆာန်ထီးများနှင့် ကာမဖောက်ပြန်လျှင် ကာမေသုမိစ္ဆာစာရကံထိုက်၏။ အဘယ့်ကြောင့်ဆိုသော် လင်ပိုင်ဆိုင်ထားသော ကာမဂုဏ်အတွေ့အထိ ဖဿကို တိတ်တိတ်ခိုး၍ သူတစ်ပါးအား ပေးအပ်မွေ့လျော်စေသောကြောင့် ဖြစ်သည်။ မုဟုတ္တိကာမိန်းမ (ပြည့်တန်ဆာမ)သည် မိမိအား ငွေပေးထားသောယောကျ်ားအား တာဝန်မကျေသေးဘဲ အခြားယောကျ်ားတစ်ဦးကို လက်ခံလိုက်ပါက ကာမေသုမိစ္ဆာစာရကံထိုက်၏။

**ယောကျ်ားများရှောင်ကြဉ်ရန်**

ယောကျ်ားများမှာမူ အုပ်ထိန်းခြင်းမကင်းသော မိန်းမ (၂၀)မျိုးအနက် တစ်ယောက်ယောက်နှင့် ကာမဖောက်ပြန်လျှင် ကာမေသုမိစ္ဆာစာရကံထိုက်၏။ ထို့ကြောင့် ရှေးပညာရှိကြီးများက "မိန်းမနှစ်ကျိပ်၊ ပျော်ကြောင်းသိပ်လည်း၊ မအိပ်လေရာ"ဟု ဆုံးမခဲ့ကြသည်။

ဤသိက္ခာပုဒ်၌လည်း သီလမရှိသူ၌ လွန်ကျူးလျှင် အပြစ်နည်း၏။ သီလရှိသူ၌ လွန်ကျူးလျှင် အပြစ်ကြီး၏၊ သီလမရှိသူအပေါ်၌လည်း အနိုင်အထက် လွန်ကျူးလျှင် အပြစ်ကြီး၏။ နှစ်ယောက်အလိုတူ၍ လိုပါ လွန်ကျူးလျှင် အပြစ်နည်း၏။ မှားယွင်းလိုသောစေတနာလည်းမရှိ အလိုလည်းမတူဘဲ အနိုင်အထက် ကျူးလွန်ခံရသူမှာ ကာမေသုမိစ္ဆာစာရကံမဖြစ်၊ ကျူးလွန်သူမှာသာ ဖြစ်၏။

အမှောင်ခန်းထဲ၌ အိပ်နေစဉ် အခြားယောကျ်ား လာရောက်ဆက်ဆံသည်ကို မိမိလင်မှတ်၍ သာယာသောမိန်းမအားလည်းကောင်း၊ မိမိမယားနှင့်အတူ အိပ်နေသူ အမျိုးသမီးအား မိမိမယားမှတ်၍ မှားယွင်းမိသော ယောကျ်ား အားလည်းကောင်း ကာမေသုမိစ္ဆာစာရကံ မထိုက်ပေ။

**ကာမကျူးလွန်ခြင်း အင်္ဂါ ၄-ပါး**

ကာမေသုမိစ္ဆာစာရကံမြောက်ရန် အောက်ပါအင်္ဂါ ၄-ပါးနှင့် ညီညွတ်ရပေမည်။ ၎င်းအင်္ဂါများမှာလည်း ယောကျ်ားများအတွက်သာ ဖြစ်လေသည်—

(၁) မသွားလာအပ်သော မိန်းမ–၂၀ (အဂမနီယဝတ္ထု)ဖြစ်ခြင်း၊

(၂) အဂမနီယဝတ္ထု၌ မှီဝဲလိုစိတ်ရှိခြင်း၊

(၃) လုံ့လပြုခြင်း၊

(၄) သာယာခြင်း။

**ကာမကျူးလွန်ခြင်း၏ အပြစ်များ**

ကာမေသုမိစ္ဆာစာရကံ ကျူးလွန်သူသည် သေပြီးနောက် အဝီစိငရဲနှင့် လောဟကုမ္ဘီငရဲတို့၌ ပြင်းထန်စွာ ခံစားကြရသည်။ ငရဲမှလွတ်မြောက်၍ လူ့ဘဝသို့ ရောက်လာပါလျှင်လည်း ဖော်ပြပါအပြစ်များကို ခံစားရ၏။ ကာမေသုမိစ္ဆာစာရကံ လုံခြုံလျှင်ကား ထိုအပြစ်များ၏ ပြောင်းပြန်ဖြစ်သော ကောင်းကျိုးများကို ခံစားကြရသည်။

(၁) လူမုန်းများခြင်း၊

(၂) ရန်သူများခြင်း၊

(၃) ပစ္စည်းလာဘ်လာဘ ရှားပါးခြင်း၊

(၄) ချမ်းသာသုခမှ ကင်းဆိတ်ခြင်း၊

(၅) မိန်းမဖြစ်ရခြင်း၊

(၆) မ-မဟုတ် ကျား-မဟုတ် ပဏ္ဍုက်ဖြစ်ရခြင်း
(ယောကျ်ားရှာ၊ မိန်းမရှာဖြစ်ရခြင်း)၊

(၇) အမျိုးယုတ် ဖြစ်ရခြင်း၊

(၈) မျက်နှာပျက်အရှက်တကွဲဖြစ်ရခြင်း၊

(၉) ခြေလက်အင်္ဂါ မျက်စိ နား နှာ ဣန္ဒြေများ ချို့ယွင်းသေးသိမ်ခြင်း၊

(၁၀) စိုးရိမ်သောကအားကြီးရခြင်း၊

(၁၁) ချစ်သူနှင့်ကွဲရခြင်း။

မှတ်ရန်လင်္ကာ

မိစ္ဆာစာရ၊ ကျူးလွန်ကလည်း၊ မုန်းကြအများ၊ ရန်သူပွားရှ၍၊ ရှားပါးလာဘ်တိတ်၊ ချမ်းသာဆိတ်၏၊ ဣတ္ထိပဏ္ဍုက်၊ မျိုးယုတ်ခါခါ၊ မျက်နှာမလှ၊ အရှက်ရလျက်၊ လက္ခဏ်ဣန္ဒြေ၊ ယွင်းသွေချို့သိမ်၊ စိုးရိမ်များစွာ၊ ချစ်သူကွာသည်၊ ရှောင်ခါအပြန်အကျိုးတည်း။

ဒု-သ-န-သော

ကောသလမင်းကြီးသည် လူသူတိတ်ဆိတ်၍ အိပ်ကြသောညအချိန်တွင် "ဒု"ဟု အော်သောအသံ၊ "သ"ဟု အော်သောအသံ၊ "န"ဟု အော်သောအသံ၊ "သော"ဟု အော်သောအသံကို အမှတ်မထင် ကြားလိုက်ရ၏။ မင်းကြီးသည် ထို "ဒု-သ-န-သော"ဟူသော အသံကို ကြားရသောကြောင့် မိမိအတွက် အန္တရာယ်လော၊ တိုင်းပြည်အတွက် အန္တရာယ်လောဟု စိုးရိမ်စိတ်ဖြစ်ပေါ်လာ၏။ သေဘေးအန္တရာယ်မှ ကြောက်သောကြောင့် ထိုညအဖို့ ထိုင်လျက်သား မိုးလင်းခဲ့ရသည်။

နံနက်လင်းသောအခါ ပုဏ္ဏားပုရောဟိတ်တို့အား ထိုအကြောင်းကိုပြော၍၊ အကျိုးအပြစ်ကို မေး၏။ ပုဏ္ဏားတို့က ဆင်လေးစီး၊ မြင်းလေးစီး၊ နွားလေးကောင်၊ လူလေးယောက် စသည်တို့ဖြင့် လေးခုတွဲ ယဇ်ကြီးပူဇော်လျှင် ချမ်းသာသုခ ရနိုင်ကြောင်း လျှောက်တင်ကြ၏။

ထို့နောက် မင်းကြီးသည် မိဖုရားကြီးမလ္လိကာအား ထိုသို့ ယာဇ်ပူဇော်မည့် အကြောင်းကို ပြောပြ၏၊ မိဖုရားကြီးက ဗုဒ္ဓဘုရားရှင်အား ထိုအသံနှင့် ပတ်သက်၍ လျှောက်ထားမေးမြန်းသင့်ကြောင်း အကြံပေး၏။ ထိုအခါ မင်းကြီးသည် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးနေတော်မူသော ဘုရားရှင်ထံ ရထားဖြင့် သွားရောက်၍ "ဒု-သ-န-သော" ဟူသော အသံကြားပုံ၊ ပုဏ္ဏားတို့က လေးခုတွဲယဇ်ပူဇော် သင့်ကြောင်း ပြောကြားပုံ လျှောက်ထား၍ ထိုအသံတို့ကို ကြားရခြင်းကြောင့် မိမိအတွက် မည်သို့ဖြစ်နိုင်သည်ကို ဘုရားရှင်အား မေးမြန်းလျှောက်ထားသည်။

ထိုအခါ ဘုရားရှင်က ထိုအသံများကြားရခြင်းကြောင့် သင်မင်းကြီးမှာ ဘာအန္တရာယ်မျှမရှိကြောင်း၊ ရှေးမင်းများလည်း ကြားဖူးကြကြောင်း၊ထိုအသံသည် ရှေးဘဝက သူတပါး သားမယားကို ပြစ်မှားကျူးလွန်မှု ကာမေသု-မိစ္ဆာစာရကံကို ကျူးလွန်ခဲ့ကြသော သူဌေးသား လေးယောက်တို့၏ အသံဖြစ်ကြောင်း၊ သူတို့သည် ထိုကံကြောင့် အဝီစိငရဲ၌ ကျ၍ အဝီစိငရဲမှ လွတ်ပြီးနောက် လောဟကုမ္ဘီငရဲ၌ အနှစ်ခြောက်သောင်း ကျခံနေကြရကြောင်း၊ ငရဲဒုက္ခကို ခံစားရင်း လောဟကုမ္ဘီငရဲအိုး၏ မျက်နှာဝကို မြင်၍ ဟစ်အော်ကြကြောင်း စသည်ဖြင့် အတိတ်ဇာတ်ကို ဆောင်၍ ဟောကြားတော်မူသည်။

**ကာမဂုဏ်မှားယွင်းမှု အပြစ်များ**

ထို့ပြင် နေမိမင်းကြီးသည် နတ်ရထားဖြင့် ငရဲပြည်သို့ သွားရောက်ကြည့်ရှုရာ ရုပ်ဆင်းအင်္ဂါ စက်ဆုပ်ဖွယ်အတိဖြစ်ပြီး သွေးပြည်များ ယိုစီးလျက် ယင်ကောင်တလှောင်းလှောင်း ဝိုင်းအုံကာ သံမြေပြင်၌ ခါးတိုင်အောင် နစ်မြုပ်နေပြီး ရဲရဲတောက်နေသော သံတောင်ကြီး လေးလုံးတို့ဖြင့် ကြိတ်ခြေခြင်းခံနေရသော မိန်းမကို မြင်၏။ အဘယ်ကြောင့် ဤကဲ့သို့ ခံနေရသနည်းဟု မေးရာ ကာမေသုမိစ္ဆာစာရကံကို ကျူးလွန်ခြင်းကြောင့်ဟု ဖြေ၏။

ဆက်လက်၍ သွားပြန်ရာ အလျှံတပြောင်ပြောင် တောက်လောင်နေသော မီးကျီးတွင်းငရဲအိုး၌ ဇောက်ထိုးကျနေသော ယောကျ်ားများကို မြင်၏။ အဘယ့်ကြောင့် ဤကဲ့သို့ ခံနေရသနည်းဟု မေးရာ ကာမေသုမိစ္ဆာစာရကံကို ကျူးလွန်ခြင်းကြောင့်ဟု ဖြေကြ၏။

ကာမေသုမိစ္ဆာစာရကံ၏ အပြစ်ကား လွန်စွာပင် ကြောက်မက်ဖွယ်ရာ ကောင်းလှ၏။ ထိုကံနှင့် ပတ်သက်၍ ပိဋကတ်စာပေတွင် ဖော်ပြထားသော သာဓကများစွာရှိ၏။ ထိုသာဓကများကို သံဝေဂယူလျက် ကာမေသုမိစ္ဆာစာရမှ ရှောင်ကြဉ်အပ်လှပေသည်။

**ဋ္ဌသိဒါသီထေရီ**

ပရဒါရကံကို ကျူးလွန်လျှင် ဖြည့်ကျင့်ပြီးသော ပါရမီအဆင့်ရှိသော ယောကျ်ားပင်လျှင် မိန်းမဖြစ်ရတတ်သည်၊ လင်၏ စွန့်ပစ်ခြင်းကိုလည်း ခံရတတ်သည်၊ ငရဲ၌လည်း နှစ်ပေါင်းများစွာ ခံရတတ်သည်၊ ဖြစ်လေရာ ဘဝ၌လည်း ဆင်းရဲခြင်းကို ခံစားရတတ်သည်။

ဂေါတမဘုရားရှင် ပွင့်တော်မူသောအခါ အဝန္တိတိုင်း ဥဇ္ဇေနီပြည် သူဌေး တစ်ဦး၌ ဋ္ဌသိဒါသီမည်သော သမီးတစ်ယောက် ရှိ၏၊ အရွယ်ရောက်သောအခါ သာကေတသူဌေးသားနှင့် ထိမ်းမြား၏၊ လင်နောက်လိုက်၍ တာဝန်ကျေပွန်စွာ ပြုစုလုပ်ကျွေးသည်၊ သို့သော် တစ်လရှိလျှင် လင်၏ နှင်ထုတ်ခြင်းကို ခံရသည်။

ထို့နောက် ကြွယ်ဝသော အမျိုးသားတစ်ယောက်နှင့် ထိမ်းမြား၏၊ တစ်လရှိလျှင် မိဘထံ ပြန်ပို့ခံရ၏၊ ထိုနောက် ထမင်းတောင်းစားသော အထီးကျန်နှင့် ပေးစား၏၊ ထိုသူလည်း လဝက်တွင် သူမကို စွန့်ပစ်ပြန်၏၊ သာသနာ့ဘောင်သို့ ဝင်၍ တရားအားထုတ်ရာ ရဟန္တာထေရီမ အဖြစ်သို့ ရောက်ရှိခဲ့၏၊ ထိုမကောင်းမှုကံမှာ တစ်ခုသောဘဝ ဧရကစ္ဆမြို့ ဥစ္စာ ကြွယ်ဝသော ရွှေပန်းထိမ်သည် ဘဝ၌ ယုတ်မာသော အဆွေခင်ပွန်းနှင့် ပေါင်းမိ၍ သူတပါးမယား လွန်ကျူးမိခဲ့သောကြောင့် အဝီစိငရဲ၌ နှစ်ပေါင်း များစွာ ခံစားရ၏၊ ငရဲမှ လွတ်သော် မျောက်ဖြစ်သောအခါ၌ ဝှေးစေ့ အထုတ်ခံရ၏၊ မျောက်ဘဝမှလွတ်၍ သိန္ဓဝတိုင်း တောအရပ်၌ ကန်းလည်းကန်း ခွင်လည်းခွင်သော ဆိတ်မဝမ်း၌ ပဋိသန္ဓေနေ၍ အရွယ်ရောက်လျှင် ဝှေးစေ့ အထုတ်ခံရသည်၊ ဆိတ်ဘဝမှ စုတေ၍ နွားဖြစ်ပြန်သည် ဝှေးစေ့အထုတ်ခံရ သည်၊ သန္တိပါရတိုင်း၌ ကျွန်မ၏ဝမ်း၌ နပုံးပဏ္ဍုက် ဖြစ်ခဲ့ရပြန်သည်၊ ထိုမှ စုတေ၍ ကြွေးမြီးအားကြီးသော လှည်းကုန်သည်၏ သမီးဖြစ်ခဲ့၏၊ အရွယ် ရောက်လာသောအခါ လှည်းကုန်သည်တစ်ဦး၏သား ဂိရိဒါသ-က မယားအဖြစ် သိမ်းပိုက်သည်၊ ဂိရိဒါသ၌လည်း သီလနှင့် ပြည့်စုံသော မယားကြီးရှိ၏၊ ထို မယားကြီးကို လင်နှင့်မုန်းအောင် ကုန်းတိုက်ခဲ့မိလေသည်၊ ထိုအကျိုးဆက် များကြောင့် ထိုကဲ့သို့ ခံစားဖြစ်ပျက်ရကြောင်း၊ ဗောဓိထေရီမကို ဋ္ဌသိဒါသီ ထေရီမက အတိတ်ဇာတ်ကြောင်း ပြန်ပြောင်း ပြောပြလေသည် (ထေရီ မြန်မာပြန်။ ၂၄၂။ ထေရီ။၄၂၅၊၄၂၈။ ထေရီဋ္ဌ။ ၂၆၇–၂၇၇)။

အရှင်အာနန္ဒာအလောင်း

အရှင်အာနန္ဒာ အလောင်းသည် ကမ္ဘာတစ်သိန်းမျှ ပါရမီဖြည့်ပြီးနောက် ကျွတ်တမ်းဝင်တော့မည့် ဤကမ္ဘာ၌ပင် တစ်ခုသော ဘဝ၌ ရွှေပန်းထိမ်သည် သားဖြစ်၏၊ ထိုဘဝ၌ လူယုတ်မာများနှင့် ပေါင်းမိ၍ ကာမေသုမိစ္ဆာစာရကံကို ကျူးလွန်မိလေသည်။ ထိုအကုသိုလ်ကံကြောင့် ရောရုဝငရဲ၌ နှစ်ပေါင်းများစွာ ဆင်းရဲခံစားရ၏၊ ထိုငရဲမှ လွတ်မြောက်သောအခါ မျောက်ဖြစ်၍ ဝှေးစေ့ ထုတ်ခံရ၏၊ ထိုနောက်ဘဝ၌ နွားဖြစ်၍ သင်းကုပ် (ဝှေးစေ့ထုတ်) ခံရ၏၊ ထို့နောက် လူဖြစ်သော် ပဏ္ဍုက်ဖြစ်ရ၏၊ ထို့နောက် ၅-ဘဝမြောက်၌ ကုသိုလ်ကံ အခွင့်ရ၍ နတ်ပြည်၌ သိကြားမင်း၏ မိဖုရားလေးကြိမ်၊ ဇဝနနတ်သား၏ မိဖုရား တစ်ကြိမ် ဖြစ်ရခြင်းအားဖြင့် ၅-ဘဝလုံးလုံး နတ်သမီး ဖြစ်ရ၏၊ ထို့နောက် လူ့ပြည်၌ မိတ္ထီလာပြည် အင်္ဂတိမင်းကြီး၏ ရုဇာမည်သော သမီးတော်ဖြစ်ရသည်ဟု နာရဒဇာတ်တော်၌ ဟောတော်မူ၏၊ ထို့နောက်မှ ယောကျ်ားဘဝကို ပြန်လည်ရရှိလေသည်။ ဤသို့လျှင် ကာမေသုမိစ္ဆာစာရကံ ကြောင့် ပါရမီရှင်ကြီးသော်မှ ငရဲကျ၍ ဘဝများစွာ ဆင်းရဲခံရလေသည်။

ရှေးအခါက ရာဇဂြိုဟ်ပြည်၌ တစ်ယောက်သော မိန်းမသည် အမြောင် လင်ယော်ထား၍ နေခဲ့ဖူးသော မိစ္ဆာစာရကံကြောင့် ငရဲ၌ နှစ်ပေါင်းများစွာ ဆင်းရဲခံစားပြီးနောက် ဖောင်မှုအတွေ့ကို ပျော်မွေ့ခဲ့သည့်အတွက် ဂိဇ္ဈကုဋ် တောင်၌ လင်းတ သိန်း စွန်တို့၏ ထိုးဆွမှုကို ခံရလျက် အပေါ်ယံအရေ မရှိသော နိစ္ဆဝိကပြိတ္တာမ ဖြစ်လေသည်။

ကာမဂုဏ် ဖောက်ပြားမှု မရှိသော ပုဂ္ဂိုလ်များ

ဥဒယဘဒ္ဒ မင်းသားနှင့် ဥဒယဘဒ္ဒ မင်းသမီးတို့သည် သုရုန္ဓနပြည်ကြီးကို အုပ်ချုပ်လျက် မင်းပြုကြ၏၊ ဘတူမိကွဲမောင်နှမ ဖြစ်ကြသည်အားလျော်စွာ ပါရမီရင့်ကျက်၍ အသိအလိမ္မာ ရှိသောကြောင့် လူ့ကိစ္စ လူ့အာရုံတို့၌ စိတ် မညွတ်ကြပေ၊ နန်းဆောင် တစ်ခန်းတည်းမှာပင် ဖြူဖြူစင်စင် စံတော်မူကြ လေသည်။

အိမ်ထောင်စုံ ၄-မျိုး

(၁) ယောကျ်ားက သီလလုံခြုံ၍ အိမ်သူမယားက သီလမလုံခြုံလျှင် နတ်သားလင်နှင့် သူသေမယားတို့ ပေါင်းသင်းခြင်းနှင့် တူ၏၊ သီလမရှိသူသည် အသက်ရှင်နေသော်လည်း သူသေနှင့် တူ၏။

(၂) ယောကျ်ားက သီလမစင်ကြယ်ဘဲ အိမ်ရှင်မက သီလစင်ကြယ်နေလျှင် သူသေလင်နှင့် နတ်သမီးတို့ ပေါင်းသင်းခြင်းနှင့် တူ၏။

(၃) ယောကျ်ားနှင့် အိမ်ရှင်မ နှစ်ယောက်လုံး သီလ မစင်ကြယ်ပါမူ သူသေလင်နှင့် သူသေမယားတို့ ပေါင်းသင်းခြင်းနှင့် တူ၏။

(၄) ဇနီးမောင်နှံ နှစ်ဦးလုံး သီလစင်ကြယ်လျှင် နတ်သား နတ်သမီး ဇနီးမောင်နှံတို့ ပေါင်းသင်းခြင်းနှင့် တူ၏။

နှစ်ဦးလုံး သဒ္ဓါ, သီလ, သုတ, စာဂ, ပညာ, ဟိရီ, ဩတ္တပ္ပ-ဟူသော သူတော်ကောင်းဥစ္စာ ၇-ပါးနှင့် ပြည့်စုံ၍ စိတ်တူ သဘောတူ ကြည်ကြည်ဖြူဖြူ နေထိုင်ကြလျှင် ယခုဘဝ၌လည်း စည်းစိမ်ဥစ္စာ ပြည့်ဖြိုးလျက် နောက်သံသရာမှာလည်း ကောင်းကျိုးများ ခံစားရပေသည်။

## မုသာဝါဒအဖွင့်

"မဟုတ်မမှန် လိမ်ညာပြောဆိုခြင်းမှ ရှောင်ကြဉ်ပါ၏"ဟု ဆောက်တည်ထားသူသည် မမှန်မကန်လိမ်ညာပြောဆိုခြင်း မပြုသင့်ချေ၊ မုသားစကားဆိုရာ၌ နှုတ်ဖြင့် ဖြစ်စေ, စာဖြင့် ဖြစ်စေ, ကိုယ်လက် လှုပ်ပြ၍ ဖြစ်စေ လိမ်ညာမှု မှန်သမျှသည် မုသာဝါဒ ဖြစ်၏၊ သို့သော် နှုတ်ဖြင့် ပြောရသော မုသားကများ၍ ဝစီကံဒုစရိုက်၌ ထည့်သွင်းရ၏။

လိမ်လည်ပြောဆိုသော် သူတပါးအကျိုးစီးပွား ပျက်စီးအောင် လိမ်ညာပြောဆိုသော မုသားမျိုးသာ အပါယ်ရောက်ကြောင်း ဖြစ်သည်၊ ကိုယ့်ဥစ္စာ မပေးလို၍ လိမ်လည် ပြောဆိုသော မုသားမျိုး၊ မိမိအပြစ် လွတ်အောင် လိမ်ရသော မုသား၊ ပြောင်လှောင် ပြက်ရယ် လို၍ ပြောသော မုသား၊ သားသမီးများ ပွဲလမ်း မသွားချင်အောင် လှည့်ပတ်ပြောဆိုသော မိဘတို့၏ မုသားမျိုးသည် အပြစ်မကြီးလှချေ၊ သို့သော် ဆောက်တည်ထားသည့် သိက္ခာပုဒ်ကားပျက်သည်။

သူတပါးချမ်းသာစေခြင်း အကျိုးငှာ မုသားပြောဆိုရာ၌ ကံမမြောက်ချေ၊ ငယ်မွတ်သည့်အခါ၌လည်းကောင်း, ရောဂါရောက်၍ ရောဂါပျောက်စေခြင်းငှာ လည်းကောင်း ရဟန်းတော်တို့အား မအပ်သော ခွေးသား, မြင်းသား, ဆင်သားတို့ကို နွားသား ကျွဲသားပါဘုရား၊ ဆိတ်သား သမင်သားပါဘုရားဟု လိမ်လည် လျှောက်ထားသည်ကို ယုံကြည်၍ ဘုဉ်းပေးသော ရဟန်းအား အပြစ်မရှိ၊ လျှောက်ထားသူ ဒါယကာအားလည်း မုသားမဖြစ်၊ ကုသိုလ်သာ

ဖြစ်၏ဟူ၍ မဇ္ဈိမပဏ္ဏာသ အဋ္ဌကထာ၌ ဆိုၤ၏၊ မပေးလို၍ လည်းကောင်း, ခိုးသူ လုယက်မည်မှ ကြောက်သောကြောင့် လည်းကောင်း မိမိ၌ ရှိသော ဥစ္စာကို မရှိပါဟူ၍ ပြောဆိုရခြင်းနှင့် မကင်းနိုင်သောကြောင့် ဤသို့ဆိုခြင်းကို ဝဋ္ဋဒုက္ခမုသာဝါဒ ခေါ်သည်၊ ယင်းမုသာဝါဒသည် ကံမမြောက်ဟူ၍ အဋ္ဌကထာ ဋီကာတို့၌ ဆိုသည်။ သိက္ခာပုဒ်ကို ခံယူဆောက်တည်သော သူတို့မှာ မမှန် ချွတ်လွဲသော စကားကို ပြောဆိုလိုသော စိတ်, ပြောဆိုမိခြင်း အင်္ဂါ ၂-ပါး စုံညီလျှင် မုသာဝါဒဖြစ်၍ သီလသိက္ခာပုဒ် ပျက်စီး၏။ ရယ်ရွှင်မြူးထူးလို၍ ပြောခြင်း၊ စကားပို စကားလျှံ ပြောခြင်း ပုံရာ၌ အပြစ်နည်း၏။

ဥပမာ–ရဟန်းတစ်ပါး ဆွမ်းခံရာမှ ဆီအနည်းငယ် ရခဲ့၍ "ယနေ့ ရွာထဲမှာ ဆီတွေ မြစ်ရေကဲ့သို့ စီးနေသည်"ဟု ပြောခြင်းမျိုးသည် စကားပို စကားလျှံ ဖြစ်၍ အပြစ်နည်း၏။

### လူယုတ်မာတို့၏ စကား ၈-ခွန်း

မည်သည့် အကြောင်းအရာကို မဆို "မမြင်ဘဲ မြင်၏၊ မကြားဘဲ ကြား၏၊ မတွေ့ဘဲ တွေ့၏၊ မသိဘဲ သိ၏၊ မြင်လျက် မမြင်၊ ကြားလျက် မကြား၊ တွေ့လျက် မတွေ့၊ သိလျက် မသိ" ဟု ပြောဆိုသော လူယုတ်မာတို့၏ စကား (အနရိယဝေါဟာရ) ရှစ်မျိုးတို့တွင် တမျိုးမျိုးကို ပြောလျှင် အပြစ် ရှိ၏။ မဟုတ်မမှန်ပြောဆို၍ သံဃာကို အသင်းခွဲသော (ရဟန်းအချင်းချင်း စိတ်ဝမ်း ကွဲစေသော) မုသာဝါဒသည် ပို၍ အပြစ်ကြီး၏။

### ဘုရားအလောင်းတော်များ မုသားမဆို

ရှေးဘုရားအလောင်း သူတော်ကောင်းကြီးများသည် သံသရာဘဝကျင် လည်စဉ် သတ်မှု, ခိုးမှု, ကာမကျူးလွန်မှု, အရက်သေစာ သောက်စားမှုတို့ကို ပြုလုပ်မိခဲ့ကြသော်လည်း သူတပါး အကျိုးစီးပွား ပျက်စီးစေလိုသော စိတ်ဖြင့် မုသားကို လုံးဝ မပြော မဆိုခဲ့ကြပေ။ သူတပါး အကျိုးစီးပွား မထိခိုက် မပျက်စီးသော မုသားမျိုးကိုမူ ပြောဆိုခဲ့ကြဖူးသည်။

ဥပမာ– ဒုကနိပါတ် သံသုမာရဇာတ်၌ သံသုမာရမိချောင်းက ဘုရား အလောင်း ဝါနရိန္ဒမျောက်မင်း၏ အသည်းနှလုံးကို တောင်းသောအခါ မျောက်မင်းက "ငါတို့ မျောက်မျိုး၏ အသည်းနှလုံးကား ကိုယ်ထဲ၌ မရှိ၊ ရေသဖန်းပင်၌ ချိတ်ထားသည်" ဟု ပြော၍ နီရဲနေသော ရေသဖန်းသီးကို လက်ညှိုးညွှန်ပြခဲ့ဖူး၏။ ပရိယာယ်ဖြင့် ပြောခြင်း ဖြစ်၍ မုသာဝါဒကံမထိုက်။

ကေနိပါတ် ပဉ္စာဝုဓဇာတ်၌လည်း အလောင်းတော် ပဉ္စာဝုဓ မင်းသားက သိလေသလော်မဘီလူးအား "ငါ့ဝမ်းထဲ၌ ဝဇိရ်လက်နက်ရှိ၏၊ ငါ့ကို နင်စားသော် အစာမကြေဘဲ အူအသည်း အပိုင်းပိုင်း ပြတ်၍ သေမည်" ဟု ပြောခဲ့ဖူး၏။ ပညာတည်းဟူသော ဝဇိရ်လက်နက်ကို ရည်ရွယ်၍ ပြောသောကြောင့် မုသာဝါဒကံမထိုက်။

မျက်မှောက်လောက၌ လူတို့သည် မိမိထံတွင် ငွေကြေးစသည် ချေးငှားလာသူအား ပြန်ရမည်မထင်၍ "မရှိပါ" ဟု ပြောလိုက်၏၊ မုသာဝါဒကံမထိုက်။ မုသာဝါဒအရာ၌ သူတပါးအကျိုးစီးပွား ပျက်စီးမှသာ ကံမြောက်သည်။ အကျိုးစီးပွား မပျက်စီးလျှင် မုသာဝါဒမျှသာ ဖြစ်၏။ အချို့ မုသာဝါဒသည် အပါယ်ပဋိသန္ဓေ အကျိုးကို ပေးစေနိုင်သော်လည်း အချို့မှာကား အပါယ်ပဋိသန္ဓေအကျိုးကို မပေးစေနိုင်ပါ၊ ဥပမာအားဖြင့် ငွေလာချေးသူအား မချေးလိုသဖြင့် မရှိပါဟု လိမ်ပြောခြင်းမျိုးသည် သူတပါးကို မထိခိုက်စေဘဲ မိမိအပြစ်လွတ်အောင် ပြောခြင်း, မိဘများက သားသမီးများအား ဥပါယ်တံမျဉ်ဖြင့် ဆုံးမခြင်း စသည်တို့မှာ အပြစ်မရှိပေ။

**မုသားအင်္ဂါ ၄-ပါး**

(၁) မဟုတ်မမှန်သောအကြောင်း ဖြစ်ခြင်း၊
(၂) မဟုတ်မမှန် ပြောလိုစိတ် ရှိခြင်း၊
(၃) ပြောလည်း ပြောခြင်း၊
(၄) လိမ်လည်သည်ဟု သူတပါး သိခြင်း။

**မုသာဝါဒ၏ အပြစ်များ**

သူတပါးအကျိုးစီးပွား ပျက်လောက်အောင် မုသာဝါဒ ကျူးလွန်သူသည် သေပြီးနောက် အပါယ်သို့ ကျရောက်ရပြီး အပါယ်မှ လွတ်မြောက်၍ လူဘဝ ရောက်လာပါလျှင် ဖော်ပြပါအပြစ်များကို ခံစားရ၏။ မုသာဝါဒလုံခြုံလျှင်ကား ထိုအပြစ်များ၏ ပြောင်းပြန်ဖြစ်သော ကောင်းကျိုးများကို ခံစားရ၏။

(၁) စကားမပီသခြင်း၊
(၂) သွားများ မညီညာခြင်း၊
(၃) အာပုပ်နံ့ နံစော်ခြင်း၊

(၄) ကိုယ်သားကိုယ်ရေ မစိုပြည် ခြောက်ကပ်ခြင်း၊

(၅) မျက်စိစသော ဣန္ဒြေများ နောက်ကျုခြင်း၊

(၆) ကိုယ်နေကိုယ်ဟန်မလှ ပုံပန်းသဏ္ဌာန် ဖောက်ပြန်ခြင်း၊

(၇) ဩဇာအာဏာ မညောင်းခြင်း၊

(၈) နှုတ်ထွက်စကား ကြမ်းဘမ်းခြင်း၊

(၉) လျှပ်ပေါ်သော စိတ်ဓာတ်ရှိခြင်း။

သူတပါး အကျိုးစီးပွား မပျက်စီးလောက်သော မုသာဝါဒ မဟုတ်သော်လည်း ကြီးလေးသော မုသာဝါဒများ ဖြစ်ပါက ထိုအပြစ်များကို ခံစားကြရပေမည်။

**မှတ်ရန်လင်္ကာ**

မုသားစကား၊ ပြောဆိုငြားမူ၊ စကားမပီ၊ သွားမညီကြဲ၊ ပုပ်ညှီပါးစပ်၊ ခြောက်ကပ်ကိုယ်ရေ၊ ဣန္ဒြေနောက်၊ ပုံးယွင်းဖောက်၍၊ မရောက်ဩဇာ၊ နှုတ်လျှာကြမ်းခထော်၊ လျှပ်ပေါ်လေသ်လည်း၊ စိတ်မတည်သည့်၊ ရှောင်မည့် အပြန်အကျိုးတည်း။

၎င်းမုသာဝါဒ ပြောဆိုမှုကို ရှောင်ကြဉ်ပါက ကောင်းသောလားရာ နတ်ရွာသုဂတိသို့ ရောက်ရှိ၍ လူဖြစ်သောအခါ အောက်ဖော်ပြပါ အကျိုးများ ခံစားရ၏—

(၁) ယခုဘဝ၌ စကားပြောပီသ ပြတ်သားခြင်း၊

(၂) သွားများညီညာခြင်း၊

(၃) ခံတွင်းမွှေးကြိုင်ခြင်း၊

(၄) ကိုယ်ရေအသား ဖြည့်ဖြိုးခြင်း၊

(၅) မျက်စိ, နား စသော ဣန္ဒြေများ ကြည်လင်ခြင်း၊

(၆) ပုံသဏ္ဌာန်ကိုယ်ရေ လှပခြင်း၊

(၇) သူတပါးအပေါ် ဩဇာအာဏာရှိခြင်း၊

(၈) အပြောအဆို နှုတ်စကားစကောင်းခြင်း၊

(၉) စိတ်တည်ငြိမ်ခြင်း (အကြီးအကဲဖြစ်ရတတ်ခြင်း)။

တနည်း မုသာဝါဒမှ ရှောင်ကြဉ်ခြင်းအကျိုး ၁၄-မျိုးရှိသည်။

(၁) အလွန်ကြည်လင်သော ဣန္ဒြေရှိခြင်း၊
(၂) သန့်ရှင်းချိုသာသော စကားကို ပြောဆိုတတ်ခြင်း၊
(၃) ညီညာဖွံ့ဖြိုးသော သွားရှိခြင်း၊
(၄) အလွန်ကြီး မဝလွန်းခြင်း၊
(၅) အလွန်ကြီး မပိန်လွန်းခြင်း၊
(၆) မနိမ့်လွန်း မပုလွန်းခြင်း၊
(၇) အလွန်မမြင့်လွန်းခြင်း၊
(၈) အသားအရေ အတွေ့အထိ နူးညံ့ခြင်း၊
(၉) ခံတွင်းမှ ကြာညိုပန်းနံ့သင်းခြင်း၊
(၁၀) ပရိသတ်များ ကြားနာချင်စဖွယ်သော အသံရှိခြင်း၊
(၁၁) ယုံကြည်ထိုက်သော စကားရှိခြင်း၊
(၁၂) ကြာပွင့်ချပ်ပမာ နူးညံ့ပျော့ပျောင်း ရှည်သွယ်သောလျှာရှိခြင်း၊
(၁၃) တွန့်တို ဆုတ်နစ်မှု မရှိခြင်း၊
(၁၄) လျှပ်ပေါ် လော်လည်မှု မရှိခြင်း (ခုဒ္ဒကပါဌ။၂၄)။

မုသာဝါဒ ပြောဆိုသော သူသည် အောက်ပါ မကောင်းကျိုးများကို ခံစားရသည်—

(၁) ကြည်ညိုဖွယ်သော ဣန္ဒြေမရှိခြင်း၊
(၂) နားမချမ်းသာသော အသံရှိခြင်း၊
(၃) သွား မညီညာခြင်း၊
(၄) ဆူလွန်း ဝလွန်းခြင်း၊
(၅) ကြုံလွန်း ပိန်လွန်းခြင်း၊
(၆) နိမ့်လွန်း ပုလွန်းခြင်း၊
(၇) မြင့်လွန်း ရှည်လွန်းခြင်း၊
(၈) အသားအရေ အတွေ့အထိ ကြမ်းတမ်းခြင်း၊

(၉) ခိုတွင်းပုပ်ခြင်း၊

(၁၀) သူတပါး မယုံကြည်ခြင်း၊

(၁၁) ပရိသတ်များ မကြားလိုသော အသံရှိခြင်း၊

(၁၂) ကြမ်းတမ်းသော တိုသော လျှာရှိခြင်း၊

(၁၃) တွန့်တို ဆုတ်နစ်ခြင်း၊

(၁၄) လျှပ်ပေါ် လော်လည်ခြင်း (ခုဒ္ဒကား၄။၂၄)။

## ရှင်ဒေဝဒတ်

အရှင်ဒေဝဒတ်သည် သံဃာကို အသင်းခွဲရာ၌ မုသားပြော၍ ခွဲရ၏၊ ထို မုသာဝါဒကြောင့် အဝီစိငရဲသို့ ရောက်ရလေသည်၊ ဤသို့လျှင် မုသာဝါဒသည် ငရဲသို့ ပစ်ချနိုင်လောက်အောင် သတ္တိကြီးမားလေသည်။

မုသာဝါဒကံသည် အဒိန္နာဒါနကံ စသော ကံတစ်ပါးတို့၏ ရှေ့သွားဖြစ်၏၊ သူတပါးဥစ္စာ ခိုးယူမည် ကြံစဉ်ကပင် နောင်အခါ ဥစ္စာရှင် စသော သူတပါးတို့က ဤဝတ္ထုကို သင် ခိုးသလောဟု မေးမူ ငါမခိုးဟု လှည့်ဖျားကွယ်ဝှက်ဆိုရအံ့သော မုသာဝါဒကံ ဖြစ်၏၊ တစ်ပါးသော အကုသိုလ်ကံတို့၏ ရှေ့၌ တည်၍ ကိုးစားရာ အားပေးရှေ့သွား အဖြစ်နှင့် တည်လေသည်။ မှန်၏၊ သူတပါး ဥစ္စာကို ခိုးယူပြီးလျှင် ဥစ္စာရှင်ပုဂ္ဂိုလ်က မေး၍ မုသားမဆိုဝံ့လျှင် မခိုးတော့ပြီ။

ထို့ကြောင့် မုသာဝါဒကံသည်—

- မျက်မှောက်ဘဝ၌ပင် ကောင်းသောသတင်း ကျော်စောခြင်းကို ကွယ်ပျောက်စေခြင်း၊
- လောကပါလ စသော နတ်ကောင်း နတ်မြတ်တို့ မစောင့်ရှောက်ခြင်း၊
- သေသည်၏ အခြားမဲ့၌ အပါယ်လေးပါး၌သာလျှင် များစွာသော ဆင်းရဲကို ခံစားရခြင်း—

တို့ကို ဖြစ်စေထက်ထုန်၏။

အပါယ်ဘုံမှ လွတ်၍ လူဖြစ်ငြားသော်လည်း—

- ကိုယ်ခံတွင်းမှ ပြင်းပြသော အပုပ်နံ့တို့ လှိုင်စေခြင်း၊
- အခြင်း, ဆွံ့ခြင်း များစွာ ဖြစ်ရခြင်း၊
- သားယောကျ်ား မဖွား, သမီး မိန်းမသာ များစွာ ဖွားရခြင်း၊
- သားမြေး ကျေးကျွန်တို့ မိမိ စကားကို မလိုက်နာခြင်း၊ သားမြေး ကျေးကျွန်တို့ မိမိစကားကို မလိုက်နာဘဲ ပြုကျင့်သဖြင့် ကြီးစွာသော ဆင်းရဲကိုသာ သံသရာဘဝ အတန်တန်တို့၌ အဖန်ဖန် တွေ့ရခြင်း–

စသော ဆိုးကျိုးများကို ခံစားရပြန်လေသည်။

**မုသားအစ စေတီယမင်းက**

ဤ ကမ္ဘာတွင် စေတီယတိုင်း သောတ္ထိယမြို့၌ ဥပဝရခေါ် စေတီယမင်း၏ မုသားကား ပထမဆုံး မုသားဖြစ်၏၊ အပြစ်လည်း အလွန်ထင်ရှား၏၊ ကမ္ဘာဦး ကာလဖြစ်၍ တစ်စုံတစ်ယောက်မျှ မုသားစကား မပြောသေးသော အချိန်, သစ္စာတည်သောအချိန်၌ ပြောသော မုသားဖြစ်၍ ဖြူစင်သော ပဝါ၌ ဆီချေး စွန်းသကဲ့သို့ ဖြစ်၏။

စေတီယမင်းသည် သာမန်မင်း မဟုတ်ချေ၊ ကောင်းကင်ပျံနိုင်ခြင်း၊နတ်သား လေးယောက် စောင့်ရှောက်ရခြင်း၊ ကိုယ်မှ စန္ဒကူးနံ့မွှေးခြင်း၊ ခံတွင်းမှ ကြာညိုနံ့မွှေးခြင်း တန်ခိုး ၄-မျိုးနှင့် ပြည့်စုံသူ ဖြစ်၏၊ တက္ကသိုလ် ပညာ သင်ချိန်က ပုရောဟိတ်ကြီး ကပိလ၏ ညီဖြစ်သော ကောရကလမ္ဗနှင့် အကျွမ်း ဝင်၍ ဘုရင်ဖြစ်လျှင် ပုရောဟိတ်ရာထူးပေးမည်ဟု ကတိပြုခဲ့၏၊ ပုရောဟိတ် ဟောင်း ကပိလသည် သားအား ရာထူးပေး၍ ရသေ့ပြုသွား၏၊ ပုရောဟိတ် ရာထူးသည် ထိုခေတ်က အကြီးနှင့်သာ ဆိုင်၍ အငယ်နှင့် မဆိုင်ပေ၊ ထို့ကြောင့် ပုရောဟိတ်ရာထူး ပေးနိုင်ရေးအတွက် စေတီယမင်းက ကောရကလမ္ဗကို အကြီး, ကပိလ ရသေ့ကို အငယ်ဟု မုသားပြောဆိုရန် စီစဉ်ထားသည်။

ထိုသို့ မုသား ပြောဆိုလိမ့်မည်ကို ကြား၍ ပုရောဟိတ်ဟောင်း ကပိလရသေ့ လာပြီး စေတီယ မင်းအား မုသားမဆိုရန် တားမြစ်၏၊ မုသာဝါဒသည် လွန်စွာ အပြစ်ကြီး၏၊ ရှိသမျှကုသိုလ် ဖျက်ဆီးပစ်ရုံမက အပါယ်သို့ပင် ချတတ်၏၊ မုသားပြောဆိုသူမှန်လျှင် ကိုယ်ကျင့်တရားကို ဖျက်ဆီးရာ ရောက်၏၊ မုသား ပြောဆိုသူအား ကိုယ်စောင့်နတ်များလည်း မစောင့်လိုကြ၊ ခံတွင်းကလည်း အပုပ်နံ့ထွက်တတ်၏၊ ရာထူးလျော့တတ်သည်၊ သတ္တဝါများ ဆင်းရဲခြင်း၊ မြေ့လို

လျှာနှစ်ခွဖြစ်ခြင်း၊ ဖြစ်လေရာဘဝ၌ စကားပီပီသသ မပြောနိုင်ခြင်း၊ ဖြစ်လေရာဘဝ၌ သားရတနာ မထွန်းကားဘဲ သမီး မိန်းမသာ ရတတ်ခြင်း၊ သား၊သည် မိဘစကား နားမထောင်တတ်ခြင်း အပြစ် တို့ ဖြစ် တတ် ရ သည် စသည်ဖြင့် ဟောကြားလေသည်။ သို့သော် စေတိယမင်းသည် ရသေ့၏ စကားကို မလိုက်နာဘဲ သင့်ရသေ့က အငယ်, ကောရကလမ္ဗ-က အကြီးဟု သိလျက်နှင့် မုသားဆိုလိုက်သည်နှင့် တပြိုင်နက် ဘုရင့်စောင့်နေကျ နတ်သား ၄-ယောက်တို့ သန်လျက်ကို ပစ်ချ၍ ကွယ်ပျောက်သွားတော့၏၊ ဘုရင်၏ ခံတွင်းမှ ကြာညိုနံ့ ကွယ်ပျောက်၍ ကြက်ဥ ပုပ်နံ့ ထွက်လာ၏၊ကိုယ်မှလည်း စန္ဒကူးနံ့ကွယ်ပျောက်၍ အိမ်သာနံ့ကြီးပေါ် လာ၏၊ ကောင်းကင်မှာလည်း မသွားနိုင်တော့ဘဲ မြေပေါ်သို့ ကျရောက်လေ၏၊ ဤကား ပထမ မုသား၏ အပြစ်တည်း။

ထိုအခါ ရသေ့က အပြစ်ပြ၍ ဆုံးမပြန်၏၊ မင်းသည် မနာယူဘဲ နှစ်ကြိမ်မြောက် မုသားဆိုပြန်၏၊ ခြေမျက်စိထိအောင် ခြေ ၂-ချောင်း မြေသို့ ဝင်၏၊ ထို့နောက် သုံးကြိမ်မြောက် ဆိုပြန်လျှင် ဒူးဆစ်ထိအောင် မြေသို့ ဝင်လေ၏၊ လေးကြိမ်မြောက် ပြောဆိုလျှင် ခါးတိုင်အောင် မြေသို့ ဝင်၏၊ ငါးကြိမ်မြောက် ဆိုလျှင် ချက်ထိအောင် မြုပ်သွား၏၊ ခြောက်ကြိမ်မြောက် ပြောလျှင် သားမြတ်တိုင်အောင် မြုပ်သွား၏၊ ခုနစ်ကြိမ်မြောက် မုသားအပြောတွင် မဟာပထဝီမြေကြီးသည် ဟင်းလင်းပေါက် ဖြစ်၍ အဝီစိငရဲမှ မီး တောက် မီး လျှံ များ ထွက်လာပြီး စေတိယမင်းကို အဝီစိတိုင်အောင် ယူဆောင်သွားလေသည်၊ စေတိယမင်းသည် အဂတိလိုက်၍ မုသားပြောဆိုခြင်းကြောင့် မြေမျို၍ မဟာအဝီစိငရဲ၌ ကျရလေသည်။ (အဋ္ဌက နိပါတ်၊ စေတိယဇာတ်။၄၃၁။ ဇာ၊ဋ္ဌ၊၃။ ၄၃၁)။

ဈာန်မဂ်ဖိုလ် မရဘဲ ဈာန်မဂ်ဖိုလ် ရ၏ ဟု လိမ်လည် လှည့်ဖြား ပြောဆိုကုန်သော ရဟန်းတို့သည် သေသည်၏ အခြားမဲ့၌ အလျှံ ပြောင်ပြောင်တောက်လောင်သော မီးကျီးငရဲ၌ သက်နိုန်းကို လည်ပင်းရောက်လျက် ခံရကုန်၏ (ဝိဘင်းပါဠိတော်)။

**စိဉ္စမာဏ**

မြတ်စွာဘုရားရှင်သည် သာဝတ္ထိပြည်မှန် ဇေတဝန် ကျောင်းတော်၌ တရားဟောနေတော်မူစဉ် စိဉ္စမာဏသည် တိတ္ထိတို့၏ စကားကို နာယူ၍ သစ်သားပျဉ်ချပ် ဝမ်းဗိုက်ပတ်သျက် ကိုယ်ဝန်ဆောင်ဆောင်ပြီးလျှင် ပရိသတ်လေးပါးအလယ်၌ ဝင်ရောက်ပြီး မြတ်စွာဘုရားနှင့် ပေါင်းသင်း၍ ကိုယ်ဝန်

ရသည်ဟု မဟုတ်မတရား မုသားစကားဖြင့် စွပ်စွဲလေသည်၊ နုတ်သား လေးယောက် ကြွက်ဟန်ဆောင်၍ သစ်သားပျဉ်ချပ် ဝမ်း၌ဖွဲ့ထားသော ကြိုးကို ကိုက်ဖြတ်သဖြင့် ပျဉ်ချပ်ပြုတ်ကျလာ၏၊ အပေါ်ရှိ ပုဆိုးသည် လေလွင့်၍ ပါသွား၏၊ ထိုအခါ စိဉ္စမာဏ၏ အလိမ်ပေါ်၍ ပရိသတ်အပြင်သို့ မောင်းထုတ် ကြကုန်၏၊ ဘုရားရှင် မျက်ကွယ်သို့ရောက်လျှင် မဟာပထဝီ မြေကြီးသည်လည်း နှစ်ဖြာခွဲ၍ အပေါက် ဟင်းလင်းဖြစ်၏၊ ထိုအပေါက်မှ အဝီစိငရဲ မီးလျှံ တက်လတ်၍ စိဉ္စမာဏကို လောင်မြိုက်ကာ ယူသွားလေသည်၊ မဟာအဝီစိငရဲ၌ ကျရလေသည်။

တရားသူကြီး

ရာဇဂြိုဟ်ပြည်မှ တရားသူကြီး တစ်ဦးသည် ကောက်ကျစ်စဉ်းလဲသော တရားသူကြီးဖြစ်၍ နိုင်ရမည့်သူကို အရှုံးပေး၍ ရှုံးရမည့် သူကို အနိုင်ပေးကာ လိမ်ညာခွဲဖူးသော မကောင်းမှုကြောင့် ငရဲ၌ ဆင်းရဲကြီးစွာ ခံစားရ၏၊ ထို့နောက် ယင်းကံကြွင်းကြောင့် ဂိဇ္ဈကူဋ်တောင်၌ ဝှေးစေ့ကြီးသော ပြိတ္တာကြီး ဖြစ်၍ သွားသောအခါ ဝှေးစေ့ကို ထမ်းသွားရပြီး ထိုင်သောအခါ ဝှေးစေ့ပေါ်မှာ ထိုင်ရလေသည် (ဓမ္မပဒ)။

## သုရာမေရယအဖွင့်

"သေရည် သေရက်သောက်ခြင်းမှ ရှောင်ကြဉ်ပါ၏"ဟု ဆောက်တည်ထား သူသည် သေရည်သေရက်သာမက ယခုကာလသုံးစွဲနေကြသော ဘိန်း, ဘင်း, ဆေးခြောက်, လှော်စာ, ကုတ်ကင်း, ဖဆားခြောက်, မာဖီယား, ဘိန်းဖြူစသော မူးယစ် စေတတ်သည့် ပစ္စည်းများကို ဓမ္မိဝဲ မသုံးဆောင်ရ၊ ထို မူးယစ်စေတတ်သော သေရည်သေရက် ဘိန်းစသည်များကို သောက်စားမှုသည် ကုသိုလ်ကောင်းမှု တို့၌ မေ့လျော့ခြင်း၏ အကြောင်းဖြစ်သောကြောင့် ပမာဒဋ္ဌာနမည်၏။

ဤသိက္ခာပုဒ်လာ ပါဠိပုဒ်များကို တစ်ပုဒ်စီ ခွဲခြားလိုက်ပါက သုရာ+မေရယ +မဇ္ဇ+ပမာဒ+ဋ္ဌာန-ဟူ၍ ဖြစ်၏၊ သုရာ=ရဲရှင့်ခြင်း၏ အကြောင်းဖြစ်သော အရက်သေရည်၊ မေရယ=မူးယစ်စေသည့်စိမ်ရည်၊ မဇ္ဇ=မာန်မူတက်ကြွခြင်း၊ ပမာဒ=ကုသိုလ်တရား၌ မေ့လျော့ခြင်း၊ ဋ္ဌာန=အကြောင်းတရား၊ သေရည် အရက် မူးယစ်ဆေးဝါး သုံးစွဲမှုသည် မာန်မူတတ်၍ ကုသိုလ်တရား၌ မေ့လျော့ ခြင်း၏ အကြောင်းတရားဖြစ်သည်ဟု ဆိုလိုသည်။

ယင်းသိက္ခာပုဒ်ပျက်စီးရန် အင်္ဂါကား—

(၁) သုရာစသည် တစ်ပါးပါးလည်း ဖြစ်ခြင်း၊

(၂) သောက်စားလိုသော စိတ်ရှိခြင်း၊

(၃) သောက်ဖြစ်အောင် လုံ့လပြုခြင်း၊

(၄) သောက်စားခြင်း—

ဟူ၍ ဣတိဝုတ်အဋ္ဌကထာနှင့် သမ္မောဟဝိနောဒနီ အဋ္ဌကထာ၌ လာ၏။ သံယုတ်အဋ္ဌကထာ၌မူ—

(၁) သုရာစသည် တစ်ပါးပါးလည်း ဖြစ်ခြင်း၊

(၂) သောက်စားလိုခြင်း၊

(၃) သောက်ခြင်း၊

(၄) မူးယစ်ခြင်း —

ဟူ၍ ၄-မျိုး လာသည်။ ဂိနလ်းသုရာပါနသိက္ခာပုဒ်၌ကား—

(၁) သေရည်သေရက် တစ်မါးပါးဖြစ်ခြင်း၊

(၂) သောက်စားခြင်း ဟု—

အင်္ဂါ ၂-ပါး လာပါသည်။ ထိုအင်္ဂါ ၂-ပါး ပြည့်စုံလျှင် ရဟန်းတော်များမှာ အာပတ်သင့်သည်။

**သုရာငါးမျိုး**

ယင်း သိက္ခာပုဒ်၌ "သုရာ = သေ" ဟူသည်မှာ ဆန်မှုန့် စသည်ကို ပြုပြင် စီမံချက်လုပ်အပ်သော အရည်များကို သုရာ = သေအရက်ဟု ခေါ်သည်။ ယင်းသုရာမှာ အောက်ပါအတိုင်း ၅-မျိုးရှိသည်—

(၁) ဆန်မှုန့်ကို ပြုလုပ်သော ပိဋ္ဌသုရာ၊

(၂) မုန့်ကို ပြုလုပ်သော ပူဝသုရာ၊

(၃) ထမင်းကို ပြုလုပ်သော ဩဒနသုရာ၊

(၄) တဆေးမှုန့်ခေါ် သေရည် မျိုးစေ့ကို ထည့်၍ ပြုလုပ်အပ်သော ကိဏ္ဏပက္ခိတ္တသုရာ၊

(၅) ဖန်ခါးသီး, မုန်ညင်းစေ့စသော ဆေးမည်များကို ရောစပ်၍ ပြုလုပ်အပ်သော သမ္ဘာရသံယုတ္တသုရာ။

**မေရယငါးမျိုး**

မေရယ=စိမ်ရည် ဟူသည်မှာ အပွင့်အသီးတို့ကို ထောင်းထု၍ ရသော အရည်ဖြင့် ကြာရှည်စွာ စိမ်အပ်သော အရည်မျိုးကို မေရယ=စိမ်ရည်ဟု ခေါ်ပါသည်၊ ယင်း မေရယမှာ အောက်ပါအတိုင်း ၅-မျိုးရှိသည်—

(၁) သစ်မည်စည်ပွင့်, ထန်းပွင့်, အုန်းပွင့်, စသော အပွင့်တို့ကို ထောင်းထု၍ ရသော အရည်ကို ကြာမြင့်စွာ စိမ်၍ ပြုလုပ်သော ပုပ္ဖါသဝ၊

(၂) အသီး စိမ်ရည်ဟူသော ဖလာသဝ၊

(၃) မုဒရက်ခေါ် သပျက်သီး စိမ်ရည်ဟူသော မဓွာသဝ၊

(၄) ကြံရည် ထန်းရည်ကို ပြုလုပ်သော ဂုဠာသဝ၊

(၅) ဖန်ခါးသီး စသော အဆောက်အဦ အမျိုးမျိုးတို့၏ စိမ်ရည် ဟူသော သမ္ဘာရသံယုတ္တာသဝ(အဘိ၊ဋ္ဌ၊၂။၃၆၅။မူလဋီ၊၂။၁၇၉)။

**သေရည်သေရက် သောက်မှုအမျိုးမျိုး**

မူးယစ်စေတတ်သော သေရည်အရက်ကို သောက်ရာ၌ သောက်စားမှု အမျိုးမျိုး ရှိပေသည်။

(က) ဆေးဝါးတွင် ပါ၍ သောက်မှု၊

(ခ) ဆေးဝါးအဖြစ် သူချည်းသက်သက် သောက်မှု၊

(ဂ) အရသာခံစားလို၍ တမင်ကို သောက်ချင်၍ သောက်မှု၊

(ဃ) မကောင်းမှုဒုစရိုက်ကို ပြုကျင့်လို၍ ရဲဆေးအဖြစ်သောက်မှု—

ဟူ၍ ရည်ရွယ်ချက်အမျိုးမျိုးဖြင့် သောက်စားမှုအမျိုးမျိုး ရှိလေသည်။

ဆေးဝါးအဖြစ် သောက်မှုမျိုး၌ အပြစ်မရှိ သီလမပျက်ဟု ဆိုသည်။ ယခုခေတ် အင်္ဂလိပ်ဆေးများတွင် အရက်ပါသည်က များလေသည်။ ထိုဆေးရည်များကို ရဟန်းသော ရှင်လူပါ ဆေးဝါးအားလျော်စွာ သောက်ကြရပေသည်။

အရက်ကို ဆေးအဖြစ် သောက်မှုမျိုး၌ သားသမီးဖွားပြီးစ အချိုမိခင် အမျိုးသမီးများသည် အရက်ကို ဆေးဝါးအဖြစ်ဖြင့် သောက်သုံးလေ့ရှိကြပေသည်။ ဆိုသော် ကျန်းမာ၍ ရောဂါကင်းသောလူများမှာ "အရက်" မှန်းသိလျက်သောက်လျှင် သီလပျက်သည်သာ၊ "အရက်" မှန်းမသိ၍ သောက်မိပါက သီလမပျက်။

တမင်ကို သောက်ချင်လှ၍ သောက်မှုကား ရသာရှိကာမ၌ မွားယွင်းစွာ ကျင့်သုံးမှု ဖြစ်သောကြောင့် အပြစ်ကြီးလှပေသည်။ ဤအပြစ်ကြောင့် ရေ၌လည်း ဖြစ်နိုင်၍ တိရစ္ဆာန်ပြိတ္တာ အမျိုးလည်း ဖြစ်နိုင်သည်ဟု အင်္ဂုတ္တိုရ်ပါဠိတော်၌ ဟောတော်မူ၏။

ရဲဆေးတင်ရန် သောက်မှုမျိုးကား အပြစ်အကြီးဆုံး ဖြစ်လေသည်၊ ရသာရှိ ခံစားလို၍သာ မဟုတ်ဘဲ မကောင်းမှု ဒုစရိုက် အကုသိုလ်ပြုလုပ်ရန် သောက်ခြင်းမျိုး ဖြစ်သောကြောင့်တည်း။

ကုမ္ဘဇာတ်တော်၌ ကာသိတိုင်းမှ သုရမုဆိုးနှင့် ဗရုဏရသေ့တို့သည် မိမိတို့ သောက်ရုံသာ မဟုတ်ဘဲ စီးပွားဥစ္စာ ရနိုင်ရန် အခြားသူများ ဆင်းရဲဒုက္ခ ရောက်စေနိုင်သည့် သေရည် အရက် ဖြန့်ဖြူးမှုလုပ်ငန်း လုပ်ဆောင်ခဲ့သည်၊ နောက်ဆုံး သာဝတ္ထိပြည် သဗ္ဗမိတ္တမင်း၏ အဆုံးစီရင်ခြင်းကို ခံရပေသည်။

ပါဏာတိပါတ စသော ဒုစရိုက်မှု တစ်ခုခု ပြုရာ၌ အရက်သေစာ သောက်စားသည့် စေတနာသည် ဒုစရိုက်မှု၏ ရှေ့ပြေး ပုဗ္ဗစေတနာ ဖြစ်သည်။ ထိုကဲ့သို့ ပုဗ္ဗစေတနာများသည် အပါယ်သို့ ချနိုင်လေသည်။

**ကံမြောက်မှုနှင့် မမြောက်မှု အယူအဆများ**

သေရည် သေရက် သောက်မှုကို အကုသိုလ် ကံမြောက်၏ဟူ၍ တိုက်ရိုက် မဆိုပေ။ ဋီကာကျော်ကျမ်း ၁၇၂-တွင် ကာမအတွေ့သည် ဖောဋ္ဌဗ္ဗာရုံ ကာမဂုဏ်ဖြစ်၍ သေရည်သေရက်သည် ရသာရုံ ကာမဂုဏ်ဖြစ်သည်၊ ဖောဋ္ဌဗ္ဗာရုံ ကာမဂုဏ်၌ မွားယွင်းစွာ ပြုကျင့်ခြင်းသည် ကဲ့ရဲ့ထိုက်သကဲ့သို့ ရသာရုံ ကာမဂုဏ်ကို သောက်စားခြင်းသည်လည်း ကဲ့ရဲ့ထိုက်၏၊ ထို့ကြောင့် ယုတ်မာသောအကျင့် မိစ္ဆာစာရ တစ်မျိုးပင် ဖြစ်၍ ကာမေသုမိစ္ဆာစာရနှင့် သဘောတူယူဆပြီး သုရာပါနကို ကာမေသုမိစ္ဆာစာရ၌ ထည့်သွင်းရသည်။ မူလဋီကာတွင် သုရာပါနကို ကာမေသုမိစ္ဆာစာရ၌ သွင်းရုံသာမက ဒုစရိုက် ၁၀-ပါးလုံးကို ကျေးဇူးပြုတတ်သောကြောင့် ဒုစရိုက်ကံ ၁၀-ပါးလုံး၌ ထည့်သွင်းလေသည် (မူလဋီ၊ ၂။၁၇၉)။

သေရည်သေရက် သောက်စား၍ မရမ်းကား၊ တစုံတခုသော ဒုစရိုက်မှုကို မကျူးလွန်ဘဲ နေသော သူ၏ သုရာပါနကံကို ကာမေသုမိစ္ဆာစာရ၌ သွင်းယူရလေသည်၊ အကြောင်းမှာ ကာမဝတ္ထုတို့၌ လွန်ကျူးခြင်း သဘာဝအားဖြင့် တူသောကြောင့် ဖြစ်၏။

သေရည်သေရက် သောက်စား မူးယစ်၍ ပါဏာတိပါတ စသော ဒုစရိုက်တပါးပါးကို ကျူးလွန်သောသူ၏ အရက်သောက်မှုကံကို ထိုကျူးလွန်သော ပါဏာတိပါတကံ စသည်တို့၌ ထည့်သွင်း ယူရသည်။ ဥပမာ–သေရည်ကို သောက်စားမူးယစ်ပြီး သူ့အသက် သတ်ပါက အရက်သောက်မှုကို ပါဏာတိပါတကံ၌ သွင်းယူရသည်။ သောက်စားမူးယစ်ပြီး ခါးပြတိုက်မှု လွန်ကျူးပါက အရက်သောက်မှုကို အဒိန္နာဒါနကံ၌ သွင်းယူရသည်။

### အကုသိုလ်ကံမြောက်သည်ဟု ယူဆပုံ

အင်္ဂုတ္တရပါဠိတော် (၇၈) ၌ အရက်သေစာ မှီဝဲလျှင် ငရဲ, တိရစ္ဆာန်, ပြိတ္တာ မျိုး၌ ဖြစ်စေနိုင်၏၊ အငယ်ဆုံးအပြစ်မှာ လူဖြစ်လျှင် အရူးအနှမ်း ဖြစ်ရ၏ဟု ဟောတော်မူသည်။ သိက္ခာပဒဝိဘင်း အဋ္ဌကထာ (၃၆၆) ၌ ပါဏာတိပါတ စသော ကံငါးပါးကို အပါယ်သို့ ရောက်ကြောင်း ကံဟု ပြဆိုထား၏၊ ထို့ကြောင့် ပါဏာတိပါတ စသော ရှေ့လေးပါးနှင့်အတူ အပါယ်ရောက်ကြောင်း အကုသိုလ်ကံ ဖြစ်သည်ဟု ယူဆကြလေသည်။

### အကုသိုလ်ကံမမြောက်ဟု ယူဆပုံ

အင်္ဂုတ္တိုရ်ပါဠိတော်၌ အရက်သေစာ သောက်စားမှုအကြောင်း ပြဆိုခြင်းသည် ကံမြောက်ကြောင်းပြဆိုခြင်းမဟုတ်၊ ငရဲစသည်၌ ဖြစ်စေနိုင်ကြောင်းကိုသာ ပြဆိုသော ပါဠိဖြစ်သည်၊ ငရဲ စသည်၌ ဖြစ်စေနိုင်ခြင်းမှာလည်း ဆေးဝါးအမှတ် သောက်ရုံဖြင့် ငရဲကျနိုင်သည်ဟု မယူသင့်၊ "ယံ ပိဝိတွာ ဒုစ္စရိတံ စရန္တိ" စသော ကင်္ခာပါဠိတော်နှင့်အညီ သေရည်သေရက် သောက်ပြီးနောက် မကောင်းမှုပြုမှသာ ငရဲသို့ ကျနိုင်သည်ဟု ယူဆသင့်၏။

သိက္ခာပဒဝိဘင်း အဋ္ဌကထာ (၃၆၆) မှာလည်း အကုသိုလ်ကံမြောက်ကြောင်းကို ပြသော စကားမဟုတ်၊ ပါဏာတိပါတ စသည်တို့သည် ဈာန်ခန်း၌ မပါ၊ ကံမြောက်မှုအခန်း၌ ပါသည်ဟုရှေးသော အခန်းကဏ္ဍ ခွဲပြသော စကားသာ

မျှသာ ဖြစ်သည်ဟု ယူဆကြ၏၊ ခုဒ္ဒကအဋ္ဌကထာ(၂၂)၌ အရက်သောက်မှုသည် ကံမမြောက်၊ သာမန် ကာယကံမျှသာ ဖြစ်ကြောင်း ပြဆိုထားသည်၊ ဤကား ကမ္မပထ မမြောက်ဟု ယူဆသော ဆရာတို့၏ ရှင်းလင်းချက်တည်း (သင်္ဂြိုဟ်ဘာသာဋီကာ။ ၃၆၈)။

အရှင်ဇနကာဘိဝံသ၏ အယူအဆ

ဆရာတော် အရှင်ဇနကာဘိဝံသ-ကမူ ဖော်ပြခဲ့ပြီးသော သာဓကတို့အရ အရက်သောက်မှု သက်သက်မှာ အကုသိုလ်ကံ မမြောက်သည်ကား သေချာ၏၊ အကုသိုလ်ကံ မြောက်လျှင် အပါယ်ပဋိသန္ဓေကျိုး ပေးနိုင်သည့် သတ္တိကောန် ရှိရမည်၊ ယခုမှု ကောန်မဟုတ်၊ အချို့သူ၏ သောက်စားမှုသည် အပါယ်ပဋိသန္ဓေကျိုးကို မဖြစ်စေနိုင်၊ အချို့သူ၏ သောက်စားမှုသည် အပါယ်ပဋိသန္ဓေကျိုးကို ဖြစ်စေနိုင်သည်ဟု မှတ်ယူရမည်ဟူ၍ ဆုံးဖြတ်ချက် ချလေသည်။ ယင်းဆုံးဖြတ်ချက်မှာ ပဋိသမ္ဘိဒါမဂ် အဋ္ဌကထာ (ပဋိသံ၊ဋ္ဌ၊၁။၂၇၃)နှင့် ညီညွတ်သည်။

ဓိပဲယင်း ဆရာတော်၏ အယူအဆ

ဒုတိယ ဝိသုဒ္ဓါရုံ (ဓိပဲယင်း) ဆရာတော်ကလည်း ပရမတ္ထစက္ခုကျမ်း စာမျက်နှာ ၂၁၇-တွင်—

> သုရာပါနကို ပဋိသန္ဓေကျိုးကို ပေးရာ၌ အနေကန္တိက ဖြစ်၍ ကမ္မပထဒေသနာ၌ ဟောတော်မမူ၊ ကမ္မပထဒေသနာ၌ မပါဝင်၊ ကမ္မပထမမြောက်၊ မမြောက်သော်လည်း ပဋိသန္ဓေကျိုးကို မပေးနိုင်ဟူ၍ မမှတ်အပ်၊အရာရာသို့ လိုက်၍ ပဋိသန္ဓေကျိုးကို ပေးနိုင်သည်လည်း ရှိ၏၊ မပေးနိုင်သည်လည်း ရှိ၏၊ အပြစ်ကြီးသည်လည်း ရှိ၏၊ အပြစ်ငယ်သည်လည်း ရှိ၏၊ ယင်း သုရာပါနသည် ပဝတ္တိကျိုးကိုကား ဧကန္တိက ပေးနိုင်သည်၊ ပဝတ္တိကျိုး ဆိုသည်ကား ငရဲမှ လွတ်သော အခါ ဖြစ်ရာဘဝ၌ ဉာဏ်ပညာကင်း သိမ်ဖျင်းညံ့ယုတ် သေးနုပ်ထိုင်းမှိုင်း ရခြင်း၊ အအ အဆွံ့ ဖြစ်ရခြင်း၊ ခွေးရူး ဝက်ရူး ကြက်ရူး လူရူး များစွာ ဖြစ်ရခြင်း စသည်တို့ကို ဆိုသည်။
>
> မဇ္ဈိမဘာဏက(?)လည်း သုရာပါနလောက် အပြစ်များသော မကောင်းမှု မည်သည် မရှိ။ ထိုစကားမှန်၏၊ သုရာပါနကို ကျူးလွန်သော သူသည် ဒုစရိုက် ၁၀-ပါးလုံး ပြုရမည်ကို ဝန်မလေး၊ ပြုလွယ်တော့သည်သာ၊

> ...အန္တရာယ်, သူတပါး အန္တရာယ်ကိုလည်း ပြုနိုင်တော့သည်သာ၊ ...ချမ်းသာ ပျက်စီးခြင်း၏ အကြောင်းလည်း ဖြစ်တော့သည်သာ။ ...ရှိသော အပြစ်တွေ များလှ၏၊ ဋီကာကြီး, ဋီကာငယ် စသော ကျမ်းတို့၌ကား သုရာပါနကို ကမ္မပထအတွင်းသို့ အလျော်သွင်း၍ ဖွင့်ပြတော်မူကြကုန်၏ဟု—

ဖော်ပြလေသည်။

လယ်တီဆရာတော်ဘုရားကြီးကမူ သီလဝိနိစ္ဆယပေါင်းချုပ်ကျမ်း (၁၂၆)၌ သုရာမေရယကံသည် ကမ္မပထမြောက်, မမြောက်နှင့် ပတ်သက်၍ ဖြေထားသည်မှာ—

> ဣဿာ, မစ္ဆရိယ, ဝိစိကိစ္ဆာတရားတို့သည် ကမ္မပထတရား ၁၀-ပါး၌ မပါသော်လည်း အပါယ်ပဋိသန္ဓေကို ပေးသည် ဖြစ်၍ ကမ္မပထ မြောက်သောကြောင့် ကမ္မပထ ၁၀-ပါးတို့တွင် သင့်လျော်ရာ သွင်းယူရာ သကဲ့သို့ ထိုအတူ သုရာမေရယကံသည်လည်း အပါယ်ပဋိသန္ဓေကို ပေးသည် ဖြစ်၍ ကမ္မပထ မြောက်သောကြောင့် သင့်လျော်ရာသို့ သွင်းယူရမည်ဟု မိန့်သည်။ (ယုတ္တိဒဋ္ဌိ။)
>
> ရင်းအပြင် "ကောဋ္ဌာသကောတိ ပဥ္စမိ ကမ္မပထမေဝ" ဟူသော သမ္မောဟဝိနောဒနီအဋ္ဌကထာ။ "ပါဏာတိပါတော နာမ နိရယ-သံဝတ္တနိကော...ပေတ္တိဝိသယသံဝတ္တနိကော၊ တထာ အဒိန္နာဒါနာဒီနိ" ဟူသော မဇ္ဈိမပဏ္ဏာသ အဋ္ဌကထာ ၂-ရပ်ကို ထောက်ဆ၍ မုချ ဆတ်ဆတ် ကမ္မပထမြောက်၏ဟု မှတ်ရမည်ဟု လယ်တီဆရာတော် ယူဆလေသည်။ (အာဂမဒဋ္ဌိ။)

အရိယာတို့သည် အသက်သေမည့် အကြောင်းပင် ဖြစ်သော်လည်း ပါဏာတိပါတ စသော သီလငါးပါးကို မလွန်ကျူး မဖျက်ဆီးကုန်၊ ထိုသုရာပါနကို သောက်စားလွန်ကျူး ယစ်မူး ရူးသွပ်သောသူသည် ပါဏာတိ-ပါတ စသော ကံလေးပါးတို့၏ ပျက်ကြောင်းဖြစ်သော ဝဓက (သတ်ခြင်း)၊ ထေယျ (ခိုးခြင်း)၊ သေဝန (မှီဝဲခြင်း)၊ ဝိသံဝါဒနဝတ္ထု (လိမ်လည်စရာ အကြောင်း)တို့နှင့် တွေ့လျှင် တွေ့သမျှသော ဝတ္ထုကို တစ်ခုမကျန် ဖောက်ပြန် ကျူးလွန်လျက် သီလကို အကြွင်းမဲ့ ဖျက်ဆီးတတ်ကုန်၏၊ ထို့ကြောင့် ကြွင်းသော ကံလေးပါးတို့ထက် လွန်ကဲစွာ အပြစ်ကြီး၏၊ ခုဒ္ဒကအဋ္ဌကထာ၌ ဆို၏ဟု သီလဖလုပ္ပတ္တိကျမ်း၌ ဆရာတော် ဦးဗုဓ် မိန့်ကြားခဲ့သည်။

**အရက်သေစာသောက်ခြင်း အပြစ် ၆-ပါး**

အရက်သေစာ သောက်ခြင်းကြောင့် မျက်မှောက်ပစ္စက္ခ၌ အပြစ် ၆-ပါး ဖြစ်နိုင်ကြောင်း မြတ်စွာဘုရားရှင်သည် ဒီဃနိကာယ် ပါထေယျဝဂ် သိင်္ဂါလ သုတ်၌ သိင်္ဂါလသတို့သားအား ဟောကြားတော်မူ၏။

ထိုအပြစ် ၆-ပါးကား—

(၁) စီးပွားဥစ္စာ ပျက်စီးကုန်ခန်းခြင်း၊

(၂) ခိုက်ရန်များခြင်း၊

(၃) ရောဂါအမျိုးမျိုး ဖြစ်ပွားတတ်ခြင်း၊

(၄) ကျော်စောသတင်း ကင်းမဲ့ခြင်း၊

(၅) အရှက်အကြောက် ကင်းခြင်း၊

(၆) အသိပညာဉာဏ် အားနည်းအောင် ပြုတတ်ခြင်း—

တို့ဖြစ်သည်။

**စီးပွားပျက်ခြင်း**

မူးနေသော အရက်သမားသည် မိမိပစ္စည်းကို စောင့်ရှောက်ရမှန်း မသိ ဖြစ်နေ၍ ခိုးယူလုယက်ခြင်း ခံရတတ်သဖြင့် ပစ္စည်းဥစ္စာ ပျက်စီး ကုန်ခန်း လေသည်။

ရှေးက မဟာဓန သူဌေးသားသည် အရက်သမားဖြစ်၍ ရှိသမျှ ပစ္စည်း ဥစ္စာ ကုန်၍ ခွက်လက်စွဲ တောင်းစားရလေသည်။ ထိုအခါ ယင်း၏ ဇနီး ဖြစ်ခဲ့ဖူးသော သိကြားမင်းက အလိုခပ်သိမ်း ပေးတတ်သော အိုးကို ပေးသည်၊ သူဌေးသားသည် အရက်မူးမူးနှင့် မြှောက်ကစား၍ အိုးကွဲလေသည်၊ နောက်ဆုံး ကိုးကွယ်ရာမဲ့ သေဆုံးရလေသည် (ဇာ၊ဌ၊၂။၃၈၈)။

**ခိုက်ရန်များခြင်း**

အင်္ဂုတ္တိုရ်ပါဠိတော် ဘဗ္ဗလဟသုတ် (အံ၊၃။၄၈)၌ အရက်သောက်မှု၏ အသေးဆုံး အပြစ်မှာ အရူးအနှမ်းဖြစ်ခြင်းဟု ဟောကြားတော်မူ၏၊ အရူး မည်သည် သူတပါးအား ဆဲရေးတတ်၊ ရိုက်ပုတ်တတ်သကဲ့သို့ အမူးသမား သည်လည်း ကိုယ်၊ နှုတ်နှစ်ပါးဖြင့် ရမ်းကားသူ ဖြစ်သည်၊ ထို့ကြောင့် မင်းပြစ် မင်းဒဏ် သင့်ခံရတတ်၏။

### ရောဂါဖြစ်ခြင်းအကြောင်း

အရက်သောက် များလျှင် ရောဂါ အမျိုးမျိုး ဖြစ်တတ်ကြောင်းကို ဆေးပညာရှင်များက ဆိုကြသည်၊ တိကဂ္ဂုတ္တရ (၂၆၃)၌ အရက်သမားသည် အရက်သောက်မှုကို မရှောင့်ရဲနိုင်ဟု ဟောတော်မူ၏၊ များသောအားဖြင့် မူးယစ်ဆေးဝါး စွဲသူတို့သည် ဖြတ်ရန် ပြောသော်လည်း မဖြတ်နိုင်ဘဲ သေသည် အထိ စွဲသွားလေသည်။

### ကျော်စောသတင်း ကင်းမဲ့ခြင်း

အရက်မူးသမားသည် မပြုဝံ့သော ဒုစရိုက်ဟု မရှိ၊ ထို့ကြောင့် ဆရာ,မိဘ, သားသမီး, ဇနီးတို့ကို ရိုက်နှက်နိုင် သတ်နိုင်၏။ နောက်ဆုံးတွင် လူများ ကဲ့ရဲ့ ခံရခြင်းဖြင့် နိဂုံးချုပ်ရ၏။

### အရှက်အကြောက်ကင်းခြင်း

အရက်သမားများသည် အရှက်အကြောက် ဟိရီ, ဩတ္တပ္ပ ကင်း၏။ ထို့ကြောင့် လုပ်မပြုဝံ့သော အင်္ဂါဟူ၍ မရှိ၊ သာမန်ပုဂ္ဂိုလ်မဆိုထားဘိ ချွန်အဘိညာဉ်ရ တန်ခိုးကြီးသော အရှင်သာဂတလို ပုဂ္ဂိုလ်ပင် အရက် သောက်မိ၍ မြို့တံခါးဝ၌ လဲ၏၊ ကျောင်းတော်ရောက်ရာ ဘုရားအာက်လှည့်၍ ခြေပြု၏။ ဤသို့ ရှိသေရမှန်း ရှက်ကြောက်ရမှန်း မသိတော့ပေ (ဝိ၊၂။၁၄၅)။

### အသိပညာနည်းအောင် ပြုခြင်း

အသိဉာဏ်ပညာဟူသည် သတိ, သညာတို့နှင့် တွဲလျက် ရှိရာ သညာကင်း ရနသော အရက်မူးသမား၌ သတိကောင်းစွာမရှိ၍ အသိဉာဏ်ပညာလည်း အားနည်းရတော့၏၊ အရှင်သာဂတသည် အသိဉာဏ်ကင်းလျက် မရှက်မကြောက် မရှိမသေ ဖြစ်ရလေသည်။

### သုရာမေရယ၏ အပြစ်များ

သုရာမေရယကံ လွန်ကျူးသော ပုဂ္ဂိုလ်သည် ငရဲ, တိရစ္ဆာန်,ပြိတ္တာသဝ၌ ဖြစ်၍ အကြိမ်ကြိမ် ဆင်းရဲကို ခံစားရ၏၊ လူဖြစ်သော်လည်း ရူးခြင်း, အ-ခြင်း ဖြစ်ရ၏ (အံ၊၃။၄၇၈) ဝဋ်လိုက်သောအားဖြင့် ဖြစ်လေရာဘဝ၌ ဖြစ်ရသော အကျိုးများကား—

(၁) အရေးအခွင့် သင့်, မသင့်ကို မသိတတ်ခြင်း၊

(၂) ပျင်းရိတတ်ခြင်း၊

(၃) မေ့လျော့မှုးရှူးတတ်ခြင်း၊

(၄) သူတပါးပြုဖူးသော ကျေးဇူးကို မသိတတ်ခြင်း၊

(၅) ဟိရီ, ဩတ္တပ္ပ ဟူသော အရှက်အကြောက်မှ ကင်းခြင်း၊

(၆) သေရည်သေရက်သောက်မိလျှင် မည်သည့် အကုသိုလ်မှ မရှောင်ကြဉ်ဘဲ အလုံးစုံသော မကောင်းမှုကို ပြုလွယ်မိခြင်း—

တို့ဖြစ်သည်။

**မှတ်ရန်လင်္ကာ**

သေရည်သောက်လင့်၊ သင့်မသင့်ဘဲ၊ ရေးခွင့်မသိ၊ ပျင်းရိမိုက်ရှူး၊ ကျေးဇူးမဆပ်၊ ဟိရောတ္တပ်ကင်း၊ ခမင်းများထို၊ အကုသိုလ်ကို၊ မငြိုလွယ်စွာ၊ ပြုကျင့်ရာ၏၊ ရှောင်ခါ အပြန်အကျိုးတည်း။

ပါဏာတိပါတ်၊ စသည်ငါးတန်၊ စောင့်ထိန်းမှန်လည်း၊ အပြန်ထိုမှ၊ ကောင်းကျိုးရဟု၊ သာရတ္ထသင်္ဂဟော၊ ကျမ်းဆိုပေသည်၊ ငါးထွေးသီလ အကျိုးတည်း (မဟာဝိသုဒ္ဓါရုံဆရာတော်)။

ဤအရက်သေစာကို ရှောင်ကြဉ်ပါက ကောင်းသော နတ်ရွာသုဂတိသို့ ရောက်ရှိ၍ လူဖြစ်သောအခါ—

(၁) အရေးအခွင့် သင့် မသင့်ကို သိခြင်း၊

(၂) လုံ့လဝီရိယ ရှိခြင်း၊

(၃) သတိနှင့် ပြည့်စုံခြင်း၊

(၄) သူများပြုဖူးသော ကျေးဇူးကို သိတတ်ခြင်း၊

(၅) ဟိရီ, ဩတ္တပ္ပ ဟူသော အရှက်အကြောက်ရှိခြင်း၊

(၆) သေရည်သေရက်မသောက်၍ ကုသိုလ်ကောင်းမှုကို ပြုလွယ်ခြင်း—

တို့ဖြစ်ပါသည်။

ခုဒ္ဒကပါဌ အဋ္ဌကထာ၌ သုရာမေရယမှ ရှောင်ကြဉ်ခြင်း၏ အကျိုး ၃၈-ကို ဖော်ပြထားသည်။

(၁) ဖြစ်ပြီး ဖြစ်ဆဲ ဖြစ်လတ္တံ့သော အမှုကိစ္စတို့၌ အလျင်အမြန် သိလွယ်ခြင်း၊

(၂) အမြဲမပြတ် သတိရှိခြင်း၊

(၃) အရှုးအနှမ်း မဖြစ်ခြင်း၊
(၄) ဉာဏ်ပညာ ရှိခြင်း၊
(၅) မပျင်းရိ လုံ့လဝီရိယ ရှိခြင်း၊
(၆) ပဋိသန္ဓေအားဖြင့် ထိုင်းမှိုင်းသူ မဖြစ်ခြင်း၊
(၇) ပဋိသန္ဓေအားဖြင့် ဆွံ့အ-သူ မဖြစ်ခြင်း
(၈) မတွေဝေခြင်း၊
(၉) မမေ့လျော့ခြင်း၊
(၁၀) အသိပညာ မနည်းခြင်း၊
(၁၁) ကိုယ်လက်ခက်ထရော် မရှိခြင်း၊
(၁၂) ဘေးရန် ကင်းခြင်း၊
(၁၃) ကြောင့်ကြ ကင်းခြင်း၊
(၁၄) မှန်ကန်သောစကားကို ဆိုလေ့ရှိခြင်း၊
(၁၅) ကုန်းချောစကား မပြောဆိုခြင်း, ကြမ်းတမ်းစွာ မပြောဆိုခြင်း, အကျိုးမဲ့သောစကား စသည်ကို မပြောဆိုခြင်း၊
(၁၆) နေ့ညမပြတ် မပျင်းမရိ လုံ့လရှိခြင်း၊
(၁၇) သူ့ကျေးဇူးကို သိခြင်း၊
(၁၈) ပြုပြီးသော ကိစ္စကို သိခြင်း၊
(၁၉) ဝန်တိုမှု မရှိခြင်း၊
(၂၀) စွန့်ကြဲပေးကမ်းမှု ရှိခြင်း၊
(၂၁) သီလနှင့် ပြည့်စုံခြင်း၊
(၂၂) ဖြောင့်မတ်ခြင်း၊
(၂၃) ဒေါသအမျက် နည်းပါးခြင်း၊
(၂၄) မကောင်းမှုကို ပြုရမည်ကို ရှက်ခြင်း၊
(၂၅) မကောင်းမှုကို ပြုရမည်ကို ကြောက်ခြင်း၊
(၂၆) မှန်ကန်ဖြောင့်မတ်သော အယူရှိခြင်း၊

(၂၇) ကြီးမြတ်သော ကောင်းမှုရှိခြင်း၊

(၂၈) ပညာရှိခြင်း၊

(၂၉) ပညာရှိ ဖြစ်နိုင်ခြင်း၊

(၃၀) အကျိုးရှိသည့်၊ မရှိသည့်၌ လိမ္မာခြင်း-

ဟူသော အကျိုးများကို ခံစားရသည်။

ထိုမှ ပြန်သောအားဖြင့် သုရာမေရယသိက္ခာပုဒ်ကို လွန်ကျူးသော သူသည် မကောင်းကျိုး ၃၀-ကို ခံစားရသည်။

အရက်သောက်ခြင်း၏ အပြစ်

ရှေးအခါက အရက်စွဲနေသော ဗာရာဏသီမင်းကြီးသည် အသားဟင်းလျာ မပါသဲ ပွဲတော်တည်လေ့မရှိပေ။ သူ၏ တိုင်းပြည်တွင် အစဉ်အလာအရ ဥပုသ်နေ့များ၌ သားငါးများကို သတ်ဖြတ်ရောင်းချခြင်း မပြုလုပ်ရပေ။ ထို့ကြောင့် စားဖိုမှူးသည် အသားများကို ဥပုသ်နေ့မတိုင်မီ တစ်ရက်ကြိုတင် ဝယ်ယူထားရသည်။

ရက်မစုံ လကွယ် ၁၄-ရက် ဥပုသ်နေ့အတွက် တစ်ဆယ့်သုံးရက်(အဖိတ်)နေ့တွင် အသားများကို ဝယ်ယူထားရသည်၊ ယင်းအသားများကို လုံခြုံစွာ မထားမိသဖြင့် ခွေးစားသွားသည်။ စားဖိုမှူးသည် ဥပုသ်နေ့ နံနက်တွင် အသားဝယ်မရတော့သဖြင့် မိဖုရားကြီးထံ ဝင်၍ အပူကပ်ရတော့သည်။

မိဖုရားကြီးသည် ဘုရင်ကြီးက သားတော်ငယ်လေးအား အလွန်ချစ်မြတ်နိုးမှန်း သိသဖြင့် သားတော်လေးအား တန်ဆာဆင်၍ ဘုရင်ကြီးရင်ခွင်၌ ပေးထားမည်။ ထိုအခါ ပွဲတော်စာကို ဆက်သပါဟု ပြောလေသည်။ ဘုရင်ကြီးသည် ရင်ခွင်ထဲ၌ သားတော်ကလေးကို ကျီစယ်ရွှင်မြူးနေစဉ် စားဖိုမှူးသည် ပွဲတော်စာ ဆက်သလိုက်သည်။

အရက်မူးနေသော ဘုရင်ကြီးသည် ပွဲတော်စာတွင် အသားဟင်းမပါသဖြင့် အသားဟင်း ဘယ်မှာလဲဟု မေးသည်။ စားဖိုမှူးက ယနေ့ ဥပုသ်နေ့ ဖြစ်သဖြင့် အမဲဟင်းလျာများ ဝယ်၍ မရပါကြောင်း လျှောက်ထားသည်။ ထိုအခါ ဘုရင်ကြီးသည် "ငါလိုဘုရင်အတွက် အမဲဟင်းလျာ ခဲယဉ်းရသလော"ဟု ဆိုပြီး ပေါင်ပေါ်တွင်ရှိနေသော သားငယ်၏လည်ပင်းကို လိမ်ချိုးသတ်လိုက်ပြီး

"ရော့–အမြန်ချက်ပြီး ယူလာခဲ့"ဟု ပြောဆို၍ စားဖိုမှူးရှေ့သို့ ပစ်ချပေးလိုက်သည်။

စားဖိုမှူးသည် အလျင်အမြန် ချက်၍ ဆက်သလိုက်သည်။ ဘုရင်ကြီးသည် သားတော်လေး၏ အသားဟင်းလျာဖြင့် ထိုနေ့ညစာအတွက် ပွဲတော်တည်သည်။ စားသောက်ပြီးနောက် အိပ်ပျော်ခြင်းသို့ ရောက်၍ နံနက်မိုးသောက်သောအခါ "သားတော်လေးကို ဆောင်ယူခဲ့ပါ"ဟု ဆို၏။ ထိုအခါ မိဖုရားကြီးက ငိုယိုလျက် အဖြစ်အပျက်ကို တင်လျှောက်လိုက်လေသည်။

ထိုအခါ ဘုရင်ကြီးသည် အလွန်ထိတ်လန့် တုန်လှုပ်သွားပြီး အရက်သောက်ခြင်း၏ အပြစ်ကို သိမြင်ကာ ငိုယိုလျက် "အရဟတ္တဖိုလ်သို့ မရောက်သေးသမျှ အရက်မသောက်တော့ပါပြီ"ဟု မြေမှုန့်ကို ယူ၍ မျက်နှာကိုပွတ်လျက် အဓိဋ္ဌာန်ပြုလိုက်သည်။ ဘုရင်ကြီးသည် ထိုနေ့မှ စ၍ နိဗ္ဗာန်ရောက်သည့်ဘဝအထိ အရက်မသောက်တော့ချေ (ဇာ၊ဋ္ဌ၊၂။၂၇၇)။

**ငါးပါးသီလစောင့်ထိန်းမှု အတုယူရန်**

ဧကာဒသကနိပါတ်ရှိ ပဌမတွဲ တိကနိပါတ် ဂရုဓမ္မဇာတ်တော်လာ အလောင်းတော် ဓနဉ္စယကောရဗျမင်းနှင့် ပုဂ္ဂိုလ် ၁၀-ဦးတို့၏ ငါးပါးသီလစောင့်ထိန်းပုံမှာ အလွန်အတုယူစရာကောင်း၏။

ရှေးအခါက ကုရုတိုင်း ဣန္ဒပတ္တနဂိုရ်မြို့၌ ဘုရားအလောင်းတော်သည် ဓနဉ္စယကောရဗျအမည်ဖြင့် မင်းကျင့်တရား ၁၀-ပါးနှင့် အညီ တိုင်းပြည်ကို အုပ်ချုပ်၏၊ ငါးပါးသီလ ဂရုဓမ္မတရားကို အထူးလုံခြုံအောင် စောင့်ထိန်း၏၊ ဂရုဓမ္မဆိုသည်မှာ ငါးပါးသီလပင် ဖြစ်သည်။ ဓနဉ္စယကောရဗျမင်းနည်းတူ အောက်ပါပုဂ္ဂိုလ် ၁၀-ဦးသည်လည်း သီလကို စင်ကြယ်စွာ အထူးလုံခြုံအောင် စောင့်ထိန်းကြသည်—

(၁) ဘုရင်မင်းမြတ်၏ မယ်တော်၊

(၂) ဘုရင်မင်းမြတ်၏ မိဖုရားကြီး၊

(၃) ညီတော်အိမ်ရှေ့မင်း၊

(၄) ပုရောဟိတ်ပုဏ္ဏား၊

(၅) ကြိုးဆွဲအမတ် (မြေတိုင်းအမတ်)၊

(၆) ရထားထိန်း၊

(၇) သူဌေးကြီး၊

(၈) ပြည်စိုးအမတ် (တည်သည်အမတ်)၊

(၉) တံခါးစောင့် (တံခါးမှူး)၊

(၁၀) ပြည့်တန်ဆာမ။

မင်းကြီးသည် မြို့တံခါး ၄-မျက်နှာ၊ မြို့လယ်၊ နန်းတော်တံခါး၊ ဤ ၆-ဌာနမှာ အလှူမဏ္ဍပ် ၆-ခု ဆောက်လုပ်ပြီး နေစဉ် တစ်နေ့လျှင် ၆-သိန်းဖိုး အလှူဒါန ပြုလုပ်သဖြင့် ဇမ္ဗူဒိပ်ကျွန်းလုံး ချီးမွမ်းသံထင်း ပျံ့နှံ့ကျော်စောသည်။

ထိုအချိန်တွင် ကာလိင်္ဂတိုင်း ဒန္တပူရမြို့၌ ကာလိင်္ဂမင်း အုပ်စိုးသည်။ ထိုတိုင်းပြည်မှာ မိုးမရွာ၊ မိုးခေါင်သဖြင့် တိုင်းသူပြည်သားများ ငတ်မွတ် ခေါင်းပါးပြီး ရောဂါဘယ ဖြစ်သည့်အတွက် ပြည်သူများစုရုံးပြီး နန်းတော် တံခါးဝ သွားရောက် ယာစ်အော်ကြသည်။

ထိုအခါ ဘုရင်ကြီးသည် ရှေးမင်းများ ကျင့်စဉ်အတိုင်း အလှူပေးခြင်း၊ သီလဆောက်တည်ခြင်း၊ ဥပုသ်စောင့်ခြင်းတို့ ပြုလုပ်၍ ကျက်သရေရှိသော တိုက်ခန်း၌ မြေဇာမြက်ခင်း၍ အိပ်သည်၊ ထိုသို့ တရားကျင့်သော်လည်း မိုးမရွာ ရချေ၊ ဝန်ကြီးများက ကုရုတိုင်း ဓနဥ္စယကောရဗျမင်းထံမှ အဉ္ဇနဝဏ္ဏမင်္ဂလာ ဆင်တော်ကို ဆောင်ယူရလျှင် မိုးရွာပါလိမ့်မည်ဟု လျှောက်ထားကြ၏၊ ဘုရင် မင်းမြတ်လည်း ပုဏ္ဏားတော် ၈-ယောက် ရွေးချယ်၍ ဆင်ဖြူတော်ကို အလှူ ခံစေသည်၊ ဆင်ဖြူတော်ရရှိလာသော်လည်း မိုးမရွာချေ၊ မိုးခေါင်မြဲ ခေါင်နေ သည်၊ တဖန် အမတ်များနှင့် တိုင်ပင်ရာ ဓနဥ္စယကောရဗျမင်းသည် ဂုရုဓမ္မ (ငါးပါးသီလ)ကို ကျင့်၏၊ ထိုကြောင့် လခွဲတစ်ကြိမ်၊ ဆယ်ရက်တစ်ကြိမ် မင်း၏ အာနုဘော်ကြောင့် မိုးရွာ၏၊ ဆင်တော်ကြောင့် မဟုတ်ကြောင်း လျှောက်ထားသော် ဆင်တော်ကို ပြန်ပို့စေပြီး ဓနဥ္စယကောရဗျမင်း စောင့်ထိန်းသည့် ဂုရုဓမ္မဟူရားကို ရွှေပြား၌ ရေး၍ ယူခဲ့ကြလော့ဟု မိန့်၏။

ကာလိင်္ဂမင်း၏ အမိန့်တော်အရ ပုဏ္ဏားတော်များနှင့် အမတ်များသည် ဓနဥ္စယကောရဗျမင်းထံသွား၍ ဂုရုဓမ္မတရားတောင်းခံကြ၏၊ ဓနဥ္စယကောရဗျ မင်းသည် တစ်ကြိမ်က ကြတ္တိကာနက္ခတ်ပွဲသဘင်၌ မြားပစ်တမ်း ကစားရာ မြားတစ်စင်းသည် ရေထဲကျသွားသည်၊ ရေထဲ၌ ငါးများကို မြားထိသွား သလားဟု သံသယဖြစ်နေ၏၊ ထိုကြောင့် သူ၏ ဂုရုဓမ္မမှာ မစင်ကြယ်ချေ၊ စင်ကြယ်စွာ စောင့်ထိန်းနေသော မယ်တော်ထံ သွားရောက် ကူးယူရန် မိန့်ကြား

သည်။ အမတ်များက သေစေလိုသော စေတနာမရှိသည့်အတွက် ပါဏာတိပါတကံ မှထိုက်နိုင်ပါဟု ဆိုပြီး ရေးကူးခွင့်တောင်းရာ မင်းကြီးက—

– သတ္တဝါကို မသတ်အပ်၊

– အရှင်မပေးသော ဥစ္စာကို မခိုးယူအပ်၊

– ကာမဂုဏ်၌ မှားသော အကျင့်ကို မကျင့်အပ်၊

– မုသာဝါဒကို မဆိုအပ်၊

– ယစ်မျိုးကို မသောက်စားအပ်ဟု–

ဂရုဓမ္မကို ရေးသားစေ၏။

အမတ်တို့သည် မယ်တော်ထံ သွားရောက်၍ ဂရုဓမ္မတရား တောင်းရာ မယ်တော်က ဂရုဓမ္မ စောင့်ထိန်းသည်ကား မှန်၏၊ သို့သော် နိုင်ငံခြားမင်းတစ်ပါးက သားတော် ဓနဉ္စယကောရဗျမင်းကို အဖိုးတစ်သိန်းတန် စန္ဒကူးနံ့သာနှစ် တစ်ခုနှင့် တစ်ထောင်တန် ရွှေပန်းခိုင်တစ်ခု လာဆက်ရာ သားတော်က မယ်တော်အား နှစ်မျိုးလုံး ပူဇော်သည်၊ မယ်တော်သည် ချွေးမ နှစ်ယောက်ကို ခွဲဝေပေးရာ ဘုရင့်မိဖုရားကြီးအား ဘုန်းကြီးသည်ဟု ဆို၍ တစ်ထောင်တန် ရွှေပန်းခိုင်ကို ပေး၏၊ အိမ်ရှေ့မင်းမိဖုရားကိုမူ ဘုန်းနည်းသည်ဟု ဆိုပြီး တစ်သိန်းတန် စန္ဒကူးနံ့သာနှစ်ကို ပေးမိ၏၊ ပေးပြီးမှ တဖန် စဉ်းစားမိသည်မှာ ဘုန်းကြီးမှု, မကြီးမှုသည် အဓိကမဟုတ်၊ ဂုဏဝုဍ္ဍိ ဝယဝုဍ္ဍိအားဖြင့် ကြီးသော သူကိုသာ ဦးစားပေးရန် အစဉ်အလာရှိသည်၊ ငါ၏ လုပ်ဆောင်မှုကြောင့် ဂရုဓမ္မ ပျက်သွားလေမည်သလောဟု သံသယဖြစ်မိကြောင်း၊ ထို့ကြောင့် ဘုရင့်မိဖုရားကြီးထံ သွားရောက် ကူးယူရန် ပြောကြားပါသည်။ ကာလိင်္ဂအမတ်များလည်း မိမိပိုင်ပစ္စည်းမို့ မိမိနှစ်သက်သလို ပေးနိုင်ကြောင်း ပြောပြီး မယ်တော်ထံမှ ဂရုဓမ္မတရား ကူးယူပြီး မိဖုရားကြီးထံ သွားကြသည်။

မိဖုရားကြီးကလည်း ဂရုဓမ္မစောင့်ထိန်းပါသော်လည်း မိမိသီလကို မကျေနပ်ဟု ပြော၏၊ တစ်ကြိမ်က မောင်တော်မင်းမြတ်သည် အိမ်ရှေ့မင်းနှင့် အတူ ဆင်တော်စီးပြီး မြို့တော်ကို လှည့်လည်ကြည့်ရှုရာတွင် အိမ်ရှေ့မင်းကို မျက်စိကျပြီး သူဘုရင်ဖြစ်သည့်အခါ ငါ့ကို မိဖုရားဆက်မြှောက်လျှင် ဘယ်လောက် ကောင်းလိုက်မလဲဟု တွေးမိပါသည်၊ နောက်မှ ကာမပိုင် လင်ရှိလျက်နှင့် ယောကျ်ားတပါးကို မတပ်မက်ထိုက်ဟု သတိရပြီး မိမိသီလ ပျက်လေပြီလောဟု သံသယဖြစ်နေသည်။ ထို့ကြောင့် မတ်တော် အိမ်ရှေ့မင်းထံမှ ကူးယူရန် ပြောကြားပါသည်။

ကာလိင်္ဂအမတ်များကလည်း ကာမေသုမိစ္ဆာစာရဆိုတာ စိတ်က ကြံစည်ရုံဖြင့် မဖြစ်ပါဟုဆို၍ ရွှေပြား၌ ကူးယူပြီး အိမ်ရှေ့မင်းထံ သွားကြသည်။

အိမ်ရှေ့မင်းသည် ဘုရင်မင်းမြတ်နန်းတော်သို့ ရထားဖြင့် သွားလေ့ရှိသည်၊ နန်းတော်၌ အိပ်မည်ဆိုလျှင် ကြိုးနှင့် နှင်တံကို ရထားဦးမှာ ချိပ်ထားခဲ့သည်၊ ထိုအမှတ်ဖြင့် ရထားထိန်းနှင့် နောက်လိုက်များ ပြန်လေ့ရှိသည်၊ နန်းတော်၌ မအိပ်ဘဲ ချက်ချင်းပြန်လာမည်ဆိုလျှင် ကြိုးနှင့် နှင်တံကို ရထားတွင်းမှာထားခဲ့သည်၊ ထိုအခါ နောက်လိုက်များမပြန်ဘဲ စောင့်နေရသည်၊ တစ်နေ့သောအခါ ချက်ချင်းပြန်မည်ဟု စိတ်ကူးပြီး ကြိုးနှင့် နှင်တံကို ရထားတွင်း၌ ထားခဲ့ရာ ရွာတရက် မိုးကြီးရွာချ၍ ဘုရင်မင်းမြတ်က နန်းတော်၌ အိပ်ရမည်ဟု အမိန့်ရှိသဖြင့် နန်းတော်မှာ အိပ်ရသည်၊ နံနက်လင်းသောအခါ ရထားထိန်းနှင့် အိမ်ရှေ့မင်း နောက်လိုက်နောက်ပါများ မိုးရေထဲ စိုစိုစွတ်စွတ်နှင့် စောင့်နေကြသည်ကို တွေ့ရသဖြင့် လူများ ပင်ပန်းအောင်ပြုမိသည်၊ ဂရုဓမ္မများ ပျက်လေမလားဟု သံသယ ဝင်နေသည်၊ ထို့ကြောင့် ပုရောဟိတ်ပုဏ္ဏားထံ တောင်းယူရန် ပြောသည်။

ကာလိင်္ဂအမတ်များက စိတ်စေတနာ မရှိသည့်အတွက် အပြစ်မရှိနိုင်ပါဟု ဆို၍ ရှေးနည်းတူ ရွှေပြား၌ ရေးကူးပြီး ပုရောဟိတ်ပုဏ္ဏားထံ သွားကြသည်။

ပုရောဟိတ်ပုဏ္ဏားကြီးက တစ်ကြိမ်က မင်းကြီးထံ အခစားသွားရာ လမ်း၌ အခြားမင်း၏ သံတမန်များသည် ဓနဉ္စယကောရဗျမင်းကြီးအား ဆက်သရန် ယူလာသော နေလုလင်ရောင်ကဲ့သို့ တောက်ပသော ရထားတစ်စီးကို မြင်၍ ငါအရွယ်ကြီးပြီ၊ မင်းမြတ်က ဤရထားကို ငါ့အားပေးလျှင် သိပ်ကောင်းမည်ဟု အကြံဖြစ်မိပါသည်၊ နန်းတော်ရောက်၍ ဘုရင်မင်းမြတ်အား "ဇယတု ဘဝံ မဟာရာဇ" ဟု ဆို၍ ခစားမိသည်နှင့် တပြိုင်နက် သံတမန်များက ရထားကို ဆက်သရာ ဘုရင်မင်းကြီးက ရထားက သိပ်ကောင်းနေတယ်၊ ဆရာနှင့် တော်တယ်ဟုဆို၍ ငါပုရောဟိတ်အား ပေးပါသည်၊ အကြိမ်ကြိမ်ငြင်းခဲ့ပါသည်၊ ငါသည် ဂရုဓမ္မကို စောင့်ထိန်းသူဖြစ်ပါလျက် သူတပါးပစ္စည်းကို လောဘရမ္မက် တပ်ပြီး ကြံစည်မိသည်၊ ဤအတွက် သီလပျက်ပြီလားဟု သံသယဖြစ်မိကြောင်း ပြောပြ၍ မြေတိုင်းအမတ် (ကြိုးဆွဲအမှတ်)ထံ သွားရန် ပြောပါသည်။

ကာလိင်္ဂအမတ်များလည်း လောဘဖြစ်ခါမျှနှင့် သီလမပျက်နိုင်ပါဟု ပြော၍ ရှေးနည်းတူ ရွှေပြား၌ကူးယူပြီး မြေတိုင်းအမတ်ထံ သွားကြသည်။

မြေပိုင်းအမတ်သည် တစ်ကြိမ်က သူကြွယ်တစ်ဦး၏ လယ်မြေကို တိုင်းရာ၌၊ ကြိုးစွန်းနှစ်ဖက်ကို လှံတံနှစ်ချောင်း၌ ချည်ဖွဲ့၍ တစ်ခုသော လှံတံကို လယ်ရှင်အား ကိုင်စေပြီး တစ်ခုသော သံတံကို မြေတိုင်းအမတ် ကိုင်ရ၏၊ အမတ်ကိုင်သော လှံတံအဖျားသည် တစ်ခုသော ပုစွန်တွင်းဝတည့်တည့် ကျရောက်၏၊ ပုစွန်တွင်းသည် လှံတံစိုက်ရမည့် နေရာတည့်တည့်ဖြစ်၏၊ ပုစွန်တွင်း၌ စိုက်လျှင် ပုစွန်သေအံ့၊ ပုစွန်တွင်း၏ ထိုတစ်ဖက်မှာ လှံတံစိုက်လျှင် မင်း၏ဥစ္စာနစ်နာမည်၊ ပုစွန်တွင်း၏ ဤတစ်ဖက်မှာ လှံတံစိုက်လျှင် လယ်ရှင်သူဌေး နစ်နာမည်၊ ဤသို့ဖြစ်စဉ် ပုစွန်တွင်းမှာ ပုစွန်ရှိလျှင် ထင်ရှားရမည်၊ ပုစွန်ထွက်လာရမည်ဟု ဆုံးဖြတ်၍ ပုစွန်တွင်း၌သာလျှင် လှံတံစိုက်၏၊ ပုစွန်သည် "ကရိ" ဟူသော အသံမည်လာ၏၊ ထို့ကြောင့် လှံတံသည် ပုစွန်၏ကျောပေါ် ကျဟန်တူ၏၊ ပုစွန်သေအံ့ထင်၍ ဂရုဓမ္မသီလပျက်သွားပြီလောဟု သံသယဖြစ်ကြောင်း ပြောပြပြီး ရထားထိန်းထံ သွားရန်ပြောသည်။ ကလိင်္ဂအမတ်များကလည်း ပုစွန်ကို သေစေလိုသော စိတ်စေတနာမရှိ၍(ပါဏာတိပါတ)ကံ မမြောက်ပါဟု ဆို၍ရှေးနည်းတူ ရှေ့ပြား၌ ကူးယူပြီး ရထားထိန်းထံ သွားကြ၏။

ရထားထိန်းက သူ၏ သီလကို မကျေနပ်သေးဟု ဆို၏။ ရထားထိန်း၏ သိန္ဓောမြင်းများသည် သေသေချာချာ သင်ကြားထား၍ အလွန်လိမ္မာ ကြ၏၊ အချက်သိ၏၊ တစ်ကြိမ်က ဘုရင်မင်းမြတ်သည် ရထားဖြင့် ဥယျာဉ်တော် ကစားထွက်တော်မူရာ ညနေစောင်းတွင် မြို့တော်သို့ မရောက်မီ နေဝင်၍ မိုးတိမ်များ တက်လာ၏၊ မင်းကြီးမိုးစိုမည်ကို စိုးရိမ်ပြီး သိန္ဓောမြင်းများကို နှင်တံဖြင့် အချက်ပြလိုက်၏။ သိန္ဓောမြင်းများ လျင်မြန်စွာ ပြေးသွားကုန်၏၊ ထိုအခါမှစ၍ ဥယျာဉ်တော်သို့ သွားသောအခါဖြစ်စေ၊ ဥယျာဉ်တော်မှပြန်လာသောအခါဖြစ်စေ၊ ထိုနေရာသို့ ရောက်တိုင်း သိန္ဓောမြင်းများသည် ဒီ‌လျင်အမြန် ပြေးကုန်၏။ ဤနေရာ၌ ဘေးရန္တရာယ် ရှိ၍သာ ရထားထိန်းက သူတို့အား အချက်ပေးသည်ဟု ယူဆပြီး အလျင်အမြန် ပြေးကြသဖြင့် ပင်ပန်းကြကုန်၏။ ထို့အတွက် မိမိဂရုဓမ္မသီလ ပျက်ပြီလောဟု သံသယ ဖြစ်မိ၏ ထို့ကြောင့် သူဌေးကြီးထံ သွားရောက် ကူးယူကြရန် ပြောသည်။

ကာလိင်္ဂအမတ်များသည် သိန္ဓောမြင်းများကို ပင်ပန်းစေလိုသော စိတ်စေတနာမျိုးဖြင့် အချက်ပြခြင်း မဟုတ်၍ စေတနာမပါသော အမှုသည် ကံမမြောက်ဟု ပြောပြီး ရှေးနည်းတူ ရှေ့ပြား၌ ကူးယူပြီး သူဌေးကြီးထံ သွားကြလေသည်။

သူဌေးကြီးသည် တစ်ကြိမ်က သူပိုင်သော လယ်တောသွား၍ အပြန်တွင် ကောက်နှံပန်းကို ပန်ဆင်လိုသဖြင့် သလေးစပါးနှံ တစ်နှံကို ယူ၍ ဦးသျှောင်၌

ပန်၏၊ နောက်မှ စဉ်းစားမိသည်မှာ မင်းအတွက် အခွန်မဖြေးရသေးသော လယ်မှ သလေးနှံ တစ်ဆုပ်ကို ယူခဲ့မိသည်၊ ဤအတွက် စောင့်ထိန်းထားသော ဂရုမ္မသီလများ ပျက်လေပြီလားဟု သံသယဝင်မိပါသည်။ ထို့ကြောင့် ပြည်စိုးမင်းထံ သွားရောက်ကူးယူရန် ပြောပါသည်။

ကာလိင်္ဂအမတ်များသည် သူဌေးကြီးမှာ ခိုးလိုစိတ် မရှိသဖြင့် အပြစ်မရှိနိုင်ပါဟု ဆို၍ ရွှေနည်းအတူ ရွှေပြား၌ ရေးကူးပြီး ပြည်စိုးအမတ်ထံ သွားကြလေသည်။

**မှတ်ချက်။** ။ပြည်စိုးအမတ်ဆိုသည်မှာ ဆန်ခြင်သော ပြည်တော်င်းကို အုပ်စိုးရသော အမတ်ဖြစ်၏၊ ရွှေနိသာယတို့၌ တင်းခြင်အမတ်ဟု ရေး၏၊ သီလဖလုပ္ပတ္တိကျမ်း၌ တည်သည်အမတ်ဟု ဖော်ပြ၏၊ ကုန်းဘောင်ခေတ် ကျီဝန်အမတ်နှင့် တူ၏၊ ပုဂံခေတ်တွင်မူ ပြည်စိုးအမတ် ဝေါဟာရ ရှိ၏၊ ယင်းအမတ်မှာ မြို့ရွာအုပ်ချုပ်ရေး၌ ပါဝင်ရ၏။

ပြည်စိုးအမတ်သည် တစ်ကြိမ်က ဘုရင်မင်းမြတ်၏ အဖို့ဖြစ်သော စပါးများကို ခြင်စေပါသည်၊ ထိုသို့ ခြင်တွယ်သောအခါ မခြင်ရသေးသည့် စပါးပုံထဲမှ စပါးများကို ယူပြီး ဂရို့အဖြစ် အသုံးပြုပါသည်၊ မကြာမီ မိုးရွာသဖြင့် ဂရို့အဖြစ်ယူထားသော စပါးများကို အမှတ်တမဲ့ စပါးပုံတစ်ခုထဲသို့ ထည့်လိုက်မိသည်၊ ဤသို့ထည့်ပြီး မိုးခိုရန် ကျီထဲဝင်နေလိုက်သည်၊ ထို့နောက် ပြန်လည်စဉ်းစားသောအခါ ဂရို့ချိုးရန် စပါးစုကို မင်း၏ စပါးပုံထဲ ထည့်မိသလော၊ မခြင်ရသေးသည့် စပါးပုံထဲ ထည့်မိလေသလောဟု သံသယ ဖြစ်မိ၏၊ မင်း၏ စပါးပုံထဲ ထည့်မိလျှင် မင်းဘဏ္ဍာတော်ကို မတရားသဖြင့် တိုးအောင် လုပ်ရာကျ၍ လယ်သမားတို့၏ ဘဏ္ဍာကို ဖျက်ဆီးရာ ကျ၏၊ မိမိသီလကို သံသယ ဖြစ်မိသောကြောင့် တံခါးမှူးထံ သွားရောက်ကူးယူရန် ပြောသည်။

ကာလိင်္ဂ အမတ်များက ခိုးယူလိုသောစိတ် မရှိ၍ အပြစ်မရှိ နိုင်ပါ၊ အဒိန္နာဒါနကံ ဆိုသည်မှာ ခိုးယူလိုသော စိတ်ရှိမှ ဖြစ်ပါသည်ဟု ဆို၍ ရွှေနည်းတူ ရွှေပြား၌ ရေးကူးပြီး တံခါးမှူးထံ သွားကြသည်။

တံခါးမှူးသည် တစ်ကြိမ်က ညချမ်းအခါ မြို့တံခါးကို ပိတ်မည်ဟု သုံးကြိမ်တိုင်တိုင် ကြွေးကြော်ပြီး ပိတ်ခါနီးဆဲဆဲ၌ ဆင်းရဲသား တစ်ယောက်နှင့် မိန်းမပျိုလေးတစ်ဦးတို့ အရေးတကြီး မြို့ထဲဝင်ရန် ရောက်လာကြသည်၊ ထိုအခါ တံခါးမှူးက မင်းမဲ့တိုင်းပြည်မဟုတ်၊ အချိန်နှင့် တံခါးပိတ်မည်ကို မသိသလော၊ မိန်းမကို ခေါ်ပြီး တစ်နေ့လုံး ကာမဂုဏ်အပျော်ကြူးနေသည်မှာ မကောင်းဟု

မာန်မဲပြောဆိုလိုက်သည်၊ ထိုအခါ ဆင်းရဲသားက ထိုကလေးမသည် သူ၏နှမဖြစ်ကြောင်း ပြန်ပြောသည်၊ ဤဟုတ် မမှန်မကန် ပြောဆိုမိသည့်အတွက် ဂရုမဓမ္မသီလ ပျက်သွားပြီလောဟု သံသယဖြစ်မိ၏၊ထို့ကြောင့် ပြည့်တန်ဆာမထံ သွားရောက်ကူးယူရန် ပြောသည်။ ကာလိင်္ဂအမတ်များလည်း တံခါးမှူး၏ စိတ်ထဲမှာ မယားထင်မိလို့ ပြောခြင်း ဖြစ်၍ သိလျက်နှင့် မုသားပြောခြင်း မဟုတ်သဖြင့် မုသာဝါဒမဖြစ်၊ အပြစ်မရှိပါဟု ပြောပြီး ရှေးနည်းတူ ရွှေပြား၌ ရေးကူးပြီး ပြည့်တန်ဆာမထံ သွားကြသည်။

ပြည့်တန်ဆာမသည် တစ်ကြိမ်က လုလင်ပျိုတစ်ယောက် လာလတ်၍ ကျွန်ုပ်လာပါအံ့ဟုဆိုကာ ငွေတစ်ထောင်ပေးပြီး ထွက်သွားသည်၊ သီလပျက်မှာ စိုးသဖြင့် အခြားသော ယောကျ်ားထံမှ ကွမ်းတစ်ရာမျှ မယူဘဲ ၃-နှစ် ကြာအောင် စောင့်နေခဲ့ပါသည်၊ ပြည့်တန်ဆာမသည် ဝင်ငွေမရှိ ဆင်းရဲ၍ အသက်မွေး ကြပ်တည်းလာသဖြင့် တရားသူကြီးထံ အဆုံးအဖြတ် ခံပါသည်၊ ငွေတစ်ထောင်ပေးသော ယောကျ်ားသည် သေသည် မသိ၊ ရှင်သည် မသိ၊ မလာသည်မှာ ၃-နှစ်တိုင် ရှိပါပြီ၊ မည်သို့ပြုရမည်ကို အဆုံးအဖြတ်ပေးပါရန် လျှောက်၏၊ တရားသူကြီးလည်း ယနေ့မှ စ၍ အခြားယောကျ်ား လက်ခံခွင့် ရှိသည်ဟု အဆုံးအဖြတ် ပေး၏၊ တရားရုံးမှ ထွက်လာသောအခါ ယောကျ်ား တစ်ယောက် ငွေတစ်ထောင် လာပေးသည်၊ ငွေတစ်ထောင်ကို ယူမည်ဟု လက်ကို ဖြန့်လိုက်စဉ် လွန်ခဲ့သော သုံးနှစ်က ငွေတစ်ထောင်ပေးခဲ့သော လုလင် ပျိုသည် ရုတ်တရက် ပေါ်လာသည်၊ ထိုအခါ ငွေလက်ခံရန် ဖြန့်ထားသော လက်ကိုပြန်ရုပ်သိမ်းလိုက်သည်၊ထိုလုလင်ပျိုလည်း နတ်သိကြားဖြစ်၍ တက်သစ်စ နေလုလင်ကဲ့သို့ ထွန်းပလျက် ကောင်းကင်၌ တည်၏၊ တစ်မြို့လုံး လူများစုဝေး လာ၏။ သိကြားမင်းက ဤပြည့်တန်ဆာမ၏ သီလကို စုံစမ်းလိုသည့်အတွက် လွန်ခဲ့သော ၃-နှစ်က လုလင်ပျိုဟန်ဆောင်ပြီး ငွေတစ်ထောင် ပေးခဲ့သည်။ သီလစောင့်သော သူသည် ဤပုဂ္ဂိုလ်ကဲ့သို့ သီလစောင့်ရမည်, စံယူရမည်ဟု ဆုံးမဩဝါဒပေး၍ ပြည့်တန်ဆာမ၏ တစ်အိမ်လုံးကို ရတနာ ၇-ပါးဖြင့် ပြည့်စေလျက် ဆုံးမဩဝါဒပေး၍ ပြန်သွားသည်၊ သို့ရာတွင် လက်ခံယူထား ပြီးသော ငွေအတွက် တာဝန်မကျေမိ အခြားလူတစ်ယောက်ထံမှ ငွေယူရန် လက်ဖြန့်ခံမိခြင်းအတွက် မိမိသီလကိုမနှစ်သက်သဖြင့် ဂရုမဓမ္မသီလကို မပေးလိုဟု ငြင်းဆိုသည်၊ ကာလိင်္ဂအမတ်များလည်း လက်ဖြန့်ရုံဖြင့် သီလမပျက်နိုင်ပါဟု ဆို၍ ရေးကူးခွင့်ပန်ကြားပြီး ပြည့်တန်ဆာမ၏သီလကို ရှေးနည်းတူ ရွှေပြား၌ ရေးကူးယူကြကုန်၏။

ဤသို့ကာလိင်အမတ်များသည် တစ်ကျိပ်ကစ်ယောက်သော သူတို့၏ ဂရုမမွ သီလကို ရွေ့ပြား၍ ရေကူးယူပြီး ကာလိင်တိုင်း ဒန္တပူရမြို့ ကာလိင်မင်းအား ဆက်သကြကုန်၏၊ ကာလိင်မင်းနှင့်တကွ အမတ်များ တိုင်းသူ ပြည်သားများ သည် ရွေ့ပြား၍ပါသည့် ဂရုမမွခေါ် ငါးပါးသီလကို စင်ကြယ်အောင် စောင့်ထိန်း ကုန်၏၊ ထိုခဏ၌ ကာလိင်တစ်တိုင်းပြည်လုံး မိုးရွာ၍ သာလောင်မွတ်သိပ်သော ဘေး၊ ရောဂါထူပြောသော ဘေး၊ အစာမရှိသောဘေး ဟူသော ဘေးသုံးပါးမှ လွတ်မြောက်ပြီး သာယာဝပြောလာခဲ့သည် (ဇာ၊၁။ဂ၁။ ဇာ၊ဋ္ဌ၊၂။၃၃၀-၃၄၂)။

**ငါးပါးသီလ၏ အကျိုးကျေးဇူးများ**

ငါးပါးသီလ လုံခြုံအောင် စောင့်ထိန်းသော ပုဂ္ဂိုလ်သည် အောက်ပါ အကျိုးငါးပါးကို ခံစားရသည်ဟုမြတ်စွာဘုရားသည် ပါဠလိရွာသား ဥပါသကာ များကို ဟောကြားတော်မူခဲ့သည်၊ သီလရှိ၍ မမေ့မလျော့ သတိရှိသူသည်—

(၁) များပြားမြတ်သော စည်းစိမ်ဥစ္စာနှင့် ပြည့်စုံရခြင်း၊

(၂) ကောင်းသော ဂုဏ်သတင်း ကျော်စောမှုရှိခြင်း၊

(၃) မင်းပရိသတ်, ပုဏ္ဏားပရိသတ်, သူကြွယ်ပရိသတ်, ရဟန်းပရိသတ် တို့ အလယ်၌ ရဲရင့် တည်ကြည် ရှင်းလန်းသော မျက်နှာရှိ၍ ချဉ်းကပ်ရခြင်း၊

(၄) သေသောအခါ မတွေဝေဘဲ စိတ်ကြည်ကြည်လင်လင် သေရခြင်း၊

(၅) သေသည်၏ အခြားမဲ့၌ နတ်ရွာသုဂတိသို့ ရောက်ရခြင်း— အကျိုးကျေးဇူးများကို ခံစားရသည် (ပဋ္ဌဂိုဏ္ဍရပါဠိတော် သီလသုတ်။ ဝိနယ မဟာဝဂ္ဂ ဘေသဇ္ဇက္ခန္ဓကပါဠလိဂါမဝတ္ထု။ ခုဒ္ဒကနိကာယ ဥဒါနပါဠိတော် ပါဋ္ဌလိဂါမိယဝတ္ထု)။

**ပဥ္စသီလသမာဒါနိယထေရ်**

ဤကမ္ဘာမှ ပြန်၍ရေသော် ၁၀၀-ကမ္ဘာထက်၌ အနောမဒဿီ မြတ်စွာဘုရား ပွင့်တော်မူ၏၊ ထိုဘုရားရှင်လက်ထက် ဗန္ဓုမတီပြည်၌ သူဆင်းရဲယောကျ်ား သည် စာရင်းငှါးလုပ်၍ အသက်မွေးရ၏၊ ထိုသူဆင်းရဲယောကျ်ားသည် ရဟန်း လည်းမပြုနိုင်, လှူဖွယ်ဝတ္ထု မရှိခြင်းကြောင့်လည်း ဒါနမပြုနိုင် ငါးပါးသီလကို သာလျှင် လုံခြုံအောင် စောင့်ထိန်းတော့မည်ဟု ဆုံးဖြတ်၍ နိသဘမထေရ်ထံ ငါးပါးသီလ ခံယူ၍ အနှစ်တစ်သိန်း ကာလပတ်လုံး ဆောက်တည်၏၊ ထို

ငါးပါးသီလကို စောင့်ထိန်းမှုကြောင့် သေလွန်သောအခါ တာဝတိံသာ နတ်ပြည်၌ နတ်သမီးအပေါင်း ခြံရံလျက် သိကြားမင်းဖြစ်ရလေသည်၊ သိကြားမင်းအဖြစ် အကြိမ် ၃၀၊ လေးကျွန်းလုံးကို အစိုးရသော စကြဝတေးမင်းအဖြစ် ၇၅-ကြိမ်၊ ပဒေသရာဇ် ကရောဇ်မင်းအဖြစ်ကိုမူကား မရေမတွက်နိုင်အောင် ခံစားရလေသည်။ဂေါတမဘုရားရှင် လက်ထက်တွင် ဝေသာလီပြည် စည်းစိမ်ဥစ္စာကြွယ်ဝသော မဟာသာလ သူကြွယ်မျိုး၌ ဖြစ်၍ ငါးနှစ်သားအရွယ်ရောက်သောအခါ မိဘတို့နှင့် အတူ ကျောင်းသို့ လိုက်၍ ငါးပါးသီလ ခံယူလေသည်၊ ရှေးကောင်းမှုနှင့်လျော်စွာ ငါးနှစ်သားအရွယ်ကပင် ရဟန္တာဖြစ်၍ ရှင်ရဟန်းပြုလေသည်။ ငါးပါးသီလကို ဆောက်တည်ခဲ့ဖူးသောကြောင့် ပဉ္စသီလ သမာဒါနိယထေရ်ဟု ထင်ပေါ်ကျော်ကြားသည်။

အနှစ်တစ်သိန်း ဆောက်တည်၍ အကျိုးကြီးသည်ကို မဆိုထားဘိ တခဏတာမျှ ဆောက်တည်ရသောကြောင့် အကျိုးကြီးပုံကို ဤသို့မှတ်အပ်၏။

ဆတ္တမာဏဝ လုလင်

မြတ်စွာဘုရားရှင်သည် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးတော်မူစဉ် သေတဗျမြို့မှ ဆင်းရဲသား ဆတ္တမာဏဝလုလင်၏ ငါးပါးသီလတည်အံ့သည်ကို မြင်တော်မူ၍ ဆတ္တမာဏဝလုလင် လာရာ၌ ကြွရောက်နေတော်မူသည်။

ဆတ္တမာဏဝလုလင်သည် သေတဗျမြို့မှ ဥက္ကဋ္ဌမြို့ရှိ မိမိအား အတတ်သင်ပေးသော ပေါက္ခရသာတိပုဏ္ဏားကြီးထံ ဂရုဒက္ခိဏာ=ပညာသင်ကြေး(ဆရာခ) ပေးရန်အသွားတွင် လမ်းခရီး၌ မြတ်စွာဘုရားအား တွေ့လေ၏၊ မြတ်စွာဘုရားရှင်က ဆတ္တမာဏဝ လုလင်အား သရဏဂုံသုံးပါးနှင့် ငါးပါးသီလကို ဟောကြားတော်မူရာ သရဏဂုံသုံးပါးနှင့် ငါးပါးသီလကိုဆောက်တည်၍ ခရီးဆက်သွား၏၊ လမ်းတွင် စောင့်နေသော ခိုးပြမျှားက လူကိုသတ်၍ ပစ္စည်းကို ယူသွားကြလေ၏၊ ဆတ္တမာဏဝလုလင်သည် သရဏဂုံနှင့်ငါးပါးသီလ ဆောက်တည်ခြင်းအကျိုးကြောင့် တာဝတိံသာနတ်ပြည်၌ ယူဇနာ ၃၀-ကျယ်သော ဗိမာန်၌ နတ်သားဖြစ်လေ၏။

**ပဥ္စသီလကို လွန်ကျူးရာ၌ အပြစ်ကို ပြခြင်း**

မြတ်စွာဘုရား တားမြစ်အပ်သော ဝါရိတ္တဟု ဆိုအပ်သော ငါးပါးသီလမှ ပေါက်ကြားကျူးလွန်ခဲ့မှု ထမ်းဆောင်၍လာသော ဝန်ထုပ်ကြီးကို ပစ်ချသကဲ့သို့ ထို့အတူ သေသည်၏ အခြားမဲ့၌ အပါယ်ငရဲကျစေတတ်၏။

(၁) သီလပျက်၍ မေ့လျော့ခြင်းလျှင် အကြောင်းရှိသော များစွာသော စည်းစိမ်ဥစ္စာ ဆုတ်ယုတ်ပျက်စီးခြင်း၊

(၂) မကောင်းသတင်း ကျော်စောခြင်း၊

(၃) ကြောက်ရွံ့ထိတ်လန့် မရွှင်ပြသော မျက်နှာရှိသည်ဖြစ်၍ ပရိသတ်များသို့ ချဉ်းကပ်ရခြင်း၊

(၄) ပြင်းစွာ တွေဝေမိန်းမောသည် ဖြစ်၍ သေရခြင်း၊

(၅) သေသည်၏ အခြားမဲ့၌ အပါယ်သို့ ရောက်ရခြင်း—

ဖြစ်ရသော ဆိုးကျိုးများကို ခံစားရပါသည်။

ပါဏာတိပါတစသော သိက္ခာပုဒ်တော်တို့ကို မစောင့်ရှောက်ဘဲ ကျူးလွန်သောသူတို့သည် ငါးပါးသော ဒုစရိုက်နှင့် ပြည့်စုံရကား ဝေးသော အရပ်မှ ထမ်းဆောင်လာသော ဝန်ထုပ်ကို ပစ်ချဘိသကဲ့သို့ ထို့အတူ အပါယ်ငရဲ၌ မိမိကိုယ်ကို ပစ်ချလေ၏၊ ထို့ကြောင့် ပါဏာတိပါတ စသော ဒုစရိုက်တရားဖါးမါးတို့သည် ပြစ်မှားကျူးလွန်သောသူ၏ အတွင်းရန်လည်း မည်၏၊ သံသရာ ရှည်ဝေး ဒုက္ခပေးသောကြောင့် ဘေးဘယလည်း မည်၏၊ ထိုဘေးတို့ကို မပယ်လှန်ဘဲ သိမ်းပိုက်၍ ဒုစရိုက်တရားငါးပါး ပွားများသောသူကို ဒုဿီလဟူ၍လည်း ဆိုအပ်၏၊ ငါးပါးသီလကို လွန်ကျူးသော ဒုဿီလပုဂ္ဂိုလ်သည် ပုံဝန်းရုပ်အို ထန်းငုတ်တိုကဲ့သို့ အမြင်မကောင်း ဦးခေါင်းမရှိသော သူနှင့်လည်း တူ၏၊ ဦးခေါင်းမရှိသောသူသည် ကျက်သရေ ကင်းပြတ်၍ ပရိသတ်အလယ်၌ မထင့်တယ်၊ မှုံကြာ ကျက်သရေလည်း မရှိ၊ သိသူ ကြားသူ ခပ်သိမ်းတို့သည် ရှောင်ရှားကြကုန်၏၊ အပေါင်းအသင်း မပြုကြကုန်၊ အသက်ရှင်လျက်လည်း လူတွင် နုပ်ဆေး ပုပ်ဆွေးသည် မည်၏၊ ထိုလူပုပ် လူဆွေး လူနုံမမွေးသောသူသည် သေဆောအခါလည်း ဟန်မရ၊ ရှင်သောအခါလည်း ဆင်းရဲရ၏၊ စုတိပြတ်ကြွေ သေသောအခါ၌လည်း ကိုးကွယ်ရာမရ ဒုဂ္ဂတိလေးသွယ် အပါယ်လေးပါးသို့သာ လားရလေသည်။

ဖြူဟ္မစရိယငါးပါးသီလ

(အပျိုစင် လူပျိုစင်တို့၏ကျင့်စဉ်)

ငါးပါးသီလတွင် ကာမေသုမိစ္ဆာစာရ သိက္ခာပုဒ်ကို မဆောက်တည်ဘဲ ယင်းအစား မေထုန်အကျင့်မှ ရှောင်ရှားခြင်း အဗြဟ္မစရိယ သိက္ခာပုဒ် ဆောက်တည်သည်ကို အမျိုးသမီးများ၌ "ကောမာရီဗြဟ္မစရိယ"ဟု ခေါ်၍ အမျိုးသားများ၌ "ကောမာရဗြဟ္မစရိယ" ဟု ခေါ်သည်။ (ကုမာရ= လူပျိုစင်၊ ကောမာရ=လူပျိုစင် ကျင့်စဉ်၊ ကုမာရီ=အပျိုစင်၊ ကောမာရီ= အပျိုစင် ကျင့်စဉ်။)

အဗြဟ္မစရိယ အင်္ဂါပွါယ်

"မေထုန်အကျင့်မှ ရှောင်ကြဉ်၏"ဟူရာ၌ မေထုန်ဟူသည် မိန်းမယောကျ်ား နှစ်ဦးသားတို့၏ ပျော်မွေ့ပေါင်းဖက် ဆက်ဆံခြင်းကို မေထုန်အကျင့်ဟု ခေါ်ပါသည်၊ ယင်းမေထုန်အကျင့်ကို အဗြဟ္မစရိယ=မမြတ်သော အကျင့်ဟု ခေါ်ပါသည်၊ ယင်းအဗြဟ္မစရိယမှ ရှောင်ကြဉ်ခြင်း ဖြစ်သည်၊ ဇနီးခင်ပွန်းချင်း ပေါင်းသင်း ဆက်ဆံမှုကိုသော်မှ ရှောင်ကြဉ်ရသော အကျင့် ဖြစ်လေသည်၊ (အ+ဗြဟ္မ+စရိယ = ဗြဟ္မ = မြင့်မြတ်သော+စရိယ=အကျင့်= ဗြဟ္မစရိယ =မြတ်သောအကျင့်၊ အဗြဟ္မစရိယ=မမြတ်သောအကျင့်= မေထုန်အကျင့်။)

ကာမေသုမိစ္ဆာစာရ၌ မိမိတို့ဇနီးခင်ပွန်း အချင်းချင်း ပေါင်းသင်းဆက်ဆံ ခွင့်ရပါသည်၊ ယောကျ်ားတို့မှာ အုပ်ထိန်းသူရှိသော မိန်းမ ၂၀-တို့၌ မကျူး လွန်ရ၊ ကာမပိုင်ရှိသော အမျိုးသမီး ၁၂-ယောက်တို့မှာ ယောကျ်ားများနှင့် ပေါင်းဖော်ခွင့် မရပါ၊ ပေါင်းဖော်လျှင် ကာမေသုမိစ္ဆာစာရ ထိုက်ပါသည်။

မေထုန်အကျင့်သည် လူဘဝ၌သာ ရှိသည် မဟုတ်၊ နတ်ပြည်မှာလည်း ရှိလေသည်။ အောက်ဆုံးအဆင့် တိရစ္ဆာန်များမှာလည်း ရှိ၏၊ မျက်စိဖြင့် မမြင်နိုင်လောက်သော သေးငယ်သော ပိုးမွှားကလေးများ၌လည်း ရှိ၏၊ ဤအကျင့်ကိုမစွန့်နိုင်သရွေ့ သံသရာဆင်းရဲ၌ တဝဲလည်လည် ခံစားနေရမည်သာ ဖြစ်ပါသည်၊ ဆင်းရဲခြင်း ဟူသမျှသည် ဤအကျင့်ကို မရှောင်နိုင်မှုမှ စ၍ ဖြစ်လေသည်။

**ဥဒယဘဒ္ဒမင်းသားနှင့် မင်းသမီး**

ဘုရားအလောင်းနှင့် ယသောဓရာ အလောင်းတို့သည် ဥဒယဘဒ္ဒမင်းသား နှင့် ဥဒယဘဒ္ဒမင်းသမီးဟူသော အမည်ဖြင့် သုရုန္ဓနပြည်ကြီးကို မင်းမိဖုရား အဖြစ်ဖြင့် အုပ်ချုပ်ခဲ့လေသည်။ သူတို့သည် ဘတူမိကွဲ မောင်နှမဖြစ်ကြ၏။ အသိလိမ္မာဉာဏ်ပညာ ရင့်သန်သော ပုဂ္ဂိုလ်များ ဖြစ်ကြသည့် ပါရမီရှင်များ ဖြစ်ကြသည်အားလျော်စွာ မင်းမိဖုရားအဖြစ်ဖြင့် နေကြသော်လည်း ကာမဂုဏ်၌ စိတ်မညွတ်ကြဘဲ နန်းတော်ဆောင် တစ်ခန်းတည်းမှာပင် စင်စင်ကြယ်ကြယ် စံတော်မူကြပါသည်။ ကျူးလွန် ဖောက်ပြားခြင်း မရှိ၊ ပကတိဖြူစင်သော မေတ္တာဖြင့်သာလျှင် အသက်ထက်ဆုံး စောင့်စည်း နေထိုင်ကြသည်။

**ပိပ္ပလိလုလင်နှင့် ဘဒ္ဒါကာပိလာနီ**

ဘဒ္ဒါကာပိလာနီနှင့် ရှင်မဟာကဿပ အလောင်း ပိပ္ပလိလုလင်တို့သည် လက်ထပ်ထိမ်းမြားး၍ ဇနီးမောင်နှံ ဘဝ ရောက်သော်လည်း ကာမဂုဏ်ဆက်ဆံ မှုဖြင့် မခပါင်းသင်းဘဲ သန့်ရှင်းသော မောင်နှမစိတ်ဖြင့် နေထိုင်ကြ၏ (ထေရီ မြန်မာပြန်။ ၇၆)။

သုဝဏ္ဏသျာမ်ဇာတ်တော်၌ ဒုကူလနှင့် ပါရိကာတို့သည် ဗြဟ္မစရိယငါးပါး သီလကို ဆောက်တည်ခဲ့ကြသည်။

**ကိကီမင်းကြီး၏ သမီးတော် ၇-ယောက်**

ကဿပဘုရားရှင် လက်ထက်တော်၌ ကာသိတိုင်း ဗာရာဏသီပြည် ကိကီ မင်းကြီး၌ သမီးတော် ၇-ယောက် ရှိ၏၊ ခေမာထေရီ အလောင်း သမဏီ၊ ဥပ္ပလဝဏ်အလောင်း သမဏဂုတ္တာ၊ ပဋာစာရီအလောင်း ဘိက္ခုနီ၊ ကုဏ္ဍလ ကေသာအလောင်း ဘိက္ခုဒါသိကာ၊ ကိသာဂေါတမီ အလောင်း ဓမ္မာ၊ ဓမ္မဒိန္နာ အလောင်း သုဓမ္မာ၊ ဝိသာခါအလောင်း သံဃဒါယိကာတို့ ဖြစ်ကြ၏ (အပ၊ ၂။ ၂၂၄၊ ၂၃၃၊ ၂၄၁၊ ၂၄၅၊ ၂၄၆)။

အင်္ဂုတ္တိုရ် အဋ္ဌကထာ အတွဲ(၁)နှင့် ဇာတက အဋ္ဌကထာ အတွဲ(၇)တို့၌ကား ကိသာဂေါတမီ အလောင်း ဘိက္ခုဒါယိကာ၊ ဓမ္မဒိန္နာအလောင်း မွေ၁၊ မဟာမာယာအလောင်း သုဓမ္မာဟု ဆိုလေသည်။

ယင်းကိုကီမင်းကြီး၏ သမီးတော် ၇-ယောက်တို့သည် ငယ်ရွယ်စဉ်ကပင် အနှစ် ၂-သောင်းတိုင်အောင် ငယ်သွေးငယ်မူ ဖြူဖြူစင်စင်ဖြင့် ဤဗြဟ္မစရိယ သိက္ခာပုဒ်စောင့်သုံးလျက် အသက်ထက်ဆုံး နေထိုင်ခဲ့ကြလေသည်။ ဤအကျင့် မျိုးကို ကောမာရီဗြဟ္မစရိယ(အပျိုစင်အကျင့်)ဟု ခေါ်၍ ကောမာရဗြဟ္မစရိယ (လူပျိုစင်အကျင့်)ဟု ခေါ်လေသည်။

ယင်းသီလကို အောက်ပါပုဂ္ဂိုလ်များ ဆောက်တည်ခဲ့ကြောင်း သာဓက ရှိပါသည်—

**ပုဏ္ဏလက္ခဏာ ဥပါသကာ**

ဂေါတမဘုရားရှင်လက်ထက် ဖြဟ္မစရိယ ငါးပါးသီလကို ပုဏ္ဏလက္ခဏာဥပါသကာ ဆောက်တည်ကြောင်း အင်္ဂုတ္တရ ဆက္က နိပါတ် မိဂသာလာသုတ် (၃၀၅) တွင် ဖော်ပြထားသည်၊ ယင်းဥပါသကာသည် သကဒါဂါမ်အဖြစ်ရောက်၍ တုသိတာ နတ်ပြည်၌ ဖြစ်၏။

**ဂဝေသီဥပါသကာ**

ပဉ္စင်္ဂုတ္တရပါဠိတော် ဂဝေသီသုတ် (၁၇၉)၌ ကဿပ မြတ်စွာဘုရားလက်ထက် တော်အခါက ဂဝေသီ ဥပါသကာသည် ဤသီလကို စောင့်ထိန်းကြောင်း လာရှိသည်။

**ဥဂ္ဂသူကြွယ်**

မြတ်စွာဘုရားသည် ဝေသာလီပြည် မဟာဝုန်တော ကူဋာဂါရ ကျောင်း၌ သီတင်းသုံးတော်မူစဉ် အံ့ဖွယ် ၈-ပါးနှင့် ပြည့်စုံသော ဝေသာလီပြည်သား ဥဂ္ဂသူကြွယ်နှင့် ဝဇ္ဇီတိုင်း ဟတ္ထိဂါမရွာနေ ဥဂ္ဂသူကြွယ်တို့သည် ဖြဟ္မစရိယ ငါးပါးသီလကို ဆောက်တည်ကြောင်း အင္ဂုတ္တရပါဠိတော် (၄၇)၌ ဟောကြား ခဲ့သည်။

**နကုလမာတာနှင့် နကုလပိတာ**

မြတ်စွာဘုရားရှင်သည် ဘဂ္ဂတိုင်း သုသုမာရဂိရိပြည် ဘေသကဠာဝတော၌ သီတင်းသုံးနေတော်မူစဉ် အံ့ဖွယ် ၈-ပါးနှင့် ပြည့်စုံသော နကုလမာတာနှင့် နကုလပိတာတို့သည် ဖြဟ္မစရိယ ငါးပါးသီလကို ဆောက်တည်ကြောင်း အင္ဂုတ္တရ ပါဠိတော် (၈၅)၌ ဟောကြားခဲ့သည်။

## ဖြဟ္မစရိယ ငါးပါးသီလ ခံယူဆောက်တည်ပုံ

**သီလတောင်း**

အဟံ ဘန္တေ တိသရဏေန သဟ ပဉ္စ ကောမာရဖြဟ္မစရိယသီလံ ဓမ္မံ ယာစာမိ၊ အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။

ဒုတိယမ္ပိ အဟံ ဘန္တေ....စသည်ဆက်ဆိုပါ။

တတိယမ္ပိ အဟံ ဘန္တေ....စသည်ဆက်ဆိုပါ။

ဘန္တေ၊ အရှင်ဘုရား။ အဟံ၊ တပည့်တော် (တပည့်တော်မ) သည်။ တိသရဏေန၊ သရဏဂုံ သုံးပါးနှင့်။ သဟ၊ တကွ။ ပဉ္စကောမာရဗြဟ္မစရိယ-သီလံ၊ ငါးပါးသော ငယ်သေးငယ်မှု ဖြူစင်သူတို့၏ မြတ်သော ငါးပါးသော အကျင့်သီလဟု ဆိုအပ်သော။ ဓမ္မံ၊ သိက္ခာပုဒ်တရားတော်ကို။ ယာစာမိ၊ တောင်းပန်ပါ၏။ ဘန္တေ၊ အရှင်ဘုရား။ မေ၊ တပည့်တော် (တပည့်တော်မ) အား။ အနုဂ္ဂဟံ၊ ချီးမြှောက်ခြင်းကို။ ကတွာ၊ ပြု၍။ သီလံ၊ သီလကို။ ဒေထ၊ ပေးတော်မူပါကုန်ဘုရား။

ဒုတိယမ္ပိ၊ နှစ်ကြိမ်မြောက်လည်း။ ဘန္တေ၊ အရှင်ဘုရား – စသည် ဆက်ဆိုပါ။

တတိယမ္ပိ၊ သုံးကြိမ်မြောက်လည်း။ ဘန္တေ၊ အရှင်ဘုရား – စသည် ဆက်ဆိုပါ။

ဤငါးပါးသီလကို ခံယူဆောက်တည်ရာ၌ "ကာမေသု မိစ္ဆာစာရာ ဝေရမဏိ-သိက္ခာပဒံ သမာဒိယာမိ" ဟု ဆိုရမည့်နေရာ၌ "အဗြဟ္မစရိယာ ဝေရမဏိ-သိက္ခာပဒံ သမာဒိယာမိ"ဟု ဆို၍ သီလခံယူ ဆောက်တည်ရသည်။

**ဧကဘတ္တိကဆက္ကသီလ**

**(ညစာမစား ၆-ပါးသီလ)**

**ဧကဘတ္တိက** ဆိုသည်မှာ တစ်ထပ်တည်းသာ စားလေ့ရှိ၍ နေလွဲ ညစာ မစားသော ပုဂ္ဂိုလ်မျိုးကို ဆိုပါသည်။ ထို့ကြောင့် ထိုပုဂ္ဂိုလ်သည် ၆-ခု သော သိက္ခာပုဒ်ကို ဆောက်တည်ပါသည်၊ ၆-ခုသော သိက္ခာပုဒ်မှာ—

| | |
|---|---|
| ၁။ ပါဏာတိပါတာ<br>၂။ အဒိန္နာဒါနာ<br>၃။ အဗြဟ္မစရိယာ<br>၄။ မုသာဝါဒါ<br>၅။ သုရာမေရယမဇ္ဇပ္ပမာဒဋ္ဌာနာ | } ဗြဟ္မစရိယငါးပါး သီလနှင့်တူ၏။ |

၆။ ဝိကာလဘောဇနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၆။ ဝိကာလဘောဇနာ၊ နေလွဲအခါ အစာ စားခြင်းမှ။ ဝေရမဏိသိက္ခာပဒံ၊ ရှောင်ကြဉ်ရကြောင်း ကောင်းမြတ်သော သိက္ခာပုဒ်ကို။ သမာဒိယာမိ၊ ကောင်းစွာ ကျင့်သုံး ခံယူဆောက်တည်ပါ၏။

ဤခြောက်ပါးသီလကို မမြိတာဥပါသကာ, နန္ဒမာတာတို့ အသက်ထက်ဆုံး ကျင့်သုံးကြကြောင်း သုတ္တနိပါတ် အဋ္ဌကထာ ဒုတိယတွဲ (၁၈၁)၌ လာ၏။

ကဿပဘုရားရှင် လက်ထက် သိတင်းသည် ဓါးရေနှင့်ထောက္ခ ဂဝေသီ ဆရာ ကြီးသည် ငြူးဟူစရိုယ ငါးပါးသီလနှင့် ဤ ခြောက်ပါးသီလတို့ကို ဆောက်တည် ကြောင်း အင်္ဂုတ္တရ ပါဠိတော် ဂဝေသီသုတ် (၁၈၉)၌ လာသည်။

# အခန်း (၁၇)

## ရှစ်ပါးသီလ

ရှစ်ပါးသီလသည် အမြဲထိန်းနိုင်လျှင် အမြဲ၊ ရံခါထိန်းနိုင်လျှင် ရံခါ စောင့်ထိန်းရသော အနိစ္စသီလဖြစ်သည်။ လူတို့နှင့် အထူးသင့်လျော်သော သီလလည်း ဖြစ်သည်။ ငါးပါးသီလနှင့် ခြောက်ပါးသီလကို ရှေးရှေး သူတော်ကောင်းတို့သည် နေ့စဉ်နေ့မြဲ သတ်မှတ်ပိုင်းခြား၍ ကျင့်သုံးလေ့မရှိကြပေ။ ဤရှစ်ပါးသီလကိုသာ လဆန်း လဆုတ်(၈)ရက်နှင့်လပြည့် လကွယ်နေ့များ၌ ဥပုသ်နေ့အဖြစ် သတ်မှတ်ပိုင်းခြား၍ ကျင့်သုံးလေ့ရှိကြသည်။ ထို့ကြောင့် ဤရှစ်ပါးသီလကိုသာ "အဋ္ဌင်္ဂဥပုသ်သီလ"ဟု အင်္ဂါရှစ်ပါးရှိသော ဥပုသ်သီလအဖြစ် ဖော်ပြထားသည်။

ဤရှစ်ပါးသီလကို သာသနာ်စောင့်ရှိးစောင့်စဉ်ရက်များတွင် မကာ အကြိမ်အပိုစောင့်သုံးသောအားဖြင့် အဖိတ်နေ့နှင့် ဥပုသ်အထွက် ရက်များကိုပါ စောင့်သုံးလေ့ရှိကြသည်။

ဤရှစ်ပါးသီလကို ကျင့်သုံးဆောက်တည်ခြင်းသည် ဘုန်းတန်ခိုး အရှိန်အဝါ စည်းစိမ်ဥစ္စာ တိုးတက် မြင့်မားစေနိုင်သည်။ စကြာမင်း ဖြစ်မည့် စကြာမင်းလောင်းသည်ပင် ရှစ်ပါးသီလ ဆောက်တည်မှသာ စကြာရတနာ ဆိုက်ရောက်လာပြီး စကြာမင်းအဖြစ်သို့ ရောက်ရှိနိုင်သည်။

ဤရှစ်ပါးသီလကို ဆောက်တည် ကျင့်သုံးခြင်းကြောင့် ဘဝသံသရာ၌ ကောင်းရာသုဂတိသို့ ရောက်ရှိကာ လူ့နတ်စည်းစိမ်ချမ်းသာ အမျိုးမျိုးကို အကြိမ်ကြိမ် ခံစားရပြီး မဂ်ဖိုလ်နိဗ္ဗာန်အထိ အဆင့်ဆင့်သော အကျိုးတရားများ ရရှိနိုင်ကြောင်း အထူးပြောဖွယ်မလိုတော့ချေ။ ယခု မျက်မှောက်ဘဝမှာပင် ရှစ်ပါးသီလစောင့်သုံးသူအား အကျင့်သီလသိက္ခာရှိသော လူတော် လူကောင်း တစ်ယောက်အဖြစ် အသိအမှတ်ပြုခံရပြီး အများ၏ ချစ်ခင်လေးစားယုံကြည် အားထားမှု စည်းစိမ်ဥစ္စာတိုးတက်ကြီးပွားမှုစသောအကျိုးများရရှိနိုင်သည်။

**သီလခံယူပုံ**

**အဟံ ဘန္တေ တိသရဏေန သဟ အဋ္ဌင်္ဂသမန္နာဂတံ ဥပေါသထသီလံ ဓမ္မံ ယာစာမိ၊ အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။**

**ဒုတိယမ္ပိ အဟံ ဘန္တေ....စသည်ဆက်ဆိုပါ။**

**တတိယမ္ပိ အဟံ ဘန္တေ....စသည်ဆက်ဆိုပါ။**

**ဘန္တေ၊ အရှင်ဘုရား။ အဟံ၊ တပည့်တော် (တပည့်တော်မ) သည်။ တိသရဏေန၊ သရဏဂုံသုံးပါးနှင့်။ သဟ၊ တကွ။ အဋ္ဌင်္ဂသမန္နာဂတံ၊ ရှစ်ပါးသော အင်္ဂါနှင့်ပြည့်စုံသော။ ဥပေါသထသီလံ၊ ဥပုသ်သီလ တည်းဟူသော။ ဓမ္မံ၊ သိက္ခာပုဒ်တရားတော်ကို။ ယာစာမိ၊ တောင်းပန်ပါ၏။ ဘန္တေ၊ အရှင်ဘုရား။ မေ၊ တပည့်တော်(တပည့်တော်မ)အား။ အနုဂ္ဂဟံ၊ချီးမြှောက်ခြင်းကို။ ကတွာ၊ ပြု၍။ သီလံ၊သီလကို။ ဒေထ၊ ပေးတော်မူပါကုန်ဘုရား။**

**ဒုတိယမ္ပိ၊ နှစ်ကြိမ်မြောက်လည်း။ ဘန္တေ၊ အရှင်ဘုရား....စသည်ဆက်ဆိုပါ။**

**တတိယမ္ပိ၊ သုံးကြိမ်မြောက်လည်း။ ဘန္တေ၊ အရှင်ဘုရား....စသဆည်က်ဆိုပါ။**

**အရှင်ဘုရား တပည့်တော်သည် သရဏဂုံ သုံးပါးနှင့်တကွ အင်္ဂါရှစ်ပါးနှင့် ပြည့်စုံသော ဥပုသ်သီလကို တောင်းပါ၏၊ တပည့်တော်အား သနားသော အားဖြင့် သီလပေးတော်မူပါဘုရား။**

**နမော တဿ ၃-ခေါက်ဆိုပါ။**

**သရဏဂုံသုံးပါး ၃-ခေါက်ဆိုပါ။**

**ရှစ်ပါးသီလဆောက်တည်ပုံ**

(၁) ပါဏာတိပါတာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။
(၂) အဒိန္နာဒါနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။
(၃) အဗြဟ္မစရိယာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။
(၄) မုသာဝါဒါ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။
(၅) သုရာမေရယမဇ္ဇပ္ပမာဒဋ္ဌာနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။
(၆) ဝိကာလဘောဇနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။
(၇) နစ္စ ဂီတ ဝါဒိတ ဝိသူက ဒဿန မာလာဂန္ဓ ဝိလေပန ဓာရဏမဏ္ဍန ဝိဘူသနဋ္ဌာနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။
(၈) ဥစ္စာသယနမဟာသယနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

ရှစ်ပါးသီလအနက်

(၁) ပါဏာတိပါတ၊

(၂) အဒိန္နာဒါန၊

(၃) အဗြဟ္မစရိယ၊

(၄) မုသာဝါဒ၊

(၅) သုရာမေရယမဇ္ဇပ္ပမာဒဋ္ဌာန၊

မှတ်ချက်။ ။ဤသိက္ခာပုဒ် ၁-မှ ၅-ထိ အနက်များကို အခန်း (၁၆) နှာ-၃၇၃ ငါးပါးသီလ၌ ဖော်ပြခဲ့ပြီး ဖြစ်ပါသည်။

(၆) ဝိကာလဘောဇနာ၊ နေလွဲ ညစာ စားခြင်းမှ။ ဝေရမဏီသိက္ခာပဒံ၊ ရှောင်ကြဉ် ရကြောင်း ကောင်းမြတ်သော သိက္ခာပုဒ်ကို။ သမာဒိယာမိ၊ ကောင်းစွာကျင့်သုံး ခံယူ ဆောက်တည်ပါ၏။

(၇) နစ္စ ဂီတ ဝါဒိတ ဝိသူက ဒဿန မာလာဂန္ဓ ဝိလေပန ဓာရဏမဏ္ဍန ဝိဘူသနဋ္ဌာနာ၊ အကုသိုလ်များကြောင်း မကောင်းမှုဖြစ်သော ကခြင်း, သီဆိုခြင်း, တီးမှုတ်ခြင်း ဘုရားအဆုံးအမတော်၏ ဆန့်ကျင်ဘက် တံကျင်ပမာ ဖီလာ ဖြစ်သော ကြည့်ရှု နားထောင်ခြင်း, ပန်းပန်ခြင်း, နံ့သာပျောင်း နံ့သာရည် နံ့သာမှုန့်တို့ကို လိမ်းကျံ ခြယ်လှယ်ခြင်းမှ။ ဝေရမဏီသိက္ခာပဒံ၊ ရှောင်ကြဉ် ရကြောင်း ကောင်းမြတ်သော သိက္ခာပုဒ်ကို။ သမာဒိယာမိ၊ ကောင်းစွာ ကျင့်သုံး ခံယူဆောက်တည်ပါ၏။

(၈) ဥစ္စာသယနမဟာသယနာ၊ မြင့်သောနေရာ, မြတ်သောနေရာ၌ အိပ်ခြင်း, နေထိုင်ခြင်းမှ။ ဝေရမဏီသိက္ခာပဒံ၊ ရှောင်ကြဉ် ရကြောင်း ကောင်းမြတ်သော သိက္ခာပုဒ်ကို။ သမာဒိယာမိ၊ ကောင်းစွာ ကျင့်သုံး ခံယူဆောက်တည်ပါ၏။

မြန်မာပြန်

၁။ သူတပါးအသက်ကို သတ်ခြင်းမှ ရှောင်ကြဉ်ပါ၏။

၂။ သူတပါးဥစ္စာကို ခိုးယူခြင်းမှ ရှောင်ကြဉ်ပါ၏။

၃။ မမြတ်သော မေထုန်အကျင့်မှ ရှောင်ကြဉ်ပါ၏။

၄။ လိမ်လည်ပြောဆိုခြင်းမှ ရှောင်ကြဉ်ပါ၏။

၅။ သေရည်အရက် သောက်ခြင်းမှ ရှောင်ကြဉ်ပါ၏။

၆။ နေလွဲ ညစာ စားခြင်းမှ ရှောင်ကြဉ်ပါ၏။

၇။ အံကုသိုလ်ပွားကြောင်းဖြစ်သော ကခြင်း, သီဆိုခြင်း, တီးမှုတ်ခြင်းတို့ကို ဘုရား အဆုံးအမတော်၏ ဆန့်ကျင်ဘက် ဖြောင့်တံကျင်ပမာဖြစ်၍ ကြည့်ရှု နားထောင်ခြင်းမှ လည်းကောင်း, ပန်းပန်ခြင်း, နံ့သာပျောင်း, နံ့သာရည် နံ့သာမှုန့်တို့ကို လိမ်းကျံခြယ်လှယ်ခြင်းမှ လည်းကောင်း ရှောင်ကြဉ်ပါ၏။

၈။ မြင့်သောနေရာ မြတ်သောနေရာ၌ အိပ်ခြင်း, နေထိုင်ခြင်းမှ ရှောင်ကြဉ်ပါ၏။

## ဝိကာလဘောဇနအကြောင်း

**နေလွဲညစာစားခြင်းမှ ရှောင်ကြဉ်ခြင်း**

"နေလွဲအခါ အစာ စားခြင်းမှ ရှောင်ကြဉ်ပါ၏" ဟူရာ၌ နေ့လယ်မွန်းတည့် ၁၂-နာရီအချိန်မှ နောက်ပိုင်းကို နေလွဲ မွန်းလွဲဟု ခေါ်၏။ ထိုနေလွဲသည်မှ စ၍ နောက်နေ့နံနက် အရုဏ်တက်သည်တိုင်အောင် ထမင်းဟင်းလျာ, မုန့်ပဲသရေစာ သစ်သီး စသည့် စားသောက်ဖွယ်ရာ ဖျော်ရည်များကို မစားရပါ။ ယင်းအစားအစာများကို စားလျှင် ဝိကာလဘောဇန သိက္ခာပုဒ်ပျက်သည်။ ဆာလောင်မွတ်သိပ်မှုဖြစ်ခဲ့သော် ဖျော်ရည်တစ်မျိုးမျိုးကို သောက်ကောင်း၏။

လေနာခြင်း စသော ရောဂါတစ်ခုခု ခံစားနေရ၍ ထိုရောဂါသက်သာစေရန်အတွက် ရည်ရွယ်၍ ဆီးဖြူသီး, ဖန်ခါးသီး, ကြခုသီး, စတုမဓု, ထန်းလျက်, သကြားလုံး, ဂျင်းနှင့် ကြက်သွန်သုပ်တို့ကို ဆေးအဖြစ် သုံးဆောင်ခွင့်ရှိသည်။ ဤသိက္ခာပုဒ်တော်ကို စောင့်ထိန်းရာတွင် သံပုရာသီးကို ညှစ်၍ ဖျော်ရည်ပြုလုပ်ရာ၌ အရည်အိတ် (အဖတ်)များကို စစ်ထုတ်ပြီးမှ ဖျော်ရည်ဖျော်စပ်ရမည်။ ယင်းအရည်အိတ် (အဖတ်)များ ပါနေပါက ဆရာတော်ကြီးများ သောက်သုံးတော်မမူကြပေ။

လူများ အစားအာဟာရအဖြစ် စားသုံးကြသော သားငါး, ဆန်, ဂျုံ, ပြောင်း, အာလူး, ကဇွန်းဥတို့ဖြင့် ပြုလုပ်ထားသော ထမင်း, မုန့်, အကြော်, အလှော်, အပြုတ်, အဖုတ်, အကင်, အသုပ်များ, ဟင်းချိုရည်, ဟင်းရွက်ပြုတ်ရည်,

လက်ဖက်ရည်, ကော်ဖီ, နွားနို့, ဖျော်ရည်အချိုရည်တို့ကို မွန်းလွဲပြီးနောက် မသောက်သုံးသင့်ဟုဆိုချေ။ ဝိနည်းပညာရှင်ဖြစ်သော ပုဂ္ဂိုလ်များမှာ ရေနွေးကြမ်း (လက်ဖက်ခြောက် အဖန်ရည်)ကိုပင် မသောက်ကြချေ။ သီလကို ဖြည့်ကျင့်ရာ၌ ရှောင်နိုင်လျှင် အကောင်းဆုံး ဖြစ်သည်။

လယ်လုပ်သားဥပုသ်သည်ဝတ္ထု

အနာထပိဏ်သူဌေးကြီး၏ လယ်လုပ်သား တစ်ဦးသည် ညနေစောင်းတွင် လယ်တောမှ ပြန်လာခဲ့ရာ သူဌေးကြီးမိသားစု ဥပုသ်စောင့်သည်ကို မတွေ့ရှိရ၍ သူသည်လည်း နေ့ထက်ဝက်ဥပုသ်စောင့်၏၊ ထိုလယ်လုပ်သားအား ညဉ့်ခါ လေနာရောဂါ အပြင်းအထန် ဖြစ်လေသည်၊ သူဌေးကြီးသ်၍ စားမရသောက်ရန် ပေးသော် အရှင်တို့သောက်ကုန်သလောဟု မေး၏၊ ငါတို့မှာ အနာရောဂါမရှိ၍ မသောက်ကြဟု ဆိုလေသော် တစ်နေ့လုံး ဥပုသ်စောင့်ရသော အရှင်တို့မှ မသောက်ကြသည်ကို နေ့ထက်ဝက်မျှ ဥပုသ်စောင့်သော အကျွန်ုပ် မသောက် ပါပြီဟု ငြင်းပယ်လေ၏၊ ထိုညဉ့်ပင် လေနာရောဂါဖြင့် သေဆုံး၍ ရုက္ခစိုးနတ် ဖြစ်လေသည် (သီလဝိနိစ္ဆယစပေါင်းချုပ်။ ၁၅၈)။

ညစာ မစားခြင်းအကျိုး

ညစာမစားဘဲ ရှောင်ကြဉ်ခြင်းသည် အင်္ဂါရှစ်ပါးရှိသော ဥပုသ်သီလတွင် တစ်ပါးမျှသာ ဖြစ်၏၊ ညစာ မစားမှု တစ်ခုတည်းကို ဥပုသ်စောင့်သည်ဟု မဆိုနိုင်ပါ။ ဤသိက္ခာပုဒ်၏ ရည်ရွယ်ချက်မှာ—

(၁) ကိစ္စနည်း၍ တရားအားရှုပွားဖို့ရန် အချိန်များစွာ ရစေခြင်း၊

(၂) လောကီအာရုံ ကာမဂုဏ်၌ စိတ်မဝင်စားအောင် ထိန်းချုပ်ပြီး ဖြစ်စေခြင်း—

တို့ ဖြစ်၏။

ညစာ စားလျှင် ညစာ စားဖို့အတွက် ချက်စရာ ပြုတ်စရာ ရှာရဖွေရ, ချက်ပြုတ်ရ စသည်ဖြင့် အလွန်ကိစ္စများ၏၊ ထိုအလုပ်များကို လုပ်ကိုင်နေရလျှင် ဘုရားတရား အားပြုရန် အချိန်နည်းသွားမည်၊ ထို့ကြောင့် ညစာ မစား ခြင်းသည် အလုပ်ကိစ္စနည်း၍ တရားအားရှုပွားဖို့ရန် အချိန်များစွာ ရစေခြင်း အကျိုးရှိပါသည်။

ညစာ စားမှုဖြင့် အားအင်ပြည့်ဖြိုး၍ လောကီအာရုံ ကာမဂုဏ်ဘက်၌ စိတ် ညွတ်စေပါသည်။ ထို့ကြောင့် မေထုန်မှုမှရှောင်ကြဉ်ခြင်း အဗြဟ္မစရိယ သိက္ခာ ပုဒ်ကို စောင့်ထိန်းရာ၌ ညစာ စားမှုကို ရှောင်ကြဉ်မှုသာ သင့်လျော်မည် ဖြစ်သည်။

ကဿပဘုရားရှင် လက်ထက်တော်က ဂဝေသီဆရာကြီးနှင့် သီတင်းသည် ငါးရာတို့သည် ဖြဟ္မစရိယငါးပါးသီလနှင့် ဤဝိကာလဘောဇနေ သိက္ခာပုဒ်ကို ဆောက်တည်၍ ခြောက်ပါးသီလ ထိန်းသိမ်းကြောင်း ပဋ္ဌကိုတ္တရ ပါဠိတော် ဂဝေသီသုတ် (၁၇၉)၌ လာရှိသည်။

ဓမ္မိကဥပါသကာ၊ နန္ဒမာတာတို့လည်း ဖြဟ္မစရိယ ငါးပါးသီလ၌ ဝိကာလ ဘောဇနေ သိက္ခာပုဒ်ထည့်၍ ခြောက်ပါးသီလကို အသက်ထက်ဆုံး ကျင့်သုံး ကြကြောင်း လာရှိသည် (သုတ္တနိ၊ ၄၊ ၂။၁၀၁။ ဓမ္မိကသုတ်)။

## နစ္စဂီတသိက္ခာပုဒ်အဖွင့်

ဤသိက္ခာပုဒ်ပါဠိကို အောက်ပါအတိုင်း တစ်ပုဒ်စီ ခွဲရမည်—

နစ္စ+ဂီတ+ ဝါဒိတ+ ဝိသူကဒဿန+ မာလာ+ ဂန္ဓ+ ဝိလေပန+ ဓာရဏ+မဏ္ဍန+ဝိဘူသန+ဌာန။

နစ္စ=ကခုန်ခြင်း၊

ဂီတ=သီဆိုခြင်း၊

ဝါဒိတ=တီးမှုတ်ခြင်း၊

ဝိသူကဒဿန=ဆန့်ကျင်ဘက်ကို ကြည့်ရှုနားထောင်ခြင်း၊

မာလာ=ပန်း၊

ဓာရဏ=ဆောင်ခြင်း၊

မာလာဓာရဏ=ပန်းပန်ခြင်း၊

ဂန္ဓဓာရဏ=ဒွရမွှေးဆွတ်ခြင်း၊ အမွှေးအကြိုင်ပေါင်ဓါမှုန့်ဖြူးခြင်း၊

ဂန္ဓဝိလေပနမဏ္ဍန=နံ့သာသနုပ်ခါး၊ နံ့သာဖျောင်း၊ မိတ်ကပ်တို့ဖြင့် နီမှုံးရာ၌ ဖို့ခြင်း၊ မျက်နှာပေါင်းတင်ခြင်း၊

မဏ္ဍန=ကြည့်လင်စေခြင်း၊ အလှပြုပြင်ခြင်း၊

ဂန္ဓဝိလေပနဝိဘူသန = နံ့သာ, နံ့သာပျောင်း, မိတ်ကပ်တို့ဖြင့် တန်ဆာဆင် အလှပြင်ခြင်း၊

ဝိဘူသန=တန်ဆာဆင်ခြင်း။

**နစ္စ=ကခြင်း**

ကခြင်းနှင့် ပတ်သက်၍ ကိုယ်တိုင် ကခုန်ခြင်း မပြု၊ သူတပါးအား အက ခိုင်းခြင်းလည်း မပြုရ၊ အောက်ထစ်ဆုံး တိရစ္ဆာန်များကိုပင် အကမခိုင်းရ၊ ယင်း ကပွဲများကို သွားရောက်ကြည့်ရှုခြင်းလည်း မပြုရ၊ ခရီးသွားနေစဉ် လမ်းခရီး၌ ယင်းကပွဲများနှင့် မတော်တဆ တိုက်ဆိုင်မိ၍ "မကြည့်ချင် မြင်လျက်သား" အဖြစ်မျိုးနှင့်ကြုံရ၍ ကြည့်မိမြင်မိလျှင် ဤသိက္ခာပုဒ်သီလ မပျက်ချေ၊ သို့ရာတွင် ယင်းသို့ ကြုံရသည်ကို တမင်တကာ အခွင့်အရေးယူပြီး ဆက်လက်ရပ်ကြည့် နေလျှင် မူလသီလပျက်တော့သည်။ အလားတူပင် မိမိနေရာ မိမိရှေ့မှောက်သို့ လာရောက်ကနေသည်ကို ကြည့်မိ မြင်မိပါက သီလမပျက်ချေ။

**ဂီတ=သီဆိုခြင်း**

ကိုယ်တိုင်သီဆိုခြင်း, သူတပါးကို သီဆိုခိုင်းခြင်း မပြုရ၊ စည်းကိုက်ဝါးကိုက် အသံကို ဆွဲငင်လျက် ပါဠိဂါထာများကို ရွတ်ဖတ်ခြင်း, ဓမ္မတေးကဗျာများ ရွတ်ဆိုခြင်း မပြုရ၊ ဘုရားရှိခိုးရာ၌ပင် သီချင်းသံပေါက်အောင် ဆွဲဆွဲငင်ငင် မဆိုရချေ။ ကိုယ်တိုင်မဆိုရုံသာမက သူတပါးကိုလည်း သီဆိုခိုင်းခြင်း မပြုရ၊ သူတပါးသီဆိုသည်ကို သွားရောက် နားထောင်ခြင်း မပြုရ၊ နားထောင်လျှင် သီလပျက်၏၊ လမ်းကြုံ၍ ကြားရခြင်း၊ မိမိနေရာ၌ နေစဉ် သူတပါးက လာရောက် သီဆို၍ ကြားခြင်းတို့ကြောင့် သီလမပျက်ချေ။

**ဝါဒိတ=တီးမှုတ်ခြင်း**

စည်း စောင်း ညင်း ပတ်သာ စသော တူရိယာငါးမျိုးကို ကိုယ်တိုင် လည်း မတီးမခတ်ရ၊ သူတပါးကိုလည်း အတီးမခိုင်းရ၊ တီးမှုတ်သံကိုလည်း နားမထောင်ရ၊ လမ်းကြုံ၍ ကြားရခြင်း၊ မိမိနေရာ၌ နေလျက်ပင် သီဆိုသံကို ကြားရခြင်းကြောင့် သီလပျက်စီးမှု မရှိချေ၊ တမင်လွန်ကျူးမှသာ သီလ ပျက်၏။

**ဝိသူကဒဿန=ဆန့်ကျင်ဘက်ကို ကြည့်ရှုခြင်း**

ကပြသီဆိုတီးမှုတ်မှုများသည် လောကီအမြင်အားဖြင့် အနုပညာတစ်ရပ်အဖြစ် ချီးကျူးဖွယ်ရာ ဖြစ်ပေသည်။ သို့ရာတွင် လောကုတ္တရာအမြင်ဖြင့် လေ့လာစိစစ်ကြည့်ပါက ကာမဂုဏ်အာရုံခံစားမှုကို အားပေး အားမြှောက်ပြုရာရောက်၏။ ထို့ကြောင့် နစ္စဂီတဝါဒိတအရ ကပြ သီဆို တီးမှုတ်ခြင်းများကို ကြည့်ရှုနားထောင်ခြင်းများသည် ဝိသူကဒဿန သာသနာတော်၏ ခြောင့်တကျင်သဖွယ်ဖြစ်သော ကြည့်ရှုနားထောင်မှုဟု ခေါ်၏။ (ဝိသူက=ဆန့်ကျင်ဘက်+ဒဿန=ကြည့်ရှုနားထောင်ခြင်း။)

**မာလာဓာရဏ=ပန်းပန်ခြင်း**

ဥပုသ်စောင့်ချိန်၌ ပန်းပွင့် ပန်းခိုင် ပန်းကုံးများကို ပန်ဆင်ခြင်း၊ သူတပါးအား အပန်ခိုင်းခြင်းများ မပြုလုပ်ရ၊ ပြုလုပ်လျှင် သီလပျက်၏။

**ဂန္ဓဓာရဏ=အမွှေးရနံ့ဆောင်ခြင်း**

ရေမွှေးနံ့သာဆီဆွတ်ဖျန်းခြင်း၊ နံ့သာမှုန့် (ပေါင်ဒါမှုန့်) လိမ်းကျံခြင်း၊ ဖြူးခြင်း၊ ထုံမွှမ်းခြင်းများ မပြုရ၊ သူတပါးအားလည်း မခိုင်းရ၊ ပြုလုပ်လျှင် သီလပျက်စီးသည်၊ အကြောင်းထူး မရှိဘဲ ရေမွှေးဆပ်ပြာ မသုံးရ၊ ချွေးနံ့ ကိုယ်နံ့ ပျောက်စေရန် ရေမွှေးဆပ်ပြာသုံးခြင်း၊ ပေါင်ဒါမှုန့် ဖြူးခြင်းကိုမူ ခြွင်းချက်ပြုထားသည်။

**ဂန္ဓဝိလေပနမဏ္ဍန=နံ့သာ, နံ့သာပျောင်း သုံးစွဲခြင်း**

အမွှေးရနံ့ကို နံ့သာဟု ခေါ်၍ သနပ်ခါးရည်, အလှဆီ, မိတ်ကပ်တို့ကို နံ့သာပျောင်းဟု ခေါ်သည်၊ ယင်းနံ့သာ, နံ့သာပျောင်းကို လိမ်းကျံခြယ်သခြင်း၊ နှိမ့်ရာ၌ ဖို့ခြင်း၊ မျက်နှာပေါင်းတင်ခြင်း၊ သူတပါးအား လိမ်းကျံခိုင်းခြင်းများ မပြုလုပ်ရ၊ ပြုလျှင် သီလပျက်စီး၏။

**မဏ္ဍန=အလှပြင်ခြင်း**

ကျောက်ပေါက်မာ, မှဲ့ခြောက်, ဝက်ခြံ, တင်းတိပ်, ညှင်း ပျောက်စေရန် ဆေးလိမ်းခြင်း၊ ဆံပင်အလှပြင်ခြင်း၊ တွန့်ခြင်း၊ ကောက်ခြင်း၊ ပုံသွင်းခြင်း၊ လက်သည်းအလှပြင်ခြင်း၊ ခြေသည်း လက်သည်း ဆိုးခြင်း၊ နှုတ်ခမ်းဆိုးခြင်း၊ မျက်တောင်အတု တပ်ခြင်း၊ မျက်ခုံးမွေးနှုတ်ခြင်း၊ မျက်စိအရောင်ခြယ် (ကာခြယ်)ခြင်း စသည်ဖြင့် အလှပြင်ခြင်း (မဏ္ဍန) တို့ကို မပြုရ၊ ပြုလျှင် သီလပျက်၏၊ သာမန်အားဖြင့် ခေါင်းဖီးခြင်း၊ လက်သည်းခြေသည်းရှည်၍ လှီးဖြတ်ခြင်းတို့မှာမူ အပြစ်မရှိ၊ သီလမပျက်ချေ။

**ဂန္ဓဝိလေပနဝိဘူသန**

နံ့သာ, နံ့သာပျောင်း မိတ်ကပ်တို့ဖြင့် တန်ဆာဆင် အလှပြင်ခြင်း၊ ဂန္ဓ (နံ့သာ)ဖြင့် အနံ့မွှေးအောင် ဝိလေပန (နံ့သာပျောင်း)ဖြင့် အသားအရေ လှပအောင် လိမ်းကျံ ခြယ်လှယ်ခြင်း မပြုရ၊ ပြုလျှင် သီလပျက်၏။

**ဝိဘူသန=တန်ဆာဆင်ခြင်း**

စိန်ရွှေငွေ လက်ဝတ်လက်စားများ ပန်ဆင်ဝတ်ဆင်ခြင်း၊ အဝတ်အထည်ကို သာမန် တန်းစေ့လမ်းစေ့ ဝတ်ဆင်မှုမျိုးမဟုတ်ဘဲ အလှအပ တန်ဆာဆင်သည့် အနေဖြင့် အဆင်ဆန်း ပုံဆန်း အဝတ်များ ဝတ်ခြင်း၊ ဖိနပ်အလှ စီးခြင်း၊ ထီးအလှဆောင်းခြင်း စသည်တို့သည် တန်ဆာဆင်မှုဖြစ်၍ ပြုလုပ်လျှင် သီလ ပျက်၏။ ထို့ကြောင့် ဥပုသ်သည်များသည် အဝတ်ကို ရိုးရိုးယဉ်ယဉ် လူတန်းစေ့ ရှိမျှသာ ဝတ်ဆင်၍ သာမန်စီးနေကျ ဖိနပ်, ဆောင်းနေကျ ထီးကို အသုံးပြုကြ ရမည် ဖြစ်သည်။

**ဌာန=အကြောင်းတရား**

ဤပန်းပန်မှု စသော အလှပြင်တန်ဆာဆင်မှုများသည် ကိလေသာတဏှာ တိုးပွားခြင်း၏ အကြောင်းဖြစ်၍ ရှောင်ကြဉ်ကြရမည်။

## ဥစ္စာသယနမဟာသယနအဖွင့်

မြင့်သောနေရာ မြတ်သောနေရာ၌ အိပ်ခြင်း, နေထိုင်ခြင်းမှ ရှောင်ကြဉ်ပါ၏ ဘုရား၌—

ဥစ္စာသယန =မြင့်သော နေရာ၊

အခြေ တစ်တောင်ထွာထက်ရှည်သောအိပ်ရာခုတင်၊ ကုလားထိုင်ကြီးများ၌ မထိုင်ကောင်း၊ မအိပ်ကောင်း။

မဟာသယန =မြတ်သော နေရာ၊

စည်းစိမ်ခံစားလေ့ရှိသော လူချမ်းသာများ၏အိမ်၌ လက်လေးသစ်မက အမွေးရှည် ကော်ဇော၊ သားမွေး အခင်း၊ ခြသေ့်၊ သစ်ကျား အရုပ်များဖြင့် ခမ်းနား ဆန်းကြယ်သော သားမွေးအခင်း ရွှေချည် ငွေချည် တို့ဖြင့် ချုပ်လုပ်အပ်သော ပိုးအခင်း၊ လဲမွေ့ရာ၊ ဂွမ်း မွေ့ရာများကို မသုံးကောင်း၊ အသုံးပြုလျှင် ဤသိက္ခာ ပုဒ် ပျက်သည်။

အနုန်းဆံသွတ်မွေ့ရာကိုကား သုံးကောင်းပါသည်။
သင်ဖြူးချော၊ ကော်ဇောအမွေးတို့ စသည်တို့ကို ဤ
သိက္ခာပုဒ်အရ မြတ်သောနေရာဟု မဆိုထိုက်ချေ။

ဥပုသ်စောင့်သောအခါ ငါးပါးသီလတွင် "ကာမေသုမိစ္ဆာစာရာ ဝေရမဏီ" ဟု ဆောက်တည်၍ ယင်းအစား အဗြဟ္မစရိယ သိက္ခာပုဒ်ကို ထည့်၍ ဆောက်တည်ရ၏။ ယင်း အဗြဟ္မစရိယ သိက္ခာပုဒ်ကို ဖြူစင်စွာ ပြည့်ကျင့်နိုင်ရန် ဝိကာလဘောဇန သိက္ခာပုဒ်၊ နစ္စဂီတ သိက္ခာပုဒ်၊ ဥစ္စာသယန မဟာသယန သိက္ခာပုဒ်များကို ဆောက်တည်ရ၏။ ဤသိက္ခာပုဒ် ၄-ပါးကို ခြုံ၍ လေ့လာလျှင် ဥပုသ်စောင့်သောအခါ အကုသိုလ်စိတ်များ မဖြစ်ရအောင် ထိန်းသိမ်းရမည် ဖြစ်ကြောင်း ထင်ရှားသည်။ ထိုအကုသိုလ်စိတ်များကား ကာမဂုဏ်စိတ် (ကိလေသာတဏှာစိတ်) ပင် ဖြစ်ပါသည်။ ညစာ ထမင်းစားခြင်း၊ ဖီးလိမ်းပန်ဆင်ခြင်း၊ ကပြသီဆိုတီးမှုတ်ခြင်း၊ ခမ်းနားသော အိပ်ရာနေရာ၌ အိပ်စက်နေထိုင်ခြင်းသည် ကိလေသာတဏှာ တိုးပွားကြောင်း ကာမဂုဏ်စိတ်ကို သွေးဆောင်ခေါ်ယူသော အပြုအမူများ ဖြစ်ပါသည်။ ထို့ကြောင့် ကိလေသာတဏှာလောဘ ကာမဂုဏ်စိတ်များကို ပိတ်ဆို့ရန်အတွက် ဝိကာလဘောဇန သိက္ခာပုဒ်ဖြင့် ညစာထမင်းစားမှုကို တားမြစ်၏။ နစ္စဂီတ သိက္ခာပုဒ်ဖြင့် ကပြသီဆို တီးမှုတ်မှုနှင့်တကွ ဖီးလိမ်းပန်ဆင်မှုများကို တားမြစ်၏။ ဥစ္စာသယန သိက္ခာပုဒ်ဖြင့် ခမ်းနားသော အိပ်ရာနေရာတို့၌ အိပ်စက် နေထိုင်ခြင်းကို တားမြစ်ခြင်း ဖြစ်၏။ ထိုသိက္ခာပုဒ် ၃-မျိုးဖြင့် ကာမစိတ်ကို ပိတ်ဆို့မှသာ အဗြဟ္မစရိယသိက္ခာပုဒ်အရ မေထုန်အမှုမှ ရှောင်ကြဉ်နိုင်မည် ဖြစ်သည်။

## ဥပုသ်စောင့်ပုံ အစီအစဉ်

### ဥပုသ်စောင့်ပုံ

ဥပုသ်ဟူသော စကားသည် ဥပေါသထပါဠိကို မြန်မာမှုပြုထားခြင်း ဖြစ်၏၊ (ဥပ+ဝသထ)ဟု နှစ်ပုဒ်ခွဲပါ၊ ဥပ=အကျင့်ကောင်းနှင့် ပြည့်စုံ၍၊ ဝသထ= နေထိုင်ခြင်း။

အင်္ဂါရှစ်ပါးနှင့် ပြည့်စုံသော ဥပုသ်သီလကို ခံယူဆောက်တည်၍ ဘုရားဂုဏ်တော်၊ တရားဂုဏ်တော် စသော ဂုဏ်တော်များကို ပွားလျက် အကုသိုလ်စိတ်များ မဖြစ်စေဘဲ စိတ်စင်ကြယ်အောင် စောင့်စည်းနေထိုင်မှုကို ဥပုသ်စောင့်သည်ဟု ခေါ်သည်။

**ဥပုသ်စောင့်ပုံ အစီအစဉ်**

၁။ နက်ဖြန် ဥပုသ်စောင့်မည်ဟု ကြံစည်သော ပုဂ္ဂိုလ်သည် ဥပုသ်စောင့်ခိုက်၌ အိမ်မှုကိစ္စများကို ဆောင်ရွက်ရန် မသင့်လျော်သောကြောင့် ယနေ့လို အချိန်အခါကပင် အိမ်မှုကိစ္စများကို ပြီးစီးအောင် စီမံဆောင်ရွက်ထားရာ၏။

၂။ ချက်ပြုတ် ကျွေးမွေးမည့်သူ အဆင်သင့်ရှိလျှင် နက်ဖြန် စားသောက်မှုအတွက် ပြောပြစီစဉ်ထားရာ၏။ ချက်ပြုတ် ကျွေးမွေးမည့်သူ မရှိလျှင် နက်ဖြန် ကိစ္စနည်းအောင် စားဖွယ်သောက်ဖွယ်များကို ပြီးစီးအောင် စီစဉ်ထားရာ၏။

၃။ ဥပုသ်နေ့ နံနက်အရုဏ်တက်ချိန်ကပင် ကိုယ်လက်များကို သန့်စင်ကာ စင်ကြယ်အောင် ပြု၍ စိတ်ကြည်လင်ရုံမျှ သန့်ရှင်းသော အဝတ်ကို ဝတ်ရာ၏။

၄။ ပန်းပန်မှု, နံ့သာလိမ်းမှုတို့ဖြင့် အထူးတလည် ပြင်ဆင်မှုကို မပြုရ။ ထို့နောက် ခပ်စောစောကပင် သီလဆောက်တည်ရာ၏။ သီလဆောက်တည်ပြီးလျှင် ကျွေးမွေးလှူဒါန်းဖွယ် ကိစ္စရှိပါက ထိုကိစ္စကို ပြုလုပ်၍ မရှိက မိမိအတွက် သင့်တင့်ရုံသာ စီမံ၍ စားသောက်ရာ၏။

၅။ ကျွေးမွေးစားသောက်ပြီးလျှင် ကိုယ်လက်မစင်ကြယ်က ရေချိုးရာ၏။ ထို့နောက် မိမိတစ်ကိုယ်တည်း နေသင့်သူ ဖြစ်လျှင် တစ်ကိုယ်တည်း နေ၍ အဖော်နှင့် နေသင့်သူဖြစ်က သဘောတူအဖော်နှင့် အတူတကွ သင့်လျော်သော ဆိတ်ငြိမ်ရာအရပ်၌ ဘုရားဂုဏ်တော်ကို အာရုံပြု၍ နေရာ၏။

၆။ ကြာရှည်စွာ ဆင်ခြင်၍ မနေနိုင်လျှင် တရားစာကိုလည်း ကြည့်ရှုရှုတ်ဖတ် နေရာ၏။ နည်းလမ်းကျကျ ဟောပြမည့် ပုဂ္ဂိုလ်ရှိလျှင် တရားနာရာ၏။ အချင်းချင်းလည်း တရားစကား ဆွေးနွေးမေးမြန်း စုံစမ်းရာ၏။

၇။ ညအချိန် ရောက်သောအခါ မိမိ၏ သီလကို ပြန်၍ ဆင်ခြင်ပြီးလျှင် အရိယာသူတော်ကောင်း ရဟန္တာအပေါင်းတို့နှင့် ယနေ့အတွက် တူမျှပုံကို အောက်မေ့ရာ၏။

၈။ နံနက် အရုဏ်တက်ချိန်၌ မိမိရည်မှန်းထားသော အချိန် စေ့သောအခါ အလိုအလျောက် ရှစ်ပါးသီလ မရှိတော့ဘဲ ငါးပါးသီလသာ ကျန်တော့သည်၊ ဥပုသ်ထွက်ပြီ ဖြစ်တော့သည်။

**ဥပုသ်စောင့်ခြင်း အကျိုး**

ကျနစွာစောင့်သုံးအပ်သော ဥပုသ်၏ အကျိုးမှာ ဇမ္ဗူဒိပ်တစ်ကျွန်းလုံးကို အစိုးရသောမင်းစည်းစိမ် (စကြာဝတေးမင်းစည်းစိမ်)ထက် ကြီးကျယ် မြင့်မြတ်သည်။ မှန်၏၊ ဇမ္ဗူဒိပ်ကျွန်းကို အစိုးရခြင်းမှာ လူ့စည်းစိမ်သာ ဖြစ်၍

နတ်စည်းစိမ်နှင့် နှိုင်းစာလျှင် အောက်ကျနောက်ကျ ဖြစ်သည်။ ထိုစည်းစိမ်များလည်း တစ်ဘဝသာ ဖြစ်သည်၊ စောင့်ထိန်းအပ်သော ဥပုသ်အကျိုးကား လူ့မင်းစည်းစိမ်, နတ်မင်းစည်းစိမ် အကြိမ်ကြိမ် ခံစားရမည် ဖြစ်၏။

ဥပုသ်စောင့်ရာ၌ သိက္ခာပုဒ်ရှစ်ပါးကို မလွန်ကျူးရုံမျှဖြင့် အကျိုးများသင့်သလောက် မများသေး။ မိမိစိတ်ကို စင်ကြယ်အောင်ထား အားထုတ်နိုင်မှသာလျှင် ပို၍ အကျိုးများသည်။ ဥပမာ—တန်ဆာဆင်လိုသော အမျိုးသမီးသည် ဆံပင်ကို စင်ကြယ်အောင် ခေါင်းလျှော်ရ၏။ ခေါင်းမလျှော်ဘဲ ဖီးလိမ်း ပြင်ဆင်လျှင် အနံ့မကောင်း၊ ထို့အတူ သီလတန်ဆာဖြင့် ဆင်ထားသူသည် မိမိ၏ စိတ်ကို လောဘ, ဒေါသ, မာန် မာန, ဣဿာ, မစ္ဆရိယ စသော ကိလေသာ အညစ်အကြေးတို့မှ စင်ကြယ်အောင် ပြု၍ စောင့်သုံးနိုင်မှသာ ရအပ်သမျှ အကျိုးကို အပြည့်အစုံ ရနိုင်သည်။

ဥပုသ်အမျိုးမျိုး

မြတ်စွာဘုရားသည် သာဝတ္ထိပြည် ပုဗ္ဗာရုံကျောင်းတော်၌ သီတင်းသုံးနေတော်မူသောအခါ ဝိသာခါအား ဥပုသ်သုံးမျိုးကို ဟောတော်မူ၏၊ ယင်း ဥပုသ်သုံးမျိုးမှာ—

- ဂေါပါလဥပုသ်၊
- နိဂဏ္ဌဥပုသ်၊
- အရိယာဥပုသ်—

ဟူ၍ သုံးမျိုးဖြစ်သည်။

ဂေါပါလ နွားကျောင်းသားဥပုသ်

နွားကျောင်းသားတို့ ကြံစည်ခြင်းကဲ့သို့ အစားအသောက်နှင့် လောကီရေးရာကိုသာ ကြံစည်၍ စောင့်သုံးသော ဥပုသ်ကို နွားကျောင်းသားဥပုသ်ဟု ခေါ်သည်၊ ဥပုသ်ကို မကျိုးမပေါက် မပြောက်မကျားအောင် ကျနသေချာစွာ မဆောင့်သုံးဘဲ "ယနေ့ မည်သည့်နေရာ၌ နွားများ မြက်စား၍ မည်သည့်နေရာ၌ နွားများ ရေသောက်လိမ့်မည်" ဟု နွားကျောင်းသားများ ကြံစည်သကဲ့သို့ "ယနေ့ မည်သည့် စားဖွယ် သောက်ဖွယ်ကို စား၍ နက်ဖြန် မည်သည့် စားဖွယ် သောက်ဖွယ်ကို စားသောက်မည်" ဟု အစားအသောက်နှင့် လောကီရေးရာကိုသာ ကြံစည်နေသော ဥပုသ်သည်၏ သီလကို ဂေါပါလဥပုသ် နွားကျောင်းသား ဥပုသ်ခေါ်သည်။ (ဂေါ=နွား+ပါလ=ထိန်းကျောင်းခြင်း။) ယင်း နွားကျောင်းသား ဥပုသ်သည်လည်း လုံးဝအကျိုးမရှိသည် မဟုတ်၊ ထိုက်သင့်သလောက် အကျိုးရှိသည်၊ သို့ရာတွင် ကြီးမြတ်သော အကျိုးမရှိ။

**နိဂဏ္ဌတက္ကတွန်းဥပုသ်**

တိတ္ထိ တက္ကတွန်းတို့အဆုံးအမအတိုင်း စောင့်သုံးကြသော ဥပုသ်ဖြစ်သည်။ ယင်းဥပုသ်မှာ "ယူဇနာ တစ်ရာ ပြင်ပ၌ တည်သော သတ္တဝါတို့ကို မသတ်အံ့"ဟု ဆောက်တည်သော သီလမျိုး ဖြစ်သည်။

**အရိယာဥပုသ်**

အရိယာသူတော်ကောင်းတို့ ကျင့်သုံးအပ်သော မြတ်သော ဥပုသ်ကို ဆိုလိုသည်၊ ယင်းအရိယာဥပုသ်သည်—

(၁) ဗြဟ္မုပေါသထ=ဘုရားဂုဏ်ကို အာရုံပြုနေခြင်း (ဗြဟ္မဥပုသ်)၊

(၂) ဓမ္မုပေါသထ=တရားဂုဏ်ကို အာရုံပြုနေခြင်း (ဓမ္မဥပုသ်)၊

(၃) သံဃုပေါသထ=သံဃာ့ဂုဏ်ကို အာရုံပြုနေခြင်း (သံဃာ့ဥပုသ်)၊

(၄) သီလုပေါသထ=သီလကို ဆင်ခြင်နေခြင်း (သီလဥပုသ်)၊

(၅) ဒေဝတုပေါသထ=နတ်တို့ကို သက်သေပြု၍ နေခြင်း(နတ်ဥပုသ်)၊

(၆) အဋ္ဌင်္ဂိကုပေါသထ=ရှစ်ပါးသီလထိန်းခြင်း (အဋ္ဌင်္ဂိကဥပုသ်)—

ဟူ၍ ၆-မျိုးရှိ၏။

**ဗြဟ္မဥပုသ်**

ဘုရားရှင်သည် ဗြဟ္မမည်တော်မူ၏၊ ရှစ်ပါးသီလကို ယူပြီးလျှင် ထို ဗြဟ္မာမည်သော ဘုရားရှင်၏ ဂုဏ်ကို အာရုံပြု၍ နေခြင်းကို "ဗြဟ္မဥပုသ်"ဟု ခေါ်၏။

**ဓမ္မဥပုသ်**

ဥပုသ်သီလကို ခံယူပြီးလျှင် တရားဂုဏ်တော်ကို အာရုံပြု၍လည်းကောင်း၊ တရားဂုဏ်အဖွင့်ကို ကြည့်ရှု ရွတ်ဖတ်၍လည်းကောင်း နေခြင်းကို "ဓမ္မဥပုသ်"ဟု ခေါ်သည်။

**သံဃာ့ဥပုသ်**

ဥပုသ်သီလကို ခံယူပြီးလျှင် သံဃာ့ဂုဏ်တော်ကို အာရုံပြု၍ လည်းကောင်း၊ သံဃာ့ဂုဏ်တော်အဖွင့်ကို ကြည့်ရှု ရွတ်ဖတ်၍လည်းကောင်း နေခြင်းကို "သံဃာ့ဥပုသ်"ဟု ခေါ်သည်။

**သီလဥပုသ်**

သီလယူပြီးလျှင် မိမိ၏ သီလ မကျိုး၊ မပေါက်၊ မပြောက်၊ မကျားသော ဂုဏ်ကို အာရုံပြု၍ စမ်းမြောက်ဖမ်းသာစွာ နေထိုင်ခြင်းကို "သီလဥပုသ်"ဟု ခေါ်ပါသည်။

**သီလကျိုးခြင်း**

ရှစ်ပါးသော သိက္ခာပုဒ်တို့တွင် အစ သိက္ခာပုဒ်သော် လည်းကောင်း၊ အဆုံးသိက္ခာပုဒ်သော်လည်းကောင်း ပျက်စီးလျှင် ဥပုသ်သီလ ကျိုးသည် မည်၏။ ထိုသို့ မကျိုးအောင် စောင့်ထိန်းရမည်။

**မပေါက်**

အဝတ်၌ အလယ်က ပေါက်သကဲ့သို့ သိက္ခာပုဒ် ၈-ပါးတွင် အလယ်က တစ်ပါးပါးပျက်လျှင် ပေါက်သည်ဟု ခေါ်၏၊ ထိုသို့ မပျက် မပေါက်ရအောင် စောင့်ထိန်းရမည်။

**မပြောက်**

ရှစ်ပါးသော သိက္ခာပုဒ်တို့တွင် အစဉ်အတိုင်း တဆက်တည်းလည်း မဟုတ်ဘဲ အဒိန္နာဒါနနှင့် ဒုသာဝါဒသော်လည်းကောင်း၊ အဗြဟ္မစရိယနှင့် သုရာမေရယ သော်လည်းကောင်း နွားဥ စါစေ့ပြောက်ကဲ့သို့ နှစ်ခုသုံးခု ပြောက်ကြား ပြောက်ကြားပျက်သည်ကို ပြောက်သည်ဟု ခေါ်သည်။ ယင်းသို့ မပြောက်အောင် စောင့်ထိန်းရမည်။

**မကျား**

ရှစ်ပါးသောသိက္ခာပုဒ်တို့တွင် သိက္ခာပုဒ် နှစ်ခုသုံးခုဆက်၍ ပါဏာတိပါတနှင့် အဒိန္နာဒါန လည်းကောင်း၊ အဗြဟ္မစရိယနှင့် မုသာဝါဒလည်းကောင်း ဤသို့ နှစ်ပါးသုံးပါးဆက်၍ ပျက်သည်ကို၊ နွားကြောင် နွားကျားကဲ့သို့ ပျက်သည်ကို အစင်းအကျားဆင်သော ဥပုသ်ဟု ခေါ်ပါသည်။ ထိုသို့ မကျားအောင် စောင့်ထိန်းရမည်။

**နတ်ဥပုသ်**

သီလယူပြီးလျှင် နတ်တို့ကို သက်သေထား၍ မိမိသန္တာန်၌ ရှိသော သဒ္ဓါ၊ သီလ၊ သုတ၊ စာဂ၊ ပညာ၊ ဟိရီ၊ ဩတ္တပ္ပ-များသော သူတော်ကောင်းတရား ဂုဏ်ကျေးဇူးကို အောက်မေ့၍ စောင့်ရှောက်အပ်သော ဥပုသ်ကို "နတ်ဥပုသ်" ဟု ခေါ်သည်။

နတ်တို့ကို သက်သေအရာထားပုံ

နတ်ပြည် ခြောက်ဘုံ၌ ရှိသော နတ်ခြောက်ဘုံတို့သည် လူ့ပြည်နေစဉ်က သဒ္ဓါ သီလ စသော သူတော်ကောင်းတရားနှင့် ပြည့်စုံကြသောကြောင့် ဘဝသစ် ကူးသောအခါ နတ်ပြည် ခြောက်ဘုံ၌ ဖြစ်၍ ချမ်းသာစွာ နေရ၏၊ ထိုသို့သော သူတော်ကောင်းဥစ္စာများသည် ငါ၌လည်း ရှိ၏၊ မြတ်စွာဘုရား၏ တရားတော် နှင့်အညီ မိဘဆရာသမားများ၏ အဆုံးအမကြောင့် ဤသို့ သူတော်ကောင်း ဖြစ်ရခြင်းသည် နောင်ရေးအတွက် စိတ်ချရ၍ လူဖြစ်ကျိုး နပ်ပေစွဟု ဆင်ခြင် နေထိုင်မှုမျိုး ဖြစ်၏၊ ဤသို့ နတ်တို့ကို သက်သေထား၍ မိမိ၏ သူတော်ကောင်း ဖြစ်ပုံကို အာရုံပြု ဝမ်းမြောက်နေခြင်းသည် နတ်ဥပုသ် မည်၏။

အဋ္ဌင်္ဂိကဥပုသ်

ယခုကာလ စောင့်ကြရိုး ရှစ်ပါးသီလသည် အဋ္ဌင်္ဂိကဥပုသ် မည်၏။ ဤကဲ့သို့ ဘုရားဂုဏ်, တရားဂုဏ်, သံဃာ့ဂုဏ်, မိမိ၏ သီလနှင့် သူတော်ကောင်း ဥစ္စာ ခုနစ်ပါးတို့ကို အောက်မေ့ဆင်ခြင်လျက် ဥပုသ်စောင့်သုံးခြင်းကို အရိယာ ဥပုသ်ဟု ခေါ်သည်။

ဥပုသ်ရက်ကို ရေတွက်ရာ၌—

- ပကတိဥပုသ်၊
- ပဋိဇာဂရဥပုသ်၊
- ပါဋိဟာရိယဥပုသ်—

ဟူ၍ သုံးမျိုးရှိပါသည်။

ပကတိဥပုသ်

လောက၌ လူတို့ ပြုကျင့်လေ့ အရိုးအစဉ်သို့ လိုက်၍ ပကတိအတိုင်း သတ်မှတ်ထားသော ဥပုသ်နေ့များသည် ပကတိဥပုသ် မည်၏။

ပကတိဥပုသ်နေ့ ၄-ရက်

(၁) လဆန်း ၈-ရက် ဥပုသ်နေ့၊

(၂) လဆန်း ၁၅-ရက် လပြည့်ဥပုသ်နေ့၊

(၃) လဆုတ် ၈-ရက် ဥပုသ်နေ့၊

(၄) လဆုတ် ၁၄-ရက်၊ သို့မဟုတ် ၁၅-ရက် လကွယ် ဥပုသ်နေ့—

ဟူ၍ တစ်လလျှင် လေးသီတင်း လေးဥပုသ် ရှိကြ၏။ မိမိကိုယ်တိုင် ဥပုသ် မစောင့်နိုင်သည်တိုင်အောင် ထိုနေ့များကို ဥပုသ်နေ့ဟု အသိအမှတ်ပြုကြသည်။

**ပကတိဥပုသ်နေ့ ၆-ရက်**

အင်္ဂုတ္တိုရ်ပါဠိတော် စတုမဟာရာဇသုတ် (၁၄၂) ၌ ပကတိဥပုသ်ရက်ကို တစ်လလျှင် ၆-ရက်ရှိကြောင်း အောက်ပါအတိုင်း ဖော်ပြထားသည်—

(၁) လဆန်း ၈-ရက် အဋ္ဌမီဥပုသ်၊

(၂) လဆုတ် ၈-ရက် အဋ္ဌမီဥပုသ်၊

(၃) လဆန်း ၁၄-ရက် စာတုဒ္ဒသီဥပုသ်၊

(၄) လဆုတ် ၁၄-ရက် စာတုဒ္ဒသီဥပုသ်၊

(၅) လဆန်း ၁၅-ရက် ပန္နရသီဥပုသ်၊

(၆) လဆုတ် ၁၅-ရက် ပန္နရသီဥပုသ်—

ဟူ၍ ဖြစ်ပါသည်။

လဆုတ် ၁၅-ရက် ဥပုသ်နေ့သည် ရက်မစုံလ၌ လဆန်း ၁-ရက်နေ့ ကျရောက်သည်၊ သံယုတ်ပါဠိတော်၊ ဝိမာနဝတ္ထု၊ နေမိဇာတ်၊ သုတ္တနိပါတ် စသော ထိုထို ပါဠိတော်များ၌လည်း ဤဥပုသ်နေ့ ၆-ရက် လာရှိသည်။

**ပကတိ ဥပုသ်နေ့ ၈-ရက်**

အင်္ဂုတ္တရအဋ္ဌကထာ၌မူ အထက်ဖော်ပြပြီး ပကတိဥပုသ်နေ့ ၆-ရက်၌—

(၁) လဆန်း ၅-ရက် ပဉ္စမီဥပုသ်နေ့၊

(၂) လဆုတ် ၅-ရက် ပဉ္စမီဥပုသ်နေ့—

ဤ(၂)ရက်ကို ထည့်၍ တစ်လလျှင် ပကတိဥပုသ်နေ့ (၈)ရက်ရှိကြောင်း ဖွင့်ဆိုထားသည် (အံ၊ဋ္ဌ၊၂"၁၂၂)။

**ပဋိဇာဂရ (အကြို့အပို့ဥပုသ်)**

ဘုရားရှင်လက်ထက်မှာပင် လူတိုင်း မစောင့်သုံးကြဘဲ သတိတရားကြီးမား၍ ကုသိုလ်တရား၌ နိုးနိုးကြားကြားရှိသောသူများသာ စောင့်ထိန်းသောကြောင့် ပဋိဇာဂရဥပုသ်ဟု ခေါ်ပါသည်။ (ပဋိဇာဂရ=နိုးကြားခြင်း။)

ယင်းပဋိဇာဂရ အကြို့အပို့ဥပုသ်နေ့များမှာ ပကတိဥပုသ် (၈)ရက်ကို ပဓာန ထား၍ အကြို့ဥပုသ်နှင့် အပို့ဥပုသ်များကို ထည့်ပြီး တစ်လအတွင်း (ရက်စုံလ၌) ဥပုသ်ရက်-၂၀၊ ရက်မစုံလ၌ ပန္နရသီမရှိ၍ ဥပုသ်ရက် ၁၉-ရက်သာ ရှိလေသည်။

ဥပုသ်ရက် (၂၀)

| | | |
|---|---|---|
| (၁) | ပကတိဥပုသ်၊ (တွက်ပြပြီး) | ၈-ရက် |
| (၂) | ပဉ္စမီ (၅-ရက်နေ့)ဥပုသ်အကြိုအပို<br>လဆန်းလဆုတ် (၄)ရက်နှင့် (၆)ရက် | ၄-ရက် |
| (၃) | အဋ္ဌမီ (၈-ရက်နေ့) ဥပုသ်အကြိုအပို<br>လဆန်းလဆုတ် (၇)ရက်နှင့် (၉)ရက် | ၄-ရက် |
| (၄) | စာတုဒ္ဒသီ (၁၄)ရက်ဥပုသ်အကြို<br>လဆန်းလဆုတ် (၁၃)ရက် | ၂-ရက် |
| (၅) | ပန္နရသီ (၁၅-ရက်နေ့)ဥပုသ်အပို<br>လဆုတ် (၁)ရက်နှင့် လဆန်း (၁)ရက် | ၂-ရက် |
| | စုစုပေါင်း | ၂၀-ရက် |

[ရက်မစုံလ၌ ပန္နရသီဥပုသ်မရှိ၍ ၁၉-ဥပုသ်သာ ရှိသည်။]

ပါဋိဟာရိယဥပုသ် (နိဗဒ္ဓဥပုသ်)

ရခဲလှသော လူဘဝကို ရကြပြီး ကြုံကြိုက်ခဲလှသည့် သာသနာတော်ကြီးနှင့် ကြုံကြိုက်ခိုက် သီလပါရမီ ဖြည့်သောအနေဖြင့် ၃-လ တန်သည်၊ ၁၅-ရက် တန်သည်၊ ၅-လ တန်သည် စသည်ဖြင့် ရက်ရှည်အမြဲစောင့်သုံးသော ဥပုသ်ကို ပါဋိဟာရိယဥပုသ်ဟု ခေါ်ပါသည်၊ ယင်းပါဋိဟာရိယ ဥပုသ်ကိုပင် နိဗဒ္ဓုပေါသထ=အမြဲမပြတ် ဆက်တည်းစောင့်သုံးလေ့ရှိသော ဥပုသ်ဟု ခေါ်ပါသည်။ ယင်းပါဋိဟာရိယ ဥပုသ်နေ့များကို ရေတွက်ပုံမှာ ကျမ်းဂန်များ၌ ကွဲပြားမှု ရှိသည်။

အင်္ဂုတ္တရအဋ္ဌကထာ စတုမဟာရာဇသုတ်၌ ဝါတွင်းသုံးလ၊ သို့မဟုတ် ဝါကျွတ်ပြီး နောက်တစ်လ(သီတင်းကျွတ်လပြည့်ကျော် ၁-ရက်မှတန်ဆောင်မုန်း လပြည့်နေ့အထိ)၊ သို့မဟုတ် ဝါကျွတ်ပြီးနောက် ၁၅-ရက် (သီတင်းကျွတ် လပြည့်ကျော် ၁-ရက်မှ သီတင်းကျွတ် လကွယ်နေ့အထိ)ဟု ၃-မျိုး ဖော်ပြ ထားသည်။

ဤဖော်ပြပါ နေ့ရက်များ၌ ရက်ရှည်ဥပုသ်စောင့်သုံးခြင်းကို ပါဋိဟာရိယ ဥပုသ်ဟု ခေါ်သည် (အံ၊ဋ္ဌ၊၂။၁၂၃)။

သုတ္တနိပါတ်အဋ္ဌကထာ ဒုတိယတွဲ ဓမ္မိကသုတ်၌ ဝါဆိုလဆန်း၊ ၁-ရက်နေ့မှ တန်ဆောင်မုန်းလကွယ်နေ့အထိ ငါးလ၊ သို့မဟုတ် ဝါဆိုလ၊ တန်ဆောင်မုန်းလ၊ တပေါင်းလ–ဤသုံးလတို့၌ ဥပုသ်ရက်ရှည် စောင့်သုံးခြင်းကို ပါဋိဟာရိယ ဥပုသ်ဟု ခေါ်သည် (သုတ္တနိ၊ဋ္ဌ၊၂။၁၀၈)။

သဂါထာဝဂ္ဂသံယုတ်အဋ္ဌကထာ သာနုသုတ်၌ အောက်ဖော်ပြပါ နေ့ရက်များ၌ စောင့်သုံးသော ဥပုသ်ကို ပါဋိဟာရိယဥပုသ်ဟု ခေါ်၏—

(က) အဋ္ဌမီဥပုသ်၏ အကြိုဖြစ်သော လဆန်း ၇-ရက်၊ လဆုတ် ၇-ရက် နေ့များနှင့် အဋ္ဌမီဥပုသ်၏ အပိုဖြစ်သော လဆန်း ၉-ရက်၊ လဆုတ် ၉-ရက် ဥပုသ်နေ့များ၊

(ခ) စာတုဒ္ဒသီ ဥပုသ်၏ အကြိုဖြစ်သော လဆန်း ၁၃-ရက်၊ လဆုတ် ၁၃-ရက်နေ့များ၊

(ဂ) ပန္နရသီဥပုသ်၏ အပိုဖြစ်သော လဆုတ် ၁-ရက်နှင့် လဆန်း ၁-ရက်နေ့များ၊

(ဃ) သီတင်းကျွတ်လပြည့်ကျော် ၁-ရက်နေ့မှ သီတင်းကျွတ်လကွယ် နေ့တိုင်အောင် ၁၅-ရက်။

ဤပါဋိဟာရိယဥပုသ်ကိုပင် ပက္ခဥပုသ်ဟု ခေါ်သေး၏ (သံ၊ဋ္ဌ၊၁။၂၈၁)။

ယင်းသို့ အဋ္ဌကထာတို့၌ နည်းအမျိုးမျိုးဖြင့် ဖွင့်ပြထားခြင်းမှာ လောက လူသားတို့ ကျင့်သုံးလေ့ရှိသည့် အရိုးအစဉ်သို့ လိုက်၍လည်းကောင်း, ကျင့်သုံး နိုင်လျှင် ကောင်းမြတ်၏ဟု နှလုံးသွင်း၍လည်းကောင်း ဖွင့်ပြခြင်းဖြစ်သည်၊ အဋ္ဌကထာချင်း မတူဟူ၍ မမှတ်ယူရ၊ ကြွင်းသော ရက်တို့၌လည်း ဥပုသ် မစောင့်ရဟူ၍ မမှတ်ယူသင့်။

"ဥပေါသထံ ဖုဋ္ဌတိ အဋ္ဌင်္ဂသမန္နာဂတံ သဗ္ဗဒိဝသေသု ဂဟဋ္ဌေဟိ ရက္ခိတဗ္ဗံ"ဟူသော သုတ်မဟာဝါ မဟာသုဒဿနသုတ် ဋီကာ (၁၉၂)နှင့်အညီ နေ့ရက်ဟူသမျှ ဥပုသ်စောင့်ကောင်း၏၊ စောင့်နိုင်သမျှ အကျိုးရ၏ဟု မုချမြဲစွာ မှတ်ကုန်ရာ၏။

# အခန်း (၁၈)

## ကိုးပါးသီလနှင့် ဆယ်ပါးသီလ

### ကိုးပါးသီလ

**သီလတောင်းပုံ**

အဟံ ဘန္တေ တိသရဏေန သဟ နဝင်္ဂသမန္နာဂတံ ဥပေါသထသီလံ ဓမ္မံ ယာစာမိ၊ အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။

ဒုတိယမ္ပိ....စသည်ဆက်ဆိုပါ။

တတိယမ္ပိ....စသည်ဆက်ဆိုပါ။

ဘန္တေ၊ အရှင်ဘုရား။ အဟံ၊ တပည့်တော် (တပည့်တော်မ)သည်။ တိသရဏေန၊ သရဏဂုံသုံးပါးနှင့်။ သဟ၊ တကွ။ နဝင်္ဂသမန္နာဂတံ၊ အင်္ဂါ ကိုးပါးနှင့် ပြည့်စုံသော။ ဥပေါသထသီလံ၊ ဥပုသ်သီလတည်းဟူသော။ ဓမ္မံ၊ သိက္ခာပုဒ် အကျင့်ကို။ ယာစာမိ၊ တောင်းပန်ပါ၏။

ဒုတိယမ္ပိ၊ နှစ်ကြိမ်မြောက်လည်း....စသည်ဆက်ဆိုပါ။

တတိယမ္ပိ၊ သုံးကြိမ်မြောက်လည်း....စသည်ဆက်ဆိုပါ။

(အာမ ဘန္တေ)

နမော တဿ ၃-ခေါက်ဆိုပါ။

သရဏဂုံသုံးပါး ၃-ခေါက်ဆိုပါ။

**ကိုးပါးသီလ ဆောက်တည်ပုံ**

၁။ ပါဏာတိပါတာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၂။ အဒိန္နာဒါနာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၃။ အဗြဟ္မစရိယာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၄။ မုသာဝါဒါ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၅။ သုရာမေရယမဇ္ဇပ္ပမာဒဋ္ဌာနာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၆။ ဝိကာလဘောဇနာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၇။ နစ္စ ဂီတ ဝါဒိတ ဝိသူက ဒဿန မာလာဂန္ဓ ဝိလေပန ဓာရဏ မဏ္ဍန-ဝိဘူသနဋ္ဌာနာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၈။ ဥစ္စာသယနမဟာသယနာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၉။ ယထာဗလံ မေတ္တာသဟဂတေန စေတသာ သဗ္ဗပါဏ္ဍီ လောကံ ဖရိတွာ ဝိဟရာမိ။

အနက်

၁-မှ ၈-အထိ (၈)ပါးသီလနှင့် တူသည်။

၉။ ယထာဗလံ၊ စွမ်းနိုင်သလောက်၊ မေတ္တာသဟဂတေန၊ မေတ္တာနှင့် တကွဖြစ်သော။ စေတသာ၊ စိတ်ဖြင့်။ သဗ္ဗပါဏ္ဍီ၊ အလုံးစုံသတ္တဝါ အပေါင်းရှိသော။ လောကံ၊ သတ္တလောကကို။ ဖရိတွာ၊ ပျံ့နှံ့စေ၍။ ဝိဟရာမိ၊ နေပါအံ့။

မြန်မာပြန်

၁-မှ ၈-အထိ (၈)ပါးသီလနှင့် တူသည်။

၉။ စွမ်းနိုင်သမျှ မေတ္တာစိတ်ဖြင့် သတ္တဝါတို့အပေါ်၌ ဖြန့်၍ နေပါမည်။

နဝင်္ဂသီလအဓိပ္ပါယ်

အင်္ဂါကိုးပါးရှိသော သီလကို နဝင်္ဂသီလဟု ခေါ်သည်။ နဝင်္ဂဥပုသ်ဟုလည်း ခေါ်၏။ ရှစ်ပါးသီလတွင် မေတ္တာဘာဝနာကို ထည့်၍ ကိုးပါးသီလဖြစ်၏။ ဤ နဝင်္ဂသီလဥပုသ်မှာ နဝင်္ဂုတ္တရပါဠိတော် (၁၉၂)၌ တိုက်ရိုက်လာ၏။ မေတ္တာကို အဓိကထား၍ တည်ဆောက်ရသော ဥပုသ်သီလဖြစ်၏။ ထိုခေတ်က ဥပုသ်သည်တို့ အလိုကျ ထည့်ထားခြင်းဖြစ်ပေသည်။ ထိုဥပုသ်သီလကို ဘုရားရှင် လက်ထက်တော်မှာပင် အချို့ပုဂ္ဂိုလ်များ ကျင့်သုံးဆောက်တည်ကြ၏။ မေတ္တာကို အမွှမ်းတင်၍ စောင့်အပ်သော ဥပုသ်သီလသည် ရိုးရိုးဥပုသ်သီလထက် အကျိုးများ လှသည်။

သရာတော် ဦးဗုဓ်၏ ဒါနဗလုပ္ပတ္တိကျမ်း (၂၀၉)၌မူ ဤ နဝင်္ဂသီလကို စကြာမင်းလောင်းတို့သည် စကြာရတနာရောက်လာစေရန် ကောင်းမွန်စွာ စောင့်ရှောက်အပ်သော သီလဟု ဖော်ပြထားပါသည်။

**မေတ္တာကို သီလအဖြစ်ဆောက်တည်နေခြင်း**

နဝင်္ဂသီလကို ဆောက်တည်သည့်အခါ ပြဆိုခဲ့သည့်အတိုင်း "ယထာဗလံ မေတ္တာသဟဂတေန စေတသာ သဗ္ဗာဝန္တံ လောကံ ဖရိတွာ ဝိဟာရေမိ" ဟူ၍ ဆောက်တည်ကြသည်။ ဆရာတော် ဦးဗုဓ်နှင့် ဝိသုဒ္ဓါရုံ ဆရာတော်တို့ကား "မေတ္တာသဟဂတေန စေတသာ သဗ္ဗပါဏဘူတေသု ဖရိတွာ ဝိဟာရဏံ သမာဒိယာမိ"ဟု ဆောက်တည်ရန် ရေးသားတော်မူခဲ့၏။

ဤသို့ သီလအဖြစ် ခံယူ ဆောက်တည်ခြင်းသည် အစဉ်အလာတစ်ခု ဖြစ်နေသည်။ မေတ္တာသည် ပါဏာတိပါတာ စသော သိက္ခာပုဒ်များကဲ့သို့ ရှောင်ကြဉ်ရမည့် သီလသိက္ခာပုဒ်မဟုတ်ပါ၊ ပါဏာတိပါတမှ ရှောင်ကြဉ်ပါ၏ဟု ဆောက်တည်ရာ၌ တစ်နေ့လုံး ရှောင်ကြဉ်နိုင်သကဲ့သို့ မေတ္တာဖြင့် နေပါမည်ဟု ဆောက်တည်သူသည် တစ်နေ့လုံး မေတ္တာစိတ်ဖြင့် မနေနိုင်သောကြောင့် သိက္ခာပုဒ်မဟုတ်ချေ၊ မိမိနှင့် မတည့်သူများကို မြင်ရတွေ့ရလျှင် ဒေါသဖြစ်ရ၏၊ မေတ္တာသည် ဒေါသနှင့် ဆန့်ကျင်ဘက်ဖြစ်၍ ဒေါသဖြစ်လျှင် မေတ္တာပျက်၏။ ထို့ကြောင့် အချို့ဆရာများက မေတ္တာသည် သိက္ခာပုဒ်လည်း မဟုတ်၊ သီလ လည်း မဟုတ်၍ ဆောက်တည်ဖွယ်မလိုဟု ဆိုကြ၏။ မေတ္တာသည် ဘာဝနာသာ ဖြစ်၍ နဝင်္ဂဥပုသ် စောင့်သူသည် ရှစ်ပါးသီလ ဆောက်တည်ပြီးနောက် ဆိတ်ငြိမ်ရာအရပ်သို့ ချဉ်းကပ်၍ မေတ္တာကမ္မဋ္ဌာန်း စီးဖြန်းနေလျှင် နဝင်္ဂသီလ, နဝင်္ဂဥပုသ်ဆောက်တည်ပြီး ဖြစ်တော့သည်။

အင်္ဂုတ္တရပါဠိတော်၌ "မေတ္တာသဟဂတေန စေတသာ ဧကံ ဒိသံ ဖရိတွာ ဝိဟာရတိ"ဟူ၍ ဆိုသည်မှာ အရပ်မျက်နှာကို မမှတ်ဘဲ ပွားများခြင်းထက် အရပ်မျက်နှာကို မှတ်၍ ပွားများခြင်းက သာလွန်ထိရောက်သည့် အကြောင်း ပြလို၍ ဖြစ်သည်။

ဝိသုဒ္ဓါရုံကျမ်းတော်ဖွင့်တွင် နဝင်္ဂသီလကို ပြဆိုရာ၌ အဋ္ဌင်္ဂသီလတွင် ဗြဟ္မဝိဟာရလေးပါးတည်းမှ မိမိထိန်းလိုရာ တစ်ပါးပါးကို ထည့်သွင်း ထိန်းသိမ်း စောင့်ရှောက်ရမည်၊ သီလ မဟုတ်သော သမာဓိကိုပင် ပုဂ္ဂိုလ်အကြိုက် လိုက်လျောလျက် သီလပြုလုပ်၍ ဟောတော်မူသည်၊ ကောင်းမှုဟူသမျှကို သီလ ပြုလုပ်၍ ဆောက်တည်ကောင်းသည်ကို ပြတော်မူ၏ဟု မှတ်ချက်ပြုထားသည်။

ဗြဟ္မစိုရ်တရားလေးပါးရှိပါလျက် မေတ္တာကိုသာအထူးထုတ်၍ ရှစ်ပါးသီလနှင့် တွဲစပ်ကာ နဝင်္ဂဥပုသ်အနေဖြင့် ဟောတော်မူခြင်းမှာ မေတ္တာတရားက အကျိုး ကြီးမားသောကြောင့် ဟောတော်မူခြင်း ဖြစ်သည်ဟု မဟာဗုဒ္ဓဝင်ပထမတွဲ

(ပထမပိုင်း) အနုဒီပနီ(ထော)၌ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော် မိန့်ကြားတော်မူသည်၊ မြတ်စွာဘုရားရှင် ဟောကြားသော မေတ္တာသုတ် ဒေသနာသည် ခုဒ္ဒကပါဠ ပါဠိတော်နှင့် သုတ္တနိပါတ် ပါဠိတော်တို့၌ ထင်ရှား ရှိ၏၊ အင်္ဂုတ္တိုရ်ပါဠိတော် ကောဒသကနိပါတ်၌ မေတ္တာအကျိုး တစ်ဆယ့်တစ် မျိုးကို အောက်ပါအတိုင်း ဟောကြားတော်မူသည်—

**မေတ္တာအကျိုး ၁၁-မျိုး**

(၁) ချမ်းသာစွာ အိပ်ရခြင်း၊

(၂) ချမ်းသာစွာ နိုးရခြင်း၊

(၃) မကောင်းသောအိပ်မက် မမြင်မက်ခြင်း၊

(၄) လူများ ချစ်ခင်ခြင်း၊

(၅) နတ်ဘီလူးများ ချစ်ခင်ခြင်း၊

(၆) နတ်များ စောင့်ရှောက်ခြင်း၊

(၇) မီးလောင်မှု အဆိပ်သင့်မှု လက်နက်စူးဝင်မှု မရှိခြင်း၊

(၈) စိတ်တည်ကြည်လွယ်ခြင်း၊

(၉) မျက်နှာအဆင်း ကြည်ကြည်လင်လင် ရှိခြင်း၊

(၁၀) သေချိန်ကျသောအခါ မတွေမဝေ သေရခြင်း၊

(၁၁) ယခုဘဝ၌ မဂ်ဖိုလ်ကို ထိုးထွင်း သိမြင်နိုင်၏၊ အကယ်၍ မသိနိုင် သေးလျှင် ဗြဟ္မာ့ပြည်သို့ လားရခြင်း။

ဤသို့ ဟောကြားတော်မူသောကြောင့် မေတ္တာတရားက သီလထက် ပိုမို၍ တန်ခိုးအာနိသင် ကြီးမားကြောင်း သိသာထင်ရှားသည်။

ထိုမေတ္တာအကျိုး တစ်ဆယ့်တစ်မျိုးနှင့် ပတ်သက်၍ မင်းကွန်းတောင်ရိုး ပဏ္ဍမြားဆရာတော် ဘဒ္ဒန္တဇာဂရ (အဂ္ဂမဟာပဏ္ဍိတ)က အောက်ပါအတိုင်း လင်္ကာသီကုံးထားခဲ့ပါသည်—

> အင်္ဂုတ္တရ၊ ဧကာဒသ၌၊ ဗုဒ္ဓမြတ်စွာ၊ မိန့်တော်မူသည်၊ မေတ္တာ အကျိုး၊ ဆယ့်တစ်မျိုးမှာ၊ ချမ်းသာအိပ်နိုး၊ အိပ်မက်ဆိုးကို၊ မြင်ရိုး မထင်၊ လူ့နတ်ပင်ချစ်၊ နတ်လျှင်စောင့်ငြား၊ အဆိပ်များနှင့်၊ မီး ဓား

မဝင်၊ ဘေားမမြင်တည်း၊ စိတ်လျှင်တည်ကြည်၊ မျက်ဆင်းကြည်၏၊ သေမည်မတွေ့၊ မြဟ္မာ့ပြည်သို့၊ ရောက်လေမိန့်မှာ၊ မော်ကွန်းဖြာသည်၊ လေ့လာလူတို့ မှတ်ဖွယ်တည်း။

## ဆယ်ပါးသီလ

**သီလတောင်းပုံ**

အဟံ ဘန္တေ တိသရဏေန သဟ ဒသ ဂဟဋ္ဌသီလံ ဓမ္မံ ယာစာမိ၊ အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။

ဒုတိယမ္ပိ အဟံ ဘန္တေ....စသည် ဆက်ဆိုပါ။

တတိယမ္ပိ အဟံ ဘန္တေ....စသည် ဆက်ဆိုပါ။

ဘန္တေ၊ အရှင်ဘုရား။ အဟံ၊ တပည့်တော် (တပည့်တော်မ) သည်။ တိသရဏေန၊ သရဏဂုံသုံးပါးနှင့်။ သဟ၊ တကွ။ ဒသ ဂဟဋ္ဌသီလံ၊ လူတို့၏ ဆယ်ပါးသီလ ဖြစ်သော။ ဓမ္မံ၊ သိက္ခာပုဒ်တရားတော်ကို။ ယာစာမိ၊ တောင်းပန်ပါ၏။ ဘန္တေ၊ အရှင်ဘုရား။ အနုဂ္ဂဟံ၊ ချီးမြှောက်ခြင်းကို။ ကတွာ၊ ပြု၍။ မေ၊ တပည့်တော် (တပည့်တော်မ) အား။ သီလံ၊ သီလကို။ ဒေထ၊ ပေးတော်မူပါဘုရား။

ဒုတိယမ္ပိ၊ နှစ်ကြိမ်မြောက်လည်း....စသည် ဆက်ဆိုပါ။

တတိယမ္ပိ၊ သုံးကြိမ်မြောက်လည်း....စသည် ဆက်ဆိုပါ။

(အာမ ဘန္တေ)

နမော တဿ ၃-ခေါက် ဆိုပါ။

သရဏဂုံသုံးပါး ၃-ခေါက် ဆိုပါ။

**ဆယ်ပါးသီလ**

၁။ ပါဏာတိပါတာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၂။ အဒိန္နာဒါနာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၃။ အဗြဟ္မစရိယာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၄။ မုသာဝါဒါ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၅။ သုရာမေရယမဇ္ဇပ္ပမာဒဋ္ဌာနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၆။ ဝိကာလဘောဇနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၇။ နစ္စဂီတဝါဒိတဝိသူကဒဿနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၈။ မာလာဂန္ဓ ဝိလေပန ဓာရဏ မဏ္ဍန ဝိဘူသနဋ္ဌာနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၉။ ဥစ္စာသယနမဟာသယနာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

၁၀။ ဇာတရူပရဇတပဋိဂ္ဂဟဏာ ဝေရမဏိသိက္ခာပဒံ သမာဒိယာမိ။

**အနက်**

အမှတ်စဉ် ၁-မှ အမှတ်စဉ် ၉-အထိ အနက်ထူပြီ။

၁၀။ ဇာတရူပရဇတပဋိဂ္ဂဟဏာ၊ ရွှေငွေကိုကိုင်ခြင်း, ခံယူခြင်း, စီမံခြင်းမှ။ ဝေရမဏိသိက္ခာပဒံ၊ ရှောင်ကြဉ်ရကြောင်း ကောင်းမြတ်သော သိက္ခာပုဒ်ကို။ သမာဒိယာမိ၊ ကောင်းစွာ ကျင့်သုံး ခံယူဆောက်တည်ပါ၏။

**မြန်မာပြန်**

၁။ သူ့အသက်ကို သတ်ခြင်းမှ ရှောင်ကြဉ်ပါ၏။

၂။ သူတပါးဥစ္စာကို ခိုးယူခြင်းမှ ရှောင်ကြဉ်ပါ၏။

၃။ မမြတ်သောမေထုန်အကျင့်မှ ရှောင်ကြဉ်ပါ၏။

၄။ လိမ်လည်လှည့်ပတ်ပြောဆိုခြင်းမှ ရှောင်ကြဉ်ပါ၏။

၅။ သေရည်သေရက် သောက်စားခြင်းမှ ရှောင်ကြဉ်ပါ၏။

၆။ နေလွဲအခါ ညစာ စားခြင်းမှ ရှောင်ကြဉ်ပါ၏။

၇။ အကုသိုလ်များကြောင်း မကောင်းမှုဖြစ်သော ကခြင်း, သီဆိုခြင်း, တီးမှုတ်ခြင်းတို့ကို သာသနာတော်၏ ဆန့်ကျင်ဘက် ငြောင့်တံကျင်သဖွယ်ဖြစ်သော ကြည့်ရှုနားထောင်ခြင်းမှ ရှောင်ကြဉ်ပါ၏။

၈။ ပန်းပန်ခြင်း, နံ့သာလိမ်းကျံခြယ်လှယ်ခြင်းမှ ရှောင်ကြဉ်ပါ၏။

၉။ မြင့်သောနေရာ မြတ်သောနေရာ၌ အိပ်စက်နေထိုင်ခြင်းမှ ရှောင်ကြဉ်ပါ၏။

၁၀။ ရွှေငွေကို ကိုင်ခြင်း၊ ခံယူခြင်း၊ စီမံခြင်းမှ ရှောင်ကြဉ်ပါ၏။

## ဆယ်ပါးသီလအဖွင့်

ပါဏာတိပါတမှ ဥစ္စာသယနမဟာသယနထိ သိက္ခာပုဒ်များကို (၈)ပါးသီလ၌ ဖွင့်ဆိုခဲ့ပြီ။

### နစ္စဂီတနှင့် မာလာဂန္ဓခွဲရခြင်းအကြောင်း

နစ္စဂီတသိက္ခာပုဒ်အရ ကခြင်း သီဆိုခြင်း တီးမှုတ်ခြင်း ကြည့်ရှုနားထောင်ခြင်းတို့သည် တစ်ခုနှင့်တစ်ခု သဘောချင်း ဆက်သွယ်နေသည်။ ထို့ကြောင့် ထိုအမှုများမှ ရှောင်ကြဉ်ခြင်းကို သိက္ခာပုဒ်တစ်ပါးအဖြစ် ခွဲခြားခြင်းဖြစ်သည်။

### မာလာဂန္ဓသိက္ခာပုဒ်အရ

ပန်းပန်မှု, နံ့သာလိမ်းကျံမှု စသည်တို့သည် တစ်ခုနှင့်တစ်ခု သဘောချင်း ဆက်သွယ်နေသည်၊ ထို့ကြောင့် ထိုအမှုများမှ ရှောင်ကြဉ်ခြင်းကို သိက္ခာပုဒ်တစ်ပါးအဖြစ် ခွဲခြားထားသည်၊ နစ္စဂီတသိက္ခာပုဒ်၌ ပါဝင်သော အမှုများနှင့် မာလာဂန္ဓသိက္ခာပုဒ်၌ ပါဝင်သော အမှုများကား တစ်ခုနှင့်တစ်ခု သဘောချင်း မဆက်သွယ်လှပါ၊ ထို့ကြောင့် နစ္စဂီတဆိုင်ရာနှင့် မာလာဂန္ဓဆိုင်ရာကို ခွဲခြား၍ သိက္ခာပုဒ် ၂-ပါး ဖြစ်ရပေသည်။

### သိက္ခာပုဒ်နှစ်ခု ခွဲခြင်း တွဲခြင်း

ရှစ်ပါးသီလ၌ နစ္စဂီတသိက္ခာပုဒ်နှင့် မာလာဂန္ဓသိက္ခာပုဒ်တို့ကို ပေါင်းစပ်ထားရသည်။ ၉-ပါးသီလ၌မူ နစ္စဂီတနှင့် မာလာဂန္ဓသိက္ခာပုဒ်နှစ်ခုကို ခွဲခြားထား၏၊ သို့သော် ရှစ်ပါးသီလ၌ ရှေးရိုးစဉ်လာ ထုံးစံအားဖြင့် ထို (၈)ပါးတွင် အားလုံးစုံပါဝင်နိုင်ရန် နစ္စဂီတနှင့် မာလာဂန္ဓကို ပေါင်း၍ သိက္ခာပုဒ်တစ်ခုတည်းအဖြစ် ခုဒ္ဒကအဋ္ဌကထာ, ဝိသုဒ္ဓိမဂ် မဟာဋီကာတို့၌ မိန့်တော်မူအပ်သည်။ ထို့ကြောင့် ရှစ်ပါးသီလကို ဆောက်တည်ရာ၌ နစ္စဂီတနှင့် မာလာဂန္ဓနှစ်ပါးကို တစ်ပါးတည်း ပြုလုပ်တွဲဖက်၍ ခံယူဆောက်တည်ခြင်း ဖြစ်သည်။ နစ္စဂီတအမှုလည်း ကာမဂုဏ်အရာ၌ လျှပ်ပေါ်သောအမှု၊ မာလာဂန္ဓသည်လည်း ထိုအတူ ကာမဂုဏ်အရာ၌ လျှပ်ပေါ်သောအမှုဖြစ်၍ ဥပုသ်သီလနှင့် ဆန့်ကျင်၏၊ ဘာဝနာပွားများခြင်းနှင့်လည်း ဖြောင့်ဖြောင့်ဆန့်ကျင်၏။ ဤသို့ ဆန့်ကျင်ဘက်ချင်း တူသည်အဖြစ်ကြောင့် တစ်ပါးတည်း ပူးတွဲထားခြင်း ဖြစ်သည်။

ဆယ်ပါးသီလဆောက်တည်ရာ၌ နစ္စဂီတသိက္ခာပုဒ်သည် ကိုယ်တိုင် ကခုန်တီးမှုတ်ခြင်း၊ သူတပါးတို့ကို ကခုန်တီးမှုတ်စေခြင်း စသည်ဖြင့် ကာယဒွါရ, ဝစီဒွါရ, ကာယကံ, ဝစီကံ ကိုယ်တိုင် ပြုခြင်း၊ စေခိုင်းခြင်း အစုစုတို့နှင့်

ဆက်ဆံသော သိက္ခာပုဒ်အထူးတည်း၊ မာလာဂန္ဓသိက္ခာပုဒ်သည် မိမိကိုယ်တိုင် ပန်းပန်ခြင်း အစရှိသည်တို့ဖြင့် ပြုအပ်သည်ဖြစ်ရကား ကာယဒွါရ, ကာယကံ ကိုယ်တိုင် ပြုခြင်း တစ်မျိုးနှင့်သာ ဆက်ဆံသော သိက္ခာပုဒ်အထူးတည်း။ ဤသို့အားဖြင့် သိက္ခာပုဒ်နှစ်ပါးတို့၏ ကံဒွါရပယောဂအားဖြင့် မတူထူးခြားသော သဘောလက္ခဏာရှိသောကြောင့် ဆယ်ပါးသီလအရာ၌ ခွဲခြား၍ ရှစ်ပါးသီလ အရာ၌သာ တပေါင်းတည်း တွဲထားခြင်းကို ပြု၏ဟု တပ်အပ်သေချာမှတ်ယူရာ၏ (ပရမတ္ထသရူပအနုဝဏ္ဏနာ၊ဒုတိယတွဲ။၄၆၀)။

လုံးတော် ဆရာတော်ကြီးကား အဋ္ဌင်္ဂသီလ၌ လောကီလူတို့ ရာဂလျှင် ပြဋ္ဌာန်းခြင်း အကြောင်းရင်းရှိသည်ဖြစ်၍ ဖြစ်သောအကုသိုလ်စေတနာတစ်ခုကို သာလျှင် ရည်ရွယ်တော်မူ၍ နစ္စဂီတသိက္ခာပုဒ်နှင့် မာလာဂန္ဓသိက္ခာပုဒ်ကို တစ်ပါးတည်း တစ်ခုတည်း ပြုတော်မူ၏၊ ဆယ်ပါးသီလ၌ကား ကစားမြူးထူးလိုမှု စေတနာကို ရည်ရွယ်၍ နစ္စဂီတသိက္ခာပုဒ်တစ်ခု၊ အလှပြင်လိုသည့်စေတနာကို ရည်ရွယ်၍ မာလာဂန္ဓသိက္ခာပုဒ်တစ်ခု ဤသို့ သိက္ခာပုဒ်နှစ်ပါးခွဲခြား၍ ပြတော်မူ၏ဟူ၍ မိန့်တော်မူသည်။

## ဇာတရူပသိက္ခာပုဒ်အဖွင့်

ဇာတရူပအရ ရွှေတုံးရွှေခဲသာမက ရွှေဖြင့် ပြုလုပ်ထားသော အဝတ်တန်ဆာအားလုံး အကျုံးဝင်သည်။

ရဇတအရ ဘော်သာခွါငွေကိုသာမက ရောင်းဝယ်မှု သုံးစွဲရိုးဖြစ်သော ငွေစက္ကူအားလုံး အကျုံးဝင်သည်။

ပဋိဂ္ဂဟဏအရ လက်ဖြင့် ကိုင်ခြင်း, ခံယူခြင်းသာမက ရှောင်ကြဉ်ဖွယ် (၅)မျိုးကိုပါ ဆိုလိုသည်။ယင်း ၅-မျိုးကို လယ်တီဆရာတော်ဘုရားကြီး၏ သီလဝိနိစ္ဆယ (၉၉) ၌ အောက်ပါအတိုင်း ဖော်ပြထားပါသည်—

ရှောင်ကြဉ်ဖွယ် ၅-မျိုး

(၁) ကိုယ်တိုင်ခံယူခြင်း၊

(၂) သူတပါးအား ခံယူခိုင်းခြင်း၊

(၃) အဝေးအနီး၌ ထား၍ လှူသည်ကို သာယာခြင်း၊

(၄) မလျော်သော စီမံခြင်း၊

(၅) ကိုင်တွယ်ထိတွေ့ သုံးသပ်ခြင်း။

ဆယ်ပါးသီလစောင့်ထိန်းသူတို့မှာ ထို ၅-ပါးသောအမှုတို့ကို လွတ်ကင်းစေရမည်၊ နဂိုက ရှိနေသော ရွှေငွေရတနာတို့ကို စိတ်သက်သက်ဖြင့် အာရုံပြုကာ (ငါ့ရွှေ ငါ့ငွေဟု) သာယာသော်လည်း အပြစ်မရှိ သိက္ခာပုဒ်မပျက်။

ဤအချက်ကို ထောက်ဆ၍ ဆယ်ပါးသီလစောင့်သူ လူတို့သည် မိမိ၌ ရှိသော ရွှေငွေကို ယုံကြည်လောက်သော သူထံ အပ်နှံထားရသည်၊ ဆယ်ပါးသီလစောင့်ထိန်းထားသည့်အတောအတွင်း ထိုရွှေငွေကို မကိုင်ရ၊ ဘယ်လိုထားလိုက်ပါ၊ သိမ်းဆည်းထားလိုက်ပါဟုလည်း မပြောရ၊ ထိုရွှေငွေဖြင့် ဘာဝယ်လိုက်ပါ စသည်လည်း မပြောရ၊ မိမိအသုံးလိုသော ပစ္စည်းကိုသာ "ဘာလိုချင်သည်, ဘာစားချင်သည်" စသည်ဖြင့် ပြောဆိုရမည်။ သူတပါးက ငွေလာပေးခဲ့သော် ထိုငွေကို ကိုယ်တိုင် မယူရ၊ သူများကိုလည်း မခိုင်းရ၊ မိမိအိမ်သူအိမ်သားတစ်ယောက်ယောက်က အလိုက်သိပြီး ယူထားလျှင် မိမိမှာ အပြစ်မရှိ။ စာတိုက်မှ မန်းနီးအော်ဒါဖြင့် ငွေလာလျှင် ငွေရရှိကြောင်း လက်မှတ်ထိုးရုံမျှဖြင့် အပြစ်မရှိ၊ လက်မှတ်ထိုးပြီးနောက် စာပို့သမားက ပေးသော ငွေကို ကိုယ်တိုင် မယူရ၊ သူများကိုလည်း အယူမခိုင်းရ၊ နားလည်သူ တစ်ဦးဦးက အလိုက်သိ လက်ခံယူထားလျှင် အပြစ်မရှိ၊ ဆယ်ပါးသီလစောင့်ထိန်းနေသောအခါ ရွှေငွေသာမက စိန် ကျောက် ပုလဲ ပတ္တမြားစသော ရတနာများကိုလည်း မကိုင်ရချေ။ ဤကား လယ်တီဆရာတော်ဘုရား၏ သီလဝိနိစ္ဆယ (၁၀၀)မှ ထုတ်နုတ်ချက်တည်း။

**ဆယ်ပါးသီလ စောင့်ကောင်းသလော**

အချို့က ဆယ်ပါးသီလကို ရှင်သာမဏေများသာ စောင့်ထိန်းအပ်၏၊ လူများမှာ သစ်ခေါက်ဆိုး ဝတ်၍ အမြဲစောင့်နိုင်မှ စောင့်ကောင်းသည်ဟု ဆိုကြ၏၊ အချို့ကလည်း မိမိ၌ ရှိနေသော ရွှေငွေဥစ္စာများကို စွန့်ပစ်နိုင်မှ စောင့်ကောင်းသည်ဟု ဆိုကြ၏၊ သို့သော် ဗုဒ္ဓဘုရားရှင်၏ ညီတော်မင်းသားသုံးယောက်သည် မိမိ၌ ရှိနေသော ရွှေငွေပစ္စည်းများကို တခါတည်းပြတ်အောင် သူတပါးအား အပိုင်မပေးကြဘဲ သက်ဆိုင်ရာ ဘဏ္ဍာစိုးအား အပ်နှံထားပြီး တစုံတရာ စီမံခြင်း မပြုကြတော့ဘဲ ဆယ်ပါးသီလ စောင့်ကြောင်း လာရှိပါသည်။

ဤကမ္ဘာမှ ပြန်၍ ရေတွက်သည့်ရှိသော် ၉၂-ကမ္ဘာထက်၌ ဖုဿမည်သော ဘုရားရှင်ပွင့်တော်မူပါသည်။ ထိုဘုရားရှင်၏ ညီတော် မင်းသားသုံးယောက်တို့သည် စည်းစိမ်များကို ဘဏ္ဍာစိုးနှင့်အခွန်ဝန်အား လွှဲအပ်၍ ကိစ္စအရပ်ရပ်ကို မှာထားပြီးလျှင် ကျွန်ရင်းတစ်ထောင်နှင့်တကွ ဝါတွင်းသုံးလပတ်လုံး ဆယ်ပါး

သီလစောင့်ထိန်းလျက် ကျောင်းတော်မှာ နေကြပါသည်။ လှူအပ်ခဲ့သော ဘဏ္ဍာစိုးက ဘုရားအမှူးရှိသော သံဃာတော်များနှင့်တကွ မင်းသား၊ မင်းသားတို့၏ အခြွေအရံများအတွက်ပါ ချက်ပြုတ်ပြုစုကြရ၏ (အံ၊၄၊၁။ ၂၃၁)။

ရာဟုလာ စသော အလောင်းမင်းသား သုံးပါးတို့သည် ရွှေ ငွေ စပါး ဥစ္စာ ဖြစ်ပွားအောင် ပြုတတ်သော သူတို့ကို အလျှုတင်းကုပ်၌ ထားခဲ့ပြီး၍ မိမိတို့မှာ ကျောင်းတော်သို့ သွား၍ ဆယ်ပါးသီလစောင့်ထိန်းနေကြကြောင်း အင်္ဂုတ္တိုရ်အဋ္ဌကထာ၌ လာရှိသည် (အံ၊၄၊၁။ ၂၀၁)။

ထို့ကြောင့် ဆယ်ပါးသီလကို လူဝတ်ကြောင်များ စောင့်ထိန်းကောင်းသည်ဟု မှတ်ရမည်။

# အခန်း (၁၉)

## အာဇီဝဋ္ဌမကသီလ

အသက်မွေးဝမ်းကျောင်းအတွက် ပစ္စည်းဥစ္စာရှာဖွေရသော အလုပ်အကိုင် ဟူသမျှကို ပါဠိလို "အာဇီဝ"ဟု ခေါ်၏။ မတရားသော ပစ္စည်းဥစ္စာ ရှာဖွေ အသက်မွေးမှုကို "မိစ္ဆာဇီဝ"ဟု ခေါ်သည်။ ထိုမိစ္ဆာဇီဝမှ ရှောင်ကြဉ်၍ တရားသဖြင့် ပစ္စည်းဥစ္စာရအောင် ရှာဖွေ အသက်မွေးမှုကို "သမ္မာအာဇီဝ"ဟု ခေါ်သည်။ မိစ္ဆာဇီဝမှ ရှောင်ကြဉ်မှု သိက္ခာပုဒ်သည် ရှစ်ပါးမြောက်သိက္ခာပုဒ် ဖြစ်သည်။ ထိုအာဇီဝသိက္ခာပုဒ်ရှစ်ပါးမြောက် ရှိသော သီလကို "အာဇီဝဋ္ဌမက သီလ"ဟု ခေါ်၏။

အာဇီဝဋ္ဌမက=အာဇီဝ+အဋ္ဌမ+က။

အာဇီဝ=အသက်မွေးမှု၊

အဋ္ဌမ=ရှစ်ခုမြောက်၊

က=ရှိသော၊

=အသက်မွေးမှုလျှင် ရှစ်ခုမြောက်ရှိသော သီလ၊

**အာဇီဝဋ္ဌမကသီလတောင်းပုံ**

အဟံ ဘန္တေ တိသရဏေန သဟ အာဇီဝဋ္ဌမကသီလံ ဓမ္မံ ယာစာမိ၊ အနုဂ္ဂဟံ ကတွာ သီလံ ဒေထ မေ ဘန္တေ။

ဒုတိယမ္ပိ...စသည် ဆက်ဆိုပါ။

တတိယမ္ပိ...စသည် ဆက်ဆိုပါ။

**အနက်**

ဘန္တေ၊ အရှင်ဘုရား။ အဟံ၊ တပည့်တော် (တပည့်တော်မ) သည်။ တိသရဏေန၊ သရဏဂုံသုံးပါးနှင့်။ သဟ၊ တကွ။ အာဇီဝဋ္ဌမကသီလံ၊ အာဇီဝဋ္ဌ-မကသီလ တည်းဟူသော။ ဓမ္မံ၊ သိက္ခာပုဒ် အကျင့်ကို။ ယာစာမိ၊ တောင်းပန်ပါ၏။

ဒုတိယမ္ပိ၊ နှစ်ကြိမ်မြောက်လည်း ...စသည် ဆက်ဆိုပါ။

တတိယမ္ပိ၊ သုံးကြိမ်မြောက်လည်း ...စသည် ဆက်ဆိုပါ။

**သီလခံယူပုံ**

၁။ ပါဏာတိပါတာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၂။ အဒိန္နာဒါနာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၃။ ကာမေသုမိစ္ဆာစာရာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၄။ မုသာဝါဒါ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၅။ ပိသုဏာဝါစာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၆။ ဖရုသဝါစာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၇။ သမ္ဖပ္ပလာပဝါစာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၈။ မိစ္ဆာဇီဝါ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

**အနက်**

၁။ ပါဏာတိပါတာ<br>
၂။ အဒိန္နာဒါနာ<br>
၃။ ကာမေသုမိစ္ဆာစာရာ<br>
၄။ မုသာဝါဒါ<br>
} ငါးပါးသီလ အတိုင်း

၅။ ပိသုဏာဝါစာ၊ ချောပစ်ကုန်းတိုက်သော စကားကို ပြောဆိုခြင်းမှ။ ဝေရမဏီသိက္ခာပဒံ၊ ရှောင်ကြဉ်ရကြောင်း ကောင်းမြတ်သော သိက္ခာပုဒ်ကို။ သမာဒိယာမိ၊ ကောင်းစွာ ကျင့်သုံး ခံယူ ဆောက်တည်ပါ၏။

၆။ ဖရုသဝါစာ၊ ကြမ်းတမ်းစွာ ဆဲဆိုပြောဆိုခြင်းမှ။ ဝေရမဏီသိက္ခာပဒံ၊ ရှောင်ကြဉ်ရကြောင်း ကောင်းမြတ်သော သိက္ခာပုဒ်ကို။ သမာဒိယာမိ၊ ကောင်းစွာ ကျင့်သုံး ခံယူ ဆောက်တည်ပါ၏။

၇။ သမ္ဖပ္ပလာပဝါစာ၊ အကျိုးမရှိသော ဒဏ္ဍာရီ စသော ပြိန်ဖျင်းသော စကားကို ပြောဆိုခြင်းမှ။ ဝေရမဏီသိက္ခာပဒံ၊ ရှောင်ကြဉ်ရကြောင်း ကောင်းမြတ်သော သိက္ခာပုဒ်ကို။ သမာဒိယာမိ၊ ကောင်းစွာ ကျင့်သုံး ခံယူ ဆောက်တည်ပါ၏။

၈။ မိစ္ဆာဇီဝါ၊ မတရားစီးပွားရှာ အသက်မွေးခြင်းမှ။ ဝေရမဏီသိက္ခာပဒံ၊ ရှောင်ကြဉ်ရကြောင်း ကောင်းမြတ်သော သိက္ခာပုဒ်ကို။ သမာဒိယာမိ၊ ကောင်းစွာ ကျင့်သုံး ခံယူ ဆောက်တည်ပါ၏။

မြန်မာပြန်

၁။ သူတပါးအသက်ကို သတ်ခြင်းမှ ရှောင်ကြဉ်ပါ၏။

၂။ သူတပါးဥစ္စာကို ခိုးယူခြင်းမှ ရှောင်ကြဉ်ပါ၏။

၃။ ကာမဂုဏ်တို့၌ မှားယွင်းစွာ ကျင့်သုံးခြင်းမှ ရှောင်ကြဉ်ပါ၏။

၄။ မဟုတ်မမှန် မုသားပြောဆိုခြင်းမှ ရှောင်ကြဉ်ပါ၏။

၅။ သူနှစ်ဦး ကွဲပြားအောင် ချောပစ်ကုန်းတိုက်သော စကားကို ပြောဆိုခြင်းမှ ရှောင်ကြဉ်ပါ၏။

၆။ ကြမ်းတမ်းယုတ်မာ ကျိန်ဆဲသော စကားကို ပြောဆိုခြင်းမှ ရှောင်ကြဉ်ပါ၏။

၇။ အကျိုးမရှိသော ဒဏ္ဍာရီပုံပြင်စသော ပြိန်ဖျင်းသော စကားကို ပြောဆိုခြင်းမှ ရှောင်ကြဉ်ပါ၏။

၈။ မတရားစီးပွားရှာ အသက်မွေးခြင်းမှ ရှောင်ကြဉ်ပါ၏။

ဤအာဇီဝဋ္ဌမကသီလ ဆောက်တည်ပုံကို ပါဠိတော်, အဋ္ဌကထာတို့၌ တိုက်ရိုက်မပြကြပါ၊ ငါးပါးသီလ, ရှစ်ပါးသီလ စသည်ဆောက်တည်ပုံကို နည်းယူ၍ ရှေးပညာရှိကြီးများ ဆောက်တည်ပုံကို ရေးသားထားပါသည်။ "ပါဏာတိပါတာ ဝိရမာမိ" စသည်ဖြင့်လည်း ဆောက်တည်နိုင်ကြောင်း လယ်တီဆရာတော်ကြီးက သီလဝိနိစ္ဆယပေါင်းချုပ်ကျမ်း (၁၄၅)၌ ဖော်ပြထားပါသည်။

ငါးပါးသီလ, ရှစ်ပါးသီလ တစ်မျိုးမျိုးကို ဆောက်တည်ပြီးမှ ဤအာဇီဝဋ္ဌမကသီလကို ဆက်လက်ဆောက်တည်ရာ၌ကား "မုသာဝါဒါ ဝေရမဏီ" တိုင်အောင် ရှေးသီလများ၌ ပါဝင်ပြီး ဖြစ်၍ နောက်ထပ် ဆောက်တည်ဖွယ် မလိုပါ၊ "ပိသုဏာဝါစာ ဝေရမဏီ"မှ စ၍ နောက်သိက္ခာပုဒ် ၄-ပါးကိုသာ ဆက်လက်၍ ဆောက်တည်နိုင်ပါသည်။

ဤအာဇီဝဋ္ဌမကသီလသည် တစ်ကြိမ်ဆောက်တည်ထားပြီးဖြစ်လျှင် အသက်မွေးမှုစင်ကြယ်နေသမျှ ပိသုဏာဝါစာ စသည်ကို မပြောဆိုသမျှ သီလမပျက်သောကြောင့် နေ့စဉ်ဆောက်တည်ဖွယ် မလိုပါ၊ အခြားသော ငါးပါးသီလ, ရှစ်ပါးသီလများလည်း မကျိုးမပျက်သမျှ ထပ်၍ ဆောက်တည်ဖွယ် မလိုပါ၊ သို့သော် ထပ်၍ ဆောက်တည်ခြင်းကြောင့် အပြစ်မရှိပါ။

ဤသိက္ခာပုဒ် ရှစ်ပါးတွင် နံပါတ်(၁)မှ စ၍ (၇)အထိ သိက္ခာပုဒ်တို့မှာ သုစရိုက်ဆယ်ပါးတွင် ကာယကံ ၃-ပါးနှင့် ဝစီကံ ၄-ပါးတို့ဖြစ်သည်။ ထိုရှစ်ပါး လုံခြုံပြီးသောသူ၌ အသက်မွေးဝမ်းကျောင်းနှင့် စပ်ဆိုင်သော အရောင်းအဝယ် အလုပ်အကိုင်များ စင်ကြယ်ပါမူ အာဇီဝဋ္ဌမကသီလ ဆောက်တည်ပြီးသား ဖြစ်ပါသည်၊ ဆောက်တည်သည် ဖြစ်စေ, မဆောက်တည်သည် ဖြစ်စေ လုံခြုံပြီးသား ဖြစ်ပါသည်။ ဆောက်တည်လျှင်ကား ဆောက်တည်မှုအတွက် သမာဒါနဝိရတီကုသိုလ် ဖြစ်ပါသည်။

ဤအာဇီဝဋ္ဌမကသီလ ၈-ပါးအနက် အမှတ်စဉ်(၁) ပါဏာတိပါတမှ အမှတ်စဉ်(၄) မုသာဝါဒအထိ သိက္ခာပုဒ် ၄-ပါး၏ အနက်အဓိပ္ပာယ်ကို ၅-ပါးသီလခန်း၌ အကျယ်ဖွင့်ဆိုပြီး ဖြစ်၍ ကျန်သိက္ခာပုဒ် ၄-ပါးကို ဆက်လက် ဖွင့်ဆိုရှင်းလင်းပါမည်။

## ပိသုဏဝါစာအဖွင့်

သူနှစ်ယောက်တို့၏ ညီညွတ်နေမှုကို ကွဲပြားအောင် တစ်ယောက်၏အပြစ်ကို တစ်ယောက်ထံ ပြောကြားခြင်းဖြင့် တစ်ယောက်နှင့်တစ်ယောက် အချစ်ပြယ်၍ ညီညွတ်မှုကွဲပြားလေသည်၊ ထိုသို့ ကုန်းတိုက်သောစကား ပြောဆိုမှု၌ ရှောင်ကြဉ်မှုသည် ပိသုဏဝါစာဝေရမဏီ ဖြစ်၏။

ပိသုဏဝါစာကံမြောက်ရန် အင်္ဂါ ၅-ပါးရှိ၏၊ ယင်းတို့မှာ—

(၁) ညီညွတ်သူနှစ်ဦး ရှိခြင်း၊

(၂) ကွဲပြားစေလိုသောစိတ်ရှိခြင်း,မိမိကို ချစ်စေလိုသော စိတ်ရှိခြင်း၊

(၃) ကွဲပြားအောင် လှုံ့လပြုအားထုတ်ခြင်း၊

(၄) ထိုသို့ ပြောသည်ကို သူနှစ်ဦးတို့က နားလည်ခြင်း၊

(၅) ကွဲပြားခြင်း—

ဟူ၍ အင်္ဂါ ၅-ပါးရှိပါသည်။ မိမိအား ချစ်စေလိုသော စိတ်မပါသော်လည်း သူနှစ်ဦးတို့ ကွဲပြားလျှင် ပိသုဏဝါစာ ဖြစ်သည်။

မိတ်ဆွေ နှစ်ယောက်၏ ညီညွတ်မှုကို ကွဲပြားအောင် ကုန်းတိုက်သော သူသည် သေသည်၏ အခြားမဲ့၌ အပါယ်လေးပါး၌ ဆင်းရဲကြီးစွာ ခံရ၏။ အပါယ်လေးပါးမှ လွတ်ပြီးနောက် လူ့ဘဝရောက်သော အခါတွင်လည်း အောက်ပါ ဆိုးကျိုးများကို ခံစားရလေသည်—

(၁) အဆွေခင်ပွန်း ချစ်ကျွမ်းဝင်သော်သူတို့နှင့် စိတ်ဝမ်းကွဲပြားရခြင်း၊
(၂) သူတပါးလှို့လကြောင့် ခန္ဓာကိုယ်ပျက်စီးရခြင်း၊
(၃) အခြံအရံ မဲ့ခြင်း၊
(၄) သူတော်ကောင်းတရား၌ သက်ဝင်ယုံကြည်မှု သဒ္ဓါတရား မရှိခြင်း၊
(၅) မိတ်ဆွေအပေါင်းအသင်း မတည်မြဲခြင်း၊
(၆) လူအများ အမုန်းခံရခြင်း၊
(၇) စိတ်ဓာတ် ညစ်ညမ်းခြင်း။

ကဿပမြတ်စွာဘုရားလက်ထက်တော်အခါက အလိုကြီးသောရဟန်းတစ်ပါးသည် ရွာယာတစ်ခု၌ ကျောင်းအာဝါသကို အလိုရှိသည့်အတွက် မထေရ်နှစ်ပါးကို ကုန်းတိုက်ကာ ခွဲလေသည်၊ ဘဝပြောင်းသောအခါ ကဿပမြတ်စွာဘုရားနှင့် ဂေါတမမြတ်စွာဘုရားတို့၏ အကြား၌ အဝီစိငရဲ၌ ဆင်းရဲကြီးစွာ ခံစားရ၏၊ ဂေါတမဘုရားလက်ထက်တော်၌ ရာဇဂြိုဟ်ပြည်အနီး၌ ပူတိမုခပြိတ္တာ ဖြစ်ရလေ၏၊ ကာယကံ စောင့်ထိန်း၍ ကိုယ်မှာ ရွှေအဆင်းနှင့် တူပြီး နှုတ်မစောင့် ကုန်းတိုက်သောကြောင့် ခံတွင်းပုပ်၏၊ ခံတွင်းမှ ပိုးလောက်များလည်း ထွက်လေသည် (ဓမ္မ၊ဌ၊၂။၂၅၇။သုကရပေတဝတ္ထု)။

သူနှစ်ယောက်တို့၏ ညီညွတ်မှုကို ကွဲပြားအောင် ကုန်းတိုက်သော စကားကို ပြောဆိုခြင်း (ပိသုဏဝါစာ)မှ ရှောင်ကြဉ်သော ပုဂ္ဂိုလ်သည် ဖြစ်လေရာ ဘဝတိုင်း၌ အောက်ပါအကျိုးတရားများ ခံစားရသည်—

(၁) သူတပါးလှို့လကြောင့် ခန္ဓာကိုယ် မပျက်စီးခြင်း၊
(၂) စည်းစိမ်အခြံအရံ မြဲခြင်း၊
(၃) သဒ္ဓါတရား မပျက်ခြင်း၊
(၄) အဆွေခင်ပွန်း မိတ်ဆွေ မပျက်စီးနိုင်ခြင်း၊
(၅) လူအများ ချစ်ခင်ခြင်း၊
(၆) စိတ်ဓာတ် မညစ်ညူးခြင်း။

## ဖရုသဝါစာအဖွင့်

ဖရုသဝါစာ-ဟူသည် ကြေးဝံ့မနာသာ အယုတ်တမာ ဆဲဆိုမှု, ကွဲ့ခဲ့၍ သောပါစေ, ကားတုံ့ကိ၍ သေပါစေ, မြေ့ကိုက်၍ သေပါစေ ယုတ်ညံ့သော အင်္ဂါနှင့် နိူင်းခြင်း စသည်ဖြင့် ကျိန်ဆဲမှုများတည်း၊ တရားကိုယ်အားဖြင့် ဆဲဆိုကြောင်း စေတနာသည် ဖရုသဝါစာမည်၏၊ ပရမတ္ထစက္ကုကျမ်း စာမျက်နှာ (၂၁၂)၌ ဒီပဲယင်းဆရာတော်ကြီးက "ဖရုသပါစာ-၌ နှုတ်ထွက်ကြမ်းသည်ဖြစ်စေ, ချိုသာသည်ဖြစ်စေ စေတနာကြမ်းသည်ကိုသာ အကြမ်းဟု ဆိုရသည်၊ ထို့ကြောင့် မိဘတို့က သားသမီးတို့ကို ကျိန်ဆဲရာ၌ ဖရုသဝါစာမဖြစ်၊ ဘုရင်မင်းတို့သည် လူတစ်ယောက်ကို သတ်စေရာ၌ "ချမ်းသာစွာ အိပ်ပါစေ" ဟု ဆိုသည်၊ စကား ချိုသာသော်လည်း "ဖရုသဝါစာ" ဟူ၍ မိန့်တော်မူသည်။ ထိုဖရုသဝါစာ မှ ရှောင်ကြဉ်မှုသည် ဖရုသဝါစာ ဝေရမဏီ ဖြစ်၏။ ဖရုသဝါစာကံမြောက်ရန် အင်္ဂါ ၃-ပါးရှိ၏၊ ယင်းတို့မှာ—

(၁) အဆဲခံရသူ ရှိခြင်း၊

(၂) အမျက်ထွက်ခြင်း, စိတ်ဆိုးခြင်း၊

(၃) ဆဲရေးခြင်း—

တို့ဖြစ်ပါသည်။

**ဖရုသဝါစာ ကံ၏ အပြစ်များ**

ကြမ်းကြုတ်သော စကားကို ဆိုသော သူသည် သေသည့် အခြားမဲ့၌ အပါယ် လေးပါး၌ ဆင်းရဲကြီးစွာခံစားရ၏၊ အပါယ်လေးပါးမှ လွတ်ပြီးနောက် လူ့ဘဝ ရောက်သောအခါတွင်လည်း အောက်ပါဆိုးကျိုးများကို ခံစားရလေသည်—

(၁) မနှစ်သက်သော အသံကို ကြားရခြင်း၊

(၂) အများ အမုန်းခံရခြင်း၊

(၃) ကဲ့ရဲ့ပြစ်တင် ခံရခြင်း၊

(၄) ဆင်းဆင်းရဲရဲ နေထိုင်ရခြင်း၊

(၅) သာယာနာပျော်ဖွယ်သောအသံ မရှိခြင်း၊

(၆) အလုံးစုံသော အသံအင်္ဂါ ပျက်စီးခြင်း (ဆွံ့အခြင်း)။

ဗာရာဏသီပြည် နန္ဒိယဥပါသကာ သေလွန်ပြီးနောက် ဇနီးဖြစ်သူ ရေဝတီ သည် ဒါနဝတ်ကို ဖြတ်၍ အလှူခံ ပုဂ္ဂိုလ်တို့အား လှသားပမာ ကြမ်းကြုတ်သော စကားဖြင့် ဆဲရေးခြင်းကြောင့် ဘီလူးနှစ်ယောက် လာရောက်ဆွဲယူပြီး အသူတစ်ရာ နက်သော ဘင်ပုပ်ငရဲ၌ ပစ်ချသည်၊ အနှစ် နှစ်ထောင်ခံရ၏။

ကဿပဘုရား၏ သာသနာတော်၌ ရဟန်းတစ်ပါးသည် ရဟန်းများကို ကြမ်းကြုတ်စွာ ဆဲဆိုသည့်အတွက် ဘုရ ၂နှစ်ဆူ ကြားကာလတွင် ငရဲ၌ ကြီးစွာ ဆင်းရဲခံစားရ၏၊ ဂေါတမဘုရားလက်ထက် ရောက်သောအခါ ဂိဇ္ဈကုဋ်တောင် ခြေ၌ ကာယကံ စောင့်ခဲ့၍ ရွှေအဆင်းနှင့် တူသောကိုယ်, ဝစီကံ မစောင့်၍ ဝက်နှုတ်သီးနှင့် တူသော ပါးစပ်ရှိသော ပြိတ္တာဖြစ်ရလေသည်။

**နန္ဒိဝိသာလနွား**

မြတ်စွာဘုရား ဇေတဝန်ကျောင်းတော်၌ မနေတော်မူစဉ် ဆဗ္ဗဂ္ဂီရဟန်းတို့ကို အကြောင်းပြု၍ ဖရုသဝါစာ (ကြမ်းတမ်းသော စကား)ကို တိရစ္ဆာန်များပင် မနှစ်သက်ကြောင်း မိန့်ကြားတော်မူပါသည်။

ရှေးအခါက ဂန္ဓာရတိုင်း တက္ကသိုလ်ပြည် ဂန္ဓာရမင်းလက်ထက် ပုဏ္ဏား တစ်ယောက်၏ အိမ်တွင် ဘုရားလောင်းသည် နွားမျိုး၌ ဖြစ်၍ "နန္ဒိဝိသာလ" ဟု အမည်ရ၏။ ဘုရားလောင်းနွားသည် အရွယ်ရောက်သောအခါ ပုဏ္ဏားကြီးအား ကျေးဇူးဆပ်လိုသဖြင့် ဂေါဝိန္ဒကသူဌေးထံသွားပြီး ငါ၏နွားလားသည်လှည်းအစီး တစ်ရာကို တစ်ကြိမ်တည်း ရုန်းနိုင်ကြောင်းပြော၍ အသပြာတစ်ထောင်လောင်း လော့ဟု ပြောလေသည်၊ ပုဏ္ဏားလည်း ဘုရားလောင်းနွား ခိုင်းသည့်အတိုင်း ပြု၏၊ လှည်းအစီးတစ်ရာကို သဲ,ကျောက်စရစ်, ကျောက်ခဲတို့ဖြင့် ပြည့်စေ၍ နန္ဒိဝိသာလနွားကို ပန်းနံ့သာတို့ဖြင့် လိမ်းကျံပြီး ပဓာမဆုံးလှည်း၏ ရှေ့၌ထား၏၊ နှင်တံကို မြှောက်၍ "ဂစ္ဆ ကူဋ၊ ဝဟဿု ကူဋ=ကောက်ကျစ်သောနွားသွားလော့, ကောက်ကျစ်သောနွား ရုံးလော့" ဟု ဆို၍ မောင်းနှင်ရာ မရုန်းဘဲ နေသဖြင့် အသပြာတစ်ထောင် ရှုံးလေသည်။ ဤသည်မှာ ဖရုသဝါစာ၏ အကျိုးပင် ဖြစ်လေသည်။ တဖန် နောက်တစ်ကြိမ် အသပြာနှစ်ထောင်လောင်းတမ်းပြုလုပ်၍ ချိုသာသောစကားဖြင့် နွားလားဥသဘကြီးကို ချော့မော့စေခိုင်းပြန်ရာ လှည်း များကို ရုန်းပေးလိုက်သည်။ ပုဏ္ဏားကြီးမှာ အသပြာနှစ်ထောင်အနိုင်ရရှိခဲ့သည်၊ ဤကား ဖရုသဝါစာမှ ရှောင်ကြဉ်မှု၏ အကျိုးဆက်ဖြစ်သည်(ဇာ၊ဋ္ဌ၊၁။၂၀၇)။

မကြားစုံမနာသာ ကြမ်းကြုတ်သော စကားကို ပြောဆိုခြင်း ဖရုသဝါစာမှ ရှောင်ကြဉ်သော ပုဂ္ဂိုလ်သည် ဖြစ်လေရာ ဘဝတိုင်း၌—

(၁) လူသတ္တဝါအများ ချစ်ခင်ခြင်း၊
(၂) လူသတ္တဝါတို့၏ စိတ်နှလုံးကို နှစ်သက်စေနိုင်ခြင်း၊
(၃) ချမ်းသာစွာ နေရခြင်း၊
(၄) သာယာနာပျော်ဖွယ်သော စကား ရှိခြင်း၊
(၅) လူအများ ချီးမွမ်းခံရခြင်း၊
(၆) ဇက်ငါရှစ်ပါးရှိသော အသံနှင့် ပြည့်စုံခြင်း—

တို့ကို ခံစားရသည်။

**သမ္ဖပ္ပလာပဝိစာအဖွင့်**

စီးပွားချမ်းသာကို ဖျက်ဆီးတတ်သော စကား, အနက်အဓိပ္ပါယ် မရှိ ပြိန်ဖျင်းသော စကားကို ဆိုကြောင်းဖြစ်သော စေတနာသည် သမ္ဖပ္ပလာပဝိစာ မည်၏၊ အနက်ဆံကင်း ပြိန်ဖျင်းသော စကားနှင့် ပတ်သက်၍ ပရမတ္ထစက္ကူကျမ်း (၂၁၂)၌ ဒီပဲယင်းဆရာတော်ကြီးက—

"အနက်ဆံကင်းဆိုသည်မှာ ရမမင်း၏ သီတာမိဖုရားကို ခေါင်းဆယ် လုံးရှိ ဘီလူးမင်း ခိုးယူသည်၊ ရွှေယုန်နှင့် ရွှေကျား သက်ကယ်ရိတ် သွားကြသည် ဤသို့ စသည့် ရှေးက မဖြစ်ဖူး မရှိဖူးသည်ကို ဖြစ်ဖူး ရှိဖူးသကဲ့သို့ သူတပါး ရာဂပွားရန်, ဒေါသပွားရန်, မောဟပွားရန် ကြံဖန်၍ ပြောကြသော စကားဟူသမျှ စပါးဖျင်းကဲ့သို့ အနက်ဆံဖြစ် မပါသည်ကို ဆိုသည်၊ သူကို ဆုံးမရာ တရားဓမ္မ ဟောရာ ပြောရာ ထင်လွယ် မြင်လွယ်အောင် ဥပမာပုံပြု၍ ထည့်သွင်း ပြောဆိုရာတို့၌ သမ္ဖပ္ပလာပ မဖြစ်"ဟု မိန့်တော်မူသည်။

သမ္ဖပ္ပလာပဝိစာတွင် အင်္ဂါ ၃-ပါး ရှိ၏၊ ယင်းတို့မှာ—

(၁) အနက်ဆံကင်း ပြိန်ဖျင်းသော စကားကို ဆိုလိုသော စိတ်ရှိခြင်း၊
(၂) ပြိန်ဖျင်းသော စကားကို ဆိုခြင်း၊
(၃) သူတပါး ယုံကြည်ခြင်း—

တို့ဖြစ်ပါသည်။

စီးပွားချမ်းသာကို ဖျက်ဆီးတတ်သော စကား၊ အနက်အဓိပ္ပါယ် မရှိ ပြိန်ဖျင်းသော စကားကို ပြောဆိုသော သူသည် ခန္ဓာပျက်ခဲ့ ညင်၏ အခြားမဲ့၌ အပါယ်လေးပါး၌ ဆင်းရဲကြီးစွာ ခံစားရ၏၊ အပါယ်လေးပါးမှ လွတ်မြောက်ပြီးနောက် လူ့ဘဝရောက်သော အခါတွင်လည်း အောက်ပါ ဆိုးကျိုးများကို ခံစားရလေသည်—

(၁) မိမိပြောဆိုသော စကားကို သူတပါး မယုံကြည်ခြင်း၊
(၂) မိမိကို လူအများ မုန်းတီးခြင်း၊
(၃) လူအများတို့က မိမိကို အလေးမထားခြင်း၊
(၄) အများယုံကြည်ဖွယ်ဖြစ်အောင် မပြောတတ်ခြင်း၊
(၅) လာဘ်လာဘ နည်းပါးခြင်း၊
(၆) ဘုန်းတန်ခိုးရှိန်စော် အာနုဘော် နည်းပါးခြင်း၊
(၇) ပညာသေးသိမ် မွေးမှိန်ခြင်း။

မြတ်စွာဘုရား ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်းတော်၌ သီတင်းသုံးတော်မူစဉ် ကချေသည်များသည် လူတို့ကို လောဘ, ဒေါသ, မောဟသို့ ရောက်၍ မိုက်မဲအောင် ဖြားယောင်းသွေးဆောင် ကပြ သီဆိုသောကြောင့် စုတေသော အခါ ပဟာသငရဲ၌ ဆင်းရဲကြီးစွာ ခံစားကြကုန်၏ဟူ၍ တာဠပုဋ ကချေသည် မှူးအား ဟောကြားတော်မူသည်။

စီးပွားချမ်းသာကို ဖျက်ဆီးတတ်သော စကား၊ အနက်အဓိပ္ပါယ် မရှိ ပြိန်ဖျင်းသော စကားကို ပြောဆိုခြင်း သမ္ဖပ္ပလာပဝိရတမှ ရှောင်ကြဉ်ရမည်။ ရှောင်ကြဉ်သော ပုဂ္ဂိုလ်သည် ဖြစ်လေရာ ဘဝတိုင်း၌ အောက်ပါ ကောင်းကျိုး များကို ခံစားရလေသည်—

(၁) လူသတ္တဝါအများ ချစ်ခင်ခြင်း၊ လေးမြတ်ခြင်း၊ နှစ်သက်ခြင်း၊
(၂) လူသတ္တဝါတို့၏ စိတ်နှလုံး တိုးပွားစေနိုင်ခြင်း၊
(၃) ယုံကြည်ဖွယ်သော စကားရှိခြင်း၊
(၄) ဘုန်းတန်ခိုးအာနုဘော်ကြီးခြင်း၊
(၅) အမေးပုစ္ဆာ ပြဿနာများကို ခဏချင်း ဖြေဆိုနိုင်ခြင်း။

## မိစ္ဆာဇီဝါအဖွင့်

မုဆိုး တံငါအလုပ်တို့ဖြင့် သူ့အသက်သတ်ခြင်း (ပါဏာတိပါတ)အမှုကို ပြု၍ ပစ္စည်းရှာဖွေခြင်း၊ သူခိုး ဓားပြ (အဒိန္နာဒါန)လုပ်၍ ပစ္စည်းရှာဖွေခြင်း၊ ငွေကြေးပစ္စည်း ရလိုမှုအတွက် ကာမေသုမိစ္ဆာစာရကံ လွန်ကျူးမှု၊ မတရား ရွှေနေ၊ မတရား သက်သေလိုက်၍ ဖြစ်စေ, လိမ်လည် လှည့်ပတ်ရောင်းဝယ်၍ဖြစ်စေ မုသာဝါဒဖြင့် ပစ္စည်းရှာရမှု၊ ကုန်းတိုက်ပေးခြင်း၊ ပိသုဏာဝါစာမှုဖြင့် ပစ္စည်းရှာဖွေမှု၊ ဆဲရေးတိုင်းထွာ ဖရုသဝါစာဖြင့် ပစ္စည်း ရှာဖွေမှု၊ ကွက်စိပ်ပြောဆရာ, လူရွှင်တော်အလုပ်တို့ဖြင့် မဟုတ်မမှန် အကျိုး မရှိသော ဇတ္တာရီပုံပြင်များ သမ္ဖပ္ပလာပမှုဖြင့် စီးပွား ရှာဖွေမှုများသည် မိစ္ဆာဇီဝမှုများ ဖြစ်ကြသည်။

ဤမိစ္ဆာဇီဝအမှုမျိုးကို "ပါဏာတိပါတာ ဝေရမဏီ" စသော ရှေးသိက္ခာပုဒ် ၇-ပါးဖြင့် ရှောင်ကြဉ်ပြီး ဖြစ်ပါသည်။ သို့သော် "မြဲရာသံပတ်" ဆိုသကဲ့သို့ ရှေးသိက္ခာပုဒ်များဖြင့် ရှောင်ကြဉ်ရာဝယ် သာ၍ ခိုင်မြဲအောင် ဤ"မိစ္ဆာဇီဝါ ဝေရမဏီ" သိက္ခာပုဒ်ကို ထပ်မံ ဆောက်တည်ရသည်။

### မိစ္ဆာအာဇီဝ ၅-မျိုး

ရှေးသိက္ခာပုဒ် ၇-ပါးဖြင့် မရှောင်ကြဉ်ရသေးသော မိစ္ဆာဇီဝများလည်း ရှိသေးသည်။ ယင်းမိစ္ဆာဇီဝများမှာ "လက်နက်, လူ, သား၊ သေ, ဆိပ်, ငါး၊ ရောင်းစားမပြုကောင်း"ဟူ၍ ၅-မျိုး ရှိ၏။

(၁) သတ္တဝါဏိဇ္ဇာ=ဓားလှံ သေနတ်ပိုက်ကွန် စသော လက်နက်ရောင်းမှု၊

(၂) သတ္တဝါဏိဇ္ဇာ = လူ, သတ္တဝါကို သွေးဆောင်၍ သူတပါးထံ ကျွန်အဖြစ် ရောင်းဝယ်မှု (ပြည့်တန်ဆာများ မွေး၍ ခေါင်းလုပ်မှု)၊

(၃) မံသဝါဏိဇ္ဇာ=နွား, ကျွဲ, ဝက်, ဆိတ်, ကြက်, ငှက် စသည်တို့ကို မွေးမြူ၍ အသားစားဖို့ရာ သတ်ဖြတ်သူအားရောင်းမှု၊ သတ်ပြီးသော သားငါး အစိုအခြောက်ရောင်းဝယ်မှု၊

(၄) မဇ္ဇဝါဏိဇ္ဇာ=ထန်းရည်, အရက်, ဘိန်း စသည့် မူးယစ်ဆေးဝါး ရောင်းမှု၊

(၅) ဝိသဝါဏိဇ္ဇာ=အဆိပ်ရောင်းမှု (အံ၊ ၂။၁၇၃)။

ယင်း ၅-မျိုးသည် မိစ္ဆာဇီဝဖြစ်၏၊ ရတနာသုံးပါး ကိုးကွယ်သူ ဥပါသကာများ မပြုကောင်းပေ၊ ထို့ပြင် မြင်းလောင်း၊ နွားလောင်း၊ ကြဲ့တိုက်၊ ဖဲရိုက်၍ ပစ္စည်းရှာမှုများလည်း မိစ္ဆာဇီဝပင် ဖြစ်၏။ မိမိကိုယ်တိုင် မိစ္ဆာဇီဝမှုဖြင့် ပစ္စည်း မရှာပါသော်လည်း စီးပွားတူဖြစ်သော ညီအစ်ကိုမောင်နှမများ၏ မိစ္ဆာဇီဝကို ဝမ်းမြောက်သဘောတူလျှင် မိစ္ဆာဇီဝပင် ဖြစ်၏၊ သဘောမတူလျှင် မိစ္ဆာဇီဝ မဖြစ်ပေ။

**သမ္မာအာဇီဝ ၂-မျိုး**

သမ္မာအာဇီဝသည် သုတ္တန်ပါဠိတော်၌ လာသော သမ္မာအာဇီဝ၊ အဘိဓမ္မာ ပါဠိတော်၌ လာသော သမ္မာအာဇီဝ ဟူ၍ ၂-မျိုးရှိ၏။ ထိုတွင် တရားသဖြင့် ရအပ်သော ပစ္စည်းများကို စားသောက်သုံးစွဲခြင်း၊ တရားနည်းလမ်းအတိုင်း ပစ္စည်းဥစ္စာရှာဖွေခြင်းသည် သုတ္တန်သမ္မာအာဇီဝ မည်၏။

မတရားသဖြင့် ပစ္စည်းရဖို့ အခွင့်ကြုံလာသော်လည်း မလုပ်ဘဲ ရှောင်ကြဉ် နေခြင်းသည် **အဘိဓမ္မာသမ္မာအာဇီဝ** မည်၏။

မတရားရှာဖွေရရှိထားသော ပစ္စည်းများကို စားသုံးနေ၍ မတရား စီးပွား ရှာမှု ဆက်လက်မလုပ်လျှင် သုတ္တန်နည်း သမ္မာအာဇီဝပျက်၍ အဘိဓမ္မာနည်း သမ္မာအာဇီဝ မပျက်ပါ။

သုတ္တန် သမ္မာအာဇီဝ မဖြစ်အောင် မတတ်နိုင်ပါလျှင် အဘိဓမ္မာ သမ္မာ-အာဇီဝ ဖြစ်အောင် နောက်ထပ် မတရားပစ္စည်းဥစ္စာရှာမှုမှ ရှောင်ကြဉ်လျှင် အာဇီဝဋ္ဌမကသီလကို ထိန်းသိမ်းရာ ရောက်ပါသည်။

**သမ္မာအာဇီဝ**

ဖော်ပြခဲ့သော မိစ္ဆာဇီဝမှ ရှောင်ကြဉ်၍ တရားသဖြင့် ရရှိသော ပစ္စည်း များကို "ဓမ္မိယလဒ္ဓ ပစ္စည်း"ဟု ခေါ်ပါသည်၊ ယင်းပစ္စည်းများမှာ—

- မိဘ ဘိုးဘွား စသူတို့ထံမှ အမွေအနှစ် ရသော ပစ္စည်း၊
- စာရေး စာချီစသော အမှုထမ်းလုပ်၍ ရသော ပစ္စည်း၊
- လက်မှုပညာဖြင့် ရသော ပစ္စည်း၊
- လယ်ယာလုပ်၍ ရသော ပစ္စည်း၊
- တရားသဖြင့် ရောင်းဝယ်ဖောက်ကား၍ ရသော ပစ္စည်း၊
- ကာယလုပ်အားဖြင့် လုပ်၍ ရသော ပစ္စည်း—

ဤပစ္စည်းများသည် များသောအားဖြင့် ဓမ္မိယလဒ္ဓပစ္စည်းများ ဖြစ်ပါသည်၊ ထိုပစ္စည်းများဖြင့် အသက်မွေးသောသူသည် သမ္မာအာဇီဝ ဖြစ်ပါသည်။

အချို့သော လူများသည် နားမလည်မီ အချိန်က မတရားသဖြင့် စီးပွားရှာ၍ ထားသော နားလည်လာသောအခါ ထိုပစ္စည်းများကို ဆက်လက် စားသောက်နေထိုင်မှုသည် သမ္မာအာဇီဝ မြဲလေသလား, မမြဲလေသလားဟု သံသယဝင်စဉ်းစားလာတတ်ကြပေသည်။ ယင်းနှင့် ပတ်သက်၍ သမ္မာအာဇီဝ ၂-မျိုးကို သိထားသင့်ပေသည်။

လယ်တီဆရာတော်ဘုရားကြီးက သီလဝိနိစ္ဆယပေါင်းချုပ်ကျမ်း (၇၄)တွင် "အဓမ္မိယလဒ္ဓပစ္စည်း ဝတ္ထုကို သုံးစွဲရလျက် ရှိနေသော်လည်း ဒုစရိုက်မှုမှ ကြဉ်ရှောင်တော့မည်ဟု စိတ်ပြင်ဒွာနနိုက်နှင့် ခံယူဆောက်တည်မှု ပြုခဲ့သော် အဘိဓမ္မာ သမ္မာအာဇီဝ ဝိရတီမှုကား ဖြစ်ပါ၏၊ သမ္မာအာဇီဝ ဝိရတီ ဖြစ်လျှင်လည်း ထိုပစ္စည်းဝတ္ထုကို သုံးစွဲရသည့်အတွက် ထိုသူမှာ သဂ္ဂန္တရာယ်, မဂ္ဂန္တရာယ် ဖြစ်ခွင့်မရှိပေပြီ" ဟု မိန့်တော်မူပါသည်။

ဘုရားရှင် လက်ထက်တော်၌ အင်္ဂုလိမာလထေရ်သည် တော အရပ်၌ တစ်ကိုယ်တည်း ဓားပြဗိုလ်ကြီး ပြုလုပ်၍နေရာ မြတ်စွာဘုရား ကြွသွား၍ ချွေချွတ်တော်မူသဖြင့် အကျွတ်တရားရတော်မူသည်။

တမ္ဗဒါဌိက မည်သော သူသတ် ဓယာက်ျားကြီးသည် သူသတ်အလုပ်နှင့် အသက်မွေးမှုပြု၍ ရအပ်သော ပစ္စည်းဝတ္ထုကို သုံးစွဲလျက်နှင့်ပင် အရှင် သာရိပုတ္တရာ တရားကို နာကြား၍ ထိုနေ့၌ပင် သေ၍ တုသိတာ နတ်ပြည်၌ ဖြစ်၏ (ဓမ္မ၊ဋ္ဌ၊၁။၄၀၅-၄၀၇)။

**ကုက္ကုဋမုဆိုး**

ဘုရားရှင် လက်ထက်တော်က ကုက္ကုဋ မုဆိုးသည် တစ်သက်လုံး မုဆိုး အလုပ်ကို လုပ်၍ အသက်မွေးခဲ့သောကြောင့် သူ၏ အသက်မွေးမှုသည် မိစ္ဆာဇီဝ ဖြစ်ပါသည်၊ သို့သော် ဘုရားနှင့် တွေ့သောအခါ တရားတော်ကို နာရ၍ သား ၇-ယောက်၊ ချွေးမ ၇-ယောက်နှင့် အတူ သောတာပန် ဖြစ်လေသည် (ဓမ္မ၊ဋ္ဌ၊၂။၁၅-၁၇)။ ထိုသူတို့သည် ရှေးက မိစ္ဆာဇီဝဖြင့် ရခဲ့သော ပစ္စည်းများကို စွန့်ပစ်သည်ဟု ကျမ်းဂန်တို့၌ မလာချေ၊ စွန့်ပစ် မည်လည်း မဟုတ်ပေ၊ ထို့ကြောင့် တတ်သိ နားလည်သော အခါမှစ၍ မိစ္ဆာ-ဇီဝကို ရှောင်ကြဉ်လျှင် အာဇီဝဋ္ဌမကသီလ လုံခြုံသည်ဟု ဆိုနိုင်ပေသည်။ မိစ္ဆာဇီဝဖြင့် ရရှိသော ပစ္စည်းများကို လှူဒါန်း ပေးကမ်းရာ၌လည်း ထိုက်တန်သမျှ အကျိုးရပါသည်၊ သို့သော် ဓမ္မိယလဒ္ဓပစ္စည်းလောက်တော့ အကျိုးကြီးမည်မဟုတ်ချေ။

**ရဟန်းတော်များ၏ သမ္မာအာဇီဝ**

ရဟန်းတော်များ၌ကား မတရားသဖြင့် ရအပ်သော ပစ္စည်းများကို လုံးဝ စွန့်ပစ်နိုင်မှသာ သမ္မာအာဇီဝဖြစ်၏၊ ဆေးကုမှု ဗေဒင်ဟောမှု ကြည့်ညိုအောင် ဟိတ်ဟန်ဆောင်မှု စသော မတရားမှုဖြင့် ရအပ်သော ပစ္စည်းကို သုံးစွဲနေလျှင် သုံးစွဲတိုင်း သုံးစွဲတိုင်း အာပတ်သင့်ရုံမက ထိုပစ္စည်းများကို အခြားရဟန်းတော်များ သုံးဆောင်လျှင်လည်း အာပတ်သင့်၏၊ ထို့ကြောင့် ရဟန်းတော်များ၏ မိစ္ဆာဇီဝသည် လူတို့၏ မိစ္ဆာဇီဝထက် ပို၍ အပြစ်ကြီး၏။

ရဟန်းတော်များ၏ အာဇီဝပါရိသုဒ္ဓိကို ပြဆိုရာ၌ အသက်မွေးမှုဟူသော အကြောင်းကြောင့် ပညတ်တော်မူအပ်သော ခြောက်ပါးသော သိက္ခာပုဒ်တို့မှာ အောက်ပါအတိုင်း ဖြစ်၏—

(၁) အသက်မွေးမှုဟူသော အကြောင်းကြောင့် ယုတ်မာသော အလိုဆိုးဖြင့် မိမိ၌ ထင်ရှားမရှိသော ဈာန် မဂ် ဖိုလ်တရားကို ရှိသယောင် ဟောပြောအံ့၊ ပါရာဇိကအာပတ်သင့်၏။

(၂) အသက်မွေးမှုဟူသော အကြောင်းကြောင့် အောင်သွယ်မှု ပြုအံ့၊ သံဃာဒိသေသ်အာပတ်သင့်၏။

(၃) အသက်မွေးမှုဟူသော အကြောင်းကြောင့် ထိုကျောင်း၌ နေသော ရဟန်းသည် ရဟန္တာတည်းဟု ပြောဆိုသည်ကို ဝန်ခံအံ့၊ ထုလ္လစ္စည်း အာပတ်သင့်၏၊

(၄) အသက်မွေးမှုဟူသော အကြောင်းကြောင့် ရဟန်းသည် မနာဖျားဘဲလျက် မိမိအကျိုးငှာ မွန်မြတ်သော ဘောဇဉ်အာဟာရကို နှုတ်မြွက်တောင်းရမ်း၍ သုံးဆောင်ငြားအံ့၊ ပါစိတ်အာပတ်သင့်၏။

(၅) အသက်မွေးမှုဟူသော အကြောင်းကြောင့် ရဟန်းမိန်းမသည် မနာဖျားဘဲလျက် မိမိအကျိုးငှာ မွန်မြတ်သော ဘောဇဉ် အာဟာရကို တောင်း၍ သုံးဆောင်ငြားအံ့၊ ပါဋိဒေသနီအာပတ် သင့်၏။

(၆) အသက်မွေးမှုဟူသော အကြောင်းကြောင့် ရဟန်းသည် မနာဖျားဘဲလျက် ဟင်းကိုဖြစ်စေ ထမင်းကိုဖြစ်စေ မိမိအကျိုးငှါ တောင်း၍ သုံးဆောင်ငြားအံ့၊ ဒုက္ကဋ်အာပတ်သင့်၏။

ရဟန်းတော်များမှာ ထိုကိစ္စများစင်ကြယ်မှု သမ္မာအာဇီဝဖြစ်၏၊ ထို့ကြောင့် တကယ်တမ်း သူတော်ကောင်းစင်စစ် ဖြစ်လိုသူ မှန်လျှင် [illegible]

မိစ္ဆာဇီဝကို အထူးရှောင်ကြဉ်လျက် သမ္မာအာဇီဝဖြစ်အောင် အသက်မွေးမှုကာ အာဇီဝဋ္ဌမကသီလကို စောင့်ထိန်းမှသာလျှင် အစစ်အမှန် သူတော်ကောင်းဟု ဆိုထိုက်၏၊ အာဇီဝဋ္ဌမကသီလ လုံခြုံမှလည်း မဂ်ဖိုလ်ရနိုင်၏၊ မလုံခြုံလျှင် မဂ်ဖိုလ်မရနိုင်ပေ၊ ထို့ကြောင့် အာဇီဝဋ္ဌမကသီလကို လုံခြုံအောင် စောင့်ထိန်းကြပါဟု တိုက်တွန်းလိုက်ရပါသည်။

**အာဒိဗြဟ္မစရိယ=အကျင့်မြတ်၏ အစ**

ငါးပါးသီလကို ဆောက်တည်သည် ဖြစ်စေ, မဆောက်တည်သည် ဖြစ်စေ လွန်ကျူးလျှင် အပြစ်ရှိသကဲ့သို့ ဤအာဇီဝဋ္ဌမကသီလကိုလည်း ဆောက်တည်သည်ဖြစ်စေ, မဆောက်တည်သည်ဖြစ်စေ လွန်ကျူးလျှင် အပြစ်ရှိ၏၊ ငါးပါးသီလသည် သူတော်ကောင်းတို့ အမြဲစောင့်ထိန်းရမည့် နိစ္စသီလ ဖြစ်သကဲ့သို့ ဤအာဇီဝဋ္ဌမကသီလသည်လည်း သူတော်ကောင်းတို့ အမြဲစောင့်ထိန်းရမည့် ကိုယ်ကျင့် နိစ္စသီလဖြစ်သည်။ ဤသီလ မလုံခြုံလျှင် မဂ်ဖိုလ်ကို မရနိုင်ပါ၊ ဤ အာဇီဝဋ္ဌမကသီလလုံခြုံမှ မဂ်ဖိုလ်ကို ရနိုင်သဖြင့် ဤသီလကို မဂ်တည်းဟူသော မြတ်သောအကျင့်၏ အစ အခြေခံသီလ ဖြစ်၍ "အာဒိဗြဟ္မစရိယသီလ"ဟု ကျမ်းဂန်တို့၌ ခေါ်ဆိုသည်။ (အာဒိ=အစ+ဗြဟ္မစရိယ=အကျင့်မြတ်။)

လယ်တီဆရာတော် ဘုရားကြီးက သူ၏ သီလဝိနိစ္ဆယပေါင်းချုပ်ကျမ်း (၁၄၄)၌ အောက်ပါအတိုင်း ဖော်ပြထား၏—

> ဤ အာဇီဝဋ္ဌမကသီလသည် မြတ်စွာဘုရား သာသနာတော်၌ အခြေခံ အစခံ ဖြစ်သည့် တရားဖြစ်၍ အာဒိဗြဟ္မစရိယသီလ မည်၏၊ နေထွက်လိုသည်ရှိသော် ရှေးဦးစွာ ဖြစ်ပေါ်၍လာသော နေအရုဏ်နှင့် တူသည်ဟု မြတ်စွာဘုရား ဟောတော်မူ၏။

**စောင့်ထိန်းရန် သင့်, မသင့်**

ဤသီလကို စောင့်ကောင်း, မစောင့်ကောင်း အငြင်းပွားကြ၏၊ မစောင့်ကောင်းစရာ အကြောင်းမရှိဟု ဆရာတော်ကြီးများ မိန့်တော်မူကြပါသည်။ ပါဠိတော်၌ ယူဆိုသီလအဖြစ်ဖြင့် မပြသော်လည်း အာဇီဝ အသက်မွေးမှု စင်ကြယ်မှုနည်းလမ်းနှင့် အာဇီဝ စင်ကြယ်ခြင်း၏ (သမ္မာဇီဝ ဖြစ်ခြင်း၏) အကျိုးကို များစွာ ပြထားပါသည်၊ ထို့ပြင် ဝိသုဒ္ဓိမဂ် အဋ္ဌကထာ (၁၂)၊ ဋီကာတို့၌လည်းကောင်း, ဥပရိပဏ္ဏာသပါဠိ (၃၃၇)၌ လည်းကောင်း အာဇီဝဋ္ဌမကသီလကို—

ပုဗ္ဗေဝ ခေါ ပနဿ ကာယကမ္မံ ဝစီကမ္မံ အာဇီဝေါ သုပရိသုဒ္ဓေါ ဟောတိ—

ဟူသော ပါဠိတော်အရ အကျယ်ထုတ်ပြလျက် ရှိ၏၊ ထို့ကြောင့် အာဇီဝဋ္ဌမကသီလကို အမြဲလုံခြုံအောင် စောင့်ထိန်းသင့်ကြပေသည်။

---

## အခန်း (၂၀)

### သီလအမျိုးမျိုး

ပြဆိုခဲ့ပြီးသော သီလများကို ကျင့်သုံးသည့် အချိန်နှင့် ပုဂ္ဂိုလ်အမျိုးအစား ကျင့်သုံးပုံ ပြင်းထန်မှု လျော့နည်းမှုနှင့် အကျိုးသွား မတူညီမှုများကို အကြောင်းပြု၍ သီလနှစ်မျိုး, သီလသုံးမျိုး စသည်ဖြင့် ခွဲခြားနိုင်ပေသည်။

### နှစ်ပါးစု သီလ

သီလကို အကျဉ်းအားဖြင့် အောက်ပါအတိုင်း နှစ်မျိုးစီ ခွဲခြားနိုင်သည်—

(၁) စာရိတ္တသီလနှင့် ဝါရိတ္တသီလ (ဆောင်ရန် သီလနှင့် ရှောင်ရန် သီလ)၊

(၂) အာဘိသမာစာရိကသီလနှင့် အာဒိဗြဟ္မစရိယသီလ (အမှန်းတင် သီလနှင့် မူလအစ အရိုးခံသီလ)၊

(၃) ဝိရတိသီလနှင့် အဝိရတိသီလ (ရှောင်ရန်သီလနှင့် စေတနာသီလ)၊

(၄) နိဿိတသီလနှင့် အနိဿိတသီလ (မှီတွယ်ရာရှိသီလနှင့် မှီတွယ်ရာမဲ့ သီလ)၊

(၅) ကာလပရိယန္တသီလနှင့် အာပါဏကောဋိကသီလ (အချိန်ပိုင်း သီလနှင့် ရာသက်ပန်သီလ)၊

(၆) သပရိယန္တသီလနှင့် အပရိယန္တသီလ (အပိုင်းအခြားရှိ သီလနှင့် အပိုင်းအခြားမဲ့ သီလ)၊

(၇) လောကိယသီလနှင့် လောကုတ္တရသီလ (လောကီသီလနှင့် လောကုတ္တရာသီလ)၊

(၈) ဂဟဋ္ဌသီလနှင့် ပဗ္ဗဇိတသီလ (လူဝတ်ကြောင်သီလနှင့် ရှင်ရဟန်း သီလ)။

**စာရိတ္တသီလနှင့် ဝါရိတ္တသီလ**

မြတ်စွာဘုရားပညတ်တော်မူအပ်သော ဆရာကျင့်ဝတ်, တပည့်ကျင့်ဝတ် စသောအကျင့်များကို မြတ်စွာဘုရားရှင် အလိုတော်ကျအတိုင်း လိုက်နာပြုလုပ် ဖြည့်ကျင့်ခြင်းသည် **စာရိတ္တသီလ** မည်၏၊ မကျင့်သော်လည်း အပြစ်မရှိ၊ ကျင့်လျှင် တိုးတက်၍ သီလဖြူစင်နိုင်သည်။ ကိုးပါးသီလတွင် ဝိကာလဘောဇန စသော နောက်လေးပါးဖြစ်သည်။

**သူ့အသက်သတ်မှုကို မပြုကျင့်ရဟု ဘုရားအစရှိသော** သူတော်ကောင်းများက တားမြစ်ထားသည့် အမှုများကို မပြုလုပ်ဘဲ ရှောင်ကြဉ်လျက် သိက္ခာပုဒ်များကို ထိန်းသိမ်းစောင့်ရှောက်ခြင်းသည် **ဝါရိတ္တသီလ** မည်၏၊ မြတ်စွာဘုရားက တားမြစ်ထားသော အမှုကို အသက်ကိုပင် စွန့်ရသော်လည်း မလွန်ကျူးဘဲ စောင့်ထိန်းကြရမည် ဖြစ်သည်။ ဤသိက္ခာပုဒ်များကို ကျူးလွန်ပါက အပါယ်ငရဲသို့ ကျရောက်စေနိုင်သည်။ ငါးပါးသီလသည် ဝါရိတ္တသီလ၌ ပါဝင်သည်။

## အာဘိသမာစာရိကသီလနှင့် အာဒိဗြဟ္မစရိယသီလ

**မဂ်ဖိုလ်ကို ရနိုင် ရောက်နိုင်စေရန် ဟောကြားတော်မူအပ်သော ကောင်းမြတ်သော အကျင့်သီလသည် အာဘိသမာစာရိကသီလ** မည်၏။ အခြေခံသီလပေါ်၌ အပိုဆောင်း၍ အချောကိုင် အမွှမ်းတင် ကျင့်ခြင်းဖြစ်သည်။ (အာဘိသမာ-စာရိက=အဘိ+သံ+အာစရ = အပိုအလွန် + ကောင်းသော + အကျင့်။) အာဇီဝဋ္ဌမကသီလမှ ကြွင်းသော သီလများ ဖြစ်ကြသည်။

**အစကနဦး** ကျင့်သုံးရမည့် သီလ၊ မူလအခြေခံသီလသည် **အာဒိဗြဟ္မစရိယ သီလ**မည်၏။ (အာဒိ=အစ+ဗြဟ္မ=မြတ်သော+စရိယ=အကျင့်။) **အာဇီဝဋ္ဌ-မကသီလသည်** အာဒိဗြဟ္မစရိယသီလ မည်၏။

## ဝိရတီသီလနှင့် အဝိရတီသီလ

အသက်မွေးဝမ်းကျောင်းမှုနှင့် မသက်ဆိုင်သော ကာယဒုစရိုက် သုံးပါးမှ ရှောင်ကြဉ်ခြင်း သမ္မာကမ္မန္တဝိရတီ၊ ဝစီဒုစရိုက် လေးပါးမှ ရှောင်ကြဉ်ခြင်း သမ္မာဝါစာဝိရတီနှင့် အသက်မွေးဝမ်းကျောင်းနှင့် သက်ဆိုင်သော ကာယဒုစရိုက် သုံးပါး, ဝစီဒုစရိုက် လေးပါးမှ ရှောင်ကြဉ်ခြင်း သမ္မာအာဇီဝဝိရတီ၊ ယင်းဝိရတီသုံးပါးသည် **ဝိရတီသီလ** မည်၏။ ယင်းဝိရတီသီလမှ ကြွင်းသော စေတနာ သီလနှင့် သဒ္ဓါ, ဝီရိယဖြင့် ပြုလုပ်သော အကျင့် သီလများသည် **အဝိရတီသီလ** မည်၏။

## နိဿိတသီလနှင့် အနိဿိတသီလ

တဏှာကိုဖြစ်စေ, ဒိဋ္ဌိကိုဖြစ်စေ အမှီပြု၍ စောင့်သုံးအပ်သော သီလသည် **နိဿိတသီလ** မည်၏။ ဤသီလကြောင့် နောင်ဘဝတွင် ကောင်းမြတ်သော ဘဝ၊ ကောင်းမြတ်သော စည်းစိမ်ချမ်းသာကို ရပါလို၏ဟု စည်းစိမ်ချမ်းသာကို တောင့်တ၍ ကျင့်သုံးအပ်သော သီလသည် တဏှာဖြင့် မှီတွယ်သော သီလ

မည်၏၊ မိစ္ဆာဒိဋ္ဌိ အယူရှိသော သူတို့၏ အကျင့်သီလများအစည် ဒိဋ္ဌိကို မှီတွယ်သော သီလ မည်၏ဟု ဆိုအပ်ခဲ့ပြီးသော တဏှာ ဒိဋ္ဌိ နှစ်ပါးကို အမှီမပြုဘဲ မြတ်သော ဒႉကျင့်သီလကို ကျင့်မည်ဟူ၍ နှလုံးသွင်း၍ စောင့်သုံး အပ်သော သီလသည် အနိဿိတသီလ မည်၏။ မဂ် ဖိုလ် နိဗ္ဗာန် ရရန် လောကမှ ထွက်မြောက်ရန် ကျင့်သုံးသည့်သီလ ဖြစ်သည်။

**ကာလပရိယန္တသီလနှင့် အာပါဏကောဋိက သီလ**

အလိုရှိသလောက် အချိန်ကာလကို ပိုင်းခြား၍ စောင့်သုံးအပ်သော သီလသည် **ကာလပရိယန္တသီလ** မည်၏။ အချိန်ကာလကို မပိုင်းခြားဘဲ အသက် ထက်ဆုံး စောင့်သုံးအပ်သော သီလသည် **အာပါဏကောဋိကသီလ** မည်၏။

မြတ်စွာဘုရားရှင် လက်ထက်တော်က ရာဇဂြိုဟ်ပြည်၌ တစ်ယောက်သော မုဆိုးသည် သားသမင်တို့ကို သတ်ဖြတ်၍ အသက်မွေးမှု ပြု၏။ ထိုမုဆိုး၏ မိတ်ဆွေတစ်ယောက်သည် "သူငယ်ချင်းမုဆိုး....တစ်နေ့လုံး သီလမဆောက်တည် နိုင်လျှင် ညအချိန်၌ ဆောက်တည်ပါ"ဟု တိုက်တွန်းသဖြင့် မုဆိုးသည် နေ့အခါ၌ သီလမဆောက်တည်နိုင်ဘဲ ညအခါ၌ သီလဆောက်တည်ခဲ့သည်၊ သေလွန်သော အခါ ရာဇဂြိုဟ်အနီး၌ ဝေမာနိကပြိတ္တာ ဖြစ်၍ နေ့အခါ၌ ဆင်းရဲဒုက္ခကြီးစွာ ခံစားရသော်လည်း ညဥ့်အခါ၌ နတ်စည်းစိမ် ချမ်းသာကို ခံစားရလေသည် (မိဂလုဒ္ဒက ပေတဝတ္ထု)။

**သပရိယန္တသီလနှင့် အပရိယန္တသီလ**

ဆောက်တည်ထားသော သီလကို သတ်မှတ်အချိန် မကုန်ဆုံးသေးဘဲ ဥစ္စာ ပစ္စည်း, အခြံအရံ, ဆွေမျိုး, ကိုယ်အင်္ဂါ, အသက် ဤ ၅-ပါးတို့တွင် တစ်ပါး ပါးကြောင့် ချိုးဖျက်လိုက်ရသော သီလသည် **သပရိယန္တ**(အဆုံးအပိုင်းအခြား ရှိသော)**သီလ** မည်၏။ တစ်နေ့တာမျှသာ, တစ်လတာမျှသာ စသည်ဖြင့် ကာလ အားဖြင့် ပိုင်းခြား၍ သီလကို စောင့်ထိန်းခြင်း၊ ကိုယ့်အသားကို မထိမီ, ကိုယ့်အသက်ကို အန္တရာယ်မပြုမီ သီလကို ထိန်းမည်၊ ကိုယ့်အသက် ထိလာလျှင် ပြန်ချရမည်ဟု အပိုင်းအခြား ပြု၍ သီလကို ဆောက်တည်ခြင်း ဖြစ်သည်။

ဥစ္စာပစ္စည်း, အခြံအရံ, ဆွေမျိုး, ကိုယ်အင်္ဂါ, အသက် ဤ ၅-ပါးတို့တွင် တစ်ပါးပါးကြောင့်မျှ အပျက်အစီးမခံဘဲ ရည်မှန်းထားသည့်အတိုင်း ကောင်းစွာ စောင့်သုံးအပ်သော သီလသည် **အပရိယန္တ** (အပိုင်းအခြား အကန့်အသတ် မရှိသော)**သီလ** မည်၏။ အသက်ကိုပင် စွန့်လွှတ်၍ ဆောက်တည်သောသီလ ဖြစ်သည်။

**လောကိယသီလနှင့် လောကုတ္တရာသီလ**

ပုထုဇဉ်တို့ ကျင့်သုံးသော သီလသည် လောကိယသီလ မည်၏။ အရိယာပုဂ္ဂိုလ်တို့ ကျင့်သုံးသော သီလသည် လောကုတ္တရာသီလ မည်၏။ ထိုနှစ်ပါးတွင် လောကီသီလသည် လူ့ဘဝ, နတ်ဘဝ (ဘဝသမ္ပတ္တိ)ကို ဆောင်ရွက်တတ်၏။ ဘဝမှ လွတ်မြောက်ခြင်း၏ အကြောင်းလည်း ဖြစ်၏(ဝိ၊၅။၂၈၈)။ လောကုတ္တရာသီလကား ဘဝမှ လွတ်မြောက်ခြင်း ( နိဗ္ဗာန် )ကို ဆောင်တတ်၏။ ပစ္စဝေက္ခဏာဉာဏ်၏ တည်ရာအာရုံလည်း ဖြစ်၏။

**ဂဟဋ္ဌသီလနှင့် ပဗ္ဗဇိတသီလ**

လူဝတ်ကြောင်များ လိုက်နာကျင့်သုံးရမည့် ငါးပါးသီလ, ရှစ်ပါးသီလ, ကိုးပါးသီလ, ဆယ်ပါးသီလ, အာဇီဝဋ္ဌမကသီလများသည် ဂဟဋ္ဌသီလမည်၏။ (ဂဟ=အိမ်+ဋ္ဌ=နေသူ။)

လိင်ဆယ်ပါး, ဒဏ်ဆယ်ပါး, သေခိယသိက္ခာပုဒ် (၇၅)ပါး စသည်တို့သည် ရှင်သာမဏေတို့ လိုက်နာကျင့်သုံးရမည့် သီလဖြစ်သည်။ နှစ်ရာ့နှစ်ဆယ် ခုနစ်သွယ်သော သိက္ခာပုဒ်များသည် ရဟန်းတော်များ ကျင့်ရမည့် သီလများ ဖြစ်သည်။ ယင်းသီလများကို ပဗ္ဗဇိတသီလ-ဟု ခေါ်၏။

## သုံးပါးစု သီလ

တဖန် ယင်းသီလများကို အောက်ပါအတိုင်း ၃-မျိုးစီ ခွဲခြားနိုင်သည်—

(၁) ဟီနသီလ၊ မဇ္ဈိမသီလ၊ ပဏီတသီလ(အယုတ်သီလ၊အလတ်သီလ၊ အမြတ်သီလ)၊

(၂) အတ္တာဓိပတေယျသီလ၊လောကာဓိပတေယျသီလ၊ဓမ္မာဓိပတေယျသီလ (မိမိကို အလေးပြု သီလ၊ လောကကို အလေးပြု သီလ၊ တရားကို အလေးပြု သီလ)၊

(၃) ပရာမဋ္ဌသီလ၊ အပရာမဋ္ဌသီလ၊ ပဋိပဿဒ္ဓိသီလ (အစွဲရှိ သီလ၊ အစွဲကင်း သီလ၊ ငြိမ်းအေး သီလ)၊

(၄) ဝိသုဒ္ဓသီလ၊ အဝိသုဒ္ဓသီလ၊ ဝေမတိကသီလ(စင်ကြယ်သောသီလ၊ မစင်ကြယ်သောသီလ၊ သံသယသီလ)၊

(၅) သေက္ခသီလ၊ အသေက္ခသီလ၊ နေဝသေက္ခနာသေက္ခသီလ၊ (ကျင့်ဆဲ သီလ၊ ကျင့်ပြီး သီလ၊ လောကီသီလ)။

**ဟီနသီလ၊ မဇ္ဈိမသီလ၊ ပဏီတသီလ**

အညံ့စားဖြစ်သော စိတ်, ဆန္ဒ, ဝီရိယ ပညာတို့ဖြင့် ကျင့်သုံးဆောက်တည် အပ်သော သီလသည် **ဟီနသီလ(အညံ့စားသီလ)**မည်၏။ အလတ်စားဖြစ်သော စိတ်, ဆန္ဒ, ဝီရိယ, ပညာတို့ဖြင့် ကျင့်သုံးဆောက်တည်အပ်သော သီလသည် **မဇ္ဈိမသီလ(အလတ်စားသီလ)**မည်၏။ မြင့်မြတ်သော စိတ်, ဆန္ဒ, ဝီရိယ, ပညာတို့ဖြင့် ကျင့်သုံးဆောက်တည်အပ်သော သီလသည် **ပဏီတသီလ(အမြတ်စား သီလ)**မည်၏။

(တနည်း) သူတပါးတို့ ချီးမွမ်းအံ့ဩ အကျော်အစော ဂုဏ်သတင်း (ဂုဏ်ပကာသန)ကို လိုလားသဖြင့် ကျင့်သုံးဆောက်တည်အပ်သော သီလသည် **ဟီနသီလ** မည်၏။ ဘဝချမ်းသာကို လိုလားတောင့်တ၍ ဆောက်တည်ကျင့်သုံး အပ်သော သီလသည် **မဇ္ဈိမသီလ** မည်၏။ ဂုဏ်ပကာသနကိုလည်း မလိုလား၊ နောင်ဘဝ စံစားရမည့် အကျိုးကိုလည်း မလိုလားဘဲ "သီလမည်သည်ကား အရိယာသူတော်ကောင်းတို့ ပြုအပ်သော မြင့်မြတ်သော တရား ဖြစ်၏။ ဤ မြင့်မြတ်သော အကျင့်ကို ငါကျင့်အပ်သည်သာတည်း"ဟု တရား၏ မြင့်မြတ်မှု ကိုသာ နှလုံးသွင်းလျက် ကျင့်သုံးဆောက်တည်အပ်သောသီလသည် **ပဏီတသီလ** မည်၏။

(တနည်း) "ငါသည်သာ သီလနှင့်ပြည့်စုံ၏၊ ငါမှတပါးသော သူတို့သည်ကား သီလမရှိကုန်၊ ယုတ်ညံ့သော အကျင့်ရှိကုန်၏"ဟု မိမိကိုယ်ကို ချီးမြှောက်ခြင်း (အတ္တုက္ကံသန), သူတပါးတို့ကို ရှုတ်ချခြင်း (ပရဝမ္ဘန)ပြု၍ စောင့်ထိန်းသော သီလသည် **ဟီနသီလ** မည်၏။ ထိုစိတ်ထားမျိုး ကင်းလျက် ဆောက်တည်သော သီလသည် **မဇ္ဈိမသီလ** မည်၏၊ မဂ်ဖိုလ်နှင့် ယှဉ်သော လောကုတ္တရာသီလသည် **ပဏီတသီလ** မည်၏။

(တနည်း) တဏှာ၏ အစွမ်းဖြင့် ဘဝချမ်းသာကို လိုချင်တောင့်တ၍ ကျင့်သုံးဆောက်တည်အပ်သော သီလသည် **ဟီနသီလ**မည်၏။ သံသရာဝဋ်ဒုက္ခမှ ကျွတ်လွတ်ရန် ကျင့်သုံးတောင့်တ၍ ဆောက်တည်အပ်သော သီလသည် **မဇ္ဈိမ သီလ** မည်၏။ အလုံးစုံသော သတ္တဝါတို့ သံသရာဝဋ်ဒုက္ခမှ လွတ်မြောက်စေရန် ရည်သန်၍ ပါရမီမြောက် ကျင့်သုံးဆောက်တည်အပ်သော(ဘုရားလောင်းတို့၏) သီလသည် **ပဏီတသီလ** မည်၏။

**အတ္တာဓိပတေယျသီလ၊ လောကာဓိပတေယျသီလ၊ ဓမ္မာဓိပတေယျသီလ**

မိမိနှင့် မသင့်လျော် မလျောက်ပတ်သော အကျင့်အကြံများကို ပယ်စွန့်လိုသဖြင့် မိမိကိုယ်ကို အလေးအမြတ် ပြု၍ ကျင့်သုံး ဆောက်တည်အပ်သော သီလသည် **အတ္တာဓိပတေယျသီလ** မည်၏၊ လူအများက ကဲ့ရဲ့ရှုတ်ချမည်ကို ပယ်စွန့်လိုသဖြင့် လူအများ (လောက)ကို အလေးဂရုပြု၍ ကျင့်သုံးဆောက်တည်အပ်သော သီလသည် **လောကာဓိပတေယျသီလ** မည်၏၊ မြတ်စွာဘုရား ဟောကြားတော်မူအပ်သော တရားတော်သည် နိယျာနိကအစစ် ဖြစ်၍ မှန်မြတ်၏၊ ထိုတရားတော်ကို အကျင့်သီလဖြင့်သာ ပူဇော်အပ်ပေ၏ဟု တရားတော်၏ မြင့်မြတ်သော ဂုဏ်ကျေးဇူးကို အလေးဂရုပြု၍ ကျင့်သုံးဆောက်တည်အပ်သော သီလသည် **ဓမ္မာဓိပတေယျသီလ**မည်၏။(အဓိပတေယျ =အလေးဂရုပြုအပ်သော။)

**ပရာမဋ္ဌသီလ၊ အပရာမဋ္ဌသီလ၊ ပဋိပဿဒ္ဓိသီလ**

တဏှာဒိဋ္ဌိတို့ဖြင့် အလွဲလွဲ အမှားမှား သုံးသပ်အပ်သော သီလသည် **ပရာမဋ္ဌသီလ** မည်၏။ မဂ်ဖိုလ်ရရန် ရည်သန်၍ ကလျာဏပုထုဇဉ်တို့ ကျင့်သုံးဆောက်တည်အပ်သော သီလသည်လည်းကောင်း၊ မဂ်စိတ်နှင့် ယှဉ်တွဲ၍ ဖြစ်သော သီလသည်လည်းကောင်း တဏှာဒိဋ္ဌိတို့ဖြင့် မသုံးအပ်သောကြောင့် **အပရာမဋ္ဌသီလ** မည်၏၊ အရိယာပုဂ္ဂိုလ်တို့၏ ဖိုလ်စိတ်လေးပါးနှင့် ယှဉ်သော သီလသည် ကိလေသာအပူမီး အငြိမ်းငြိမ်းအေးပြီး ဖြစ်သောကြောင့် **ပဋိပဿဒ္ဓိသီလ** မည်၏။ (ပရာမဋ္ဌ=မှားယွင်းစွာ သုံးသပ်ခြင်း။)

**ဝိသုဒ္ဓသီလ၊ အဝိသုဒ္ဓသီလ၊ ဝေမတိကသီလ**

စင်ကြယ်သော ပုဂ္ဂိုလ်၏ သီလသည် **ဝိသုဒ္ဓသီလ** မည်၏၊ အာပတ်မသင့်စေဘဲ ဖြည့်ကျင့်အပ်သော သီလသည်လည်းကောင်း၊ အာပတ်သင့်သော်လည်း အာပတ်ကို ကုစားပြီးသော ပုဂ္ဂိုလ်၏ သီလသည်လည်းကောင်း **ဝိသုဒ္ဓသီလ** မည်၏။ မစင်ကြယ်သော ပုဂ္ဂိုလ်၏ သီလသည် **အဝိသုဒ္ဓသီလ** မည်၏၊ အာပတ်သင့်ပြီးနောက် မကုစားဘဲ ထားသော သီလသည် **အဝိသုဒ္ဓသီလ** မည်၏၊ အပြစ်ရှိသည့်အမှု၊ အာပတ်သင့်မည့် အမှုများကို မဝေခွဲနိုင်ဘဲ ယုံမှားဖြစ်နေသော သူ၏ သီလသည် **ဝေမတိကသီလ** မည်၏။ (ဝိသုဒ္ဓ= စင်ကြယ်သော၊ အဝိသုဒ္ဓ=မစင်ကြယ်သော၊ ဝေမတိက=ယုံမှားရှိသော။)

**သေက္ခသီလ၊ အသေက္ခသီလ၊ နေဝသေက္ခနာသေက္ခသီလ**

လေးပါးသော အရိယာမဂ်တို့နှင့်လည်းကောင်း, သုံးပါးသော အရိယာဖိုလ်တို့နှင့်လည်းကောင်း ယှဉ်သောသီလသည် **သေက္ခသီလ**မည်၏။ အရဟတ္တဖိုလ်နှင့်ယှဉ်သော သီလသည် **အသေက္ခသီလ** မည်၏၊ ထိုမှ ကြွင်းသော လောကီသီလစုသည် **နေဝသေက္ခနာသေက္ခသီလ** မည်၏။ (သေက္ခ=ကျင့်ဆဲ၊ အသေက္ခ=ကျင့်ပြီး၊ နေဝသေက္ခနာသေက္ခ=ကျင့်ဆဲလည်း မဟုတ်၊ ကျင့်ပြီးလည်း မဟုတ်။) ပုထုဇဉ်ပုဂ္ဂိုလ်များကို နေဝသေက္ခနာသေက္ခပုဂ္ဂိုလ်ဟု ခေါ်၏၊ အရိယာပုဂ္ဂိုလ် ရှစ်ယောက်ရှိသည့်အနက် ရဟန္တာ ပုဂ္ဂိုလ်ကို အသေက္ခ (ကျင့်ပြီး) ပုဂ္ဂိုလ်ဟု ခေါ်၏၊ ကျန်အရိယာပုဂ္ဂိုလ် ၇-ယောက်ကို သေက္ခ (ကျင့်ဆဲ) ပုဂ္ဂိုလ်ဟု ခေါ်၏။

**လေးပါးစု သီလ**

တနည်းအားဖြင့် သီလကို အောက်ပါအတိုင်း လေးမျိုးစီ ခွဲခြားနိုင်၏—

**(က) စွမ်းရည်အားဖြင့် (၄)မျိုး**

(၁) ဟာနဘာဂိယသီလ=ဆုတ်ယုတ်သော သီလ၊

(၂) ဌိတိဘာဂိယသီလ=တည်တံ့သော သီလ၊

(၃) ဝိသေသဘာဂိယသီလ=တရားထူးရနိုင်သည့် သီလ၊

(၄) နိဗ္ဗေဓဘာဂိယသီလ=ဖောက်ထွင်းနိုင်သော သီလ။

**(ခ) ပုဂ္ဂိုလ်အားဖြင့် (၄)မျိုး**

(၁) ဘိက္ခုသီလ=ရဟန်းယောကျ်ားတို့၏ သီလ၊

(၂) ဘိက္ခုနီသီလ=ရဟန်းမိန်းမတို့၏ သီလ၊

(၃) အနုပသမ္ပန္နသီလ=ရှင်သာမဏေတို့၏ သီလ၊

(၄) ဂဟဋ္ဌသီလ=လူဝတ်ကြောင်တို့၏ သီလ။

**(ဂ) သဘာဝအားဖြင့် (၄)မျိုး**

(၁) ပကတိသီလ=နဂိုမူလ သီလ၊

(၂) အာစာရသီလ=မျိုးရိုးအကျင့် သီလ၊

(၃) ဓမ္မတာသီလ=ဖြစ်ရိုးဖြစ်စဉ် သီလ၊

(၄) ပုဗ္ဗဟေတုကသီလ=ပါရမီဓာတ်ခံ သီလ။

(ဿ) ဝိနည်းကြောင်းအရ (၄)မျိုး

(၁) ပါတိမောက္ခသံဝရသီလ=၂၂၇-သွယ်သော ရဟန်းသီလ၊

(၂) ဣန္ဒြိယသံဝရသီလ=ဣန္ဒြေကို စောင့်ထိန်းခြင်း၊

(၃) အာဇီဝပါရိသုဒ္ဓိသီလ=အသက်မွေးမှု စင်ကြယ်ခြင်း၊

(၄) ပစ္စယသန္နိဿိတသီလ = ပညာဖြင့် ဆင်ခြင်၍ ပစ္စည်းကို မှီဝဲသုံးဆောင်ခြင်း။

**ဟာန်၊ ဌိတိ၊ ဝိသေသ၊ နိဗ္ဗေဓဘာဂိယသီလ**

အကြင်သူသည် ဒုဿီလပုဂ္ဂိုလ်ကိုသာ ပေါင်းသင်း၍ သီလရှိသော ပုဂ္ဂိုလ်ကို မဆည်းကပ် မပေါင်းသင်း အပြစ်ဖြစ်ခြင်း၏ အကြောင်း မကောင်းသော အမှုကို လွန်ကျူးခြင်း၌ အပြစ်ကို မမြင် မသိ၊ မကောင်းသော အမှုကိုသာ များစွာ ကြံစည်စိတ်ကူးလေ့ရှိပြီး မျက်စိ စသော ဣန္ဒြေများကို စောင့်ထိန်းခြင်း မရှိ၊ ထိုပုဂ္ဂိုလ်၏ သီလသည် ရှေ့သို့ မတိုးတက်ဘဲ တစ်နေ့ထက် တစ်နေ့ ယုတ်လျော့၍ သွား၏၊ ထိုသို့ ယုတ်လျော့ခြင်း အဖို့ရှိသော သီလသည် **ဟာနဘာဂိယသီလ** မည်၏။

အကြင်သူသည် သီလနှင့် ပြည့်စုံခြင်းကိုသာ နှစ်သက် ဝမ်းမြောက်နေ၏၊ ကမ္မဋ္ဌာန်းအလုပ်ကို တိုးတက် အားထုတ်လိုသောစိတ် မရှိပေ၊ ထိုသို့ သီလ အကျင့်မျှဖြင့်သာ အားရတင်းတိမ်နေ၍ အထက်ဖြစ်သော ဈာန်မဂ်ဖိုလ် တရား လူးကို ရရန် အားထုတ်ခြင်း မရှိသော ပုဂ္ဂိုလ်၏ သီလသည် မတိုးပွါး ရပ်တန့် နေသော ဌိတိဘာဂိယသီလ မည်၏။

အကြင်သူသည် သီလနှင့် ပြည့်စုံပြီးနောက် သီလမျှဖြင့် ရောင့်ရဲတင်းတိမ် မနေဘဲ ဈာန်သမာဓိ ရခြင်းအကျိုးငှါ ကြိုးစားအားထုတ်နေ၏၊ ထိုသူ၏ သီလသည် ထူးမြတ်သော အဖို့ရှိသော ဝိသေသဘာဂိယသီလ မည်၏။

အကြင်သူသည် သီလမျှဖြင့် ရောင့်ရဲတင်းတိမ်မှုနေဘဲ သံသရာ ဒုက္ခတို့မှ ငြီးငွေ့မှုဖြစ်၍ အားကောင်းသည့် ဗလဝဝိပဿနာဉာဏ်ကို ရရန် ကြိုးစား အားထုတ်နေ၏၊ ထိုသူ၏ သီလသည် ကိလေသာအစိုင်အခဲကို ဖောက်ခွဲခြင်း အဖို့ရှိသော နိဗ္ဗေဓဘာဂိယသီလ မည်၏။

**ဘိက္ခုသီလ၊ ဘိက္ခုနီသီလ၊ အနုပသမ္ပန္နသီလ၊ ဂဟဋ္ဌသီလ**

ရဟန်းယောကျ်ားများအတွက် ပညတ်တော်မူအပ်သော သိက္ခာပုဒ်များနှင့် ရဟန်းမိန်းမများ အတွက် ပညတ်တော်မူအပ်သော သိက္ခာပုဒ်များထဲမှ ရဟန်းယောကျ်ားနှင့် သက်ဆိုင်သော သိက္ခာပုဒ်အချို့သည် ဘိက္ခုသီလ မည်၏။

ရဟန်းမိန်းမတို့အတွက် ပညတ်တော်မူအပ်သော သိက္ခာပုဒ်များနှင့် ရဟန်းယောကျ်ားများအတွက် ပညတ်တော်မူအပ်သော သိက္ခာပုဒ်များထဲမှ ရဟန်းမိန်းမနှင့် သက်ဆိုင်သော သိက္ခာပုဒ်အချို့သည် ဘိက္ခုနီသီလ မည်၏။

သာမဏေယောကျ်ား, သာမဏေမိန်းမများ စောင့်ထိန်းကျင့်သုံးအပ်သော လိင်ဆယ်ပါး, ဒဏ်ဆယ်ပါး စသော သိက္ခာပုဒ်များသည် အနုပသမ္ပန္နသီလ မည်၏။

ဥပါသကာယောကျ်ား, ဥပါသိကာမိန်းမတို့မှာ အမြဲစောင့်ရှောက်အပ်သော ငါးပါးသီလ၊ စွမ်းနိုင်လျှင် ရှစ်ပါးသီလ, ဆယ်ပါးသီလတို့သည် လူဝတ်ကြောင်တို့ ကျင့်သုံးအပ်သော သီလဖြစ်၍ ဂဟဋ္ဌသီလ မည်၏။

**ပကတိသီလ၊ အာစာရသီလ၊ ဓမ္မတာသီလ၊ ပုဗ္ဗဟေတုကသီလ**

မြောက်ကျွန်း၌ နေကုန်သောလူတို့သည် ငါးပါးသီလကို မလွန်ကျူးကြကုန်၊ ၎င်းတို့၏ သီလသည် ပကတိသီလ မည်၏၊ မြောက်ကျွန်းသားတို့သည် ငါးပါးသီလကို ဆောက်တည်ခြင်း မပြုသော်လည်း ကျူးလွန်စရာအကြောင်း တွေ့ကြုံလာသောအခါ ရှောင်ကြဉ်နိုင်ကြသည်။

အမျိုးအားဖြင့် ဖြစ်စေ, အရပ်ဒေသအားဖြင့် ဖြစ်စေ, အယူဝါဒအားဖြင့် ဖြစ်စေ မိမိတို့၏ ရှေးလူကြီးများက ထားခဲ့သော စည်းကမ်း အပိုင်းအခြား ဓလေ့ထုံးစံအတိုင်း လိုက်နာကျင့်သုံးခြင်းသည် အာစာရသီလ မည်၏။

ဘုရားအလောင်းတော် ပဋိသန္ဓေ တည်နေသည့် အခါမှစ၍ မယ်တော်၏ သန္တာန်ဝယ် ယောကျ်ားများ၌ ကာမဂုဏ်အတွက် နှစ်သက် မက်မောမှု မရှိခြင်းသည် ဓမ္မတာသီလ မည်၏။

ရှေးရှေးဘဝတို့က ဖြည့်ကျင့်ခဲ့ဖူးသော ပါရမီဆီလ အကြောင်းရင်းခံ၍ ယခုဘဝတွင် မည်သူကမျှ မဟောပြောရဲဘဲ အလိုအလျောက် သီလစောင့်ထိန်းမှု ဖြစ်ပေါ်လာသော သီလသည် ပုဗ္ဗဟေတုကသီလ မည်၏။

အရှင်မဟာကဿပအလောင်း ပိပ္ပလိလုလင်၊ မဟာသီလဝမင်း၊ တေမိမင်း စသော ဘုရားအလောင်းတော်ကြီးများမှာ ဟောကြားပြသူ မရှိဘဲ အလို အလျောက် သီလစောင့်သုံးလိုသော သမ္မာဆန္ဒ ဖြစ်ကာ သီလကို စောင့်သုံး ခြင်းမျိုးသည် ပုဗ္ဗဟေတုကသီလ ဖြစ်သည်။ ရှေးပါရမီအကြောင်းရင်းခံထော သီလဖြစ်သည်။ (ပုဗ္ဗ=ရှေး+ဟေတုက=အကြောင်းရှိသော။)

**ပါတိမောက္ခသံဝရသီလ**

ရဟန်းတော်များအတွက် (၂၂၇)သွယ်သော သိက္ခာပုဒ်များနှင့် ရဟန်းမိန်းမ များအတွက် (၃၁၁)ပါးသော သိက္ခာပုဒ်များသည် စောင့်ထိန်းသူကို အပါယ် ဆင်းရဲတို့မှ လွတ်မြောက်စေတတ်သောကြောင့် ပါတိမောက္ခသံဝရသီလ မည်၏။ ( ပါတိ = စောင့်ထိန်းသူကို + မောက္ခ = လွတ်မြောက်စေနိုင် + သံဝရ = စောင့်ထိန်းမှု။)

**ဣန္ဒြိယသံဝရသီလ**

မျက်စိ, နား, နှာခေါင်း, လျှာ, ကိုယ်, စိတ် ဤ ဣန္ဒြေခြောက်ပါးတို့ကို စောင့်စည်းခြင်းသည် **ဣန္ဒြိယသံဝရသီလ** မည်၏။ (ဣန္ဒြိယ=ဣန္ဒြေခြောက်ပါး+ သံဝရ=စောင့်ရှောက်ခြင်း။)

ဣန္ဒြေတို့ကို စောင့်စည်းပုံမှာ မျက်စိဖြင့် အဆင်းရူပါရုံကို မြင်သောအခါ မြင်သည့်အတိုင်းသာ (ရူပါရုံအနေဖြင့်သာ) စိတ်ထဲ၌ တည်ရှိစေရမည်၊ ထိုမြင် သည့်အတိုင်း (ရူပါရုံအနေ)ထက် ပို၍ မိန်းမဖြစ်သည်၊ ယောကျ်ားဖြစ်သည်၊ လှပတင့်တယ်သည် စသည်ဖြင့် ကိလေသာပွားများကြောင်း နိမိတ်တို့ကို မမှတ် ယူရ၊ ထိုမှတစ်ဆင့်တက်၍ လက်ခြေလှုပ်ခြင်း၊ စကားပြောခြင်း၊ တစောင်း ကြည့်ခြင်း စသည်များကို မမှတ်ယူရ၊ မှတ်ယူမိပါက ကိလေသာအာသဝေါ တရားများ တိုးပွားလေတော့သည်။

**မဟာတိဿထေရ်**

မဟာတိဿထေရ်၏ စက္ခုန္ဒြေစောင့်စည်းပုံမှာ များစွာအတုယူဖွယ်ကောင်း သည်၊ မဟာတိဿထေရ်သည် သီဟိုဠ်ကျွန်းစေတိယတောင်မှ အနုရာဓမြို့တွင်းသို့ ဆွမ်းခံကြွရာ လင်ယောကျ်ားနှင့် ရန်ဖြစ်၍ ပိဘရပ်ထံပြန်မည်ဟု ထွက်လာသော

အမျိုးသမီးတစ်ယောက်သည် မထေရ်ကို မြင်လျှင် ဤရဟန်းကို ချွဲစဆောင်မည် ဟူသောအကြံဖြင့် အသံကျယ်လောင်စွာ ရယ်လိုက်သည်၊ မထေရ်သည် ထိုအမျိုးသမီး၏ သွားတို့ကို ကြည့်၍ အရိုးစုအမှတ်သညာကို ရရှိ၍ တရားပွားများရာ ရဟန္တာ ဖြစ်လေသည်။ သူမ၏ယောကျ်ားသည် မယားကို ခေါ်မည်ဟု လိုက်လာခဲ့ရာ မထေရ်ကို တွေ့ရသဖြင့် "အရှင်ဘုရား....လမ်းတွင် မိန်းမတစ်ယောက်ကို တွေ့မြင်ပါသလော"ဟု မေးရာ ဤအရပ်မှ သွားသော သူကို ယောကျ်ားဟူ၍လည်းကောင်း, မိန်းမဟူ၍လည်းကောင်း ငါမသိလိုက်ပါ၊ စင်စစ်အရိုးစုကြီးတစ်ခုသွားသည်ကိုသာ မြင်၏ဟု မိန့်တော်မူလိုက်သည်။ ဤဆိုလျှင် မိန်းမအဆင်းကို မြင်သော်လည်း မြင်ရုံမျှသာ ဖြစ်၍ မိန်းမဖြစ်သည့်အမှတ် မထားဘဲ ကမ္မဋ္ဌာန်းတရား ပွားများသဖြင့် ရဟန္တာ အဖြစ်သို့ ရောက်လေသည်။ (ဣန္ဒြိယသံဝရသီလဆောက်တည်ပုံ။)

**အာဇီဝပါရိသုဒ္ဓိသီလ**

ဝိနည်းဒေသနာတော်သာ အသက်မွေးခြင်းတည်းဟူသော အကြောင်းနှင့်စပ်၍ ပညတ်တော်မူအပ်သော သိက္ခာပုဒ် ၆-ခုတို့မှ ရှောင်ကြဉ်ခြင်း၊ အခြားယုတ်ညံ့သော အကျင့်ဖြင့် အသက်မွေးခြင်းမှ ရှောင်ကြဉ်ခြင်းသည် **အာဇီဝပါရိသုဒ္ဓိသီလ** မည်၏။

**အသက်မွေးမှုနှင့် စပ်ဆိုင်သော သိက္ခာပုဒ်ခြောက်ပါးတို့မှာ—**

(၁) ယုတ်မာသော အလိုဆိုးရှိသည် ဖြစ်၍ မိမိ၌ ထင်ရှားမရှိသော စျာန်မဂ်ဖိုလ်တရားတို့ကို ရှိလေဟန် ဝါကြွား ပြောဆိုခြင်း မပြုရ၊ ပြောဆိုပါက ပါရာဇိကအာပတ် သင့်၏။

(၂) မိန်းမ ယောကျ်ား နှစ်ဦးသားတို့အား စေ့စပ်အောင်သွယ် ပေးပါက သံဃာဒိသေသ်အာပတ်သင့်၏။

(၃) မိမိကိုယ်ကို ရဟန္တာဟု တိုက်ရိုက် မပြောဘဲ "သင်၏ ကျောင်းမှာနေသော ရဟန်းသည် ရဟန္တာဖြစ်၏"ဟု ပြော၍ ဒကာက နားလည်လျှင် ထုလ္လစ္စဉ်း အာပတ်သင့်၏။

(၄) မြတ်သော ခဲဖွယ်ဘောဇဉ်ကို ကျန်းမာပါလျက် မိမိအတွက် နှုတ်မြွက်၍ တောင်းစားလျှင် ပါစိတ်အာပတ်သင့်၏။

(၅) မြတ်မွန်သော ခဲဖွယ်ဘောဇဉ်ကို ကျန်းမာပါလျက် မိမိအတွက် နှုတ်မြွက်၍ တောင်းစားသော ဘိက္ခုနီမအား ပါဋိဒေသနီယ အာပတ်သင့်၏။

(၆) သာမန် ဟင်းကို ဖြစ်စေ, ဆွမ်းကို ဖြစ်စေ ကျန်းမာပါလျက်နှင့် မိမိအတွက် နှုတ်မြွက်၍ တောင်းစားသော ရဟန်းအား ဒုက္ကဋ်အာပတ်သင့်၏။

ထို့ပြင်—

- သူတပါး အထင်ကြီးအောင် ဟန်ဆောင်ခြင်း (ကုဟန)၊
- ပစ္စည်းလှူရေး လမ်းကြောင်းပေး၍ ပြောဆိုခြင်း (လပန)၊
- လှူလိုစိတ်ပေါ်အောင် အရိပ်နိမိတ်ပြုခြင်း (နေမိတ္တိကတာ)၊
- မလှူဘဲ မနေသာအောင် အကျပ်ကိုင်ပြောဆိုခြင်း (နိပ္ပေသိကတာ)၊
- ရပြီးပစ္စည်းဖြင့် မျှား၍ အလှူခံယူခြင်း (လာဘေန လာဘံ နိဇိဂီသနတာ)—

ဤသို့ အစရှိသော ယုတ်ညံ့သော အပြုအမူ အပြောအဆိုဖြင့် အသက်မွေးခြင်းကို မိစ္ဆာဇီဝဟု ခေါ်၏၊ ယင်းမိစ္ဆာဇီဝမှ ရှောင်ကြဉ်ခြင်းသည် **အာဇီဝပါရိသုဒ္ဓိ သီလ** မည်၏။

**ပစ္စယသန္နိဿိတသီလ**

ဆွမ်း, သင်္ကန်း, ကျောင်း, ဆေး ပစ္စည်းလေးပါးကို ပညာဖြင့် ဆင်ခြင်၍ မှီဝဲသုံးဆောင်ခြင်းသည် **ပစ္စယသန္နိဿိတသီလ** မည်၏။

**သုံးဆောင်ခြင်း (၄)မျိုး**

ပစ္စည်းလေးပါးကို သုံးဆောင်ရာ၌ အောက်ပါအတိုင်း ၄-မျိုးရှိ၏—

(က) ခိုးယူသုံးဆောင်ခြင်း (ထေယျပရိဘောဂ)၊

(ခ) ကြွေးယူသုံးဆောင်ခြင်း (ဣဏပရိဘောဂ)၊

(ဂ) အမွေခံအဖြစ်ဖြင့် သုံးဆောင်ခြင်း (ဒါယဇ္ဇပရိဘောဂ)၊

(ဃ) ပိုင်ရှင်အဖြစ်ဖြင့် သုံးဆောင်ခြင်း (သာမိပရိဘောဂ)။

သီလမရှိသော သူ၏ ပစ္စည်းလေးပါးကို သုံးဆောင်ခြင်းသည် သံဃာ့အလယ်မှာ နေ၍ သုံးဆောင်စေကာမူ ခိုးယူသုံးဆောင်သည်နှင့် တူ၏။ သီလရှိသော ပုဂ္ဂိုလ်များအား ရည်စူး၍ လှူဒါန်းထည်ကို သီလမရှိဘဲလျက် စားသုံးခြင်းကြောင့် ဖြစ်သည်။

သီလရှိသော်လည်း ပစ္စဝေက္ခဏာဆင်ခြင်မှု မပြုဘဲ သုံးဆောင်ခြင်းသည် အကြွေးယူသုံးဆောင်ရာ ရောက်၏။ စားသုံးနေစဉ် မဆင်ခြင်မိပါက နံနက် အရုဏ်မတက်မီ ဆင်ခြင်ရ၏။ ဤကဲ့သို့ အတိုးချ၍ ပစ္စဝေက္ခဏာဆင်ခြင်မှုကို ပြုရသဖြင့် ကြွေးယူမှုဖြင့် နှိုင်းခိုင်းထားခြင်း ဖြစ်သည်။

သီလရှိသော ပုဂ္ဂိုလ်တို့၏ ပစ္စည်းလေးပါးကို ပညာဖြင့် ဆင်ခြင်၍ သုံးဆောင်ခြင်းသည် အမွေခံအဖြစ်ဖြင့် သုံးဆောင်ခြင်း မည်၏။

ကိလေသာ အာသဝေါတရား ကုန်ခန်းပြီးသော ရဟန္တာ ပုဂ္ဂိုလ်တို့၏ သုံးဆောင်ခြင်းသည် ပိုင်ရှင်အဖြစ်ဖြင့် သုံးဆောင်ခြင်း မည်၏။

ဤသုံးဆောင်ခြင်း ၄-မျိုးတို့တွင် သာမိပရိဘောဂနှင့် ဒါယဇ္ဇပရိဘောဂ နှစ်ပါးကိုသာ ပြုသင့်၏။ ဣဏပရိဘောဂနှင့် ထေယျပရိဘောဂ မဖြစ်စေရန် ကြိုးပမ်းကြရမည် ဖြစ်သည်။

ဤသို့လျှင် ဆိုအပ်ပြီးသော နည်းအတိုင်း ပစ္စည်းလေးပါးတို့ကို ပစ္စဝေက္ခဏာ ဆင်ခြင်၍ သုံးဆောင်သဖြင့် ပစ္စယသန္နိဿိတသီလကို ပြည့်စုံစေရာ၏။

**သီလစင်ကြယ်နည်း ၄-မျိုး**

ထိုသီလလေးပါးတို့ ညစ်နွမ်းနေပါက စင်ကြယ်အောင် နည်း ( ၄ )နည်းဖြင့် ဆောင်ရွက် နိုင်ပေသည်။ ထိုတွင် ပါတိမောက္ခသံဝရသီလ၌ သင့်သော အာပတ်ကို သက်ဆိုင်ရာကုစားနည်းဖြင့် ဒေသနာကြားလျှင်စင်ကြယ်စေနိုင်၏။ (ဒေသနာဝိသုဒ္ဓိ။)

ဣန္ဒြိယသံဝရသီလ၌ နောက်ထပ်တဖန် ဤသို့ မပြုလုပ်တော့ပြီဟု စိတ်ကို ဆုံးဖြတ်ကာ စောင့်စည်းခြင်းဖြင့်သာလျှင် စင်ကြယ်စေနိုင်၏။ (သံဝရဝိသုဒ္ဓိ။)

အာဇီဝပါရိသုဒ္ဓိသီလ၌ မအပ်သော ရှာမှီးခြင်းကို ပယ်ရှားပြီးလျှင် တရားနှင့် အညီသာ ပစ္စည်းကို ရှာမှီးသုံးဆောင်ခြင်းဖြင့် စင်ကြယ်စေနိုင်၏။ (ပရိယေဋ္ဌိသုဒ္ဓိ။)

ပစ္စယသန္နိဿိတသီလ၌ ပညာဖြင့် ဆင်ခြင်မှုကို ပြန်လည်အတိုးချ ဆင်ခြင်မှု ပြုမှသာ စင်ကြယ်စေနိုင်လေသည်။ (ပစ္စဝေက္ခဏာသုဒ္ဓိ။)

### အသက်ကိုပင် စွန့်လွှတ်၍ သီလကို ဖြည့်ကျင့်ကြသော မထေရ်များ

ရှေးအခါက သီဟိုဠ်ကျွန်း မဟာဝတ္တနိမည်သော တောအုပ်ကြီး၌ မထေရ်တစ်ပါးကို ခိုးသူများဖမ်း၍ နွယ်ငန်းဖြင့် နှောင်ဖွဲ့ထားကုန်၏။ မထေရ်သည် ရုန်းထွက်နိုင်သော်လည်း ရုန်းထွက်က နွယ်ငန်းပြတ်၍ (ဘူတဂါမပါစိတ်) အာပတ်သင့်မည်ကို စိုးရိမ်သောကြောင့် မရုန်းမကန်ဘဲ ထားခဲ့သည့်အတိုင်းပင် နေလျက် ခုနစ်ရက်ပတ်လုံး ဝိပဿနာပွားနေခဲ့သည်၊ အနာဂါမ်ဖိုလ်သို့ ရောက်ပြီးလျှင် ထိုနေရာ၌ပင် ကွယ်လွန်သွား၍ ဗြဟ္မာ့ပြည်၌ ဖြစ်လေ၏။

သီဟိုဠ်ကျွန်း၌ မထေရ်တစ်ပါးကို ခိုးသူများက ဆင်သမနွယ်ဖြင့် တုတ်နှောင်ကာ မထနိုင်အောင် တုံးလုံးလှဲထားခဲ့ကုန်၏။ ထိုခဏ၌ တောမီးလောင်ရာ မထေရ်သည် ယင်းနွယ်ကို ဖြတ်မည်ဆိုက ဖြတ်နိုင်သော်လည်း အာပတ်သင့်မည်ကို စိုးရိမ်သဖြင့် နွယ်ကို မဖြတ်ဘဲ ဝိပဿနာတရား ပွားများနေခဲ့သည်။ အသက်ကုန်ခြင်းနှင့် ကိလေသာ ကုန်ခန်းခြင်းတို့ တပြိုင်နက်ဖြစ်သည့် သမသီသီခေါ် ရဟန္တာဖြစ်ကာ ပရိနိဗ္ဗာန်စံလွန်တော်မူသည်။ ဤသို့လျှင် ပါတိမောက္ခသံဝရသီလကို သဒ္ဓါတရားဖြင့် အသက်စွန့်၍ စောင့်ထိန်းကြသည်။

### စိတ္တဂုတ္တမထေရ်

ဣန္ဒြိယသံဝရသီလကို သတိဖြင့် စောင့်ထိန်းပုံကို ပြဦးအံ့—

သီဟိုဠ်ကျွန်း ကုရဏ္ဍကလိုဏ်ဂူကြီး၌ စိတ္တဂုတ္တမထေရ်ကြီး သီတင်းသုံး၍ တရားအားထုတ်နေ၏။ ယင်းလိုဏ်ဂူ၌ ဝိပဿီအစရှိသော ဘုရားရှင် ခုနစ်ဆူတို့၏ တောထွက်ခန်းကို အဆန်းတကြယ် ပန်းချီဆေးရေးထား၏။ အာဂန္တုရဟန်းများသည် ကျောင်းစဉ်လျှောက်၍ ကြည့်ရှုသောအခါ ပန်းချီဆေးခြယ်ထားသည့် တောထွက်ခန်းကို မြင်ကြ၍ မထေရ်မြတ်ထံ ဝင်ပြီး အရှင်ဘုရားသီတင်းသုံးရာ လိုဏ်ဂူ၌ ရေးခြယ်ထားသည့် တောထွက်ခန်း ရုပ်ပုံတော်များသည် အလွန်နှစ်သက်ဖွယ်ရှိပါကုန်၏ဟု လျှောက်ကြ၏။ မထေရ်မြတ်က ''ငါ့ရှင်တို့....ငါသည် အနှစ်ခြောက်ဆယ်ကျော် ဤလိုဏ်ဂူ၌ နေထိုင်ခဲ့သော်လည်း ပန်းချီဆေးရေးရုပ် ရှိသည်,မရှိသည်ကို ငါမသိ၊ ယနေ့မှ သင်တို့ပြောကြား၍ သိရသည်''ဟု မိန့်ကြားခဲ့သည်။

ထိုသတင်း ကြား၍ ဘုရင်က ပင့်သဖြင့် ဘုရင့်နန်းတော်ရောက်သောအခါ၌လည်း မင်းက ရှိခိုးသည်ဖြစ်စေ, မိဖုရားက ရှိခိုးသည်ဖြစ်စေ ''မင်းကြီး ချမ်းသာခြင်းရှိပါစေ''ဟူ၍သာ မိန့်တော်မူ၏။ မင်းဟူ၍လည်းကောင်း, မိဖုရားဟူ၍လည်းကောင်း ပိုင်းခြားမှတ်သားခြင်း မပြုပေ။ လိုဏ်ဂူသို့ပြန်ကြွ၍ ဝိပဿနာဆက်လက်ရှုပွားတော်မူရာ ရဟန္တာ အဖြစ်သို့ ရောက်လေသည်။

**မဟာမိတ္တထေရ်**

မဟာမိတ္တထေရ်၏ မိခင်၏ရင်သားတွင် အဆိပ်ရှိသော အိုင်းအနာပေါက်၏။ သမီးဖြစ်သူမှာ ဘိက္ခုနီမဖြစ်သည်၊ သမီးကို ခေါ်ပြီး သင့်မောင်ထံသွား၍ ငါ့မှာ အနာပေါက်နေကြောင်း လျှောက်ထား၍ ဆေးတောင်းယူခဲ့လော့ဟု မှာကြား၏၊ ဘိက္ခုနီမ၏ လျှောက်ထားချက်အရ မထေရ်ကြီးက ငါသည် ဆေးချက်ရန် နည်းလမ်းကို မသိပေ။ ငါသည် ရဟန်းဖြစ်ချိန်မှ စ၍ ယနေ့အထိ တပ်မက်သော လောဘစိတ်ဖြင့် ဣန္ဒြေကို ဖျက်ကာ ဝိသဘာဂဖြစ်သော မိန်းမ အာရုံကို တစ်ကြိမ်မျှ မကြည့်စဖူး၊ ဤသစ္စာစကားကြောင့် ငါ၏ မိခင် ကျန်းမာ ချမ်းသာခြင်း ဖြစ်ပါစေ”ဟု သစ္စာစကားကို မှာကြားလိုက်၏။ ယင်းမှာသည့် အတိုင်း နှမဖြစ်သူသည်၊ သစ္စာစကားကို ရွတ်ဆို၍ မိခင်ကို သုံးသပ်ရာအဆိပ် ရှိသော အိုင်းအမာသည် ပျောက်ကင်းလေ၏။ ဣန္ဒြိယသံဝရသီလဖြင့် သစ္စာ ဆိုကာ ကုသခြင်း ဖြစ်သည်။

**အရှင်သာရိပုတ္တရာမထေရ်**

အရှင်သာရိပုတ္တရာမထေရ်သည် အရှင်မဟာမောဂ္ဂလ္လာန်မထေရ်နှင့်အတူ ဟစ်ခုသော တောအုပ်၌ သီတင်းသုံးနေတော်မူစဉ် လေနာရောဂါစွဲကပ်၍ အလွန်ပင်ပန်း နွမ်းနယ်တော်မူ၏။ အရှင်မဟာမောဂ္ဂလ္လာန်က ငါ့ရှင် ရှေးအခါက လေနာရောဂါဖြစ်သောအခါ အဘယ်ဆေးဖြင့် ချမ်းသာရ ရဖူးသနည်းဟု မေး၏။ အရှင်သာရိပုတ္တရာမထေရ်က ထောပတ်၊ ပျားသကာ စသည်ထည့်၍ ကြိုသော ရေမရောသည့် နို့ဃနာဖြင့် လေနာရောဂါ ချမ်းသာဖူးပါသည်ဟု မိန့်တော်မူ၏။ ဤသို့ မထေရ်နှစ်ပါးအချင်းချင်း စကားနှီးနှော ပြောဆိုနေကြ သည်ကို စင်္ကြံဦးရှိ ရုက္ခစိုးနတ် ကြား၍ အရှင်မဟာမောဂ္ဂလ္လာန်မထေရ်၏ ဆွမ်းဒကာအိမ်သို့ သွားပြီး သားကြီး ကိုယ်၌ ပူးဝင်နှိပ်စက်လေ၏၊ နက်ဖြန် အရှင်မဟာမောဂ္ဂလ္လာန်ထေရ်အား နို့ဃနာဆွမ်းလှူလျှင် သူ့ကို ငါလွှတ်မည် ဟူ၍ ဆို၏။ နောက်နေ့တွင် ဆွေမျိုးများသည် ရေမရောသော နို့ဃနာဆွမ်းကို ချက်၍ အရှင်မဟာမောဂ္ဂလ္လာန်ထေရ် ဆွမ်းခံလာသောအခါ ဆက်ကပ် လှူဒါန်း ကြကုန်၏၊ အရှင်မဟာမောဂ္ဂလ္လာန်လည်း အရှင်သာရိပုတ္တရာအား ဆက်ကပ် လေ၏၊ အရှင်သာရိပုတ္တရာသည် ထိုနို့ဃနာဆွမ်းကို မဘုဉ်းပေးမီ စဉ်းစား ဆင်ခြင်သော် ရုက္ခစိုးနတ်ကြောင့် ဤနို့ဃနာဆွမ်း ရတော်မူသည်ကို မြင်၍ ဤနို့ဃနာဆွမ်းသည် မအပ်ဟူ၍ ဆို၏၊ ထိုအခါ အရှင်မဟာမောဂ္ဂလ္လာန် သည် သပိတ်အနားစွန်းကို ကိုင်၍ မှောက်သွန်ပစ်လိုက်ရာ နို့ဃနာဆွမ်း မြေပေါ်သို့ ကျသည်နှင့် တပြိုင်နက် အရှင်သာရိပုတ္တရာ လေနာပျောက်ကင်း လေ၏။

**အမ္ဗခါဒက မဟာတိဿမထေရ်**

သီဟိုဠ်ကျွန်း စိရဂုမ္ဗအရပ်၌ သီတင်းသုံးနေသော မဟာတိဿမထေရ်သည် ဝတ်မွတ်ပေါင်းပါးခြင်းဘေး ဆိုက်ရောက်လာသောအခါ ခရီးသွားစဉ် ဆွမ်းပြတ်လတ်၍ အားပြတ်နေသဖြင့် အသီးရှိသော သရက်ပင်ရင်း၌ သီတင်းသုံးနေ၏၊ သရက်သီးမှည့်တို့သည် မထေရ်၏ အနီး၌ ကြွေကျကုန်၏၊ လွန်စွာ ဆာလောင်မွတ်သိပ်သော်လည်း ကောက်ယူသုံးဆောင်ခြင်း မပြုချေ၊ လူအို တစ်ယောက်လာပြီး သရက်ဖျော်ရည်လုပ်၍ ဆက်ကပ်၏၊ ထို့နောက် မထေရ်ကို မိမိကျောပေါ်၌ တင်၍ လိုရာခရီးသို့ ပို့ဆောင်လေသည်။ လူအို၏ ကျောပေါ်၌ နေလျက် မိမိသီလကို ဆင်ခြင်ကာ ဝိပဿနာပွားများရာ ရဟန္တာအဖြစ်သို့ ရောက်လေ၏။

အရိယာပုဂ္ဂိုလ်တို့၏ သီလသည် ဒိဋ္ဌိဖြင့် မသုံးသပ်အပ်၊ ပုထုဇဉ် ပုဂ္ဂိုလ်တို့၏ သီလသည် ရာဂဖြင့် မသုံးသပ်အပ်၊ ထို့ကြောင့် ဤသီလများသည် အပရာမဋ္ဌ သီလမည်၏။ သီဟိုဠ်ကျွန်း၌ သူကြွယ်သားဖြစ်သော တိဿမထေရ်၏ သီလမျိုး ပင်တည်း။

သီဟိုဠ်ကျွန်းတွင် သူကြွယ်တစ်ဦး၌ သားနှစ်ယောက် ရှိ၏။ မိဘတို့ကွယ်လွန်သောအခါ သားအကြီးဖြစ်သူ တိဿလုလင်သည် ပစ္စည်းများကို ညီငယ်အား ပေးခဲ့ပြီး ရဟန်းပြု၍ တောကျောင်း၌ တရားအားထုတ်နေ၏။ ထိုအခါ ညီ၏ မယား (ခယ်မ)ဖြစ်သူက အစ်ကို တိဿ လူထွက်လာလျှင် ပစ္စည်းများ ထက်ဝက်ခွဲပေးရမည် စိုးရိမ်သဖြင့် လူဆိုးတို့အား ပစ္စည်းဥစ္စာ ပေးကမ်းပြီး အသတ်ခိုင်းလေ၏၊ လူဆိုးများသည် တောကျောင်း၌ မထေရ်ကို ဖမ်းဆီးကြကုန်၏၊ မထေရ်က ငါ့မှာ ပစ္စည်းမရှိဟု ပြောရာ လူဆိုးများက သတ်ရန် လာခဲ့ကြောင်း ပြော၏။ သီလကို မှီ၍ အရဟတ္တဖိုလ် ရယူလိုသဖြင့် တစ်ညတာမျှ တရားအားထုတ်ခွင့်ပေးရန် တောင်းဆို၏။ လူဆိုးများ ယုံကြည်စေရန် ကြီးစွာသော ကျောက်ခဲဖြင့် ဒူးနှစ်ဖက်ကို ကိုယ်တိုင်ထုနှက်၍ ရိုက်ချိုးလိုက်၏၊ ဒူးနှစ်ဖက်လုံး သွင်သွင်ကျိုးသောအခါ လူဆိုးတို့က တရားအားထုတ်ခွင့် ပေးသဖြင့် မိမိ၏သီလကို ဆင်ခြင်လျက် ဝိပဿနာတရားကို အားထုတ်ရာ အရုဏ်တက်သောအခါ အရဟတ္တဖိုလ်သို့ ရောက်တော်မူ၏။

**မဟာသံဃရက္ခိတမထေရ်**

ဝါတော်ခြောက်ဆယ်ရှိ မဟာသံဃရက္ခိတမထေရ်သည် သေမည့် ညောင်စောင်း၌ လဲလျောင်းနေစဉ် ရဟန်းသံဃာများက မေးသဖြင့် ငါ့မှာ ရှုပြီးသော

လောကုတ္တရာဟာရားမရှိဟု မထေရ်မြတ်က ဖြေကြား၏။ ပုထုဇဉ် အဖြစ်သေသွားလျှင် တစ်ဆယ့်နှစ်ယူဇနာအတွင်းရှိ လူများ စိတ်မချမ်းမသာဖြစ်ရတော့မည်ဟု လျှောက်ကြ၏။ ငါသည် မေတ္တေယျဘုရားကို ဖူးမြော်အံ့ဟု အောက်မေ့ကာ ဝိပဿနာတရား အားမထုတ်ဘဲ နေခဲ့သည်။ ဤသို့ဖြစ်လျှင် ငါ့ကို ထူမ-ပေး၍ တရားနှလုံးသွင်းရန် ခွင့်ပြုကြလော့ဟု မိန့်၏။ ရဟန်းငယ်က မထေရ်ကို ထူမ-ပေးပြီးလျှင် အပြင်သို့ ထွက်ပေးသည်နှင့် တပြိုင်နက် ရဟန္တာ အဖြစ်သို့ ရောက်၏၊ မထေရ်ကြီးက ငါ့အရှင်တို့ ဤသို့ သေခါနီးဆဲဆဲမှာ လောကုတ္တရာတရား ဖြစ်စေခြင်းငှာ မခဲယဉ်းပါ၊ ခဲယဉ်းသော အမှုမှာ ရဟန်းဖြစ်သော ကာလမှစ၍ သတိသမ္ပဇဉ်မပါဘဲ မပြုလုပ်မိစေရန် စောင့်ထိန်းရခြင်း ဖြစ်၏။ သတိပညာ မလွတ်ကင်းအောင် နေနိုင်ခြင်းသည်သာလျှင် ခဲယဉ်းလှပေသည်ဟု မိန့်တော်မူ၏။

**သီလညစ်ညူးခြင်း**

သီလကျိုးခြင်း, ပေါက်ခြင်း, ပြောက်ခြင်း ကျားခြင်းတို့သည် ပစ္စည်းဥစ္စာ, အခြံအရံ, ဆွေမျိုး, အသက်, အကျော် အစော စသည်တို့ကြောင့် ဖြစ်ပေါ်၍ သီလညစ်ညူးခြင်း ဖြစ်ရသည်၊ ထို့ပြင် ခုနစ်ပါးသော မေထုန်ငယ်တရားတို့နှင့် ယှဉ်တွဲခြင်းကြောင့် သီလညစ်ညူးခြင်းဖြစ်ရ၏။

ရဟန်းတစ်ပါးသည် အာပတ်ခုနစ်ပုံရှိသည့်အနက် ပစ္စည်းဥစ္စာကို လိုချင်ခြင်း, အကျော်အစောဂုဏ်ကို ရလိုခြင်း စသည်တို့ကြောင့် အစဖြစ်သော အာပတ်အစုဖြစ်စေ, အဆုံးဖြစ်သော အာပတ်အစုဖြစ်စေ သင့်ရောက်၍ သိက္ခာပုဒ် ပျက်စီးငြားအံ့၊ ထိုရဟန်း၏ သီလသည် အနားစွန်း၌ ပြတ်သော အဝတ်ကဲ့သို့ ပြတ်သည် ကျိုးသည် မည်၏။

ရဟန်းတစ်ပါး၏ သီလသည် အလယ်၌ ဖြစ်သော အာပတ်စု၌ ပျက်စီးငြားအံ့၊ ထိုရဟန်း၏ သီလသည် အလယ်၌ ပေါက်သော အဝတ်ကဲ့သို့ ပေါက်သည် မည်၏။

ရဟန်းတစ်ပါး၏ သီလသည် အစဉ်အတိုင်း သိက္ခာပုဒ်နှစ်ပါး, သုံးပါးပျက်စီးငြားအံ့၊ ထိုရဟန်း၏ သီလသည် ကျော၌ ဖြစ်စေ, ဝမ်း၌ ဖြစ်စေ အညိုအနီစသော ကျားသော အဆင်းရှိသော နွားကဲ့သို့ ကျားသော သီလမည်၏။

ရဟန်းတစ်ပါး၏ သီလသည် သိက္ခာပုဒ်တစ်ခုကျော်,နှစ်ခုကျော် စသည်ဖြင့် ခုန်ကျော်လျက် ပျက်စီးငြားအံ့၊ ထိုရဟန်း၏ သီလသည် အကြားအကြား၌ မတူသော အဆင်းဖြင့် အပြောက်အပြောက်ရှိသော နွားကဲ့သို့ ပြောက်သော သီလမည်၏။

ဤသို့လျှင် သီလ၏ကျိုးပြတ်ခြင်း, ပေါက်ခြင်း, ကျားခြင်း, ပြောက်ခြင်း များသည် သီလ၏ ညစ်ညူးမှုပင် ဖြစ်သည်။

ထိုပြင် အောက်ဖော်ပြပါ မေထုန်ငယ် ခုနစ်ပါးကြောင့်လည်း သီလ ညစ်ညူးခြင်း ဖြစ်သေး၏—

(၁) အမျိုးသမီး၏ အနင်းအနှိပ် အဆုပ်အနယ်ကို သာယာခြင်း၊
(၂) အမျိုးသမီးနှင့်တကွ ရယ်ဖွယ်ရွှင်ဖွယ် ကျီစယ်ပြောဆိုသာယာခြင်း၊
(၃) အမျိုးသမီးနှင့် အချင်းချင်း စိန်းစိန်းစိုက်စိုက် ကြည့်ရှု သာယာခြင်း၊
(၄) အမျိုးသမီး၏ အသံကို အနီးအဝေးက ကြားရ၍ သာယာခြင်း၊
(၅) ရှေးရှေးသောအခါက အမျိုးသမီးနှင့် ပျော်ပါးဖူးသည်ကို အမှတ်ရ၍ တအောက်မေ့မေ့ သာယာခြင်း၊
(၆) တပါးသောသူတို့ အမျိုးသမီးနှင့် ပျော်မြူးနေသည်ကို မြင်၍ကြား၍ သာယာခြင်း၊
(၇) ယခုစောင့်ထိန်းသော ဥပုသ်သီလ၏ အကျိုးအဖြစ်ဖြင့် နောင် နတ်သမီး နတ်သားဖြစ်၍ ခံစား စံစားလိုမှု၌ စိတ်ညွတ်ခြင်း—

ဤ ၇-ပါးတွင် တစ်ပါးပါးနှင့် စွန်းငြိသော သီလသည် သီလညှိုး, သီလကျိုး, သီလပျက် မည်၏။

ထိုမှတပါးလည်း အောက်ဖော်ပြပါ ယုတ်ညံ့သော တရားများကြောင့်လည်း သီလညစ်နွမ်းရ၏—

**ကောဓ**=အမျက်ထွက်ခြင်း၊
**ဥပနာဟ**=ရန်ငြိုးဖွဲ့ခြင်း၊
**မက္ခ**=သူ့ဂုဏ်ကျေးဇူးကို ချေဖျက်ခြင်း၊
**ပဠာသ**=အပြိုင်ပြုခြင်း၊
**ဣဿာ**=သူ့စည်းစိမ်ကို မနာလိုခြင်း၊
**မစ္ဆရိယ**=မိမိစည်းစိမ်ကို နှမြောဝန်တို လျှို့ဝှက်ခြင်း၊
**မာယာ**=မိမိ၌ ထင်ရှားရှိသော အပြစ်ကို ဖုံးလွှမ်းခြင်း၊
**သာဌေယျ**=မိမိ၌ထင်ရှားမရှိသောဂုဏ်ကို ထင်ပေါ်အောင် ပြုလုပ်ခြင်း။

**သီလစင်ကြယ်ခြင်း**

ထိုသို့ မကျိုး မပေါက် မပြောက် မကျားသော သီလသည် စင်ကြယ်သည် ဖြစ်၍ တဏှာ၏ ကျွန်အဖြစ်မှ တော်လှန်မှုကို ပြုတတ်သောကြောင့် ဘုဇိဿ သီလ မည်၏၊ ပညာရှိတို့ ချီးမွမ်းအပ်သောကြောင့် ဝိညူပသဋ္ဌ သီလလည်း

**မည်၏၊** ငါ့သီလသည် အလွန်တရာ စင်ကြယ်သည် ဖြစ်၍ နောင်သောအခါ ကြီးကျယ်သော စည်းစိမ်ချမ်းသာများကို ရရှိစေလိမ့်မည် စသည်ဖြင့် တပ်မက် မောခြင်း ရာဂ (ငါ့သီလသည် အလွန်စင်ကြယ်၏၊ ငါ့သီလမျိုး အခြားသူမှာ မရှိ) စသည်ဖြင့် သက္ကာယဒိဋ္ဌိတို့ဖြင့် အသုံးသပ် မခံရခြင်းကြောင့် **အပရာမဋ္ဌသီလ**လည်း မည်၏၊ ဤသီလမျိုးသည် ရှေ့သို့ တစ်ဆင့်တက်ကာ ဈာန်နှင့် နီးကပ်သော သမာဓိ၊ ဈာန်နှင့် ယှဉ်သော သမာဓိတို့ကို ဖြစ်စေနိုင်သော ကြောင့် **သမာဓိသံဝတ္တနိကသီလ** လည်း မည်ကုန်၏။

ဤသို့ ပြဆိုခဲ့ပြီးသော အတိုင်း သီလသည်—

(၁) မကျိုးမပြတ်ခြင်း၊
(၂) မပေါက်ခြင်း၊
(၃) မကျားခြင်း၊
(၄) မပြောက်ခြင်း၊
(၅) တဏှာကို ဖောက်လွှန်နိုင်ခြင်း၊
(၆) ပညာရှိတို့ ချီးမွမ်းအပ်ခြင်း၊
(၇) တဏှာ ဒိဋ္ဌိတို့ဖြင့် အသုံးသပ် မခံရခြင်း—

ဤအင်္ဂါခုနစ်ပါးသည် သီလစင်ကြယ်ကြောင်းတရားတို့ ဖြစ်ကုန်၏၊ ထိုခုနစ်ပါး နှင့်ပြည့်စုံသော သီလသည်သာ အထက်ဖြစ်သော သမာဓိနှစ်ပါးကို ဖြစ်စေနိုင် သည်၊ ထို့ကြောင့် သမာဓိကို ရယူလိုသော ပုဂ္ဂိုလ်မြတ်သည် မိမိ၏ သီလကို ဤအင်္ဂါခုနစ်ပါးနှင့် ပြည့်စုံအောင် အားထုတ်ရာ၏။ မြတ်စွာဘုရား ဟောကြား တော်မူအပ်သောသီလကို ရစ်မသည် မိမိအသက်ကို စွန့်ကာ ဥကို စောင့်ရှောက် သကဲ့သို့ လည်းကောင်း, စာမရီသားကောင်သည် အသက်ကို စွန့်ကာ မြီးဆံကို စောင့်ရှောက်သကဲ့သို့ လည်းကောင်း, သားတစ်ယောက်တည်းသာ ရှိသော သူသည် မိမိ၏ တစ်ဦးတည်းသော သားကို ယုယုယယ စောင့်ရှောက်သကဲ့သို့ လည်းကောင်း, မျက်စိတစ်ဖက်ကန်းသူသည် ကျန်သော မျက်စိတစ်ဖက်ကို ယုယု ယယ စောင့်ရှောက်သကဲ့သို့လည်းကောင်း ထို့အတူ သီလကို စောင့်ထိန်းကုန်သော သူတို့သည် အရှုယ်သုံးပါးလုံး၌ပင် သီလကို အလေးထားကာ စောင့်ရှောက် ထိန်းသိမ်းကြရာသတည်း။

ဤတွင် အပိုင်း (၄) ပြီး၏။

# အပိုင်း (၅)

## အခန်း (၂၁)

### ဗုဒ္ဓမန္တန်တော်များ

**အန္တရာယ်ကင်းဂါထာများ**

ဤစာအုပ်တွင် အန္တရာယ်ကင်းဂါထာများ ရွတ်ဖတ်နည်းအညွှန်းနှင့် အကျိုးသွားများကို ဖော်ပြပါဦးမည်။

ယင်းကဏ္ဍကို ဖော်ပြရခြင်းမှာ ဗုဒ္ဓဘာသာဝင် လူငယ်မောင်မယ်များအတွက် အလွယ်တကူ ကျက်မှတ်စေလိုသော စေတနာဖြင့် စီစဉ်ထားခြင်း ဖြစ်သည်။ ဗုဒ္ဓဘာသာဝင် တစ်ယောက်အတွက် "ဗုဒ္ဓေါ မေ သရဏံ အညံ နတ္ထိ=ဘုရားမှလွဲလျှင် ကိုးကွယ်ရာ အားထားရာ မရှိပေ"၊ သို့သော် လူသားတို့သည် စီးပွားရေး လူမှုရေး လုပ်ငန်းတို့ဖြင့် ဌာနအသီးသီး ဒေသအရပ်ရပ်သို့ လှည့်ပတ်သွားလာ၍ နေကြရသည်။ အန္တရာယ်ဟုပြောသော ဒေသကိုသည်း မလွှဲသာ မရှောင်သာ သွားကြရသည်။ တခါတရံ အန္တရာယ်များသော အရပ်၌ နေထိုင်ကြရသည်။ ယင်းအချိန်အခါမျိုးတွင် ပုထုဇဉ်သဘာဝ စိတ်အားငယ်တတ်ကြသည်။

ထိုအချိန်မျိုးတွင် စိတ်အားတက်စရာ အားကိုးစရာများကို ရှာတတ်ကြသည်။ ဘာသာရေးဟူသည် ယင်းသို့ စိတ်အားငယ်သည့် အခါ ဘာသာတရားသည် အားကိုးရာအစစ် ဖြစ်သည်။ အန္တရာယ်များလှသော လူသားများအတွက် အားကိုးရာတစ်ရပ်အနေဖြင့် ဗုဒ္ဓမန္တန်များကို စီစဉ်ဖော်ပြထားပါသည်

ယခု ဖော်ပြမည့် ဗုဒ္ဓမန္တန်များမှာ ပိဋကတ်စာပေလာ ဂါထာ စုဏ္ဏိယများနှင့် ရှေးဆရာတော်ကြီးများ ရေးသားစပ်ဆိုတော်မူခဲ့သော ရတနာသုံးပါးဆိုင်ရာ ဂါထာနှင့် စုဏ္ဏိယများသာ ဖြစ်ပေသည်။ အချိန်များများ ပေး၍ ပိဋကတ်တော်လာ ပါဠိတော်များကို မရွတ်ဖတ် မသရဇ္ဈာယ်နိုင်ပါက အကျဉ်းချုပ်မန္တန်များကို ရွတ်ဖတ်ကြရန် ဖြစ်ပေသည်။

"နမော တဿ" အန္တရာယ်ကင်းမန္တန်မှာလည်း ဘုရားရှိခိုးပင် ဖြစ်ကြောင်း အားလုံးသိပြီးဖြစ်သည်။ ယင်းသို့ ဘုရားကို ရှိခိုးသော ပဏာမစေတနာသည်ပင် အန္တရာယ်ကင်း၍ ကျန်းမာချမ်းသာခြင်းကို ဖြစ်စေနိုင်သည်မှာ သံသယဖြစ်ဖွယ် မလိုတော့ပေ။ "သဝေမပါ ကိုးဂါထာ"မှာလည်း သရဏဂုံပါဠိပင် ဖြစ်သည်။ စိတ်တော်ဖြင့် ကျူးရင့်သော ဥဒါန်းဂါထာ၊ နှုတ်တော်ဖြင့် ကျူးရင့်သော ဥဒါန်း ဂါထာ, သမ္ဗုဒ္ဓဇယမင်္ဂလာ ဂါထာတော် စသော ဂါထာများမှလည်း ဘုရားဟောသော ပါဠိတော်များမှ ထုတ်နုတ်ထားခြင်းပင် ဖြစ်သည်။

ဤဂါထာ ပါဠိများကို ရှေးအစဉ်အဆက်ဆက်ကပင် အန္တရာယ်ကင်း အနေအားဖြင့် ရွတ်ဖတ်ပွားများခဲ့ကြသည်၊ ယုံကြည်ခဲ့ကြသည်။ ယုံကြည်သည့် အတိုင်းလည်း လက်တွေ့အကျိုး ခံစားရသူများ အများအပြားပင် ရှိခဲ့သည်။

အောင်ခြင်းရှစ်ပါးဂါထာ, သမ္ဗုဒ္ဓေဂါထာတို့မှာလည်း ဘုရားဂုဏ်တော်နှင့် စပ်၍ ရှေးဆရာတော်များ ရေးသားထားခဲ့ရာ ယနေ့တိုင် အစဉ်အလာအားဖြင့် ရွတ်ဖတ်သရဇ္ဈာယ်ကြမြဲသည်။

ထို့ကြောင့်ပင် ဤကျမ်း၌ ဗုဒ္ဓမန္တန်များ အခန်းကို သီးခြား ဖော်ပြထားခြင်း ဖြစ်သည်။ မြတ်ဗုဒ္ဓကို ယုံကြည်သော သဒ္ဓါတရားရှိသူများအဖို့ ဤဂါထာများကို ရွတ်ဖတ်သရဇ္ဈာယ်ရခြင်းသည် သမာဓိတည်ငြိမ်မှုဖြင့် ရွတ်ဆိုနေခိုက်မှာပင် စိတ်ချမ်းသာမှုကို အပြည့်အဝ ခံစားကြရပေမည်။ စိတ်၏ စွမ်းအင်, သဒ္ဓါတရား၏ စွမ်းအင် သတ္တိကြောင့် အန္တရာယ်ကင်းနိုင်ခြင်းကိုကား သံသယဝင်ဖွယ် မလိုတော့ပေ။

ဤအကျိုးများကို ရယူလိုသူများအတွက် အခက်အခဲမရှိစေရန် တစ်စု တစ်ပေါင်းတည်းဖြစ်စေရန် ဗုဒ္ဓမန္တန်များကို စီစဉ်တင်ပြထားခြင်း ဖြစ်ပေသည်။

## ၁။ "နမော တဿ"အန္တရာယ်ကင်းဂါထာ

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

အရဟတော၊ အရဟတ္တမဂ်ဉာဏ်ဖြင့် ဗုဒ္ဓဂုဏ်အင် စုံလင်ခဲ့ရာ ဖြဟ္မာနတ်လူ သုံးဘုံသူတို့၏ အလှူတော်မှန် အပူဇော်ကိုခံတော်မူထိုက်သော။ သမ္မာသမ္ဗုဒ္ဓဿ၊ အမှန်အတိုင်းသာ ဆရာမပြု သဘာဝဖြင့် ဓမ္မအဖုံဖုံ တရားစုံကို အကုန်အစင် သိမြင်တော်မူပြီးထသော။ တဿ ဘဂဝတော၊ ဘုန်းတော်ခြောက်စုံ တန်ခိုးဂုဏ်နှင့် ပြည့်စုံပေငြား ထိုမြတ်စွာဘုရားအား။ နမော၊ ကာယဝစီ မနောချီလျက် သုံးလီဒွါရ ပမာဏဖြင့် ကြည်စွာသဒ္ဓါ ရှိခိုးကန်တော့ပါ၏ အရှင်ဘုရား။

ဤ"နမော တဿ"အစချီသော ဘုရားရှိခိုးသည် ဗုဒ္ဓဘာသာဝင်သူတော်စင်အဆက်ဆက်တို့ ရွတ်ဆိုရှိခိုးခဲ့ကြသည်။ ကျမ်းစာရေးသူတို့သည် ကျမ်းဦးအစ၌ ဤ"နမောတဿ"ဖြင့် ပဏာမအစချီလေ့ရှိကြသည်။ဤဘုရားရှင်လက်ထက်တွင်သာမက ရှေးရှေးသော ဘုရားရှင်တို့လက်ထက်ကပင် ပေါ်ပေါက်နေခဲ့သော ဘုရားရှိခိုးလက်ဟောင်း ဖြစ်သည်။

## ၉၂.ကမ္ဘာမှ ဘုရားရှိခိုး

လွန်ခဲ့သော ကိုးဆယ့်နှစ်ကမ္ဘာ၌ ဖုဿဘုရားရှင် ပွင့်တော်မူရာ ဖုဿဘုရားရှင်၏ ဘခမည်းတော် မဟိန္ဒမင်းကြီးသည် မြတ်စွာဘုရားရှင်ကို လွန်စွာကြည်ညိုလှသဖြင့် "နမော တဿ"ဘုရားရှိခိုးကို သုံးကြိမ်ရွတ်ဆို ကျူးရင့်လျက်ဘုရားရှိခိုးလေ့ရှိခဲ့သည်။

## သိကြားမင်း၏ ဘုရားရှိခိုး

မြတ်စွာဘုရားရှင်သည် ရာဇဂြိုဟ်မြို့၏ အရှေ့ဘက် ဂိဇ္ဈကုဋ်တောင်ခြေရှိ ဣန္ဒသာလလိုဏ်ဂူ၌ သီတင်းသုံးနေတော်မူစဉ် သိကြားမင်းသည် မိမိသိလိုသည့် အချက်များကို လာရောက်မေးလျှောက်၏၊ ယင်းအမေးကို ပြန်လည်ဖြေကြားသည့် တရားတော်ကို သက္ကပဉှာသုတ်ဟု ခေါ်၏။ သက္ကပဉှာသုတ်ကို ဟောတော်မူရာ သိကြားမင်းသည် လွန်စွာနှစ်သောင်းအားရ ကြည်ညိုလှသဖြင့် ဤ"နမော တဿ" အစချီသော ဘုရားရှိခိုးကို သုံးကြိမ်တိတိ ရွတ်ဆိုရှိခိုးလေသည်။

## ကောသလမင်းကြီး၏ ဘုရားရှိခိုး

မြတ်စွာဘုရားရှင်သည် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် အချစ်ကြောင့် ဒုက္ခဆင်းရဲဖြစ်ရသည်ဟု မြတ်စွာဘုရား ဟောကြားသည့် ဒေသနာတော်နှင့် စပ်လျဉ်း၍ ကောသလမင်းကြီး၏ နန်းတော်၌ အငြင်းပွားကြ၏။ ကောသလမင်းကြီးက အချစ်ကြောင့် ပျော်ရွှင်ချမ်းမြေ့မှု၊ နှစ်သက်ဝမ်းမြောက်မှု ဖြစ်ရသည်ဟု ယူဆယုံကြည်နေ၏။ ထိုအခါ မလ္လိကာ မိဖုရားကြီးသည် နာဠိဇင်္ဃအမည်ရှိသော ပုဏ္ဏားအား စေလွှတ်၍ မေးမြန်းလျှောက်ထားစေ၏။ ထိုအခါ မြတ်စွာဘုရားရှင်က စိုးရိမ်ပူဆွေး ငိုကြွေးရခြင်း ဆင်းရဲဒုက္ခများသည် အချစ်ကြောင့် ဖြစ်ရသည်။ လင်မယားအချစ်ကြောင့် လင်သေမယားသေ ငိုကြွေးရ၏၊ သားသမီးအချစ်ကြောင့် သားသမီးသေသည့်အခါ ငိုကြွေးရ၏ စသည်ဖြင့် ဟောကြားတော်မူ၏။ ပုဏ္ဏားသည် မလ္လိကာ မိဖုရားကြီးအား ပြန်လည်လျှောက်ထား၏။ မလ္လိကာမိဖုရားသည် ကောသလမင်းကြီးအား သမီးတော်ကလေး ဝဇိရီကို ချစ်ပါရဲ့လားဟု မေး၏၊ အသက်တမျှချစ်ခင်ကြောင်း

ဖြေကြား၏။ အကယ်၍ သမီးတော်ကလေး ဇဇီရီသေဆုံးခဲ့ပါမူ အရှင်မင်းကြီးသည် စိုးရိမ်ပူဆွေး ငိုကြွေးမှုပြု မပြု မေးရာ ကောသလမင်းကြီးက စိုးရိမ်ပူဆွေး ငိုကြွေးရုံသာမက သေပင် သေသွားနိုင်သည်ဟု ဆို၏။ ဤသို့ ဆိုပါက အချစ်ကြောင့် ဆင်းရဲဒုက္ခ ဖြစ်ရသည်ဟူသော အချက် မှန် မမှန် မေးလျှောက်၏။ မင်းကြီးသည် သဘောပေါက် နားလည်သွား၍ မိမိနှုတ်အာခံတွင်းကို ပလုတ်ကျင်း ဆေးကြောပြီး လက်ဝဲတစ်ဖက် ပခုံးထက်၌ ကိုယ်ရုံကို တင်လျက် ဘုရားရှိရာဘက်သို့ မျက်နှာမူကာ လက်အုပ်ချီ၍ "နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ" ဟု သုံးကြိမ်ရွတ်ဆို ဥဒါန်းကျူးရင့်ရှိခိုးလေသည်။

## အာရာမဒဏ္ဍပုဏ္ဏားဏ် ရှိခိုးခြင်း

အာရာမဒဏ္ဍ ပုဏ္ဏားကြီးသည် အရှင်မဟာကစ္စည်းထေရ်အား ဤသို့ လျှောက်၏၊ အိမ်ရာတည်ထောင် လူ့ဘောင်၌ နေသူများသည် အချင်းချင်း အဘယ်ကြောင့် ငြင်းခုန်ကြပါသနည်း။ အရှင်မဟာကစ္စည်းမထေရ်က "အာရုံငါးပါး ကာမဂုဏ်တရားကြောင့် ငြင်းခုန်ကြရသည်" ဟု ဖြေဆို၏၊ အိမ်ရာမထောင် ရဟန်းဘောင်၌ နေသူများ အချင်းချင်း အဘယ်ကြောင့် ငြင်းခုန်ကြရပါသနည်းဟု မေးပြန်ရာ ဒိဋ္ဌိအယူဝါဒကို အကြောင်းပြု၍ ငြင်းခုန်ကြရသည်ဟု ဖြေရ၏၊ ဤသို့ ဆိုပါက ဤလောကတွင် ကာမဂုဏ် ငြိတွယ်မှု ဒိဋ္ဌိအယူဝါဒ ငြိတွယ်မှု ကင်းသူ ရှိပါသေးသလားဟု မေးလျှောက်ရာ အရှင်မဟာကစ္စည်းမထေရ်က "အမှန်တကယ် ရှိသည်၊ ထိုပုဂ္ဂိုလ်မှာ သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်ရှိ သဗ္ဗညု ဘုရားရှင် ဖြစ်သည်" ဟု ဖြေဆို၏၊ ထိုအခါ ပုဏ္ဏားကြီးသည် လွန်စွာ ကြည်ညိုသဒ္ဓါပွား၍ နေရာမှ ထကာ အပေါ်ရုံကို လက်ကတော့တင်ပြီး လက်ယာဘက် ဒူးကို မြေကြီးပေါ်၌ ထောက်လျက် "နမော တဿ" အစရှိသော ဘုရားရှိခိုးကို သုံးကြိမ်ရွတ်ဆို ရှိခိုးလေသည်။

## ဓနဉ္စာနီ ပုဏ္ဏားမကြီး ရှိခိုးခြင်း

ထိုအခါ မြတ်စွာဘုရားသည် ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူ၏၊ ရာဇဂြိုဟ်မြို့တွင် ဘာရဒွါဇ ပုဏ္ဏားကြီးသည် ပုဏ္ဏားအယူဝါဒကို စွဲလမ်းယုံကြည်၏၊ ယင်း၏ ဇနီးဖြစ်သူ ဓနဉ္စာနီ ပုဏ္ဏားမသည် သောတာပန် အရိယာ ဖြစ်နေ၏၊ ဓနဉ္စာနီသည် "နမော ဗုဒ္ဓဿ" ဟူ၍ လည်းကောင်း, "နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ" ဟူ၍ လည်းကောင်း အမြဲမပြတ် ရွတ်ဆိုလေ့ရှိသည်ကို ပုဏ္ဏားကြီးက လုံးဝ မကြားချင်၊ အထူးသဖြင့် အခြားပုဏ္ဏားများ ရှေ့မှောက်၌ မယားဖြစ်သူက "နမော တဿ" ဟု ဆိုလိုက်ပါက အထင်သေး ခံရမည်ကို ကြောက်၏။

ဘာနေ့သောအခါ ဘာရဒွါဇသည် ပုဏ္ဏား ၅၀၀-ကို အိမ်သို့ ဖိတ်ကျွေးမွေး၏။ ဇနီးမယားဖြစ်သူအား "နမော ဗုဒ္ဓဿ" မဆိုရန် တစ်ရက် ကြိုတင်၍ ချော့မော့ ဖျောင်းပန်၏၊ ဇနီးဖြစ်သူက "နမော ဗုဒ္ဓဿ" ကို မဆိုရမနေနိုင်ဟု ပြန်ပြော၏၊ ပုဏ္ဏားကြီးစိတ်ဆိုးမာန်ဆိုးဖြစ်ကာ အိမ်နံရံတွင် ချိတ်ဆွဲထားသော ဓားကြီးကို ကိုင်မိုးလျက် "ဟေ့ ဓနဉ္စာနီ....ဒီမှာကြည့်စမ်း နက်ဖြန် ငါ့ပုဏ္ဏားတွေ လာချိန်မှာ နင့်ကတုံးကြီးကို ရိုခိုးရင် ဒီဓားနှင့် ခြေဖျားက ခေါင်းထိအောင် နုတ်နုတ်ပါအောင် တောက်တောက်စင်းပစ်လိုက်မယ်"ဟု ကြိမ်းမောင်းလိုက်သည်။ ထိုအခါ ဓနဉ္စာနီက "သတ်ချင်သတ် လိုက်၊ 'နမော ဗုဒ္ဓဿ' လို့ မဆိုဘဲ မနေနိုင်"ဟု ခေါင်းမာစွာ ပြန်ပြောလိုက်သည်။ ဘာရဒွါဇ ပုဏ္ဏားကြီးသည် လက်လျှော့လိုက်ရတော့သည်။

နောက်တစ်နေ့ ပုဏ္ဏား ၅၀၀ ကို ကျွေးမွေးနေစဉ် ဓနဉ္စာနီသည် ဝိုင်းဝန်းကူညီလုပ်ကိုင်ပေးနေ၏၊ မိမိလင်ယောကျ်ားအတွက် နို့ထမင်းခွက်ကို ယူလာစဉ် ဓနဉ္စာနီသည် ခလုတ်တိုက်ပြီး လဲသွားသည်။ နှုတ်မှ အကျင့်ပါနေ၍ ရွတ်တရက် "နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ"ဟု ရွတ်ဆို၍ ဘုရားရှိခိုးလိုက်သည်။ ဗုဒ္ဓအသံ ကြားရသည်နှင့် ထမင်းဝိုင်းနက် ညှော်သည်ပုဏ္ဏားများသည် စိတ်ဆိုးကာ ထပြန်သွားကြလေသည်။

**ကာရဏပါလီပုဏ္ဏားကြီး ရှိခိုးခြင်း**

မြတ်စွာဘုရားသည် ဝေသာလီပြည် မဟာဝုန်တော စုလစ်မွန်းချွန်တပ်သော ကျောင်းတော်၌ သီတင်းသုံးနေတော်မူ၏။ မြတ်စွာဘုရား ကျောင်းတော်မှ ပြန်လာသောပိင်္ဂိယာနီအား ကာရဏပါလီပုဏ္ဏားကြီးက "ရဟန်းဂေါတမ၏ပညာ စွမ်းရည်အသို့နည်း၊ ရဟန်းဂေါတမကို ပညာရှိဟု ယူဆပါသလား"ဟု မေး၏။ ပိင်္ဂိယာနီက "ရဟန်းဂေါတမ၏ ပညာစွမ်းရည်ကို ကျွန်ုပ်တို့ ဘယ်လိုသိနိုင်မလဲ၊ ရဟန်းဂေါတမကို ရဟန်းဂေါတမလို ပုဂ္ဂိုလ်ကသာ အကဲဖြတ်နိုင်ပေလိမ့်မည်၊ ရဟန်းဂေါတမ၏ တရားကို နာရသူများသည် သောက ပရိဒေဝ အေးငြိမ်းသွားကြသည်"ဟု ဖြေကြားလိုက်သည်။ ထိုအခါ ကာရဏပါလီ ပုဏ္ဏားကြီးသည် ထိုင်ရာမှထပြီး အပေါ်ရုံကို လက်ကတော့တင်၍ လက်ယာဘက်ဒူးကို မြေပေါ် ထောက်လျက် မြတ်စွာဘုရားရှိရာဘက်ကို မျက်နှာမူ လက်အုပ်ချီပြီး "နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ"ဟု သုံးကြိမ်ရွတ်ဆို ဥဒါန်းကျူးရင့် ရှိခိုးလေသည်။

**ဇာလကုသောဏပုဏ္ဏားကြီး ရှိခိုးခြင်း**

သာဝတ္ထိပြည်နေ ဇာဏုသောဏိပုဏ္ဏားကြီးသည် ပိလောတိကပရိဗိုဇ်ကြီး၏ မြတ်စွာဘုရားဂုဏ်တော်များကို ချီးကျူးပြောကြားမှုကို ကြားနာရသဖြင့် "နမော တဿ"စသည်ဖြင့် သုံးကြိမ်ရွတ်ဆို ရှိခိုးလေသည်။

**ဗြဟ္မာယုပုဏ္ဏားကြီး ရှိခိုးခြင်း**

ဗြဟ္မာယုပုဏ္ဏားကြီးသည် မြတ်စွာဘုရားရှင် ကျော်စောသတင်းကို ကြားရ၍ ကျော်စောသည့်အတိုင်း ဟုတ်, မဟုတ်စုံစမ်းရန် မိမိ၏တပည့် ဥတ္တရလုလင်ကို စေခိုင်းလိုက်သည်၊ ဥတ္တရလုလင်သည် (၇)လတိုင်တိုင် မြတ်စွာဘုရားနောက်မှ တကောက်ကောက်လိုက်လျက် မြတ်စွာဘုရား၏ ချွတ်ယွင်းချက် အပြစ်အနာ အဆာများကို ရှာကြံခဲ့သည်။ အပြစ်အနာအဆာ မတွေ့ရသည့်အပြင် ချီးမွမ်းစရာ အချက်များကိုသာ တွေ့ရသည်။ ဥတ္တရလုလင်က ပုဏ္ဏားကြီးအား မြတ်စွာဘုရားရှင် ဂုဏ်တော်များကို ထုတ်ဖော်ချီးကျူးပြောကြားရာ ဗြဟ္မာယု ပုဏ္ဏားကြီးသည် ဘုရားရှိရာဘက်သို့ မျက်နှာမူလက်အုပ်ချီလျက် "နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ"ဟု သုံးကြိမ်ရွတ်ဆို ရှိခိုးလေသည်။

ဤ"နမော တဿ"စသည့် ဘုရားရှိခိုးကို ရွတ်ဖတ်ပူဇော်လျှင် နှောင့်ယှက် ဖျက်ဆီးလာမည့် ကိုယ်တွင်းကိုယ်ပ အန္တရာယ်များကို ကာကွယ်နိုင်ခြင်း၊ လိုအပ်သော အလုပ်ကိစ္စ အပြီးအဆုံးသို့ ရောက်နိုင်ခြင်း အစရှိသော ကောင်းကျိုးချမ်းသာများကို ခံစားရသည်။

၂။ သရဏဂမန ကိုးဂါထာ

ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊
ဓမ္မံ သရဏံ ဂစ္ဆာမိ။
သံဃံ သရဏံ ဂစ္ဆာမိ။

ဒုတိယမ္ပိ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ။
ဒုတိယမ္ပိ ဓမ္မံ သရဏံ ဂစ္ဆာမိ။
ဒုတိယမ္ပိ သံဃံ သရဏံ ဂစ္ဆာမိ။

တတိယမ္ပိ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ။
တတိယမ္ပိ ဓမ္မံ သရဏံ ဂစ္ဆာမိ။
တတိယမ္ပိ သံဃံ သရဏံ ဂစ္ဆာမိ။

ဗုဒ္ဓံ၊ သစ္စာ ၄-ပါး မြတ်တရားကို ပိုင်းခြားထင်ထင် ကိုယ်တိုင်မြင်၍ မြင်စေဟောဖော် ဘုရားရှင် ကိုယ်တော်မြတ်ကြီးကို။ သရဏံ၊ ဘေးရန် ပယ်ဖျောက် ချမ်းသာရောက်အောင် စောင့်ရှောက်တော်မူတတ်သဖြင့် အမြတ်ဆုံးသော ကိုးကွယ်ရာဟူ၍။ ဂစ္ဆာမိ၊ ယုံကြည်သိမှတ် ဆည်းကပ်ကိုးကွယ်ပါ၏ အရှင်ဘုရား။

ဓမ္မံ၊ မဂ်လေးတန် ဖိုလ်လေးတန် နိဗ္ဗာန်ပရိယတ် ဆယ်ပါးသောတရားတော် မြတ်ကို။ သရဏံ၊ ဟူ၍။ ဂစ္ဆာမိ၊ ဘုရား။

သံဃံ၊ သမ္မုတိ, အရိယာ နှစ်ဖြာသော သံဃာတော်မြတ် အပေါင်းကို။ သရဏံ၊ ဟူ၍။ ဂစ္ဆာမိ၊ ဘုရား။

ဤသဝေမပါ ကိုးဂါထာကို ယုံကြည်စွာ ရွတ်ဖတ်ပူဇော်လျှင် ဘေးရန် အန္တရာယ် အမျိုးမျိုးမှ လည်းကောင်း, ကပ်ကြီး သုံးပါးမှ လည်းကောင်း လွန်မြောက်၍ လာဘ်လာဘ ပေါများခြင်း အကျိုးများ ခံစားရမည်။

**အရိယာ သာဝိတ္တိဂါထာတော်**

> ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ။
> ဓမ္မံ သရဏံ ဂစ္ဆာမိ။
> သံဃံ သရဏံ ဂစ္ဆာမိ။ (အနက်ရှေ့အတိုင်းပေးပါ။)

ဤဂါထာမှာလည်း သရဏဂုံ သုံးပါးပင် ဖြစ်၍ ဆန်းကိုဏ်းအနေအားဖြင့် အမည်တစ်မျိုးပေးထားခြင်း ဖြစ်သည်၊ အမြဲမပြတ် ယုံကြည်စွာ ရွတ်ဖတ် ပူဇော်လျှင် ကျရောက်ဆဲ ကျရောက်ပြီး ကျရောက်လတ္တံ့သော ဘေးရန်တို့မှ လွတ်မြောက်ပြီး စီးပွားချမ်းသာဂုဏ်အသရေ တိုးတက်ကာ ယခုဘဝနောင်ဘဝပါ ကောင်းကျိုးများ တိုးပွားပြီး နိဗ္ဗာန်သို့ပင် ရောက်စေနိုင်ပါသည်။ သရဏဂုံမြဲသူသည် အပါယ်ငရဲသို့ မကျရောက်ရဘဲ သုဂတိဘဝသို့ ကိန်းသေလားရပေသည်။

**၃။ အစိန္တိယာဂါထာ (အစိန္တေယျ အကျိုးပြ)**

> ဝေံ အစိန္တိယာ ဗုဒ္ဓါ၊ ဗုဒ္ဓဓမ္မာ အစိန္တိယာ။
> အစိန္တိယေ ပသန္နာနံ၊ ဝိပါကော ဟောတိ အစိန္တိယော။

ဝေံ၊ ဤသို့။ ဗုဒ္ဓါ၊ ဘုရားရှင်တို့မည်သည်။ အစိန္တိယာ၊ မကြံစည်အပ်ကုန်။ ဗုဒ္ဓဓမ္မာ၊ ဘုရားရှင်တို့၏ တရားတော်တို့သည်လည်း။ အစိန္တိယာ၊ မကြံစည် အပ်ကုန်။ အစိန္တိယေ၊ မကြံစည်အပ်သော အရာ၌။ ပသန္နာနံ၊ ကြည်ညို ဆည်းကပ်ကြသူတို့၏။ ဝိပါကော၊ အကျိုးသည်လည်း။ အစိန္တိယော၊ မကြံစည်နိုင်သည်။ ဟောတိ၊ ဖြစ်ပါပေ၏။

ဤဂါထာကို ရွတ်ဖတ်ပူဇော်လျှင် မကြုံစဖူးအပ် မကြုံစည်နိုင်သော အကျိုးတရားများကို ရရှိခံစားရသည်။ မည်သည့် အကျိုးကို မည်မျှ မည်မျှသာ ရရှိနိုင်သည်ဟု အကန့်အသတ် မရှိဘဲ အကျိုးတရားများကို ရရှိခံစားရသည်။

၄။ ဥဒါန်းဂါထာတော်နှစ်ပုဒ် (စိတ်တော်ဖြင့်ကျူး)

(က) အနေကဇာတိသံသာရံ၊ သန္ဓာဝိဿံ အနိဗ္ဗိသံ။
ဂဟကာရံ ဂဝေသန္တော၊ ဒုက္ခာ ဇာတိ ပုနပ္ပုနံ။

(ခ) ဂဟကာရက ဒိဋ္ဌောသိ၊ ပုန ဂေဟံ န ကာဟသိ။
သဗ္ဗာ တေ ဖာသုကာ ဘဂ္ဂါ၊ ဂဟကူဋံ ဝိသင်္ခတံ။
ဝိသင်္ခါရဂတံ စိတ္တံ၊ တဏှာနံ ခယမဇ္ဈဂါ။

(က) ပုနပ္ပုနံ၊ ဘဝသံသရာ ဖန်ခါခါလျှင် ခန္ဓာဝဋ်ဇာတ် အမြစ်မပြတ်နိုင်ဘဲ။ ဇာတိ၊ ယောနိလေးထွေ လှည့်ပတ်ဖွေလျက် သန္ဓေစွဲမှီ တည်နေဖြစ်ပွားရခြင်းသည်။ ဒုက္ခာ၊ သန္ဓေဇာတိ ခန္ဓာရှိလျှင် ဗျာဓိဇရာ မရဏာတို့ မကွာနောက်ဆက် ဝင်နှိပ်စက်သဖြင့် သက်သက်ချမ်းသာ မဟုတ်ပါဘဲ လွန်စွာညှိုးနွမ်း ပင်ပန်းဆင်းရဲ လှဘိ၏။ (တသ္မာ၊ ထို့ကြောင့်။) အဟံ၊ ဘုရားအလျာ သူမြတ်ငါသည်။ ဂဟကာရံ၊ ဒုက္ခယှက်လိမ် ခန္ဓာအိမ်ကို ကြိမ်ကြိမ် ကြိုးကုတ် တည်ဆောက်လုပ်သည့် အယုတ်တမာ အကြောင်းရင်း သမုဒယသစ္စာဖြစ်သော တဏှာ ယောကျ်ား လက်သမားကို။ ဂဝေသန္တော၊ လက်သည်စစ်စစ် ဘယ်သူဖြစ်ဟု စိစစ်ထောက်လှမ်း စူးစမ်းရှာဖွေလျက် (ဝါ) စူးစမ်းရှာဖွေသော ဘုရားအလျာ သူမြတ်ငါသည်။ အနိဗ္ဗိသံ အနိဗ္ဗိသန္တော၊ တဏှာ ယောကျ်ား လက်သမားကို ပိုင်းခြားထင်ထင် လင်းလင်းမြင်သည့် သဗ္ဗညုတ ဉာဏ်မဟာကို သမ္ပာနုရွေး ငါမရသေးသည်ဖြစ်၍ (ဝါ) မရသေးသောကြောင့်။ အနေကဇာတိသံသာရံ၊ ဘဝများစွာ သံသရာကာလပတ်လုံး။ သန္ဓာဝိဿံ၊ ခန္ဓာငါးချက် ဒုက္ခစက်ကို။ ကြောက်လျက်ပင်လျှင် ငါမခင်ဘဲ သံသရာဝဋ် ချားရဟတ်၌ မရပ်မနား တဖားဖားလျှင် ပြေးသွားကျင်လည်ခဲ့ရလေပြီ။

(ခ) ဂဟကာရက၊ ဒုက္ခယှက်လိမ် ခန္ဓာအိမ်ကို ကြိမ်ကြိမ်ကြိုးကုတ် တည်ဆောက်လုပ်သည့် အယုတ်တမာ အကြောင်းရင်း သမုဒယသစ္စာဖြစ်သော တဏှာယောကျ်ား ဟယ် ...လက်သမား။ ဣဒါနိ၊ ဘုရားဖြစ်လာ ယခုအခါ၌။ တွံ၊ သင်တဏှာယောကျ်ား လက်သမားကို။ ဒိဋ္ဌော၊ သဗ္ဗညုတဉာဏ်ကို ရသဖြင့် ဒိဋ္ဌထင်ထင် ငါမြင်အပ်သည်။ အသိ၊ ဖြစ်ပေ၏။ တွံ၊ သင်တဏှာ

ယောကျ်ား လက်သမားသည်။ ဂေဟံ၊ ဒုက္ခယှက်လိမ် ခန္ဓာကိုယ် အတ္တဘော တည်းဟူသော အိမ်ကို။ ပုန ပုန ကာဟသိ၊ နင့်ခြေနင့်လက် နင့်အသက်ကို လေးမင်လျှံရှိန် ဉာဏ်ပုဆိန်ဖြင့် လေးကြိမ်ဖြတ်ခုတ် အမြစ်ပြုတ်သည့် သစ်ငုတ် တိုဟန် နင်ဖြစ်ပြီမှန်သောကြောင့် တဖန်ထပ်လျှောက် နင်ဆောက်နိုင်တော့ မည်မဟုတ်ချေ။ တေ၊ သင်တဏှာယောကျ်ား လက်သမား၏။ သဗ္ဗာ၊ တစ်ခု မကြွင်း ခပင်းဥဿုံ အလုံးစုံကုန်သော။ ဖာသုကာ၊ အခိုင်အမာတည်ဆောက် ခန္ဓာအိမ်တည်းဟူသော ဘုံကွန်းပြောက်၏ ထုပ်လျှောက် ဒိုင်း မြား ကိလေသာ တရားတို့ကို။ ဘဂ္ဂါ၊ ဝါသနာ အငွေ့အသက်နှင့်တကွ အနုသယသတ္တိ ကျန် မရှိအောင် စိစိကြေညက် ငါချိုးဖျက်အပ်ကုန်ပြီ။ ဂဟကူဋံ၊ သစ္စာလေးအင် နိဗ္ဗာန်လင်းကို မြင်ခွင့်မပေး ဝေးထက်ဝေးအောင် အစေးကန့်လန့် တားဟန့်ပိတ် ကာ အဝိဇ္ဇာတည်းဟူသော အိမ်၏အထွတ်ကို။ ဝိသင်္ခတံ၊ မှုန့်မှုန့်ကြေမွ ငါဖျက်ချ အပ်လေပြီ။ စိတ္တံ၊ ကိလေသာဟူ မှုအညစ်အကြေး ကင်းဝေးဖြူလင် ငါဘုရား၏ စိတ်အစဉ်သည်။ ဝိသင်္ခါရံ၊ သင်္ခါစက်ကွင်း ဒုက္ခခပင်းမှ လွတ်ကင်းရာအမှန် နန်းနိဗ္ဗာန်သို့။ ဂတံ၊ အာရုံမျက်မှောက် သန္တိခေတ် သိဒ္ဓိပေါက်သဖြင့် ဆိုက်ရောက်သက်ဝင် ဘိလေပြီ။ အဟံ၊ သုံးလောကထွတ်ထား ငါဘုရားသည်။ တဏှာနံ ခယံ၊ တဏှာတရား ရာဇ္ဇရှစ်ပါး၏ ပျက်ပြားကုန်ခန်းရာ အာသဝက္ခယ စတုတ္ထမဂ်ဖိုလ်သို့။ ဂတော၊ စက္ကဝါရိုက်ခြောင်း တိုက်တစ်သောင်းမှ နတ်ပေါင်း မြှဟ္မာ ကောင်းတင်းကြွေလျက် ကြည်သာဝမ်းမြောက် ငါဆိုက်ရောက်ခဲ့ လေပြီ (မဟာဗုဒ္ဓဝင်၊ဒုတွဲ။၃၅၂)။

ဘုရားရှင်သည် ဘုရားဖြစ်တော်မူပြီး၍ ဆင်ခြင်တော်မူရာ၌ ခန္ဓာအိမ် တည်ဆောက်သည့် တဏှာယောကျ်ား လက်သမားကို အရဟတ္တမဂ် ဉာဏ် သန်လျက်ဖြင့် ပယ်ဖြတ်တော်မူပြီး၍ ခန္ဓာအိမ်ကို အဆောက်မခံရတော့သဖြင့် လွန်စွာဝမ်းမြောက်ကာ စိတ်တော်ဖြင့် ဤဂါထာကို ကျူးရင့်တော်မူသည်။ ဘုရားရှင်ကို အာရုံပြု၍ ရွတ်ဖတ်ပူဇော်လျှင် ကောင်းကျိုးတရားများ ရရှိခံစား ရပြီး စိတ်၏ ကြည်နူးဝမ်းမြောက်မှုကို အမြဲမပြတ် ခံစားကြရပေမည်။ ရန်သူ မှန်သမျှကို အောင်နိုင်သည်၊ နေ့ညမပြတ် ရွတ်ဖတ်ပူဇော်ကြပါကုန်။

**၅။ ဥဒါန်းဂါထာစတော်သုံးပုဒ် (နှုတ်တော်ဖြင့်ကျူး)**

(က) ယဒါ ဟဝေ ပါတုဘဝန္တိ ဓမ္မာ၊
အာတာပိနော ဈာယတော ဗြာဟ္မဏဿ။
အထဿ ကင်္ခါ ဝပယန္တိ သဗ္ဗာ၊
ယတော ပဇာနာတိ သဟေတုဓမ္မံ။

အာတာပီနော၊ တစ်ထောင့်ငါးရာ ကိလေသာတို့ကို လွန်စွာနှိပ်ကွပ်ပူပန်စေတတ်သည့် သမ္မပ္ပဓာန်လုံ့လ ဝီရိယလည်းရှိပေထသော။ ဈာယတော၊ အာနာပါန စသည်ဖုံဖုံ သမထအာရုံနှင့် အလုံးစုံသော ရုပ်နာမ်ဓမ္မတို့၏ အနိစ္စ ဒုက္ခ အနတ္တ ခြင်းရာလက္ခဏာကို အပ္ပနာခိုက် ဈာန်မဂ်ဆိုက်အောင် စိုက်စိုက်စူးစူး အထူးမြဲမြံ ရှုအားသန်ပေထသော။ (ဝါ) ရှုအားသန်သောကြောင့်။ ဗြာဟ္မဏဿ၊ မကောင်းမှု ဟူသမျှကို အပပြုပြီးသော ရဟန္တာသခင် အရှင်မြတ်၏ သန္တာန်၌။ ယဒါ၊ အကြင်အခါ၌။ ဓမ္မာ၊ ဗောဓိပက္ခိယတရား သုံးဆယ့်ခုနစ်ပါးတို့သည်။ ဟဝေ၊ စင်စစ်။ ပါတုဘဝန္တိ၊ ဉပါဒ်ထင်ရှား ဖြစ်ပွားကုန်၏။ ယတော၊ ယင်းသို့သော ဗောဓိပက္ခိယတရား သုံးဆယ့်ခုနစ်ပါးတို့ ထင်ရှားဖြစ်ပေါ်ခြင်းကြောင့်။ သဟေတုဓမ္မံ၊ အဝိဇ္ဇာ အစရှိသော အကြောင်းတရားတို့နှင့်တကွ သင်္ခါရ အစရှိသော အကျိုးတရားထု ဒုက္ခအစုကို။ ပဇာနာတိ၊ ပိုင်းခြားထင်ထင် သိမြင်လေ၏။ အထ၊ ထိုသို့ ပဋိစ္စခေတ် သမုပ္ပါဒ်ကို အတပ်ထင်ထင် လင်းလင်းမြင်သောအခါ၌။ အဿ၊ ထိုရဟန္တာသခင် အရှင်မြတ်၏ သန္တာန်၌။ သဗ္ဗာ၊ တစ်ခုမကြွင်း ခပင်းဥဿုံ အလုံးစုံကုန်သော။ ကင်္ခါ၊ ပဋိစ္စသမုပ္ပါဒ်တရား၌ ယုံမှားခြင်း, ပဋိစ္စသမုပ္ပါဒ်တရားတို့ကို မသိမြင်ခြင်းကြောင့် ကာလသုံးပါးဝယ် ဖြစ်ပွားသည့် ရုပ်နာမ်တရားတို့၌ ယုံမှားခြင်းတရား တစ်ဆယ့်ခြောက်ပါးတို့သည်။ ဝပယန္တိ-ဝိအပယန္တိ၊ နေလျှံရှိန်ကြောက် ဆီးနှင်းပေါက်သို့ ကင်းပျောက်ချုပ်ငြိမ်းကြကုန်၏။

(ခ) ယဒါ ဟဝေ ပါတုဘဝန္တိ ဓမ္မာ၊
အာတာပိနော ဈာယတော ဗြာဟ္မဏဿ။
အထဿ ကင်္ခါ ဝပယန္တိ သဗ္ဗာ၊
ယတော ခယံ ပစ္စယာနံ အဝေဒီ။

(ပထမ၊ ဒုတိယ ပါဒများအနက် ရှေးအတိုင်းပေးပါ။) ယတော၊ ယင်းသို့ ဗောဓိပက္ခိယတရား သုံးဆယ့် ခုနစ်ပါးတို့ ထင်ရှား ဖြစ်ပေါ်ခြင်းကြောင့်။ ပစ္စယာနံ၊ အဝိဇ္ဇာအစရှိသော အကြောင်းတရားတို့၏။ ခယံ၊ ကုန်ခန်းရာမှန် အသင်္ခတ နိဗ္ဗာန်ကို။ အဝေဒီ၊ ထိုးထွင်းထင်ထင် သိမြင်တော်မူလေပြီ။ အထ၊ ထိုသို့ ပစ္စယက္ခယ အမည်ရသည့် အသင်္ခတခေတ် နိဗ္ဗာန်ပရမတ်ကို အတပ်ထင်ထင် လင်းလင်း မြင်သောအခါ၌။ အဿ၊ ထိုရဟန္တာသခင် အရှင်မြတ်၏ သန္တာန်၌။ သဗ္ဗာ၊ တစ်ခုမကြွင်း ခပင်းဥဿုံ အလုံးစုံကုန်သော။ ကင်္ခါ၊ နိဗ္ဗာန်ကို ထိုးထွင်း မသိခြင်းကြောင့် ကိုယ်တွင်း၌မှာ ဖြစ်ပေါ်လာမည့် ကင်္ခါ ယုံမှား တရားအစုတို့သည်။ ဝပယန္တိ-ဝိအပယန္တိ၊ နေလျှံရှိန်ကြောက် ဆီးနှင်းပေါက်သို့ ကင်းပျောက် ချုပ်ငြိမ်းကြကုန်၏။

(၈) ယဒါ ဟဝေ ပါတုဘဝန္တိ ဓမ္မာ၊
အာတာပိနော ဈာယတော ဗြာဟ္မဏဿ။
ဝိဓူပယံ တိဋ္ဌတိ မာရသေနံ၊
သူရိယောဝ ဩဘာသယ မန္တလိက္ခံ။

(ပဌမ၊ ဒုတိယပါဒများ အနက် ရှေးအတိုင်းပေးပါ။) သူရိယော၊ ယုဂန္ဓိုရ်တောင်စွန်းမှ ပေါ်ထွန်း ထွက်ပြူ ဥဒဉ်မူသော နေမင်းသည်။ အန္တလိက္ခံ၊ အဇဋ္ဌာပြင် မိုးကောင်းကင်ကို။ ဩဘာသယံ- ဩဘာသယန္တော၊ မိမိအရောင်ခြည်တစ်ထောင်ဖြင့် မိုက်မှောင်ပယ်ရှင်း ထွန်းလင်းတောက်ပသျက်။ တိဋ္ဌတိ ဣဝ၊ တည်သကဲ့သို့။ (သော ဗြာဟ္မဏော၊ ထိုရဟန္တာသခင် အရှင်မြတ်သည်။ တေဟိ ဓမ္မေဟိ၊ ထိုဗောဓိပက္ခိယတရား သုံးဆယ့်ခုနစ်ပါးတို့ဖြင့်။) မာရသေနံ၊ ကာမရာဂ စသည်ဆယ်ထပ် မာရ်စစ်တပ်ကို။ ဝိဓူပယံ- ဝိဓူပယန္တော၊ မှုန်မှုန်ညက်ညက် တိုက်ဖျက်ပယ်ဖျောက်လျက်။ တိဋ္ဌတိ၊ ပညာတန်ဆောင် ဉာဏ်တော်ရောင်ဖြင့် ထွန်းပြောင်ထိန်းလက် ပြိုးပြိုးပြက်လျှင်း နေစကြာနှုန်းတူ တည်တော်မူ၏ (မဟာဗုဒ္ဓဝင်၊ ဒုတွဲ။၃၅၇)။

[ဤဂါထာများကို ရွတ်ဖတ်ပူဇော်လျှင် စိတ်ညစ်စရာများ ပပျောက်၍ စိတ်၏ ကြည်လင်မှုကို ရရှိနိုင်ပြီး ကျက်သရေမင်္ဂလာများ တိုးတက် မြင့်မားနိုင်သည်။]

၆။ သဗ္ဗဇယမင်္ဂလာဂါထာ (တစ်ထောင်တန် "ဒိဝါ တပတိ" ဂါထာ)

ဒိဝါ တပတိ အာဒိစ္စော၊ ရတ္တိံ မာဘာတိ စန္ဒိမာ။
သန္နဒ္ဓေါ ခတ္တိယော တပတိ၊ ဈာယီ တပတိ ဗြာဟ္မဏော။
အထ သဗ္ဗမဟောရတ္တိံ၊ ဗုဒ္ဓေါ တပတိ တေဇသာ။

အာဒိစ္စော၊ ရောင်ခြည်တစ်ထောင် အလင်းဆောင်သော နေမင်းသည်။ ဒိဝါ၊ နေ့အခါ၌လာလျှင်။ တပတိ၊ ထွန်းလင်းတောက်ပ၏။ စန္ဒိမာ၊ လမင်းကြီးသည်လည်း။ ရတ္တိံ၊ ညဉ့်အခါ၌သာလျှင်။ အာဘာတိ၊ ဆီးနှင်းမြူတိမ် သူရိန်မီးခိုး ညစ်မျိုးငါးဝ ကင်းစင်မှသာလျှင် ထွန်းလင်းတောက်ပနိုင်၏။ ခတ္တိယော၊ ရေမြေ့သနင်း ပြည့်ရှင်မင်းသည်လည်း။ သန္နဒ္ဓေါ၊ မင်းမြှောက်အန်လာကို ဝတ်ဆင်မှသာလျှင်။ တပတိ၊ မင်းတို့ ကျက်သရေ ထွန်းလင်းတောက်နိုင်ပေ၏။ ဗြာဟ္မဏော၊ ကိလေသာကုန်းခန်းသည့် ရဟန္တာအရှင်မြတ်သည်ပင်လျှင်။ ဈာယီ၊ အာရမ္မဏူ လက္ခဏူဟု နှစ်ဆူဈာန်မြတ် သမာပတ်ကို ဝင်စား၍ နေမှသာလျှင်။ တပတိ၊ ရဟန်းတို့ကျက်သရေ ထွန်းလင်းတောက်ပနိုင်ပေ၏။ အထ၊ ထိုမှတပါး။ ဗုဒ္ဓေါ၊ မြတ်စွာဘုရားရှင်သည်သာလျှင်။ သဗ္ဗံ

အဟောရတ္တိံ၊ နေ့ရောညဉ့်ပါ အခါခပ်သိမ်း။ တေဇသာ၊ ပညာ သီလ ဂုဏ်မွန်နှင့် ပြည့်စုံတော်မူသော ငါး၏ မြိုးသော အာနုဘော်တို့ဖြင့်။ တပတိ၊ စိန်ရွှေ မြရောင် နေလရောင်ထက် အခေါင်တက်၍ ပြောင်လျက်ထိန်ဝေ ထွန်းလင်းတောက်ပ နိုင်ပါပေ၏။

ဤဂါထာကို ရွတ်ဖတ်ပူဇော်ခြင်းဖြင့် အရာခပ်သိမ်း လောကီ လောကုတ္တရာ ကျက်သရေမင်္ဂလာ တိုးတက်စေနိုင်သည်။ ဥစ္စာစီးပွား ကြီးပွားတိုးတက်ပြီး ဘေးရန်ခပ်သိမ်း ကင်းငြိမ်းကာ အရာရာကို အောင်မြင်နိုင်သည်။

သီဟိုဠ်ကျွန်း ဘာတိကမင်းလက်ထက် ပညာရှိအမတ်ကြီး တစ်ဦးသည် မင်းတရားကြီးက ပိဋကတ်သုံးပုံထဲက ရတနာသုံးပါးလုံးပါတဲ့ ဇယမင်္ဂလာ အောင်ခြင်းဂါထာတစ်ပုဒ်ကို ရွတ်ဆိုပါ ခိုင်းရာ ဤ "ဒိဝါ တပတိ" ဂါထာကို ရွတ်ဖတ်ပူဇော်ရာ မင်းတရားကြီးက သုတော်ငွေ(၁၀၀၀)ချီးမြှောက်ခဲ့သည်။ ထို့ကြောင့် ဤဂါထာကို "တစ်ထောင်တန် ဒိဝါ တပတိဂါထာ"ဟုလည်း အမည် တွင်လျက်ရှိသည်။ ဤဂါထာကို နေ့စဉ်မှန်မှန်ရွတ်ပါက ရာထူးတိုးခြင်း၊ အထက် လူကြီး၏ မျက်နှာသာပေး မြှောက်စားခြင်းခံရမည်။

၇။ အချုပ်အနှောင်မှ လွတ်မြောက်စေသည့် ဂါထာ

> နမော တေ ဗုဒ္ဓ ဝီရတ္ထု၊ ဝိပ္ပမုတ္တောသိ သဗ္ဗဓိ။
> သမ္ဗာဓပ္ပဋိပန္နောသ္မိ၊ တဿ မေ သရဏံ ဘဝ။

ဝီရ၊ ကြီးမြတ်သော လုံ့လဝီရိယရှိတော်မူသော။ ဗုဒ္ဓ၊ ရှင်တော်မြတ်ဘုရား။ တေ၊ ရှင်တော်မြတ်ဘုရားအား။ နမော၊ ရှိခိုးခြင်းသည်။ အတ္ထု၊ ဖြစ်ပါစေ သတည်း။ (တွံ၊ ရှင်တော်မြတ်ဘုရားသည်။) သဗ္ဗဓိ၊ ကိလေသာစသော ဒုက္ခ အနှောင်အဖွဲ့ အားလုံးတို့မှ။ ဝိပ္ပမုတ္တောသိ၊ အပြီးတိုင် လွတ်မြောက်တော် မူပေ၏။ အဟံ၊ ဘုရားတပည့်တော်သည်။ သမ္ဗာဓပ္ပဋိပန္နော၊ အကျဉ်းအကျပ်သို့ ရောက်၍ နေရသည်။ အသ္မိ၊ ဖြစ်ပါ၏။ (တွံ၊ ရှင်တော်မြတ်ဘုရားသည်။) တဿ မေ၊ အကျဉ်းအကျပ်ရောက်၍ နေသော ဘုရားတပည့်တော်၏။ သရဏံ၊ ကိုးကွယ်လဲလျောင်း ပုန်းအောင်း မှီခိုရာသည်။ ဘဝ၊ ဖြစ်တော်မူပါ။

ဤဂါထာကို လဖုတ်သား နေနတ်သားတို့သည် အသူရိန် နတ်မင်းကြီး၏ အဖမ်းအဆီး အချုပ်အနှောင်ကို ခံရသဖြင့် တကယ့်ကို စိတ်ထဲက ဘုရားအာရုံ ရောက်ပြီး ဘုရားရှင်အား အားကိုးအားထား ပြုပြီး ရွတ်ဖတ်ပူဇော်ခဲ့ကြ၍ ရာဟုအသူရိန်ရန်မှ လွတ်မြောက်ခဲ့ကြသည်။ စိတ်ထဲမှာ ဘုရားအာရုံရောက်ပြီး ဘုရားမှတပါး ကိုးကွယ်အားထားရာ မရှိပါကလားလို့ အားကိုးမှု အပြည့်အဝနှင့် ရွတ်လျှင် အနှောင်အဖွဲ့က လွတ်မြောက်နိုင်ရုံတွင်မက ဘဝ အခက်အခဲ အကျပ်

အတည်း ပြဿနာ အဖျားအနာ အခွေး အားလုံးတို့မှလည်း လွတ်မြောက်နိုင်ပါသည်။ ယုံကြည်စွာ ရွတ်ဖတ်ပူဇော် ကြစေလိုပါသည်။

ဂ။ ရာဟုအသူရိန်နတ်ကြီး ကြောက်လန့်ထွက်ပြေးသော ဂါထာ

တထာဂတံ အရဟန္တံ၊ စန္ဒိမာ သရဏံ ဂတော။
ရာဟု စန္ဒံ ပမုဉ္စဿု၊ ဗုဒ္ဓါ လောကာနုကမ္ပကာ။

ရာဟု၊ ရာဟုခေါ်လတ် အို–အသူရိန်နတ်။ စန္ဒိမာ၊ လနတ်သားသည်။ အရဟန္တံ၊ ကိလေသာခပ်သိမ်း ငြိမ်းသက်တော်မူပြီးသော။ တထာဂတံ၊ ငါဘုရားကို။ သရဏံ၊ ကိုးကွယ်ရာဟူ၍။ ဂတော၊ ဆည်းကပ်သူပေတည်း။ ရာဟု၊ ရာဟုခေါ်လတ် အို– အသူရိန်နတ်။ စန္ဒံ၊ လနတ်သားကို။ ပမုဉ္စဿု၊ နှောင့်ယှက်မပြု မေတ္တာရှု၍ လွှတ်လိုက်ပါလော့။ ဗုဒ္ဓါ၊ ဘုရားရှင်တို့မည်သည်။ လောကာနုကမ္ပကာ၊ သတ္တဝါအားလုံးကို အစဉ်သနား စောင့်ရှောက်တော်မူကြကုန်၏။

ဤဂါထာကို မြတ်စွာဘုရား မိန့်တော်မူလိုက်သောအခါ ရာဟုအသူရိန်နတ်ကြီးသည် ချက်ချင်း လနတ်သားကို လွှတ်ပြီး ထွက်ပြေးရသည်။ မြတ်စွာဘုရားရှင်တို့၏ အာဏာစက်သည် ဤမျှကြီးကျယ်တော်မူ၏။ အကယ်၍ ဘုရားရှင်အာဏာကို ဖီဆန်ပြီး လနတ်သားကို ဆက်လက်၍ ဖမ်းဆီးချုပ်နှောင်ထားလျှင် ရာဟုအသူရိန်နတ်ကြီးသည် ဦးခေါင်း ခုနစ်စိတ်ကွဲပြီး သေပွဲဝင်ရပေမည်။ ဤကဲ့သို့ အရှိန်အဝါကြီးမားတော်မူသည့် ဘုရားရှင်၏ အာဏာစက်ကို အာရုံပြု၍ ယုံကြည်စွာ ရွတ်ဆိုပါလျှင် ဖမ်းဆီးချုပ်နှောင်မှုမှ လွတ်မြောက်နိုင်ပါသည်။

ဃ။ လက်နက်ကိုးဖြာ အောင်ဂါထာ

ဝါတံ ဝဿဥ္စ ပါသာဏံ၊ အာဝုဓံ ဝါဠုကံ တထာ။
ကုက္ကုဠံ ကလလင်္ဂါရံ၊ အန္ဓကာရဥ္စ မေ နဝ။
သတ္တေ မာရေန ဝိဿဋ္ဌေ၊ ဝိဇယန္တံ ဇိနံ နမေ။
အဟမ္ပိ တေန ပုညေန၊ ဝိဇေယျံ သဗ္ဗမာယုဓေ။

[တောင်တွင်းကြီး ဆရာတော် ခင်ကြီးပျော် ရေးသားသည်။]

(၁) ဝါတံ၊ လောကထွတ်ထား တို့ဘုရားလျှင် ငါးပါးမာရ်ခြေ ပလ္လင်ဖွေ၍ စံနေခိုက်ခါ မာရ်နတ်လာလျက် စက္ကဝါတိုက် တောင်နှင့်ရိုက်၍ ပန်းမိုက်မြူစုကဲ့ သေးဖွဲ့နုန့်သို့ မှုန့်မှုန့်ညက်ကြေ ပျက်ပစေဟု စေတနာဆိုး ပြုဖန်ပျိုးသား မိုးရပ်သိမ့်ဟည်း မြေကြီးပွဲ့တင် သစ်ပင်ကျောက်တုံး အိမ်အလုံးကို ချေမှုန်းဖြတ်ပိုင်း ရှစ်ရပ်တိုင်းမှ အုံ့မှိုင်းလေဆိုး မုန်တိုင်းမျိုးကို လည်းကောင်း။

(၂) ဝဿန္တ၊ အဟုန်ဒီးဒီး စီးကျဲသွယ်သွယ် ရေပြင်ကျယ်၌ မို့ဖွယ်ကင်းမည် သေစိမ့်ရည်၍ တမည်ပြုစား ထန်းလုံးဖျားနှင့် တောင်ဖျားမျှခေါင် အမြင့်ဆောင်သား ရှစ်ဘောင်ရစ်ပြည့် မောက်လျှမ်းသည့် မိုးကြွမ်းရေဆိုး လက်နက်မျိုးကိုလည်းကောင်း။

(၃) ပါသာဏံ၊ ကျောက်ဖြင့်ကြိတ်ဖျက် မှုန့်မှုန့်ညက်လျှင် အိပ်စက်စေရန် တစ်မည်ဖန်၍ နဘံမိုးလုံး ထစ်ချုန်းခြိမ့်ညံ တိုက်ခတ်သံနှင့် အလုံ့ဖြိုးဖြိုး ကျောက်ခဲကျောက်စိုင် မိုးကိုလည်းကောင်း။

(၄) အာဝုဓံ၊ အသွေးတခြား အသားတစ်ထွေ အရေတစ်မျိုး အရိုးတစ်ဂိုဏ်း ထိုးခုတ်ပိုင်း၍ မဆိုင်းသေရန် ပြုစီမံသား အလုံ့ပြိုးပြက် မိုးလုံးလက်အောင် တစ်ဖက်အသွား နှစ်ဖက်သွားဟု လုံ့ခွားစသည် အမည်မည်လျှင် စုံစီဖန်ပျိုး လက်နက်မျိုးကိုလည်းကောင်း။

(၅) ဝါဠုကံ တထာ၊ ထွက်လေ ဝင်လေ နှစ်ထွေမရှိ သဲဖြင့်ပိ၍ မချိသေအောင် ပြုဆောင်ဖန်ပျိုး သဲထုမိုးကိုလည်းကောင်း။

(၆) ကုက္ကုဠံ၊ တစိမ့်စိမ့်ပူ သေအောင်ဟူ၍ သူအကြံပျိုး ပြာပူမိုးကိုလည်းကောင်း။

(၇) ကလလံ၊ ကျိုက်ကျိုက်ပွက်ဆူ အပူအခိုး ရွှံ့ညွန်မိုးကို လည်းကောင်း။

(၈) အင်္ဂါရံ၊ တခဏချင်း အပြင်းပူလောင် သေအောင်ဖန်ပျိုး မီးကျီးမိုးကိုလည်းကောင်း။

(၉) အန္ဓကာရံ၊ ကြည့်သော်မစွမ်း စမ်းသော်မထင် ကြောက်စိတ်ဝင်၍ အလျှင်သေရန် သဏ္ဌာန်ပြုဆောင် အမိုက်မှောင်ကိုလည်းကောင်း။

ဣတိ၊ ဤသို့။ မာရေန ဝိဿဇ္ဇေ၊ မာရ်နတ်မိစ္ဆာ အယုတ်ကမာလျှင် ကြိမ်းကာဆင့်ဆင့် ပစ်လွှင့်အပ်ကုန်သော။ ဣမေ နဝ သတ္တော၊ လေ, မိုး, ကျောက် သဲ, ညွန် မီးခဲနှင့် ပြာမွဲ, မိုက်မှောင် ပြောင်ပြောင်လက်နက် ရောင်ပြိုးပြက်ဟု ကိုးချက်ရန်စွယ် လက်နက်မျိုး အန္တရာယ်တို့ကို။ ဝိဇယန္တံ၊ ဗိုလ်ပါအပေါင်း သောင်းကုဋေအား ဆောင်နိုင်ဌြားလျှည်း ရိုက်လားပုတ်လား အဘာအပါးဝယ် ဆိုးရွားဟန်မူ သားငယ်တူသို့ သီတဂူနန်း ကြည်နူးလုံးဖြင့် ပြေလုံးငြိမ့်အောင် သက်သေဆောင်၍ အောင်တော်မူကြီး အောင်တော်မူ ထသော (ဝါ) အောင်တော်မူသောကြောင့်။ ဇိနံ၊ ဇိနဟူသည် အမည်တံဆိပ် ဘွဲ့ပုံလိပ်ဖြင့် ခတ်နှိပ်ပေါ်ထင် အောင်ပွဲရှင်မြတ်စွာဘုရားကို။ နမေ နမာမိ၊ ကိုယ်နှုတ်နှလုံး သုံးပါးပျောင်းပျော့ မာန်ကိုလျှော့၍ ကန်တော့ရှိခိုးပါ၏ မြတ်စွာဘုရား။ အဟမ္ပိ၊ စတုသမင္ဂါန် ပြုလုပ်ဖန်သည် ရုပ်နာမ်ပေါင်းချုပ် အကျွန်ုပ်သည်လည်း။

တေန ပုညေန၊ လက်နက်မျိုးကို ဖျက်ချိုးနှိမ်ခူး ဂုဏ်ကျေးဇူးဖြင့် ချီးကျူး ဝန္ဒနာ စေတနာပဏာမ မြတ်ပုညကြောင့်။ သဗ္ဗမာယုဓေ၊ သေနတ်လေးမြား လှံမားမီးပေါက် အမြောက်စိန်ပုံး ချေမှုန်းခွင်းဖြုတ် အကျည်းမှတ်သော် လွတ်အပ်, မလွတ်အပ် နှစ်ရပ်ကျုံးခြုံ အလုံးစုံသော လက်နက်မျိုးတို့ကို။ ဝိဇေယျံ၊ ယန္တေကာစ နိဗ္ဗာန်ရသည့် ကာလတစ်ခွင် သံသရာပြင်ဝယ် မမြင်ရ မကြားရ အဝေးကပင် အောင်ရနိုင်ရ အောင်နိုင်ရသည့်ကိုယ် ဖြစ်ပါလို၏ မြတ်စွာဘုရား (မဟာဗုဒ္ဓဝင်၊ ဒုတွဲ။ ၂၉၁)။

[ဤဂါထာကို ရွတ်ဖတ်ပူဇော်ခြင်းဖြင့် လက်နက်အန္တရာယ်အမျိုးမျိုးမှ လွတ်မြောက်နိုင်သည်။ သတ္တန္တရကပ်ကို ကျော်လွန်နိုင်သည်။ မည်သည့် လက်နက်ဘေးကြောင့်မျှ အသက် မသေနိုင်။ ယုံကြည် အားကိုးစွာ ရွတ်ဖတ်ပူဇော်ကြပါလေ။]

## ၁၀။ အတွင်းအောင်ခြင်းရှစ်ပါး ဂါထာပါဠိအနက်

[ဂါထာပါဠိကို ရှေးဆရာတို့ ရေးဖွဲ့၍ အနက်ကို ညောင်တုန်းမြို့၊ ရွှေဟင်္သာကိုက်၊ စံကျောင်းဆရာတော်ဘုရားကြီး ရေးသားပူဇော် သည်။]

၁။ အဝိဇ္ဇာအဏ္ဏဝေါသမ္ပိ၊ သတ္တေ တဏှာဇလာဗုဇေ။
တမှာ ဌာနာ နိက္ခာမေသိ၊ ဒေသနာဉာဏတေဇသာ။
တေန သစ္စဝဇ္ဇေန၊ ဟောတု မေ ဇယမင်္ဂလံ။

သော ဇိနော၊ ဒေဝပုတ္တ စသည့်တသင်း ရန်ခပင်းကို နှိမ်နင်းအောင်မြင်တော်မူပြီးသော ထိုမြတ်စွာဘုရားသည်။ အဝိဇ္ဇာအဏ္ဏဝေါသမ္ပိ၊ သစ္စာလေးချက် တရားနက်ကို ကွယ်ဝှက်ပိတ်ကာ အဝိဇ္ဇာတည်းဟူသော ဥဒ္ဓိတွင်း၌။ ဌိတေ၊ သခ်ီရကံ စီမံပစ်ထား၍ ဖြစ်ပွားတည်နေကြကုန်သော။ တဏှာဇလာဗုဇေ၊ ဝဋ္ဋကိလေ နှစ်ထွေကာမ နှစ်ဝအာရုံ အလုံးစုံ၌ ခုံမင်နှစ်သက် ဝပ်မက် သာယာခြင်း တဏှာတရားတည်းဟူသော အချင်းအိမ်၌ ဖြစ်ကုန်သော။ သတ္တေ၊ လူနတ် ဗြဟ္မာ သတ္တဝါဟူ သုံးဘုံသူတို့ကို။ ဒေသနာဉာဏတေဇသာ၊ ကိလေသာဇက် သုံးထောင်ဝက်ကို နင်းတက်ဖျက်ဖို့ မဂ်ဖိုလ်လေးတန် ဒေသနာ ဉာဏ်တည်းဟူသော အလင်းရောင်ဖြင့်။ တမှာ ဌာနာ၊ ထိုသို့ပိတ်ကာ အဝိဇ္ဇာနှင့် တဏှာအချင်း ဖြစ်ပွားရင်းဟူသော တည်ရာအရပ်မှ။ နိက္ခာမေသိ၊ မဂ်ဉာဏ် ဖိုလ်ညွှာက် ကောင်းစွာပေါက်၍ ထွက်မြောက်တော်မူစေပြီ။

ဧတေန သစ္စဝဇ္ဇေန၊ ဤသို့ဖော်ထုတ် ဂုဏ်တော်ပုဒ်ကို ဟုတ်မှန်စွာ ဆိုရသော သစ္စာစကားကြောင့်။ မေ၊ အကျွန်ုပ်အား။ ဇယမင်္ဂလံ၊ အောင်ခြင်း မင်္ဂလာသည်။ ဟောတု၊ စင်စစ်မသွေ ဖြစ်ပါစေသတည်း။

၂။ မဟာမောဟန္ဓကာရေန၊ အဘိဘူတေ မဟာဇနေ။
ပညာစက္ခုံ လဘာပေသိ၊ ဉာဏာလောကေန သော ဇိနော။
ဧတေန သစ္စဝဇ္ဇေန၊ ဟောတု မေ ဇယမင်္ဂလံ။

သော ဇိနော၊ ဒေဝပုတ္တ စသည့်ငါးတသင်း ရန်ခပင်းကို နှိမ်နင်းအောင်မြင်တော်မူပြီးသော ထိုမြတ်စွာဘုရားသည်။ မဟာမောဟန္ဓကာရေန၊ သစ္စာလေးချက် တရားနက်ကို ကွယ်ဝှက်ပိတ်ဆီး ကြီးစွာသော မောဟတည်းဟူသော အမိုက်မှောင်သည်။ အဘိဘူတေ၊ သိသရာဝဋ္ဋ် ဘဝညွှတ်မှ မလွတ်စေဘဲ ဆွဲကိုင်နှိပ်စက် အပ်ကုန်သော။ မဟာဇနေ၊ လူနတ်ဗြဟ္မာ အစဖြာသား များစွာသော သတ္တဝါတို့ကို။ ဉာဏာလောကေန၊ တရားဥဿုံ အလုံးစုံကို အကုန်သိမြင် ဉာဏ်ဦးထင်သည့် သဗ္ဗညုတ ဉာဏတန်ဆောင် အလင်းရောင်ဖြင့်။ ပညာစက္ခုံ၊ ကိလေသာစက် သုံးထောင်ဝက်ကို နင်းတက်ဖျက်ဖြို မင်္ဂဖိုလ်လေးတန် ပညာဉာဏ်တည်းဟူသော မျက်စိကို။ လဘာပေသိ၊ ပါရမီရင့် သမ္မာမြင့်၍ အသင့်လွယ်ကူ ရစေတော်မူပြီ။

ဧတေန သစ္စဝဇ္ဇေန၊ ဤသို့ဖော်ထုတ် ဂုဏ်တော်ပုဒ်ကို ဟုတ်မှန်စွာဆိုရသော သစ္စာစကားကြောင့်။ မေ၊ အကျွန်ုပ်အား။ ဇယမင်္ဂလံ၊ အောင်ခြင်းမင်္ဂလာသည်။ ဟောတု၊ စင်စစ်မသွေ ဖြစ်ပါစေသတည်း။

၃။ ရောဂါဒိအဂ္ဂိဇာလေဟိ၊ ဥဍ္ဍယှမာနံ မဟာဇနံ။
နိဗ္ဗာပေသိ နရနာထော၊ အဋ္ဌမဂ္ဂင်္ဂဝါရိနာ။
ဧတေန သစ္စဝဇ္ဇေန၊ ဟောတု မေ ဇယမင်္ဂလံ။

နရနာထော၊ လူနတ်ဗြဟ္မာ သတ္တဝါများ သုံးဘုံသားတို့၏ ကိုးစားမှီခိုရာ အစစ်ကြီးဖြစ်တော်မူသော မြတ်စွာဘုရားသည်။ ရောဂါဒိအဂ္ဂိဇာလေဟိ၊ ရောဂါဒေါသ စသည်မည်သီး မီးတောက်မီးလျှံတို့ဖြင့်။ ဥဍ္ဍယှမာနံ၊ ဖြစ်ပြီးဖြစ်ဆဲ ဖြစ်တုံမြဲဟု စွဲ၍လောင်အပ်သော ကိုယ်ရှိသော။ မဟာဇနံ၊ လူနတ်ဗြဟ္မာ အစဖြာသား များစွာသော သတ္တဝါအပေါင်းကို။ အဋ္ဌမဂ္ဂင်္ဂဝါရိနာ၊ သမ္မာဒိဋ္ဌိ

စရှိမည့်တွင် မဂ္ဂင်ရှစ်ပါး တရားအကျင့်တည်းဟူသော ရေစင်ဖြင့်။ နိဗ္ဗာပေသိ၊ ကျင့်ကြံစေသော မေတ္တာဓာဖြင့် ဟောကြားဆွတ်ဖျန်း၍ ငြိမ်းချမ်းတော်မူစေပြီ။

[ဧတေန သစ္စဝဇ္ဇေန-စသော ဂါထာနက်များ ရွှေနှင့် တူပြီ။]

၄။ စတုရောဃေဟိ ဝုယှန္တေ၊ ဂမ္ဘီရေ သံသာရဏ္ဏဝေ။
ဥတ္တာ ရယိ မဟာဝီရော၊ ဓမ္မနာဝါယ နာယကော။
ဧတေန သစ္စဝဇ္ဇေန၊ ဟောတု မေ ဇယမင်္ဂလံ။

မဟာဝီရော၊ သမ္မပ္ပဓာန ဝီရိယဓာတ်ဖြင့် ကြီးမြတ်သော လုံ့လရှိတော်မူသော။ နာယကော၊ လူနတ်ပြဟ္မာ သတ္တဝါဟူ သုံးဘုံသူတို့ကို နိဗ္ဗူအောင်မြို့ လှေဖောင်သို့လျှင် ဆောင်ပို့ကယ်တင်တော်မူတတ်သော မြတ်စွာဘုရားသည်။ ဂမ္ဘီရေ၊ ကျင်လည်ပြေးသွား ဖြစ်သေးအားဖြင့် ရှည်လျားနက်နဲစွာသော။ သံသာရဏ္ဏဝေ၊ ပဋိစ္စသမုပ္ပါဒ် ရဟတ်စကြာ သံသရာတည်းဟူသော သမုဒ္ဒရာကြီးအတွင်း၌။ စတုရောဃေဟိ၊ ကာမဘဝ မောဟာဒိဋ္ဌိ လွှမ်းဘိထွေပြားလေးပါးသော ရေအလျဉ်တို့ဖြင့်။ ဝုယှန္တေ၊ နစ်တုံပေါ်တုံ တမှုံမွှားမွှား မျောပါကြကုန်သော သတ္တဝါတို့ကို။ ဓမ္မနာဝါယ၊ သမ္မာဒိဋ္ဌိ စရှိမည့်တွင် မဂ္ဂင်ရှစ်ပါး တရားအကျင့်တည်းဟူသော လှေဖြင့်။ ဥတ္တာရေသိ၊ နိဗ္ဗာန်မြို့ညွန့်သို့ သွားရောက်ဝင်ဖို့ ကယ်တင်ထုတ်ချောက် ကူးမြောက်စေတော်မူပြီ။

[ဧတေန သစ္စဝဇ္ဇေန-စသော ဂါထာနက်များ ရွှေနှင့် တူပြီ။]

၅။ သံသာရစာရကံ လောကံ၊ နိစ္စံ ဒုက္ခေန ပီဠိတံ။
နိဗ္ဗာနပုရံ ပါပေသိ၊ ယာနတ္တယေန သော ဇိနော။
ဧတေန သစ္စဝဇ္ဇေန၊ ဟောတု မေ ဇယမင်္ဂလံ။

သော ဇိနော၊ ဒေဝပုတ္တ စသည်တသင်း ရန်ခပင်းကို နှိမ်နင်းအောင်မြင်တော်မူပြီးသော ထိုမြတ်စွာဘုရားသည်။ သံသာရစာရကံ၊ သံသရာခွင်နယ်အပြင်၌ အစဉ်မပြတ် လှည့်ပတ်ကျင်လည်တတ်သော။ ဒုက္ခေန၊ ဇာတိဒုက္ခ စသည်ထောင်သောင်း ဆင်းရဲအပေါင်းသည်။ နိစ္စံ၊ မပြတ်မစဲ နှေးညဉ့်စွဲ၍ အမြဲသာလျှင်။ ပီဠိတံ၊ အိုနာ သေရေး ဒုက္ခဘေးဖြင့် မအေးရှည်ကြာ ကမ္ဘာဘဝ၌ မကွာစဉ်ဆက် နှိပ်စက်အပ်သော။ လောကံ၊ လူနတ်ပြဟ္မာ သတ္တဝါဟူ သုံးဘုံသူအပေါင်းကို။ ယာနတ္တယေန၊ အနိစ္စ ဒုက္ခ အနတ္တဟု မှတ်ယူဆင်ခြင်ခြင်းတည်းဟူသော ယာဉ်သုံးပါးတို့၏ အပေါင်းဖြင့်။ နိဗ္ဗာနပုရံ၊

ဇာတိဗုက္ခ စသည်ခပ်သိမ်း "ကင်းငြိမ်း အောင်မြင်ရာဖြစ်သော နိဗ္ဗာန်ပြည် မြတ်သို့။ ပါပေသိ၊ မဂ်ဉာဏ်,ဖိုလ်ညှောက် ကောင်းစွာပေါက်၍ ကူးမြောက်စေ တော်မူပြီ။

[ဧတေန သစ္စဝဇ္ဇေန-စသော ဂါထာနက်များ ရှေ့နှင့် တူပြီ။]

၆။ ကင္ခမုခါဒိသပ္ပေဟိ၊ ဥစုကာယံ မဟာဇနံ။
နိဗ္ဗာပေသိ မဟာဝီရော၊ နာထော တိလောကဝဇ္ဇကော။
ဧတေန သစ္စဝဇ္ဇေန၊ ဟောတု မေ ဇယမင်္ဂလံ။

မဟာဝီရော၊ သမ္မပ္ပဓာန ဝီရိယဓာတ်ဖြင့် ကြီးမြတ်သော လုံ့လရှိတော် မူသော။ တိလောကဝဇ္ဇကော၊ လူ နတ် ပြဟ္မာ သတ္တဝါများ သုံးဘုံသားတို့၏ ဆေးသမားတော်လည်း ဖြစ်တော်မူသော။ နာထော၊ မြတ်စွာဘုရားသည်။ ကင္ခမုခါဒိသပ္ပေဟိ၊ ကင္ခမုခ မည်ရတွင်ငြား မြွေလေးပါးတို့သည်။ ဥစုကာယံ၊ တောင့်တင်းနိုင်မာ ဖွဲ့စည်းကာဖြင့် ကြီးစွာပူအေး လှုပ်ရှားပေးလျက် ဖေးမ ထောက်ခံ ဖောက်ပြန်ပြောင်းလဲ တည်မမြဲဘဲ ကိုက်ခဲအေးပ်သော ကိုယ်ရှိသော။ မဟာဇနံ၊ လူနတ်ပြဟ္မာ အစဖြာသား များစွာသော သတ္တဝါအပေါင်းကို။ နိဗ္ဗာပေသိ၊ အဆိပ်ပြေဆေး မြိုက်ရေအေးဖြင့် တိုက်ကျွေး ဆွတ်ဖျန်း ငြိမ်းချမ်းတော်မူစေပြီ။

[ဧတေန သစ္စဝဇ္ဇေန-စသော ဂါထာနက်များ ရှေ့နှင့် တူပြီ။]

၇။ သံသာရဒုက္ခကန္တာရာ၊ ကိလေသစောရပီဠိတံ။
ခေမန္တဘူမိံ တာရေသိ၊ သတ္တဝါဟော ဝိနာယကော။
ဧတေန သစ္စဝဇ္ဇေန၊ ဟောတု မေ ဇယမင်္ဂလံ။

သတ္တဝါဟော၊ သံသရာထဲ ခရီးခဲမှ ကယ်ဆွဲထုတ်တင် ကျေးဇူးအင်ကြောင့် ယာဉ်မှူးသဖွယ် ဖြစ်တော်မူသော။ ဝိနာယကော၊ သတ္တဝါဟူ သုံးဘုံသူတို့ကို နိဗ္ဗူအောင်မြို့ လှေဖောင်သို့လှုံ့ဆောင်ပို့ကယ်တင်တော်မူတတ်သော မြတ်စွာ ဘုရားသည်။ ကိလေသစောရပီဠိတံ၊ ဆိုးညစ်ယုတ်မာ ကိလေသာဟူသော ခိုးသူတို့၏ လုယူအတင်း ညှဉ်းဆဲနှိပ်စက်ခြင်းကို ခံနေကြရကုန်သော သတ္တဝါ အပေါင်းကို။ သံသာရဒုက္ခကန္တာရာ၊ မရပ်မနား ဆိုလည်နွားသို့ ပြေးသွား ကျင်လည်ရာ သံသာရဝဋ်ဆင်းရဲဟူသော ခရီးခဲမှ။ ခေမန္တဘူမိံ၊ ကိလေသာဟူ မှုမှုန်တေးဘျမ်း မေးမသန်းသဖြင့် အေးချမ်းရာမှန်သော နိဗ္ဗာန်ပြည်မြတ်သို့။ တာရေသိ၊ သမ္မာဒိဋ္ဌိ စရှိမည်တွင် မဂ်လှေယာဉ်ဖြင့် ကယ်တင်ထုတ်ချောက် ကူးမြောက်စေတော်မူပြီ။

[ဧတေန သစ္စဝဇ္ဇေန- စသော ဂါထာနက်များ ရှေ့နှင့် တူပြီ။]

ဂ။ ပဉ္စတာလီသဝဿာနိ၊ ဌတွာ လောကံ သဒေဝကံ။
ပိဝယိတွာ ဓမ္မရသံ၊ နိဗ္ဗုတော သော သသာဝကော။
ဧတေန သစ္စဝဇ္ဇေန၊ ဟောတု မေ ဇယမင်္ဂလံ။

သော ဇိနော၊ ဒေဝပုတ္တ စသည်တသင်း ရန်ခပင်းကို နှိမ်နင်းအောင်မြင်တော်မူပြီးသော ထိုမြတ်စွာဘုရားသည်။ ပဉ္စတာလီသဝဿာနိ၊ သင်္ချာတွက်ဖွဲ့ လေးဆယ့်ငါးဝါ ရှည်ကြာသမျှ ကာလပတ်လုံး။ ဌတွာ၊ တရားစည်ကြီး ခြိမ့်ခြိမ့်တီး၍ မငြီးရှင်ပျော် တည်တော်မူပြီး၍။ သဒေဝကံ၊ နတ် ဗြဟ္မာနှင့်တကွသော။ လောကံ၊ လူများအပေါင်းကို။ ဓမ္မရသံ၊ သမ္မာဒိဋ္ဌိ စရိမည်တွင် မဂ္ဂင်ရှစ်ပါး တရားအရသာကို။ ပိဝယိတွာ၊ ဃနာဉာဏတော ကရုဏာနှင့် မေတ္တာပင့်ထောက် သောက်စေတော်မူပြီး၍။ သသာဝကော၊ တပည့်သားသာဝကတော်အပေါင်းနှင့်တကွ။ နိဗ္ဗုတော၊ ပရိနိဗ္ဗာန် ဝင်စံချုပ်သိမ်း၍ ငြိမ်းတော်မူလေပြီ။

[ဧတေန သစ္စဝဇ္ဇေန-စသော ဂါထာနက်များ ရှေးနှင့် တူပြီ။]

၁၁။ အပြင်အောင်ခြင်းရှစ်ပါး ဂါထာပါဠိအနက်

[ဂါထာပါဠိကို ရှေးဆရာတို့ ရေးဖွဲ့၍ အနက်ကို ကျီးသဲလေးထပ် ဆရာတော် ရေးဖွဲ့ပူဇော်သည်။]

မာရ်နတ်သားကို အောင်ခြင်း

၁။ ဗာဟုံသဟဿမဘိနိမ္မိတ သာဝုဓန္တံ၊
ဂိရိမေခလံ ဥဒိတဃောရ သသေနမာရံ။
ဒါနာဒိဓမ္မဝိဓိနာ ဇိတဝါ မုနိန္ဒော၊
တံတေဇသာ ဘဝတု မေ ဇယမင်္ဂလဂ္ဂံ။

ယော မုနိန္ဒော၊ အကြင်ရဟန်းတို့၏ ဦးစွန်းမှန်ကင်း မြတ်သောမင်းသည်။ အဘိနိမ္မိတံ၊ စတုမဟာ တာဝတိံသာနှင့် ယာမာနတ်တို့ထက် ကဲဆတက်၍ အဘက်မဲ့အောင် ဖန်ဆင်းဆောင်ထသော။ သာဝုဓန္တံ၊ သေနတ်မီးပေါက် အမြောက်စိန်ပြောင်း ချွန်းတောင်လှံမ လေးမြားစသား လက်နက်များနှင့်တကွသော။ ဗာဟုံသဟဿံ၊ လက်ဝဲငါးရာ လက်ယာငါးကျ ညီညာဖန်ဆောင် တစ်ထောင်မျှလောက်သော လက်ရုံးရှိထသော။ ဂိရိမေခလံ၊ ယူဇနာ တစ်ရာ့ငါးဆယ် မြင့်သွယ်ကြီးဘိ တောင်လုံးရှိသော ဂိရိမေခလာ ဆင်ကြီးစွာကို။ ဥဒိတံ၊ ရဲမာန်စွင့်စွင့် စိုက်ထူးလွှင့်ကို အသင့်တက်စီးပြီးထသော။ ဃောရံ၊ ကြားမြင်သူ နတ်လူပြဟ္မာ သူရာနဂါး ကြည်းရေသားတို့ လန့်ကြောက်ရှုံ့ဖွယ်

လည်းရှိထသော။ သသေနမာရ်၊ ဘီးလူးကုမ္ဘဏ် ဂန္ဓဗ္ဗနတ် ဘုတ်ကျတ်တစ္ဆေ ရှိလေသရွေ့ ခြသေ့်သစ်ကျား ကျွဲနွားကြံ့ဆင် သမင်မျောက်လှောင် စသော စစ်သည်ဗိုလ်ခြေနှင့် ထကွသော မာရ်နတ်မင်းကို။ ဒါနာဒိမွေဝိဓိနာ၊ သချေ်ာ လေးထပ် တစ်သိန်းကပ်လုံး ပေးအပ်သမျှ လှူဒါနကို မြွက်ဟာလှစ်ဖော် ကောင်းကြီးခေါ်သော အစီရင်ဖြင့်။ ဇိတဝါ၊ ခါးလုံမဆောင် ကြိုးမနှောင်ဘဲ အောင်တော်မူလေပြီ။

တံတေဇသာ၊ ထိုမာရ်နတ်မင်းကို နှိပ်နင်းလွယ်ကူ အောင်တော်မူသော အောင်သူမျှားထွတ် သုံးလူနတ်၏ ကြီးမြတ်တေဇော် အာနုဘော်ကြောင့်။ မေ၊ အကျွန်ုပ်အား။ အဂ္ဂံ၊ မြတ်သော။ ဇယမင်္ဂလံ၊ ရောဂါဘေးဒဏ် ရန်မာရ် ခပင်း ရှိမဲ့လျှင်းကို နှိမ်နင်းအောင်တတ် ကောင်းမြတ်လှစွာ မင်္ဂလာသည်။ ဘဝတု၊ နေ့ညမကွာ ဖြစ်ရှိပါစေသတည်း။

အာဠဝကဘီလူးကို အောင်ခြင်း

> ၂။ မာရာတိရေကမဘိယုဇ္ဈိတ သဗ္ဗရတ္တိံ၊
> ဃောရံ ပနာဠဝကမက္ခမ ထဒ္ဓ ယက္ခံ။
> ခန္တီသုဒန္တဝိဓိနာ ဇိတဝါ မုနိန္ဒော၊
> တံတေဇသာ ဘဝတု မေ ဇယမင်္ဂလဂ္ဂံ။

ယော မုနိန္ဒော၊ အကြင် သေက္ခ အသေက္ခ အာဂါရိက အနဂါရိက ပစ္စေက မုနိအားဖြင့် ငါးပါးသော မုနိတို့၏ အထွတ်ရတနာ သမ္မာသမ္ဗုဒ္ဓ မဟာမုနိ ဖြစ်တော်မူသော သုံးလူ့သေဠ်နင်း ရဟန်းမင်းသည်။ မာရာတိရေကံ၊ စောင်းမာန်ကြီးကြွား မာရ်နတ်သားထက် အမျက်ပြင်းထန် ကြိုးထားမာန်နှင့် အလွန်အားထုတ်ခြင်းရှိထသော။ သဗ္ဗရတ္တိံ၊ ညဉ့်ဦးသန်းခေါင် သောက်ရောင် လင်းလျှံ ညဉ့်သုံးယာမ်ပတ်လုံး။ အဘိယုဇ္ဈိတံ၊ အလွန်အကဲ နှုန်နဲဖြင့် သဲပူ ညွန့်ပူ ပြာပူကျောက်ခဲ လေကြီးမှောင်မျိုး လက်နက်မိုးတို့ဖြင့် ထစ်ကြိုး သည်းစွာ ရွာလတ်စေလျက် ကြောက်မက်ဖွယ်သော စစ်ထိုးခြင်းရှိထသော။ ဃောရံ၊ ဟေဝန်သမုဒ္ဒရာ အဖြာဖြာ၌ များစွာနေကြ ယက္ခရက္ခသာ နတ်တကာတို့၏ ပြင်းစွာကြောက်လန့်ခြင်းကိုလည်း ပြုတတ်ထသော။ အက္ခမံ၊ လူနတ်နဂါး သူတပါးတို့သည် သည်းခံခြင်းငှာ ခဲယဉ်းစွာထသော။ ထဒ္ဓံ၊ ကြမ်းကြောခက်ထန် စောင်းမာန်လွန်ကျူးခြင်းရှိထသော။ အာဠဝကံ၊ အာဠဝကရွာစား နတ်မင်းသားဖြစ်၍ အာဠဝကအမည်ရသော။ ယက္ခံ ပန၊ လေးထောင့်သုံးရာ သုံးဆယ်သာအောင် များစွာလူသား လူရိုးစားသည့်

သနားကင်းကြုံး နတ်ဘီလူးကိုလည်း။ ခန္တီသုဒန္တဝိဓိနာ၊ နှစ်သိန်းလေးလီ ဤမြေထပ်ရှိ သည်းခံချီလျက် ဆိုဘိရာဇာ လိုက်နာ၍ ကောင်းစွာယဉ်ကျေးသော အစီအရင်ဖြင့်။ ဇိတဝါ၊ မျက်ငြိုးမဖန် ဓားလှံမပြင် လေးမငင်ဘဲ အောင်မြင်တော်မူလေပြီ။

တံတေဇသာ၊ ထိုအာဠဝက နတ်ယက္ခကို ချမ်းမြေ့လွယ်ကူ အောင်တော်မူသော ဥအောင်သူများထီး စေဘုန်းမီး၏ ကြီးမြတ်တေဇော် အာနုဘော်ကြောင့်။ မေ၊ အကျွန်ုပ်အား။ အဂ္ဂံ၊ မြတ်သော။ ဇယမင်္ဂလံ၊ ရောဂါဘေးဒဏ် ရန်မာရ်ခပင်း ရှိမဲ့လျှင်းကို နှိမ်နင်းအောင်တတ် ကောင်းမြတ်လှစွာ မင်္ဂလာသည်။ ဘဝတု၊ နေ့ညမကွာ ဖြစ်ရှိပါစေသတည်း။

နာဠာဂိရိဆင်ကို အောင်ခြင်း

၃။ နာဠာဂိရိံ ဂဇဝရံ အတိမတ္တဘူတံ၊
ဒါဝဂ္ဂိစက္ကမသနိဝ သုဒါရုဏန္တံ။
မေတ္တမ္ဗုသေကဝိဓိနာ ဇိတဝါ မုနိန္ဒော၊
တံတေဇသာ ဘဝတု မေ ဇယမင်္ဂလဂ္ဂံ။

ယော မုနိန္ဒော၊ အကြွင်ဥဩ ယျင်ါးပါး မြတ်ထရားကို ပိုင်းခြားကုန်စင် လွန်သိမြင်သော သဗ္ဗညုဘာ စရှိဖိုးဖြိုး ဉာဏ်မျိုးမျိုးကို အစိုးရတော်မူသော မြတ်စွ ဘုရားသည်။ အတိမတ္တဘူတံ၊ တစ်ဆယ့်ခြောက်အိုး မောက်ဖြိုးပြည့်နှက် သေအရက်ကို သောက်လျက်ပြင်းထန် ကြမ်းကြုတ်လွန်အောင် အလွန်ယစ်မူးစွာထသော။ ဒါဝဂ္ဂိစက္ကမသနိဝ၊ တောက်လောင်ညီးညီး မြည်သံဟည်းသည့် တောမီး မိုးကြိုးစက်ကဲ့သို့။ သုဒါရုဏန္တံ၊ အလွန်ခက်ထန် မျက်စောင်းမာန်နှင့် သွန်သွန်ကြမ်းကြုတ်ခြင်းရှိထသော။ နာဠာဂိရိံ၊ နာဠာဂိရိအမည်ရှိထသော။ ဂဇဝရံ၊ အဇာတသတ် လောကနတ်၏ မပြတ်စီးရာ ဆင်ယာဉ်သာဖြစ်၍ လိမ္မာလှစွာသော နာဂတန်ဆောင် မြတ်ဆင်ပြောင်ကို။ မေတ္တမ္ဗုသေကဝိဓိနာ၊ ရင်သွေးရတနာ ရာဟုလာကဲ့သို့ မေတ္တာရေချမ်း စွတ်စွတ်ရှမ်းကို သွန်းလောင်းတော်မူသော အစီအရင်ဖြင့်။ ဇိတဝါ၊ အိမ်ဓားလက်နက် သန်လျက်မဆောင် မေတ္တာနှောင်ဖြင့် အောင်မြင်တော်မူလေပြီ။

တံတေဇသာ၊ ထိုနာဠာဂိရိ ဆင်ဟတ္ထိကို မရှိပိုင်သူ အောင်တော်မူသော အောင်သူများထီး စေဘုန်းမီး၏ ကြီးမြတ်တေဇော် အာနုဘော်ကြောင့်။ မေ၊ အကျွန်ုပ်အား။ အဂ္ဂံ၊ မြတ်သော။ ဇယမင်္ဂလံ၊ ရောဂါဘေးဒဏ် ရန်မာရ်ခပင်း ရှိမဲ့လျှင်းကို နှိမ်နင်းအောင်တတ် ကောင်းမြတ်လှစွာ မင်္ဂလာသည်။ ဘဝတု၊ နေ့ညမကွာ ဖြစ်ရှိပါစေသတည်း။

**အင်္ဂုလိမာလကို အောင်ခြင်း**

၄။ ဥက္ခိတ္တခဂ္ဂမတိဟတ္ထသုဒါရုဏန္တံ၊
ဓာဝံ တိယောဇနပထင်္ဂုလိမာလဝန္တံ။
ဣဒ္ဓိဘိသင်္ခတမနော ဇိတဝါ မုနိန္ဒော၊
တံတေဇသာ ဘဝတု မေ ဇယမင်္ဂလဂ္ဂံ။

ယော မုနိန္ဒော၊ အကြင်မုနိငါးမျိုး ခေါင်းကမိုး၍ တန်ခိုးမှိန်အား လွန်ကြီးမားသည့် ဘုရားမြတ်စွာ သုံးလူ့ ဆရာသည်။ ဥက္ခိတ္တခဂ္ဂမတိဟတ္ထသုဒါရုဏန္တံ၊ လွတ်မြောက်ဖမ်းကာ စက်ပမာလို ချာချာပတ်လည် ဝင့်ကာချီလျက် အလွန်ထက်သော သန်လျက်လက်မှာ စွဲကိုင်ကာဖြင့် လွန်စွာကြမ်းကြုတ်ခြင်းရှိထသော။ တိယောဇနပထံ၊ သုံးယူဇနာ ရှည်စွာအခန်း ခရီးကြမ်းကို။ ဓာဝံ၊ မတန့်မနား ယိုရှားမဆင် မပန်းပင်ဘဲ လျင်ထန်ပြင်းခုန် တဟုန်တည်းပြေးစွမ်းနိုင်ထသော။ အင်္ဂုလိမာလဝန္တံ၊ မာစ်ကောင်ကျော်အောင် သူတော်ယုတ်လတ် လူတိုင်းသတ်၍ ဖြတ်ယူလက်ညှိုး ကြိုးဖြင့်သီရုံး ပန်းကုံးလည်တွင် တန်ဆာဆင်သောကြောင့် အင်္ဂုလိမာလအမည်ရသော စောရမိုက်ကြူး ခိုးသူထူးကို။ ဣဒ္ဓိဘိသင်္ခတ-မနော၊ တန်ခိုးတော်ဖြင့် အသင့်ကြံဆင် ဖန်စီရင်အပ်သော နှလုံးတော်မြတ်ရှိသူ ဖြစ်၍။ ဇိတဝါ၊ မငေါက်မငမ်း မကြမ်းမချော် တန်ခိုးတော်ဖြင့် အောင်တော်မူလေပြီ။

တံတေဇသာ၊ ထိုအင်္ဂုလိမာလ မည်ရတွင်ပြီး ခိုးသူကြီးကို အပြီးလွယ်ကူ အောင်တော်မူသော အောင်သူမျှားထိး စောဘုန်းမီး၏ ကြီးမြတ်တေဇော် တန်ခိုးတော်ကြောင့်။ မေ၊ အကျွန်ုပ်အား။ အဂ္ဂံ၊ မြတ်သော။ ဇယမင်္ဂလံ၊ ဆောဂါဘေးဒဏ် ရန်မာန်ခပင်း ရှိမဲ့လျှင်းကို နှိမ်နင်းအောင်တတ် ကောင်းမြတ်လှစွာ မင်္ဂလာသည်။ ဘဝတု၊ နေ့ညမကွာ ဖြစ်ရှိပါစေသတည်း။

**စိဉ္စမာဏဝိကာကို အောင်ခြင်း**

၅။ ကတ္ဂာန ကဋ္ဌမုဒရံ ဣဝ ဂဗ္ဘိနီယံ၊
စိဉ္စာယ ဒုဋ္ဌဝစနံ ဇနကာယမဇ္ဈေ။
သန္တေန သောမဝိဓိနာ ဇိတဝါ မုနိန္ဒော၊
တံတေဇသာ ဘဝတု မေ ဇယမင်္ဂလဂ္ဂံ။

ယော မုနိန္ဒော၊ အကြင် အာဂါရိက စသည်အပြား မုနိမျှား၏ ဦးဖျားပရမေ သုံးလူ့ ဆွေ ဖြစ်တော်မူသော မြတ်စွာဘုရားသည်။ ဂဗ္ဘိနီယံ၊ ဆယ်လတည်နေ သန္ဓေရင့်ပြီး ဖွားခါနီးသော။ ဥဒရံ ဣဝ၊ ကိုယ်ဝန်စွဲလမ်း မိန်းမဝမ်းကဲ့သို့။ ကဋ္ဌံ၊ သစ်သားကို။ ကတ္ဂာန၊ လိပ်ခွံတံတစ် ပြေပြစ်ခုံးခုံး

လုံးဖုဖူစွာ ကြိုးလေးမြှာတို့ဖြင့် ကောင်းစွာဆိုင်းပတ် ဝမ်းကိုကပ်လျက် မြင်လတ်သည့် ခပ်သိမ်းလူသား ယုံမှားစေမှု လုပ်ကြံပုံ၍။ ဇနကာယမဇ္ဈေ၊ ဥပါသကာ ဥပါသကီ ဘိက္ခုဘိက္ခုနီတည်းဟူသော သူ့ပရိသတ် လေးရပ်တို့ အလယ် သပ္ပါယ်ခင်းလတ် မြတ်သောပလ္လင် နေရာပြင်ထက် ရွှေခြသေ့လား တရားဟောကာ နေတော်မူရာ၌။ စိဉ္စာယ၊ မန်ကျည်းပင်မှ သံသေဇဇ ဖွားမြင် ရ၍ နာမသညာ စိဉ္စာခေါ်ထုတ် မိန်းမယုတ်၏။ ဒုဋ္ဌဝစနံ၊ သင့်ကြောင့်ငါ့မှာ သန္ဓေလာ၍ ဖွားခါနီးပြီ ယီးယောင်ပုံလတ် ရဟန်းမြတ်သည် လူနတ် တို့အား တရားဟောကာ မနေလာနှင့် အိမ်ရာဆောက်မှု လို့လပြုဟု အမှု ဖွဲ့ရှာ စွပ်စွဲလာသော ယုတ်မာညစ်ညမ်း စကားသွမ်းကို။ သန္တေန၊ မျက်နှာ မလှည့် မကြည့်မမျှော် လျှပ်ပေါ်မွဲ့ထွေ ငြိမ်သက်နေသော။ သောမဝိဓိနာ၊ ထို စိဉ္စာအား မေတ္တာဆပွား မုန်းထားမထင် လွန်ဖြူစင်သော အစီအရင် ဖြင့်။ ဇိတဝါ၊ မခြောက်မခြိမ်း ဟိန်းဟဲမလုပ် ဓားတုတ်မကိုင် သင်းကြိုင် မေတ္တာ ကရုဏာဖြင့် ကောင်းစွာအောင်တော်မူလေပြီ။

တံတေဇသာ၊ ထိုစိဉ္စမာဏ မည်ရသမုတ် မိန်းမယုတ်ကို အောင်တော်မူသော မြတ်စွာဘုရား၏ တန်ခိုးတော်အားဖြင့်။ မေ၊ အကျွန်ုပ်အား။ အဂ္ဂံ၊ မြတ်သော။ ဇယမင်္ဂလံ၊ ရောဂါဘေးဒဏ် ရန်မာရ်ခပင်း ရှိမွဲ့လျှင်းကို နိမ်နင်းအောင်တတ် ကောင်းမြတ်လှစွာ မင်္ဂလာသည်။ ဘဝတု၊ နေ့ညမကွာ ဖြစ်ရှိပါစေသတည်း။

သစ္စကပရိဗိုဇ်ကို အောင်ခြင်း

၆။ သစ္စံ ဝိဟာယ အတိသစ္စကဝါဒကေတုံ၊
ဝါဒါဘိရောပိတမနံ အတိအန္ဓဘူတံ။
ပညာပဒီပဇလိတော ဇိတဝါ မုနိန္ဒော၊
တံတေဇသာ ဘဝတု မေ ဇယမင်္ဂလဂ္ဂံ။

ယော မုနိန္ဒော၊ အကြင်ရဟန်းတို့ဥက္ကဋ္ဌ ဘုရားမြတ်သည်။ သစ္စံ၊ သတ္တ လောက ဘုံသုံးဝကို အနိစ္စဒုက္ခ အနတ္တာဟု မြတ်စွာဘုရား ဟောကြား မိန့်သံ စကားမှန်ကို။ ဝိဟာယ၊ စိတ်ကလည်းပယ် ပျက်ပြယ်သမှု နှုတ်လည်း ပြု၍။ အတိသစ္စကဝါဒကေတုံ၊ နိစ္စသုခ အတ္တသာဟု သညာဖောက်ပြန် ယုတ်မာဉာဏ်ဖြင့် မမှန်သည်ကို မှန်၏ဆိုသော မိစ္ဆာဝါဒတည်းဟူသော မှန်ကင်းလည်း ရှိထသော။ ဝါဒါဘိရောပိတမနံ၊ တပါးသောသူ အယူ မှောက်လှန် ငါသာမှန်ဟု ဖောက်ပြန်စိတ်တွင် သူကိုထင်လျက် နှန်းချင်သော နှလုံးလည်းရှိထသော။ အတိအန္ဓဘူတံ၊ သူတထူးထက် ကျူးကျူးလွန်လွန် မျက်ဂုဏ်မာန်ဖြင့် အလွန်မိုက်လှသော သစ္စကပရိဗိုဇ်ကို။ ပညာပဒီပဇလိတော၊

ပညာတော်တည်းဟူသော ဆီမီးတန်ဆောင် ညီးညီးခပြောင်ကို ညှိထောက် ထွန်းတော်မူသည် ဖြစ်၍။ ဇိတဝါ၊ ဟိန်းဟဲမလုပ် ခေးတုတ်မမိုး ကြိမ်ကြိုး မပြု ဓမ္မဩဝါ ဒေသနာဖြင့် ကောင်းစွာအောင်တော်မူလေပြီ။

တံတေဇသာ၊ ထိုသစ္စကပရိဗိုဇ် အလွန်မိုက်ကို နှစ်ခြိုက်လွယ်ကူ အောင်တော်မူသော ထိုမြတ်စွာဘုရား၏ တန်ခိုးတော်အားဖြင့်။ မေ၊ အကျွန်ုပ် အား။ အဂ္ဂံ၊ မြတ်သော။ ဇယမင်္ဂလံ၊ ရောဂါဘေးဒဏ် ရန်မာရ်ခပင်း ရှိမဲ့ လျှင်းကို နှိမ်နင်းအောင်တတ် ကောင်းမြတ်လှစွာ မင်္ဂလာသည်။ ဘဝတု၊ နေ့ညမကွာ ဖြစ်ရှိပါစေသတည်း။

နန္ဒောပနန္ဒနဂါးမင်းကို အောင်ခြင်း

၇။ နန္ဒောပနန္ဒဘုဇဂံ ဝိဗုဓံ မဟိဒ္ဓိံ၊
ပုတ္တေန ထေရဘုဇဂေန ဒမာပယန္တော။
ဣဒ္ဓူပဒေသဝိဓိနာ ဇိတဝါ မုနိန္ဒော၊
တံတေဇသာ ဘဝတု မေ ဇယမင်္ဂလဂ္ဂံ။

ယော မုနိန္ဒော၊ အကြင်ရဟန်းတို့သေဌ်နင်း တရားမင်းသည်။ ဝိဗုဓံ၊ နှစ်သိန်း ငါးသောင်း ချင့်ပေါင်းနှစ်ထောင် လုံးဝန်းဆောင်သား မြင်းမိုရ် တောင်မြတ်ကို ခုနစ်ပတ်တိုင်အောင် ပတ်ရစ်နိုင်ခြင်း, ကိုးယူဇနာ ဆယ်ယူဇနာ ခံတွင်းအားဖြင့် အလွန်ခြောက်ခြိမ်း မိုးလုံးဟိန်းညံ့ စောင်းမာန်သွန့်သွန့် အဆိပ်ပျံ့ခြင်း အစရှိသော အထူးထူးအပြားပြားလည်း ရှိထသော။ မဟိဒ္ဓိံ၊ ကြောက်လန့်စဖွယ် ကြီးကျယ်သော တန်ခိုးလည်း ရှိသသော။ နန္ဒောပနန္ဒ-ဘုဇဂံ၊ နန္ဒောပနန္ဒ အမည်ရသော တေဇထန်ပြင်း နဂါးမင်းကို။ ပုတ္တေန၊ သုံးလူ့ထွတ်ထား မြတ်ဘုရား၏ သားတော်အကြီးလည်း ဖြစ်ထသော။ ထေရ-ဘုဇဂေန၊ အရှင်မောဂ္ဂလ္လာန် ထေရ်မြတ်မွန်လျှင် ဖန်ဆင်းအပ်သော ဆင့်ဆင့် ကြီးမား နဂါးအသွင်ဖြင့်။ ဒမာပယန္တော၊ တုန်လှုပ်ကြောက်ဖြင် ပူပင် ချောက်ချားစေလျက်။ ဣဒ္ဓူပဒေသဝိဓိနာ၊ တန်ခိုးအတန်တန် ဖန်ဆင်းရန်ကို နည်းညွှန်ပေလတ် မြတ်သော အစီအရင်ဖြင့်။ ဇိတဝါ၊ ဗိုလ်ပါမဖက် ရဲမက် မခေါ် သားတော်မောဂ္ဂလ္လာန် ဘိညာဉ်စျာန်ဖြင့် ချိုးနှိမ် အောင်စေတော်မူပြီ။

တံတေဇသာ၊ နန္ဒောပနန္ဒ မည်ရထင်ရှား နတ်နဂါးကို ချောက်ချား လွယ်ကူ အောင်တော်မူသော ထိုမြတ်စွာဘုရား၏ ဘန်ခိုးတော်အားဖြင့်။ မေ၊ အကျွန်ုပ်အား။ အဂ္ဂံ၊ မြတ်သော။ ဇယမင်္ဂလံ၊ ရောဂါဘေးဒဏ် ရန်မာရ်ခပင်း ရှိခဲ့လျှင်းကို နှိမ်နင်းအောင်တတ် ကောင်းမြတ်လှစွာ မင်္ဂလာသည်။ ဘဝတု၊ နေ့ညမကွာ ဖြစ်ရှိပါစေသတည်း။

ဗကမြဖွှာကို အောင်ခြင်း

၈။ ဒုဂ္ဂါဟဒိဋ္ဌိဘုဇဂေန သုဋ္ဌုဋ္ဌဟတ္ထံ၊
ဗြဟ္မံ သုတံ ဇုတိမဟိဒ္ဓိ ဗကာဘိဓာနံ။
ဉာဏာဂဒေန ဝိဓိနာ ဇိတဝါ မုနိန္ဒော၊
တံတေဇသာ ဘဝတု မေ ဇယမင်္ဂလဂ္ဂံ။

ယော မုနိန္ဒော၊ အကြင်ရဟန်းတို့သေ၌နင်း တရားမင်းသည်။ ဒုဂ္ဂါဟဒိဋ္ဌိ-ဘုဇဂေန၊ ယုတ်မာညစ်ညမ်း စွဲလမ်းယူဘိ သဿတဒိဋ္ဌိ အကိရိယဒိဋ္ဌိတည်းဟူသော မြွေလေးစင်းသည်။ သုဋ္ဌုဋ္ဌဟတ္ထံ၊ အလွန်အမြဲ ကိုက်ခဲအပ်သော လက်ရှိထသော။ သုတံ၊ နတ်လူပြဟ္မာ သုံးဘုံရွာ၌ လွန်စွာကျော်ကြား ထင်ရှားစွာထသော။ ဇုတိမဟိဒ္ဓိံ၊ တောက်ပသော တန်ခိုးလည်း ရှိထသော။ ဗကာဘိဓာနံ၊ နေရပ်မြင့်စွာ ပြဟ္မာ့ရွာ၌ သညာထွန်းပ ခေါ်သွန်းကြသည့် ဗကအမည်ရှိသော။ ဗြဟ္မံ၊ ပြဟ္မာအပေါင်း ဝပ်ညွှတ်ခယ ပျပ်ဝပ်ကြသော ပြဟ္မာမင်းကို။ ဉာဏာဂဒေန ဝိဓိနာ၊ ဆုံးစမမြင် ကမ်းမထင်သော သဗ္ဗညုတ စသည်ဉာဏ်တော် ဆေးမြတ်ကျော်ကို ပေးတော်မူသော အစီအရင်ဖြင့်။ ဇိတဝါ၊ အမြောက်စိန်ပြောင်း ချွန်းတောင်းလှံခက် သန်လျက်လေးမြား မဆိုထားဘိ လက်ဝါးမထောင် မျက်မှောင်မငြို သင်္ဂြိုဟ်မေတ္တာ မင်္ဂပညာဖြင့် ကောင်းစွာလွယ်ကူ အောင်တော်မူလေပြီ။

တံတေဇသာ၊ ဗကမည်သာ ထိုပြဟ္မာကို ပညာဆေးကျော် အမှိုက်ရေ တော်ဖြင့် ဖော်လှော်မကူ အောင်တော်မူသော ထိုမြတ်စွာဘုရား၏ တန်ခိုး တော်အားဖြင့်။ မေ၊ အကျွန်ုပ်အား။ အဂ္ဂံ၊ မြတ်သော။ ဇယမင်္ဂလံ၊ ရောဂါ ဘေးဒဏ် ရန်မာရ်ခပင်း ရှုံ့မဲ့လျှင်းကို နှိမ်နင်းအောင်တတ် ကောင်းမြတ်လှစွာ မင်္ဂလာသည်။ ဘဝတု၊ နေ့ညမကွာ ဖြစ်ရှိပါစေသတည်း။

မြတ်စွာဘုရား၏ အတွင်းအောင်ခြင်း(၈)ပါး၊ အပြင်အောင်ခြင်း(၈)ပါးကို ဖွဲ့ဆိုထားသည့် ဂါထာများကို ယုံယုံကြည်ကြည် လေးလေးနက်နက် ရွတ်ဖတ် ပူဇော်ပါက မိမိတို့ လိုရာကိစ္စ ပြီးစီးအောင်မြင်နိုင်သည်။ အတွင်းရန် အပြင်ရန် အားလုံး အောင်မြင်နိုင်သည်။ နောက်ဆုံးတွင် ဗုဒ္ဓဟာသာဝင်တို့၏ အဓိက ပန်းတိုင်ဖြစ်သည့် ကိလေသာအာသဝေါတရားတို့၏ ကုန်ဆုံးရာ နိဗ္ဗာန်သို့ပင် ဆိုက်ရောက်၍ အမြင့်မြတ်ဆုံးသော အောင်မြင်မှုကို ရရှိနိုင်သည်။

၁၂။ အပြင်အောင်ခြင်းရှစ်ပါး အချုပ် ၂-ဂါထာ

၁။ မာရံ ယက္ခံ ဂဇံ စောရံ၊ စိဉ္စမာဏဝ္ဂ သစ္စကံ။
နာဂံ ဗကံ ဇိနေန ဇိနံ၊ ဟောတု မေ ဇယမင်္ဂလံ။

ဇိနော၊ မြတ်စွာဘုရားသည်။ မာရံ၊ မာရ်နတ်သားကိုလည်းကောင်း။ ယက္ခံ၊ အာဠဝက ဘီလူးမင်းကိုလည်းကောင်း။ ဂဇံ၊ နာဠာဂီရိ ဆင်ကိုလည်းကောင်း။ စောရံ၊ အင်္ဂုလိမာလ သူခိုးကျော်ကိုလည်းကောင်း။ စိဉ္စမာဏဍ္ဍ၊ စိဉ္စမာဏ မိန်းမယုတ်ကိုလည်းကောင်း။ သစ္စကံ၊ သစ္စကပရိဗိုဇ်ကိုလည်းကောင်း။ နာဂံ၊ နန္ဒောပနန္ဒ နဂါးမင်းကိုလည်းကောင်း။ ဗကံ၊ ဗကပြဟ္မာကြီးကိုလည်းကောင်း။ ဇိနိ၊ အောင်မြင်သော်မူလေပြီ။ (ဘေဒန သစ္စဝစ္ဆေန၊ ကြုံမှန်ကန်သော သစ္စာ စကားကြောင့်။) မေ၊အကျွန်ုပ်အား။ ဇယမင်္ဂလံ၊ အောင်ခြင်းမင်္ဂလာ အဖြာဖြာ သည်။ ဟောတု၊ မုချမသွေ ဖြစ်ပါစေသတည်း။

၂။ မာရံ အာဠဝကံ ဟတ္ထိ၊ အင်္ဂုလိမာလ စိဉ္စမာ။
ကူဋဒန္တံ နာဂရာဇံ၊ ဗကံ အဇိနိ တေဇသာ။

ဇိနော၊ မြတ်စွာဘုရားသည်။ မာရံ၊ မာရ်နတ်သားကိုလည်းကောင်း။ အာဠဝကံ၊ အာဠဝကဘီလူးမင်းကိုလည်းကောင်း။ ဟတ္ထိ အင်္ဂုလိမာလ စိဉ္စမာ- ကူဋဒန္တံ၊ နာဠာဂိရိဆင်၊အင်္ဂုလိမာလသူခိုးကျော်၊ စိဉ္စမာဏမိန်းမယုတ်၊ ကူဋဒန္တ မည်သော သစ္စက ပရိဗိုဇ်ကိုလည်းကောင်း။ နာဂရာဇာ၊ နန္ဒောပနန္ဒ နဂါးမင်းကို လည်းကောင်း။ ဗကံ၊ ဗကပြဟ္မာကြီးကိုလည်းကောင်း။ တေဇသာ၊ တန်ခိုး တော်ဖြင့်။ အဇိနိ၊ အောင်မြင်တော်မူလေပြီ။

ဤဂါထာ ၂-ပုဒ်မှာ အဓိပ္ပာယ်အတူပင် ဖြစ်သည်။ မြတ်စွာဘုရား အပြင်အောင်ခြင်းရှစ်ပါးကို အောင်မြင်တော်မူပုံကို ဖွဲ့ဆိုထားသော ဂါထာများ ဖြစ်သည်။

ယင်းဂါထာ နှစ်ပုဒ်ကို ဘားမဲ့ဆရာတော် ချီးမြှင့် ပေးသနားတော်မူ၍ ညောင်ရမ်းမင်းသားသည် နေ့စဉ်အမြဲ ရွတ်ဖတ်ခဲ့သည်ဟု ဆိုသည်။ ထိုသို့ ရွတ်ဖတ်ပူဇော်မှုအကြောင်း အထောက်အပံ့ကြောင့်ပင် ညောင်ရမ်းမင်းသား သည် ရာဇာင်္ဂ ထင်ရှားခဲ့ကြောင်း ရာဇဝင်သမိုင်း မှတ်တမ်းများက ဆိုသည်။

သို့ဖြစ်ရာ ဘဝတစ်လျှောက် အောင်မြင်မှု အထွေထွေကို ရယူလိုသူများနှင့် အခက်အခဲ ဟူသမျှကို ကျော်လွှား၍ အောင်မြင်လိုသူများသည် ဘုရားရှင် အပြင်အောင်ခြင်းရှစ်ပါး အောင်မြင်တော်မူပုံကို အာရုံပြု၍ အမြဲမပြတ် ရွတ်ဖတ်ပူဇော်ကြရန် ဖြစ်သည်၊ လောက အခက်အခဲ ဟူသမျှ အားလုံးကို အောင်မြင်နိုင်သည်။

## ၁၃။ အောင်ဂါထာတော်

ဇယန္တော ဗောဓိယာ မူလေ၊ သကျာနံ နန္ဒိဝဍ္ဎနော။
ဧဝမေဝ ဇယော ဟောတု၊ ဇယဿု ဇယမင်္ဂလေ။

အပရာဇိတပလ္လင်္ကေ၊ သီသေ ပုထုဝိပုက္ခလေ။
အဘိသေကေ သဗ္ဗဗုဒ္ဓါနံ၊ အဂ္ဂပ္ပတ္တော ပမောဒတိ။

သကျာနံ၊ သာကီဝင်မင်းတို့၏။ နန္ဒိဝဍ္ဎနော၊ နှစ်လိုခြင်းကို ပွားစေတတ်သော မြတ်စွာဘုရားသည်။ ဗောဓိယာ၊ ဗောဓိပင်၏။ မူလေ၊ အရင်း၌။ ဇယန္တော ယထာ၊ မာရ်ငါးပါးကို အောင်တော်မူလေသကဲ့သို့။ ဧဝမေဝ၊ ထို့အတူရင်း။ ဇယော၊ အောင်ခြင်းသည်။ ဟောတု၊ ဖြစ်စေသတည်း။ ဇယမင်္ဂလေ၊ အောင်အပ်သော မင်္ဂလာ၌။ တဝ၊ သင့်အား။ ဇယဿု၊ အောင်စေသတည်း။

သဗ္ဗဗုဒ္ဓါနံ၊ ခပ်သိမ်းသော မြတ်စွာဘုရားတို့၏။ အဘိသေကေ၊ ဗုဒ္ဓါဘိသေက မင်္ဂလာကို ခံယူရာဖြစ်ထသော။ ပုထုဝိပုက္ခလေ၊ မြေပြင်၌ အထူးတင့်တယ်ထသော။ သီသေ၊ မြေပြင်၌ ဦးထိပ်လည်းဖြစ်ထသော။ အပရာဇိတပလ္လင်္ကေ၊ မာရ်ငါးပါးကို အောင်မြင်သော ပလ္လင်တော်၌။ အဂ္ဂပ္ပတ္တော၊ လူသုံးပါးတို့ထက် မြတ်သော သဗ္ဗညုတဉာဏ်ကျေးဇူးသို့ ရောက်တော်မူသော မြတ်စွာဘုရားသည်။ ပမောဒတိ၊ ဝမ်းမြောက်တော်မူ၏။

[ဤဂါထာကို စွဲမြဲစွာ ရွတ်ဆိုပါက ကြံတိုင်းအောင်၍ ဆောင်တိုင်းမြောက်သည်၊ မိမိအား နှိပ်စက်လွှမ်းမိုးလာသူ ရန်သူမှန်သမျှ လွင့်စင်ပပျောက်ရလေသည်၊ အခက်အခဲဟူသမျှမှ ကျော်လွှားနိုင်၏၊ ယုံကြည်စွဲမြဲစွာ ရွတ်ဖတ်ပါလေ။]

## ၁၄။ သစ္စာပန္နက် အောင်ရှစ်ချက်ဂါထာ

ဇယစက္ကော ဇယန္တော ယော၊ ဇယိတဗ္ဗေ ဇယာသနေ။
ဇယာပေသိ ဇယေ သီနံ၊ ဇယံ ဒေတု ဇယုတ္တရော။

ယော ဇယစက္ကော၊ ပါရမီတော်ဆယ်ချက် အောင်လက်နက်ပိုင်ရှင် အကြင်ဘုရားရှင် ကိုယ်တော်မြတ်ကြီးသည်။ ဇယာသနေ၊ အောင်သိဒ္ဓိဆင်မြန်းသည့် ပလ္လင်နန်းမှန်ကင်း အောင်ဗောဓိပင်ရင်း၌။ ဇယိတဗ္ဗေ၊ အောင်အပ်သည့်တရားမာရ်ငါးပါးအပေါင်းတို့ကို။ ဇယန္တော၊ ပါရမီတော်စက် ဘုန်းလက်နက်ဖြင့် အကြွင်းမဲ့ ချေမှုန်းလျက် ဖျက်ဖြုန်းကာ ပယ်ရှင်း၍ အောင်ခြင်းကြီး အောင်တော်မူခဲ့လေပြီ။

ဇယေသိနံ၊ မြတ်နိဗ္ဗာန်အောင်ခန်းနှင့် အောင်ဘိသိက် ပန်းမဂ်ဖိုလ်ကို မျှားထိုထိုဝဋ်အတွင်းမှ လွတ်ကင်းအောင် အာသာကြီးဖြင့် ရှာမှီးကာနေကြကုန်သော သူတို့အား။ ဇယာပေသိ၊ ကိုယ်တော်မြတ်နှင့်အတူ အောင်ပန်းကို ဆွတ်ချူ၍ ထွတ်အငူ အမြိုက်ခတ်သို့ ဆိုက်ကပ်တော်မူစေ၍ အောင်စေတော်မူလေပြီ။

ဇယုတ္တရော၊ အောင်သူတကာတို့၏ မှန်ကင်း အောင်ခြင်းတကာတို့၏ ဦးသျှောင် ထွတ်ခေါင်မြတ်သရဖူ သယမ္ဘူမကိုဋ်ထီး အောင်ပွဲဝင်ပုဂ္ဂိုလ်ကြီး ဖြစ်ပေထသော။ သော ဇယစက္ကော၊ ထိုအောင်စက်သခင် ဘုရားရှင်သည်။ မေ၊ အောင်ဆုလိုငြား တပည့်တော်အား။ ဇယံ၊ အောင်ပန်းဝေမှိုင် အောင်ဖူးတွေ့ ကြိုင်လှိုင်သည့် အောင်သိဒ္ဓိပန်းခိုင်ကြီးကို။ ဒေတု၊ ကရုဏာ ရှေ့ထား၍ ပေးသနားတော်မူပါအရှင်ဘုရား။

ဤဂါထာသည် "ဇယ = အောင်ခြင်း" ဟု ရှစ်ကြိမ်တိတိ ပါ၍ "အောင်ရှစ်ချက်ဂါထာ" ဟု အမည်တွင်သည်။ လူသားတို့သည် နေ့စဉ်နှင့်အမျှ စီးပွားရေး ကျန်းမာရေး ပညာရေးစသည့် လူမှုရေးရာ ကိစ္စအဖြာဖြာအတွက် သွားလာလှုပ်ရှားနေကြရသည်။ လှုပ်ရှားလုပ်ကိုင်ရသည့် ကိစ္စတိုင်းကိုလည်း အောင်မြင်လိုကြသည်။

ဤအောင်ရှစ်ချက်ဂါထာသည် ဘုရားရှင် ဗောဓိပင်နှင့် ဇေယျပလ္လင်၌ အောင်သင့် အောင်ထိုက်သော အရာမှန်သမျှကို ကိုယ်တော်တိုင် အောင်မြင်၍ အောင်မြင်မှုကို ရယူလိုသူများကိုလည်း အောင်မြင်စေပုံကို ဖော်ညွှန်းထားသော ဂါထာဖြစ်သည်။ ယင်းဖော်ညွှန်းချက် အနက်အဓိပ္ပာယ်ကို အလေးအနက် အာရုံယူ၍ ဤဂါထာကို ရွတ်ဖတ် ပူဇော်လျှင် မိမိတို့ ဆောင်ရွက်နေသော လူမှုကိစ္စအဝဝ အောင်မြင်ရုံမျှမက ကိလေသာတရားအားလုံးကိုပါ အောင်မြင်၍ မဂ်ဖိုလ်နိဗ္ဗာန်အထိ ဆိုက်ရောက်အောင်မြင်နိုင်သည်။

## ၁၅။ မာရ်နတ်ကို အောင်မြင်ပြီးနောက် ဗြဟ္မာ နတ် နဂါး ဂဠုန်တို့၏ ကြွေးကြော်သည့်ဂါထာများ

(က) ဇယော ဟိ ဗုဒ္ဓဿ သိရီမတော အယံ၊
မာရဿ စ ပါပိမတော ပရာဇယော။
ဥဂ္ဃောသယုံ ဗောဓိမဏ္ဍေ ပမောဒိတာ၊
ဇယံ တဒါ ဗြဟ္မဂဏာ မဟေသိနော။

(ခ) ဇယော ဟိ ဗုဒ္ဓဿ သိရီမတော အယံ၊
မာရဿ စ ပါပိမတော ပရာဇယော။
ဥဂ္ဃောသယုံ ဗောဓိမဏ္ဍေ ပမောဒိတာ၊
ဇယံ တဒါ ဒေဝဂဏာ မဟေသိနော။

(ဂ) ဇယော ဟိ ဗုဒ္ဓဿ သိရီမတော အယံ၊
မာရဿ စ ပါပိမတော ပရာဇယော။
ဥဂ္ဃောသယုံ ဗောဓိမဏ္ဍေ ပမောဒိတာ၊
ဇယံ တဒါ နာဂဂဏာ မဟေသိနော။

(ဃ) ဇယော ဟိ ဗုဒ္ဓဿ သိရီမတော အယံ၊
မာရဿ စ ပါပိမတော ပရာဇယော။
ဥဂ္ဃောသယုံ ဗောဓိမဏ္ဍေ ပမောဒိတာ၊
ဇယံ တဒါ သုပဏ္ဏဂဏာ မဟေသိနော။

(က) အယံ၊ ဤအောင်ပွဲသည်။ သိရီမတော၊ ဘုန်းကျက်သရေနှင့် ပြည့်စုံတော်မူပေသော။ ဗုဒ္ဓဿ၊ မြတ်စွာဘုရား၏။ ဇယော၊ အောင်ပွဲတည်း။ ပါပိမတော၊ ယုတ်မာသမျှ ထူးချွန်လှသဖြင့် သူယုတ်မာဟွဲ့ရသော။ မာရဿ စ၊ မာရ်နတ်မင်းကိုလည်း။ ပရာဇယော၊ ရှုံးစေအပ်ပြီ။ တဒါ၊ ထိုအောင်ပွဲအခါ၌။ ဗောဓိမဏ္ဍေ၊ ဗောဓိမဏ္ဍိုင်၌။ ပမောဒိတာ၊ ဝမ်းမြောက်ကြကုန်သော။ ဗြဟ္မဂဏာ၊ ဗြဟ္မာအပေါင်းတို့သည်။ မဟေသိနော၊ မြတ်စွာဘုရား၏။ ဇယံ၊ အောင်မြင်မှု အပေါင်းကို။ ဥဂ္ဃောသယုံ၊ အားပေးကြွေးကြော်ကြကုန်ပြီ။

(ခ) ဒေဝဂဏာ၊ နတ်အပေါင်းတို့သည်။

(ဂ) နာဂဂဏာ၊ နဂါးအပေါင်းတို့သည်။

(ဃ) သုပဏ္ဏဂဏာ၊ ဂဠုန်အပေါင်းတို့သည်။

[ကျန်သောအနက်များ ရှေးနှင့် တူပြီ။]

[ဘုရားဖြစ်တော်မူခါနီး ဗောဓိမဏ္ဍိုင်၌ မာရ်နတ်ကို အောင်မြင်ချိန် ဗြဟ္မာ၊ နတ်၊ ဂဠုန်၊ နဂါးတို့သည် ဝမ်းမြောက်လွန်သဖြင့် ကောင်းချီးပေးကြသည်၊ ထိုပွဲ၌ ဘုရားကိုအာရုံပြု၍ တက်တက်ကြွကြွ ရွတ်ဖတ်ပါ၊ အကြံအစည်ဟူသမျှ ပြီးမြောက်အောင်မြင်မည်။ စီးပွားကျက်သရေ တိုးတက်ဖွံ့ဖြိုးမည်။ နံနက်ချိန်တွင် လေးလေးနက်နက် ရွတ်ဖတ်ပါ။ အနည်းဆုံး ၃-ခေါက် ရွတ်ဖတ်ပါလေ။]

၁၆။ သမ္ဗုဒ္ဓေကပ်ကျော် မန္တန်တော်ကြီး

၁။ သမ္ဗုဒ္ဓေ အဋ္ဌဝီသဉ္စ၊ ဒွါဒသဉ္စ သဟဿကေ။
ပဉ္စသတသဟဿာနိ၊ နမာမိ သိရသာ မဟံ။

၂။ အပ္ပကာ ဝါဠုကာ ဂင်္ဂါ၊ အနန္တာ နိဗ္ဗုတာ ဇိနာ။
တေသံ ဓမ္မဉ္စ သံဃဉ္စ၊ အာဒရေန နမာမဟံ။

၃။ နမက္ကာရာနုဘာဝေန၊ ဟိတွာ သဗ္ဗေ ဥပဒ္ဒဝေ။
အနေကအန္တရာယာပိ၊ ဝိနဿန္တု အသေသတော။

၁။ အဋ္ဌဝီသံ၊ နှစ်ကျိပ်ရှစ်ဆူကုန်သော။ သမ္ဗုဒ္ဓေ စ၊ ဘုရားရှင်တို့ကို လည်းကောင်း။ ဒွါဒသဉ္စ သဟဿကေ၊ တစ်သောင်းနှစ်ထောင်ကုန်သော။ သမ္ဗုဒ္ဓေ စ၊ ဘုရားရှင်တို့ကိုလည်းကောင်း။ ပဉ္စသတသဟဿာနိ၊ ငါးသိန်းကုန်သော။ သမ္ဗုဒ္ဓေ စ၊ ဘုရားရှင်တို့ကိုလည်းကောင်း။ အဟံ၊ အကျွန်ုပ်သည်။ သိရသာ၊ ဦးခေါင်းဖြင့်။ နမာမိ၊ ရှိခိုးပါ၏ အရှင်ဘုရား။

၂။ ဝါဠုကာ ဂင်္ဂါ၊ ဂင်္ဂါမြစ်ထဲ ကျောက်သလဲတို့သည်။ အပ္ပကာ၊ နည်းလှချေသေး၏။ နိဗ္ဗုတာ ဇိနာ၊ ပရိနိဗ္ဗာန်စံလွန်ကုန်ပြီးသော ဘုရားတို့သည်သာ။ အနန္တာ၊ မရေတွက်နိုင်အောင် များလှလေကုန်ပြီ။ (တေ၊ ထို ဂင်္ဂါဝါဠု သဲစုမက ပရိနိဗ္ဗာန် စံလွန်တော်မူကြသော ဘုရားရှင် အဆူဆူတို့ကိုလည်းကောင်း။) တေသံ၊ ထို ဘုရားရှင် အဆူဆူတို့၏။ ဓမ္မဉ္စ၊ တရားတော်ကိုလည်းကောင်း။ သံဃဉ္စ၊ သံဃာတော်ကို လည်းကောင်း။ အဟံ၊ အကျွန်ုပ်သည်။ အာဒရေန၊ ရိုသေစွာ။ နမာမိ၊ ရှိခိုးပါ၏ အရှင်ဘုရား။

၃။ နမက္ကာရာနုဘာဝေန၊ ဤသို့ ရိုသေစွာ ရှိခိုးရသော အာနုဘော်ကြောင့်။ သဗ္ဗေ ဥပဒ္ဒဝေ၊ အလုံးစုံသော ဘေးဥပဒ်တို့ကို။ ဟိတွာ၊ ပယ်ဖျောက်၍။ အနေကအန္တရာယာပိ၊ အန္တရာယ် အမျိုးမျိုးတို့သည်လည်း။ အသေသတော၊ အကြွင်းအကျန် မရှိသောအားဖြင့်။ ဝိနဿန္တု၊ ပိန်းကြာဖက်တွင် ရေမတင် သကဲ့သို့ ကင်းစင် လွင့်ပျောက်ပါစေကုန်သတည်း။

သမ္ဗုဒ္ဓေဂါထာသုံးပုဒ်၏ အကျိုးကျေးဇူးများ

ဤဂါထာသုံးပုဒ်၏ အကျိုးကျေးဇူးကို ရှေးဆရာတော်ကြီးများ အောက်ပါ လင်္ကာဖြင့် ပြတော်မူခဲ့ကြသည်—

မြတ်လှစိန္တေ၊ သမ္ဗုဒ္ဓေဟု၊ ဆုဝေကျော်ကြား၊ နိဒါန်းအားဖြင့်၊ ကွမ်းစားသတ္တော်၊ ခေါင်းလျှော်ဒသ၊ ဘတ္တတြိန်း၊ ဆီလိမ်းပဉ္စ၊ စီးထလှေမှာ၊ ရှစ်ကြိမ်သာတည်း၊ နံ့သာပန်းမျိုး၊ ကိုးကြိမ်နှိုးလော့၊ ချုပ်မိုးညဉ့်ခါ၊ အိပ်ရာဝင်မူ၊ ကိုးကြိမ်ဟူ၍၊ ရန်သူတွေ့မြောက်၊ ဆယ့်တစ်ခေါက်တည်း၊ စစ်ရောက်သောခါ၊ ရွတ်ပါကိုးကြိမ်၊ တည်ငြိမ်သန္တေ၊ မဖွားနေမူ၊ ရေမှာကိုးခေါက်၊ မှန်း၍သောက်က၊ ဖွားမြောက်ခဏ၊ ချမ်းသာရ၏။

ခေတ္တန္တောင်သွင်း၊ သံခြေကျင်းနှင့်၊ အပြင်းတိုက်လှောင်၊ တစ်ထောင်ရွတ်လေ၊ လွတ်ထွက်ပေ၏၊ ပန်းမွှေးချေက၊ ရွတ်လေနှစ်ခေါက်၊ ခရီးလျှောက်ရာ၊ ခေါင်းမှာတင်စိုက်၊ ရန်ဘေးနှိုက်လည်း၊ မကြိုက်ကင်းပ၊ မြူမျှမလိမ်း၊ ကင်းလွတ်ငြိမ်း၏။

ရှောင်တိမ်းရောဂါ၊ ဗျာပါလည်းကင်း၊ သောကရှင်း၍၊ မင်းမင်းတကာ၊ ကြည်စွာမြတ်နိုး၊ ရေပြည့်အိုးသို့၊ မညှိုးပန်းသွင်၊ နွေတိုင်းပင်တည်း၊ ထွက်ဝင်ရဲရဲ၊ လူခပဲတို့၊ အံ့အဲစလောက်၊ ထွန်းတောက်ပဝင်း၊ ပွင့်လင်းသာသနာ၊ ပွားကြောင်းရှာ၍၊ စန္ဒာလမင်း၊ ကောင်းကင်ချဉ်းသို့၊ ကောင်းခြင်း သမ္ဗုဒ္ဓေ၏ အကျိုးတည်း။

**လက်ာ၏ အဓိပ္ပါယ်**

၁။ ကွမ်းစားလျှင် သမ္ဗုဒ္ဓေဂါထာကို (၇) ခေါက်ရွတ်ပါ။

၂။ ခေါင်းလျှော်လျှင် (၁၀)ခေါက် ရွတ်ပါ။

၃။ ထမင်းစားလျှင် (၃)ခေါက်ရွတ်ပါ။

၄။ ဆီလိမ်းလျှင် (၅)ခေါက်ရွတ်ပါ။

၅။ လှေစီးလျှင် (၈)ခေါက်ရွတ်ပါ။

၆။ နံ့သာလိမ်းခြင်း၊ ပန်းပန်ခြင်း၌ (၉)ခေါက်ရွတ်ပါ။

၇။ အိပ်ရာဝင်လျှင် (၉)ခေါက်ရွတ်ပါ။

၈။ ရန်သူနှင့် တွေ့လျှင် (၁၁)ခေါက်ရွတ်ပါ။

၉။ စစ်ထိုး၊ စစ်ဆင်ရာ၌ (၉)ခေါက်ရွတ်ပါ။

၁၀။ မီးမဖွားနိုင်လျှင် ဤဂါထာကို (၉)ခေါက် ရေကို မန်း၍ တိုက်ပါ။

၁၁။ ဖမ်းဆီးချုပ်နှောင်ခြင်းခံရလျှင် အခေါက်ပေါင်း တစ်ထောင်ရွတ်ပါ။

၁၂။ ခရီးသွားလျှင် ပန်းကို သမ္ဗုဒ္ဓေဂါထာ (၂)ခေါက် ရွတ်ဖတ်၍ ယင်း ပန်းကို ယူဆောင်သွားပါက ဘေးကင်းသည်။ ရောဂါဘေး စိုးရိမ် သောက ဗျာပါဒဘေးတို့မှ ကင်းဝေးရသည်။

၁၃။ ဤဂါထာတော်ကို နေ့စဉ်မပျက် ရွတ်ဖတ်ပါက မိမိဘဝ၌ ရေပြည့်အိုး ပမာ တိုးတက်လျက် ရှိမည်။ မည်သို့သောပန်းကဲ့သို့လည်း ရှိမည်။ ကောင်းကင်မှ လမင်းကြီးပမာ တင့်တယ်မှုကို ရရှိမည်။

ဤဖော်ပြပါ လက်ာသည် ရှေးဆရာတော်ကြီးများ လက်တွေ့မျက်မြင် သာဓကများကို အခြေခံကာ သီကုံးထားသော အကျိုးပြု လင်္ကာများသာ ဖြစ်ပါသည်။ အမှန်စင်စစ်အားဖြင့် အစိန္တေယျဂုဏ်နှင့် ပြည့်စုံသော ဘုရား, တရား, သံဃာ ရတနာသုံးပါး ဂုဏ်တော်များကို ရိုခိုးပူဇော် ကန်တော့ခြင်း ဖြစ်၍ ရရှိသော အကျိုးကျေးဇူးမှာလည်း မည်မျှမည်မျှဟု အကန့်အသတ် မရှိဘဲ မကြံစည်အပ် မကြံစည်နိုင်သော အကျိုးကျေးဇူးများကို ရရှိခံစားနိုင် ပါသည်။

၁၇။ ဖုဋ္ဌဿဂါထာ မန္တန်တော်

ဖုဋ္ဌဿ လောကဓမ္မေဟိ၊ စိတ္တံ ယဿ န ကမ္ပတိ။
အသောကံ ဝိရဇံ ခေမံ၊ ဧတံ မင်္ဂလမုတ္တမံ။

ယဿ၊ အကြင်ရဟန္တာပုဂ္ဂိုလ်၏။ စိတ္တံ၊ စိတ်သည်။ လောကဓမ္မေဟိ၊ ကောင်းဆိုးနှစ်တန် လောကဓံတရား ရှစ်ပါးတို့နှင့်။ ဖုဋ္ဌဿ၊ တွေ့ထိရသော် လည်း။ န ကမ္ပတိ၊ မတုန်လှုပ်။ အသောကံ၊ စိုးရိမ်ခြင်းလည်း မရှိ။ ဝိရဇံ၊ ကိလေသာဟူသော မြူအညစ်အကြေးလည်း မရှိ။ ခေမံ၊ ဘေးလည်း မရှိ။ ဧတံ၊ ဤလေးပါးသော တရားသည်လည်း။ ဥတ္တမံ၊ မြတ်သော။ မင်္ဂလံ၊ မင်္ဂလာမည်ပါပေ၏။

ဤဂါထာကို ရှေးရှေးပုဂ္ဂိုလ်များ ဉာဏ်ရှိသလို သုံးခဲ့ကြသည်။ အချို့ ပုဂ္ဂိုလ်များ ဤဂါထာကို ရွတ်ဖတ်ခြင်းကြောင့် ခေတ်ဆိုး ခေတ်ကျပ်တွေ့ အမျိုးမျိုး ကျော်သွားခဲ့ကြရသည်။ အချို့မြန်မာသမားတော်များ ဤဂါထာဖြင့် ဆီကို မန်းပြီး အနာရောဂါများ နေရာ၌ ကုသပေးနိုင်ခဲ့ကြသည်။

ဤဂါထာရွတ်ဆို၍ သစ္စာပြု ဆုတောင်းခြင်းကြောင့် အန္တရာယ်ကင်းခြင်း၊ အနှောင်အဖွဲ့မှ လွတ်မြောက်ခြင်း၊ အခက်အခဲကို ကျော်လွှားခြင်းစသည့် အကျိုးအမျိုးမျိုးကို ရရှိခံစားခဲ့ကြရသည်။

ဤဂါထာဖြင့် ရေကို သက်စေ့မနီးသောက်သောကြောင့် သောကကင်းခြင်း၊ အနန္တငါးပါးကို ရေငါးခွက်ဖြင့် ပူဇော်ပြီး တစ်ခွက်ကို ဖုဋ္ဌသဲ ဂါထာ မန္တန်ရွတ်၍ သောက်ခြင်းကြောင့် အကြံအစည်အားလုံး ပြီးစီးခြင်းစသည်ဖြင့် ကိုယ်တွေ့ လက်တွေ့များကို အမျိုးမျိုး ပြောဆိုရေးသားကာ မှတ်တမ်းတင်ခဲ့ကြသည်။

သို့ရာတွင် ဘုရားဟောတရားမှန်သမျှ အစိန္တေယျဂုဏ်နှင့် ပြည့်စုံသည်ချည်း ဖြစ်သောကြောင့် ဤဂါထာကို ရွတ်ဖတ်၍ သစ္စာပြုဆုတောင်းလျှင် မည်ရွေ့ မည်မျှဟု အ...နှိုးအသတ်မရှိ အကျိုးတရားများ ရရှိခံစားနိုင်ကြပေသည်။

### ၁၈။ ပဋိစ္စသမုပ္ပါဒ် အနုလုံပါဠိတော်

အဝိဇ္ဇာပစ္စယာ သင်္ခါရာ၊ သင်္ခါရပစ္စယာ ဝိညာဏံ၊ ဝိညာဏပစ္စယာ နာမရူပံ၊ နာမရူပပစ္စယာ သဠာယတနံ၊ သဠာယတနပစ္စယာ ဖဿော၊ ဖဿ-ပစ္စယာ ဝေဒနာ၊ ဝေဒနာပစ္စယာ တဏှာ၊ တဏှာပစ္စယာ ဥပါဒါနံ၊ ဥပါဒါန-ပစ္စယာ ဘဝေါ၊ ဘဝပစ္စယာ ဇာတိ၊ ဇာတိပစ္စယာ ဇရာ မရဏ သောက-ပရိဒေဝဒုက္ခဒေါမနဿုပါယာသာ သမ္ဘဝန္တိ၊ ဝေမေတဿ ကေဝလဿ ဒုက္ခက္ခန္ဓဿ သမုဒယော ဟောတိ။

### ၁၉။ ပဋိစ္စသမုပ္ပါဒ် ပဋိလုံပါဠိတော်

အဝိဇ္ဇာယ တွေဝ အသေသဝိရာဂနိရောဓာ သင်္ခါရနိရောဓော၊ သင်္ခါရ-နိရောဓာ ဝိညာဏနိရောဓော၊ ဝိညာဏနိရောဓာ နာမရူပနိရောဓော၊ နာမရူပ-နိရောဓာ သဠာယတနနိရောဓော၊ သဠာယတနနိရောဓာ ဖဿနိရောဓော၊ ဖဿနိရောဓာ ဝေဒနာနိရောဓော၊ ဝေဒနာနိရောဓာ တဏှာနိရောဓော၊ တဏှာနိရောဓာ ဥပါဒါနနိရောဓော၊ ဥပါဒါနနိရောဓာ ဘဝနိရောဓော၊ ဘဝနိရောဓာ ဇာတိနိရောဓော၊ ဇာတိနိရောဓာ ဇရာ မရဏ သောက ပရိဒေဝ-ဒုက္ခဒေါမနဿုပါယာသာ နိရုဇ္ဈန္တိ၊ ဝေမေတဿ ကေဝလဿ ဒုက္ခက္ခန္ဓဿ နိရောဓော ဟောတိ။

ဘုရားရှင်ကိုယ်တော်မြတ်သည် ဘုရားဖြစ်တော်မူပြီးစ ပထမသတ္တာဟ ဗောဓိပင်နှင့် ရွှေပလ္လင်၌ သီတင်းသုံးတော်မူစဉ် ညဉ့်သုံးယာမ်ပတ်လုံး ဤ ပဋိစ္စသမုပ္ပါဒ်ပါဠိတော်ကို အနုလုံ ပဋိလုံ ဆင်ခြင်တော်မူခဲ့သည်။ ဘုရား ဖြစ်တော်မူစ ဆင်ခြင်တော်မူပုံကို အကြောင်းပြု၍ ယခုအခါ ဗုဒ္ဓါဘိသေက ဘုရား အနေကဇာတင်ရာ၌ ရွတ်ဖတ်ပူဇော်လျက် ရှိကြသည်။

ဗောဓိပင်နှင့် ရွှေပလ္လင်ကို အောင်မြင်တော်မူပြီးစ ဘုရားရှင် ဆင်ခြင်တော်မူပုံကို အာရုံပြု၍ ဤပဋိစ္စသမုပ္ပါဒ်ပါဠိတော်ကို အနုလုံ ပဋိလုံ ရွတ်ဖတ်ပူဇော်လျှင် အသိဉာဏ်ကြီးမားခြင်း၊ ဉာဏ်ပညာ ထက်မြက်ခြင်း၊ အတွင်းရန် အပြင်ရန် အားလုံး အောင်မြင်နိုင်ခြင်း၊ အောင်မြင်မှုသရဖူကို ဆောင်း၍ ကျက်သရေ **မင်္ဂလာ**များ တိုးပွားနိုင်ခြင်းစသော အတိုင်းမသိ များပြားလှသော **အကျိုးကျေးဇူးများ** ရရှိနိုင်ပေသည်။

**၂၀။ ပထဝီဇယမန္တန် ၁၄-ဂါထာပါဠိ**

၁။ သြိ **ပထဝီဇယ**သမ္ဗံ၊ အနေကအန္တရာယိကံ။
ဇယံ ပစ္စေကဗုဒ္ဓါ စ၊ ဇယံ ပရိ မဟေသယော။

၂။ ဇယံ ဟာရော ဟာရိဒေဝေါ၊ ဇယံ ဗြဟ္မာ စ တေရသော။
ဇယံ နာဂေါ စ ဝိရူဠှော၊ ဝိရူပက္ခော စ စန္ဒိမာ။

၃။ ဝိရူဠှော ဝေနတေယျော စ၊ ကုဝေရော ဝရုဏောပိ စ။
အဂ္ဂိ ဝါရဏော ပဇ္ဇုန္နော၊ ကုမာရော စတုပါလကော။

၄။ အဋ္ဌာရသ မဟာဒေဝါ၊ သုခိတာ စ ပသိဒ္ဓိယော။
အသီတိ မဟာသာဝကာ၊ သဗ္ဗံ ဇယံ ဒဒန္တု မေ။

၅။ ဇယော ဓမ္မော စ သံဃော စ၊ ဒသဗဿော စ ဇေယျကော။
ဧတေန သစ္စဝဇ္ဇေန၊ ဇယော သုခါ ဘဝန္တု မေ။

၆။ နရာ ဒေဝါ စ ဗြဟ္မာနော၊ ယက္ခာ နာဂါ စ ဂရုဠာ။
တေပိ ဒိသွာ ပိယာ မယှံ၊ ပုတ္တံ မမေဝ သိနေဟာ။

၇။ ဗုဒ္ဓါ ပစ္စေကဗုဒ္ဓါ စ၊ အရဟာ အဂ္ဂသာဝကာ။
သဗ္ဗေ ကရောန္တု မေ မေတ္တံ၊ သဗ္ဗေ တိဋ္ဌန္တု မတ္ထကေ။

၈။ တေသံ မေတ္တာနုဘာဝေန၊ သဗ္ဗေ ရောဂါ သုသီတလာ။
သဗ္ဗေ ဘယာ ဝိနဿန္တု၊ သဗ္ဗေ နဿန္တု ’ပဒ္ဒဝါ။

၉။ ဣမသ္မိံ စက္ကဝါဠေ စ၊ ဗဟူ အနန္တပါဏိနော။
အနန္တစက္ကဝါဠေ စ၊ ဗဟူ အနန္တပါဏိနော။

၁၀။ ဣမေ သတ္တာ အဝေရာ စ၊ အညမညံ ပိယာ ဟောန္တု။
ဣမေ သတ္တာ အဝေရာ စ၊ အညမညံ သုခါ ဟောန္တု။

၁၁။ နေရယိကာ တိရစ္ဆာနာ၊ ပေတာ အသုရကာ ယမာ။
ဣမေ သဗ္ဗေ ယထာ သတ္တာ၊ ဒုက္ခာ မုစ္စန္တု တတ္တကာ။

၁၂။ ဒသကောဋ္ဌိ ဒကာဒ ၁ စ၊ ထလဇာ နဝကောဋ္ဌိယော။
သံသေဒဇောပပါတိကာ၊ ဒီဃာယုကာ ဘဝန္တု တေ။

၁၃။ ဥဒ္ဓံ ယာဝ ဘဝဂ္ဂါ စ၊ အဓော ယာဝ အဝီစိတော။
သမန္တာ စက္ကဝါဠေသု၊ ယေ သတ္တာ ပထဝီစရာ။

၁၄။ အဗျာပဇ္ဈာ နိဝေရာ စ၊ နိဒ္ဒုက္ခာ စ' နုပဒ္ဒဝါ။
သဗ္ဗေ သတ္တာ အဝေရာ စ၊ သဟ သဗ္ဗေဟိ ဉာတိဘိ။

၁။ အနေကအန္တရာယိကာ၊ တစ်ပါးမက များလှသွယ်သွယ် အန္တရာယ်ကို ပြုတတ်သော။ ပထဝီဇယာ ဗွံ၊ ကြွင်းမဲ့ဥဿုံ အလုံးစုံသော မြေအပြင်၌ အောင်မြင်စဖွယ်ဟူသမျှ တစ်စမကြွင်း ရန်ခပင်းကို။ ဩ၊ ကောင်းကျိုး လျှမ်းတောက် ချမ်းသာရောက်အောင် မျက်မှောက်ထင်ထင် အောင်မြင်ပါစေ သတည်း။ ပစ္စေကဗုဒ္ဓါ စ၊ ပစ္စေကဗုဒ္ဓါ အရှင်မြတ်တို့သည်လည်း။ မေ၊ အကျွန်ုပ်အား။ ဇယံ၊ အောင်ဆုကို။ ဒဒန္တု၊ ပေးတော်မူပါစေကုန်သတည်း။ မဟေသယော စ၊ မြတ်သော သီလက္ခန္ဓ စသည်ကျေးဇူး ဂုဏ်အထူးကို ရှာမှီးတော်မူကုန်ပြီးသော ပညာဓိက သဒ္ဓါဓိက ဝီရိယာဓိက ဘုရားသခင် အရှင်အဂ္ဂသာဝက မဟာသာဝက ပကတိသာဝက ရဟန္တာမြတ်တို့သည်လည်း။ ပရိ၊ ထက်ဝန်းကျင် အကြွင်းမရှိသောအားဖြင့်။ မေ၊ အကျွန်ုပ်အား။ ဇယံ၊ အောင်ဆုကို။ ဒဒန္တု၊ ပေးတော်မူကြပါစေကုန်သတည်း။

၂။ ဟရော၊ ဟရနတ်သည်လည်းကောင်း။ ဟရိဒေဝေါ၊ ဟရိနတ်သည်လည်းကောင်း၊ မေ၊ အကျွန်ုပ်အား။ ဇယံ၊ အောင်ဆုကို။ ဒဒန္တု၊ ပေးကြပါစေကုန်သတည်း။ ဗြဟ္မာ၊ ဗြဟ္မာသည်လည်းကောင်း။ တေရဋ္ဌော၊ တေရဋ္ဌနတ်မင်းသည် လည်းကောင်း။ မေ၊ အကျွန်ုပ်အား။ ဇယံ၊ အောင်ဆုကို။ ဒဒန္တု၊ ပေးကြပါစေကုန်သတည်း။ နာဂေါ စ၊ မဟာနာဂ နတ်မင်းသည်လည်းကောင်း။ ဝိရူဠ္ဟော စ၊ ဝိရူဠ္ဟကနတ်မင်းသည်လည်းကောင်း။ ဝိရူပက္ခော စ၊ ဝိရူပက္ခ နတ်မင်းသည်လည်းကောင်း။ စန္ဒိမာပိ၊ လနတ်သားသည်လည်းကောင်း။

၃။ ဝိတ္တန္တော စ၊ အထူးထူးသော နတ်တို့ကို အစိုးရသော သိကြားမင်းသည် လည်းကောင်း။ ဝေနတေယျော စ၊ ဝိနတာ နတ်သမီး၏ သားတော်ဖြစ်သော နတ်မင်းသည်လည်းကောင်း။ ကုဝေရော စ၊ ကုဝေရ နတ်မင်းသည် လည်းကောင်း။ ဝရုဏောပိ စ၊ ဝရုဏနတ်မင်းသည်လည်းကောင်း။ အဂ္ဂိ စ၊ မီးနတ်သားသည်လည်းကောင်း။ ဝါရဏော စ၊ လေနတ်သားသည် လည်းကောင်း။ ပဇ္ဇုန္နော စ၊ မိုးနတ်သားသည်လည်းကောင်း။ ကုမာရော စ၊

ကုမာရနတ်သားသည်လည်းကောင်း။ စတုပါလကော စ၊ လောကပါလနတ်သား လေးယောက်သည်လည်းကောင်း။ မေ၊ အကျွန်ုပ်အား။ ဇယံ၊ အောင်ဆုကို။ ဒဒန္တု၊ ပေးကြပါစေကုန်သတည်း။

၄။ သုခိတာ၊ ချမ်းသာအောင် ဆောင်နိုင်ကုန်သော။ အဋ္ဌာရသ မဟာ-ဒေဝါ စ၊ တစ်ဆယ့်ရှစ်ယောက်ကုန်သော နတ်မင်းကြီးတို့သည်လည်းကောင်း။ ပသိဒ္ဓိယော၊ အထူးထူးအပြားပြား စီးပွားချမ်းသာကို ပြီးစေတတ်ကုန်သော။ အသီတိမဟာသာဝကာ စ၊ ရှစ်ကျိပ်သော မဟာသာဝက ရဟန္တာအရှင်မြတ်တို့ သည်လည်းကောင်း။ မေ၊ အကျွန်ုပ်အား။ သဗ္ဗံ ဇယံ၊ အောင်ဆုဟူသမျှကို။ ဒဒန္တု၊ ပေးတော်မူကြပါစေကုန်သတည်း။

၅။ ဓမ္မော စ၊ ဆယ်ပါးသော တရားတော်သည်လည်းကောင်း။ သံဃော စ၊ သမ္မုတိ ပရမတ် နှစ်ရပ်သောသံဃာတော်သည်လည်းကောင်း။ ဇယော၊ ရန်ဟူသမျှကို အထူးအောင်မြင်တော်မူပေ၏။ ဒသဗလော စ၊ ကာယဉာဏ်တော် အားဆယ်ဖော်နှင့် ပြည့်စုံတော်မူပေသော ၊ မြတ်စွာဘုရားသခင်သည်လည်း။ ဇေယျကော၊ ရန်မျိုးဥဿုံ အလုံးစုံကို ချက်ကုန်မကြွင်း ခုတ်စဉ်းဖြက်ချေ အထူးအောင်မြင်တော်မူပေ၏။ ဧတေန သစ္စဝဇ္ဇေန၊ ဤသို့ဆိုငြား သစ္စာစကားကြောင့်။ ဇယာ၊ ရန်အပေါင်းကို အထူးအောင်မြင်ခြင်းတို့သည် လည်းကောင်း။ သုခါ၊ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာခြင်းတို့သည်လည်းကောင်း။ မေ၊ အကျွန်ုပ်အား။ ဘဝန္တု၊ ဖြစ်ကြပါစေကုန်သတည်း။

၆။ နရာ စ၊ လူတို့သည်လည်းကောင်း။ ဒေဝါ စ၊ နတ်တို့သည်လည်းကောင်း။ ဗြဟ္မာနော စ၊ ဗြဟ္မာတို့သည်လည်းကောင်း။ ယက္ခာ စ၊ ဘီလူးတို့သည် လည်းကောင်း။ နာဂါ စ၊ နဂါးတို့သည်လည်းကောင်း။ ဂရုဠာ စ၊ ဂဠုန်တို့သည် လည်းကောင်း။ တေပိ၊ ထို လူ, နတ်, ဗြဟ္မာ, ဘီလူး, နဂါး, ဂဠုန်တို့သည်လည်း။ မံ၊ အကျွန်ုပ်ကို။ ဒိသွာ၊ မြင်သည် ရှိသော်။ မယ္ဟံ၊ အကျွန်ုပ်အား။ ပိယာ၊ မြတ်နိုးချစ်ခင်ကြကုန်သည်။ ဟောန္တု၊ ဖြစ်ပါစေကုန်သတည်း။ ပုတ္တာ၊ မိမိတို့၏ သားကို။ သိနေဟာ ဣဝ၊ ချစ်ခင်ကြကုန်သကဲ့သို့။ မမ၊ အကျွန်ုပ်အား။ ပိယာ၊ မြတ်နိုးချစ်ခင်ကြကုန်သည်။ ဟောန္တု၊ ဖြစ်ပါစေကုန်သတည်း။

၇။ ဗုဒ္ဓါ စ၊ မြတ်စွာဘုရားတို့သည်လည်းကောင်း။ ပစ္စေကဗုဒ္ဓါ စ၊ ပစ္စေက ဗုဒ္ဓါတို့သည် လည်းကောင်း။ အရဟာ စ၊ ရဟန္တာတို့သည်လည်းကောင်း။ အဂ္ဂသာဝကာ စ၊ အဂ္ဂသာဝကတို့သည်လည်းကောင်း။ သဗ္ဗေ အလုံးစုံကုန်သော ဘုရား ပစ္စေကဗုဒ္ဓါ ရဟန္တာ အဂ္ဂသာဝကတို့သည်။ မေ၊ အကျွန်ုပ်အား။

မေတ္တံ၊ ချစ်ခြင်းမေတ္တာကို။ ကရောန္တု၊ ပြုတော်မူပါစေကုန်သတည်း။ သဗ္ဗေ၊ အလုံးစုံကုန်သော ဘုရား ပစ္စေကဗုဒ္ဓါ ရဟန္တာ အဂ္ဂသာဝကတို့သည်။ မေ၊ အကျွန်ုပ်၏။ မတ္ထကေ၊ ဦးခေါင်းထက်၌။ တိဋ္ဌန္တု၊ ရပ်တည်တော်မူပါစေကုန်သတည်း။

၈။ တေသံ၊ ထိုဘုရား ပစ္စေကဗုဒ္ဓါ ရဟန္တာ အဂ္ဂသာဝကတို့၏။ မေတ္တာနုဘာဝေန၊ မေတ္တာ၏ အာနုဘော်တော်ကြောင့်။ သဗ္ဗေ၊ အလုံးစုံကုန်သော။ ရောဂါ၊ ကိုးဆယ့်ခြောက်ဖြာ အနာရောဂါတို့သည်။ သုသီတလာ၊ အလွန်ငြိမ်းအေးကြကုန်သည်။ ဟောန္တု၊ ဖြစ်ပါစေကုန်သတည်း။ သဗ္ဗေ၊ အလုံးစုံကုန်သော။ ဘယာ၊ ကြောက်မက်ဖွယ်ဘေးတို့သည်။ ဝိနဿန္တု၊ ပျောက်ကွယ်ကြပါစေကုန်သတည်း။ သဗ္ဗေ၊ အလုံးစုံကုန်သော။ ဥပဒ္ဒဝါ၊ ကပ်၍ နှိပ်စက်တတ်ကုန်သော ဥပဒ္ဒဝေါတို့သည်။ နဿန္တု၊ ပျက်စီးကြပါစေကုန်သတည်း။

၉။ ဣမသ္မိံ စက္ကဝါဠေ၊ ဤစကြဝဠာ၌။ ဗဟူ၊ များစွာကုန်သော။ အနန္တပါဏိနော စ၊ အဆုံးအပိုင်းအခြား မရှိကုန်သော သတ္တဝါအပေါင်းတို့သည်လည်းကောင်း။ အနန္တစက္ကဝါဠေ၊ အဆုံးအပိုင်းအခြားမရှိသော စကြာဝဠာတိုက်အပေါင်း၌။ ဗဟူ၊ များစွာကုန်သော။ အနန္တပါဏိနော စ၊ အဆုံးအပိုင်းအခြား မရှိကုန်သော သတ္တဝါအပေါင်းတို့သည်လည်းကောင်း။

၁၀။ ဣမေ သတ္တာ၊ ဤဆိုအပ်ပြီးသော သတ္တဝါအပေါင်းတို့သည်။ အညမညံ၊ အချင်းချင်း။ အဝေရာ၊ ရန်မရှိကြကုန်သည် ဖြစ်၍။ ပိယာ စ၊ မြတ်နိုးချစ်ခင် ကြကုန်သည်လည်း။ ဟောန္တု၊ ဖြစ်ကြပါစေကုန်သတည်း။ ဣမေ သတ္တာ၊ ဤဆိုအပ်ကုန်ပြီးသော သတ္တဝါအပေါင်းတို့သည်၊ အညမညံ၊ အချင်းချင်း။ အဝေရာ၊ ရန်မရှိကြကုန်သည် ဖြစ်၍။ သုခါ စ၊ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာခြင်းနှင့် ပြည့်စုံကြကုန်သည်လည်း။ ဟောန္တု၊ ဖြစ်ကြပါစေကုန်သတည်း။

၁၁။ နေရယိကာ စ၊ ငရဲသားတို့သည်လည်းကောင်း။ တိရစ္ဆာနာ စ၊ တိရစ္ဆာန်တို့သည် လည်းကောင်း။ ပေတာ စ၊ ပြိတ္တာတို့သည်လည်းကောင်း။ အသုရကာ စ၊ အသူရကာယ်တို့သည်လည်းကောင်း။ ယမာ စ၊ ငရဲသနင်း ယမမင်းတို့သည်လည်းကောင်း၊ ယထာ၊ အကြင်သို့သော အခြင်းအရာအားဖြင့်။ ဇာတာ၊ ဖြစ်ကုန်သော။ သဗ္ဗေ၊ အလုံးစုံကုန်သော။ ဣမေ သတ္တာ၊ ဤဆိုအပ်ပြီးသော သတ္တဝါအပေါင်းတို့သည်။ သန္တိ၊ ရှိကြကုန်၏။ တတ္ထကာ၊ ထိုမျှလောက်ကုန်သော သတ္တဝါအပေါင်းတို့သည်။ ဒုက္ခာ၊ ဆင်းရဲအပေါင်းမှ။ မုစ္စန္တု၊ ကင်းလွတ်ကြပါစေကုန်သတည်း။

၁၂။ ဒသကောဋ္ဌိဒကဇာ စ၊ ရေနေ ဆယ်ကုဋေသော သတ္တဝါအပေါင်းတို့သည်လည်းကောင်း။ ထလဇာ နဝကောဋ္ဌိယော စ၊ ကုန်းနေ ကိုးကုဋေသော သတ္တဝါအပေါင်းတို့သည်လည်းကောင်း။ သံသေဒဇောပပါတိကာ စ၊ အညှိမှဖြစ်သော သတ္တဝါ၊ ကိုယ်ကင်ရှားဖြစ်သော သတ္တဝါ အပေါင်းတို့သည်လည်းကောင်း။ ဘေ၊ ထိုဆိုအပ်ကုန်ပြီးသော သတ္တဝါအပေါင်းတို့သည်။ ဒီဃာယုကာ၊ အသက်ရှည်ကြကုန်သည်။ ဘဝန္တု၊ ဖြစ်ပါစေကုန်သတည်း။

၁၃။ သမန္တာ၊ ထက်ဝန်းကျင်အရပ်မှ။ စက္ကဝါဠေသု၊ အဆုံးအပိုင်းအခြားမရှိကုန်သော စကြာဝဠာဘိုက်အပေါင်းတို့၌။ ဥဒ္ဓံ၊ အထက်၌။ ယာဝ ဘဝဂ္ဂါ စ၊ နေဝသညာနာသညာယတန ဘဝဂ်ဘုံတိုင်အောင်လည်းကောင်း။ အဓော၊ အောက်၌။ ယာဝ အဝီစိတော စ၊ အဝီစိငရဲဘုံ တိုင်အောင်လည်းကောင်း။ ယေ သတ္တာ၊ အကြင် သတ္တဝါအပေါင်းတို့သည်။ ပထဝီစရာ၊ မြေရေနှစ်ပြင်ထက်ကောင်းကင်၌ ကျင်လည်လှည့်သွား ကျက်စားကြကုန်၏။

၁၄။ သဗ္ဗေ၊ အလုံးစုံကုန်သော။ တေ သတ္တာ၊ ထိုသတ္တဝါအပေါင်းတို့သည်။ သဗ္ဗေဟိ၊ အလုံးစုံကုန်သော။ ဉာတိဘိ၊ အဆွေအမျိုးတို့နှင့်။ သဟ၊ တကွ။ အဗျာပဇ္ဇာ စ၊ စိုးရိမ်ကြောင့်ကြ မရှိကြကုန်သည်လည်းကောင်း။ နိဝေရာ စ၊ အပရန်မရှိကြကုန်သည်လည်းကောင်း။ နိဒ္ဒုက္ခာ စ၊ ဆင်းရဲဒုက္ခမရှိကြကုန်သည်လည်းကောင်း။ အနုပဒ္ဒဝါ စ၊ ဥပဒ္ဒဝေါ မရှိကြကုန်သည်လည်းကောင်း။ အဝေရာ စ၊ အတွင်းရန် မရှိကြကုန်သည်လည်းကောင်း။ ဟောန္တု၊ ဖြစ်ပါစေကုန်သတည်း။

ကျွန်ုပ်တို့ဘုရားအလောင်းတော်ရသေ့ ဟိမဝန္တာ၌ သီတင်းသုံးစဉ် သမ္ဗဒါဌိက မြေခွေးသည် အလောင်းတော်ရသေ့ထံမှ ဤပထဝီဇယမန္တန်ဂါထာများကို ကြားနာ ရရှိ၍ အမြဲမပြတ် ရွတ်ဖတ်သဖြင့် တောနေ သတ္တဝါများက မြေခွေးအား ဝန်းရံခစားကြသည်။ သံစ် ကျား ဆင် ခြင်္သေ့ စသည်တို့သည် ဝိုင်းအုံခစား၍ မြေခွေးအား တောဘုရင်အဖြစ် တင်မြှောက်ခဲ့ကြသည်။

ယင်းကို အစွဲပြု၍ ပထဝီဇယမန္တန်တော် ဖြစ်ပေါ်ကာ ရွတ်ဆိုခဲ့ကြောင်း ရှေးဆရာ အစဉ်အဆက်တို့ မှတ်တမ်းတင်ခဲ့ကြသည် (ပထဝီ= မြေကြီး+ဇယ =အောင်မြင်ခြင်း။ မြေပြင်တစ်ခုလုံးကို အောင်နိုင်ခြင်းဟု အဓိပ္ပါယ်ရသည်။)

ဤဂါထာမန္တန်များကို အမြဲမပြတ် ရွတ်ဖတ်ခြင်းဖြင့် မရဆေးသော စည်းစိမ်များ ရရှိနိုင်ခြင်း၊ မြေ ဟာအိုးအိမ် တိုက်တာများ ဖြစ်ထွန်းရရှိခြင်း၊ ဩဇာအာဏာကြီးမားခြင်း စသော အကျိုးကျေးဇူးများကို ရရှိနိုင်သည်။

## ၂၁။ လာဘသိဒ္ဓိ ရှင်သီဝလိဂါထာ

၁။ သီဝလိ စ မဟာနာမံ၊ သဗ္ဗလာဘံ ဘဝိဿတိ။
ထေရဿ အာနုဘာဝေန၊ သဗ္ဗေ ဟောန္တု ပိယံ မမ။

၂။ သီဝလိ စ မဟာဝီရော၊ ယေ ယေ ပဿန္တု မံ ပိယံ။
တေ တေ ပဿန္တု ပရမံ၊ ဇနပဒါ ပူဇယန္တု။

၃။ သီဝလိ စ မဟာထေရော၊ မမ သီသေ ဌပေတွာန။
ဇမ္ဗုဒီပမဏ္ဍလေန၊ ဇယော မန္တာ သုခါဝဟံ။

၄။ သီဝလိ စ မဟာနာမံ၊ ဣန္ဒာ ဒေဝါ သဗြဟ္မကာ။
မနုဿပုရိသော ဣတ္ထိ၊ မဟာလာဘံ ဘဝိဿတိ။

၅။ သီဝလိ စ မဟာလာဘံ၊ နာနာ ဒေတိ ဝရံ ဝရံ။
ဣဒ္ဓိမ္ပိ ပူဇိတံ ဒေတိ၊ မဟာသုခံ ဘဝိဿတိ။

၆။ ဝဏ္ဏံ ဒန္တံ သုခံ ကိတ္တိ၊ အနာမယံ ဘဝေ ဘဝေ၊
တဝ ရုက္ခေ ဒေဝဓီတာ၊ သဗ္ဗေ ဧကာဓံ ဝိနဿတု။

၇။ သီဝလိ စ မဟာလာဘံ၊ သဗ္ဗလာဘံ ဘဝိဿတိ။
ထေရဿ အာနုဘာဝေန၊ သဒါ ဟောတု ပိယံ မမ။

၈။ သီဝလိ စ မဟာထေရော၊ ယေ ယေ ပဿန္တု မံ ပိယံ။
တေ တေ ပဿန္တု မံ ပိယံ၊ ဇနပဒါ ပူဇယန္တု။

၉။ သီဝလိ စ မဟာထေရော၊ မမ သီသေ ဌပေတွာန။
မန္တတေဇဇယောမန္တံ၊ အဟံ ဝန္ဒာမိ သဗ္ဗဒါ။

၁၀။ သီဝလိ စ မဟာထေရော၊ ဒေဝမနုဿပူဇိတော။
သော ရဟော ပစ္စယာဒိနံ၊ မဟာလာဘံ ကရောတု မေ။

၁။ မဟာနာမံ၊ ကြီးမြတ်သော အမည်ရှိတော်မူထသော။ သီဝလိ စ၊ အရှင်သီဝလိ မထေရ်သည်လည်း။ သဗ္ဗလာဘံ၊ အလုံးစုံသော လာဘ်ရတနာကို။ ဘဝိဿတိ၊ ဖြစ်ပေါ်စေသတည်း။ ထေရဿ၊ အရှင်သီဝလိ မထေရ်မြတ်၏။ အာနုဘာဝေန၊ တန်ခိုးရှိန်စော် အာနုဘော်ကြောင့်။ သဗ္ဗေ၊ ခပ်သိမ်းကုန်သော သူတို့သည်။ မမ၊ အကျွန်ုပ်အား။ ပိယံ၊ ချစ်မြတ်နိုးခြင်းသည်။ ဟောန္တု၊ ဖြစ်ပါစေကုန်သတည်း။

၂။ သီဝလိ စ၊ အရှင်သီဝလိ မထေရ်သည်လည်း။ မဟာဝီရော၊ ကြီးမြတ်သော ဝီရိယရှိတော်မူပါပေ၏။ တဿ၊ ထိုအရှင်သီဝလိမထေရ်၏။ တေဇေန၊ တန်ခိုးရှိန်စော် အာနုဘော်ကြောင့်။ ယေ ယေ၊ အကြင်အကြင် သူတို့သည်။ မံ၊ အကျွန်ုပ်ကို။ ပိယံ၊ ချစ်ခင်မြတ်နိုးစွာ။ ပဿန္တု၊ ကြည့်ကြကုန်၏။ တေ တေ၊ ထိုထိုသော ပုဂ္ဂိုလ်တို့သည်။ ပရမံ၊ မွန်မြတ်လှစွာ။ ပဿန္တု၊ ကြည့်ရှုကြပါစေကုန်သတည်း။ ဇနပဒါ၊ ဇနပုဒ်သား လူအများတို့သည်။ ပူဇယန္တု၊ ပူဇော်ကြပါစေကုန်သတည်း။

၃။ မဟာထေရော၊ မထေရ်ကြီးဖြစ်တော်မူသော။ သီဝလိ စ၊ အရှင်သီဝလိသည်လည်း။ မမ၊ တပည့်တော်၏။ သီသေ၊ ဦးခေါင်းပလ္လင်၌။ ဌပေတွာန၊ အမြဲမပြတ် ရပ်တည်တော်မူ၍။ ဇမ္ဗုဒီပမဏ္ဍလေန၊ ဇမ္ဗူဒိပ်ကျွန်း အဝန်းနှင့်အမျှ။ ဇယော၊ အောင်မြင်ခြင်းသည်။ ဟောတု၊ ဖြစ်ပါစေ။ မန္တာ၊ အောင်မြင်စေကြောင်း မန္တန်ကောင်းသည်။ သုခါဝဟံ၊ချမ်းသာခြင်းကို ဆောင်ရွက်နိုင်သည်။ ဟောတု၊ ဖြစ်ပါစေသတည်း။

၄။ သီဝလိ စ၊ အရှင်သီဝလိမထေရ်မြတ်သည်လည်း။ မဟာနာမံ၊ မြင့်မြတ်သော အမည်တော်ရှိပါပေ၏။ တဿ ထေရဿ၊ ထိုအရှင်သီဝလိ မထေရ်မြတ်၏။ အာနုဘာဝေန၊ အာနုဘော်တော်ကြောင့်။ သဗြဟ္မကာ၊ ဗြဟ္မာမင်းနှင့်တကွကုန်သော။ ဝုန္နာ ဒေဝါ၊ သိကြားနတ်တို့သည်လည်းကောင်း။ မနုဿပုရိသော-ဣတ္ထီ၊ ယောကျ်ား မိန်းမ များလှသောသူတို့သည်လည်းကောင်း။ မဟာလာဘံ၊ ကြီးစွာသော လ ၂ဴးသည်။ ဘဝိဿတိ-ဘဝိဿတု၊ ဖြစ်ပါစေသတည်း။

၅။ သီဝလိ စ၊ အရှင်သီဝလိမထေရ်သည်လည်း။ နာနာ ဝရံ ဝရံ၊ အထူးထူး အပြားပြား များမြတ်လှသော။ မဟာလာဘံ၊ ကြီးစွာသော လာဘ်လာဘကို။ ဒေတိ၊ ပေးစွမ်းနိုင်၏။ ပူဇိတံ၊ ပူဇော်အပ်သော။ ဣဒမ္ပိ၊ ဤသို့သဘောရှိသော လာဘ်ဟူသမျှကို။ ဒေတိ၊ ပေးစွမ်းနိုင်၏။ တဿ ထေရဿ၊ ထိုအရှင်သီဝလိမထေရ်၏။ အာနုဘာဝေန၊ အာနုဘော်တော်ကြောင့်။ မဟာသုခံ၊ ကြီးကျယ်သော စည်းစိမ်ချမ်းသာ သည်။ ဘဝိဿတိ-ဘဝိဿတု၊ ဖြစ်ပါစေသတည်း။

၆။ မမ၊ တပည့်တော်အား။ ဘဝေ ဘဝေ၊ ဘဝတိုင်း ဘဝတိုင်း၌။ ဝဏ္ဏံ၊ အဆင်းလှခြင်းသည်လည်းကောင်း။ ဒန္တံ၊ ယဉ်ကျေးသိမ်မွေ့ခြင်းသည်လည်းကောင်း။ သုခံ၊ ချမ်းသာခြင်းသည်လည်းကောင်း။ ကိတ္တိ စ၊ ကျော်စောခြင်းသည်လည်းကောင်း။ အနာမယံ၊ အနာကင်းခြင်းသည်လည်းကောင်း။ ဟောတု၊ ဖြစ်ပါစေသတည်း။ တာဝ ရုက္ခေ၊ ဘုရားရှင်တည်းဟူသော ပန်းပင်

ကြီး၍။ ဒေဝဓိတာ၊ တရားတော်တည်းဟူသော နတ်သမီးသည်။ သဗ္ဗကောဓံ၊ အလုံးစုံသော ရန်အမျက်ကို။ ဝိနယံတု၊ ဖျက်ဆီး၍ ပစ်နိုင်ပါစေသတည်း။

၇။ မဟာလာဘံ၊ များစွာသော လာဘ်ရှိတော်မူသော။ သီဝလိ စ၊ အရှင်သီဝလိမထေရ်သည်ကား။ သဗ္ဗလာဘံ၊ များမြတ်သော လာဘ်လာဘသည်။ ဘဝိဿတိ၊ ဖြစ်ပေါ်၍ လာရပေ၏။ ထေရဿ၊ အရှင်သီဝလိမထေရ်၏။ အာနုဘာဝေန၊ အာနုဘော်တော်ကြောင့်။ မမ၊ တပည့်တော်အား။ သဒါ၊ အခါခပ်သိမ်း။ ပိယံ၊ လူချစ်လူခင် ပေါများခြင်းသည်။ ဟောတု၊ ဖြစ်ပါစေသတည်း။

၈။ သီဝလိ စ၊ အရှင်သီဝလိမထေရ်မြတ်သည်ကား။ မဟာထေရော၊ ကြီးကျယ်သော မထေရ်မြတ်လည်း ဖြစ်တော်မူပါပေ၏။ ယေ ယေ၊ အကြင် အကြင် သူတို့သည်။ မံ၊ အရှင်သီဝလိကို ကြည်ညိုသော တပည့်တော်ကို။ ပိယံ၊ သားရင်းပမာ ချစ်ခင်စွာ။ ပဿန္တု၊ မြင်ကြကုန်၏။ တေ တေ၊ ထိုထိုသူတို့သည်။ မံ၊ အကျွန်ုပ်ကို။ ပိယံ၊ ချစ်ခင်စွာ။ ပဿန္တု၊ မြင်ကြစေကုန်သတည်း။ ဇနပဒါ၊ ဇနပုဒ်နေ လူအပေါင်းတို့သည်။ တံ၊ ထိုအရှင်သီဝလိကို။ ပူဇယန္တု၊ ပူဇော်ကြစေကုန်သတည်း။

၉။ မဟာထေရော၊ မထေရ်မြတ်ဖြစ်တော်မူသော။ သီဝလိ စ၊ အရှင်သီဝလိသည်လည်း။ မမ၊ တပည့်တော်၏။ သီသေ၊ ဦးခေါင်းပေါ်တွင် မြတ်ပလ္လင်၌။ ဌာတု၊ တည်ပါစေသတည်း။ ဌပေတွာန၊ တည်တော်မူ၍။ မန္တတေဇဇယော-မန္တံ၊ တန်ခိုးစွမ်းမန္တန်, အောင်မြင်ရေးမန္တန်ကို ပေးတတ်သော။ တံ၊ ထိုရှင်သီဝလိမထေရ်ကို။ အဟံ၊ တပည့်တော်သည်။ သဗ္ဗဒါ၊ အခါခပ်သိမ်း။ ဝန္ဒာမိ၊ ရှိခိုးပါ၏။

၁၀။ ဒေဝမနုဿပူဇိတော၊ နတ်လူတို့သည် ပူဇော်အပ်သော။ ပစ္စယာဒီနံ၊ ပစ္စည်းလေးပါး စသည်တို့ကို။ အရဟော၊ အလှူခံတော် မူထိုက်သော။ သော သီဝလိ မဟာထေရော စ၊ ထိုအရှင်သီဝလိမထေရ်မြတ်သည်လည်း။ မေ၊ အကျွန်ုပ်အား။ မဟာလာဘံ၊ ကြီးစွာသော လာဘ်ရခြင်းကို။ ကရောတု၊ ပြုတော်မူပါစေသတည်း။

ရှင်သီဝလိကား လာဘ်အရာ၌ ဧတဒဂ်ဘွဲ့ရ၏၊ သူ၏ လာဘ်ရမှုကို လူနတ်ဗြဟ္မာ မရိသတ်သာမက ဗုဒ္ဓကပင် မှတ်ကျောက်တင်ပေးခဲ့သည်။ အထူးချစ်ခင်ကြ၏။

ထိုအရှင့်ဂုဏ်ကို ရည်စူး၍ ရွတ်ဖတ်ရသော ဂါထာများကား လာဘ်ရဖို့ အခြေခံများပင်၊ ဘုန်းကျက်သရေ လာဘ်မိုးစွေလိုသူသည် ဂါထာများကို နေ့စဉ်မပြတ် ရွတ်ဖတ်သင့်၏။ ရွတ်သမျှ အကျိုးခံစားရပေမည်။ အထူးသဖြင့် စီးပွားရေးကောင်း၊ ရောင်းဝယ်ကောင်းလှသေး၏။ လူချစ်လူခင်လည်း များပေသည်။ ပိယသိဒ္ဓိ၊ မေနသိဒ္ဓိအကွက် အထူးပွင့်သော ဟူ၏။

## ၂၂။ ပဋ္ဌာန်းပစ္စယုဒ္ဒေသပါဠိတော် (ပဋ္ဌာန်း ၂၄-ပစ္စည်း)

ဟေတုပစ္စယော, အာရမ္မဏပစ္စယော
အဓိပတိပစ္စယော, အနန္တရပစ္စယော
သမနန္တရပစ္စယော, သဟဇာတပစ္စယော
အညမညပစ္စယော, နိဿယပစ္စယော
ဥပနိဿယပစ္စယော, ပုရေဇာတပစ္စယော
ပစ္ဆာဇာတပစ္စယော, အာသေဝနပစ္စယော
ကမ္မပစ္စယော, ဝိပါကပစ္စယော
အာဟာရပစ္စယော, ဣန္ဒြိယပစ္စယော
ဈာနပစ္စယော, မဂ္ဂပစ္စယော
သမ္ပယုတ္တပစ္စယော, ဝိပ္ပယုတ္တပစ္စယော
အတ္ထိပစ္စယော, နတ္ထိပစ္စယော
ဝိဂတပစ္စယော, အဝိဂတပစ္စယော တိ။

ပဋ္ဌာန်း ၂၄-ပစ္စည်း ပါဠိတော်ကို အမြဲမပြတ် ရွတ်ဖတ်ပူဇော်ခြင်းအားဖြင့် မျက်မှောက်ချက်ချင်း အခါမလင့် ကောင်းကျိုးများကို ရရှိနိုင်ပေသည်။

- ရင်ဆိုင် ကြုံတွေ့နေရသည့် ဘေးအန္တရာယ် အသွယ်သွယ်တို့ကို လွန်မြောက်နိုင်သည်။
- ကျရောက်လတ္တံ့သော ဘေးအန္တရာယ်တို့မှလည်း ကင်းလွတ်နိုင်သည်။
- အပြစ်ကင်း၍ ကောင်းကျိုးများသည့် ဆောင်ရွက်ချက် ကိစ္စအဝဝ တို့ကို ပြီးစီးအောင်မြင်နိုင်သည်။

- အပြစ်ရှိ၍ မကောင်းကျိုးဖြစ်စေမည့် ကျူးလွန်ခြင်းတို့မှ ရှောင်နိုင်လွဲနိုင်သည်။
- အချုပ်အားဖြင့် ဆောင်ရွက်သမျှ ကောင်းမြတ်သည့် ကိစ္စအဝဝတို့ကို ပြီးပြည့်စုံအောင်မြင်နိုင်သည်။
- အဆုံးစွန်သောဘဝ၌ နိဗ္ဗာန်ကို မျက်မှောက်ပြုရခြင်းစသည့် အကျိုးတရားများကို ရရှိနိုင်သည်။

ဤပဋ္ဌာန်း ၂၄-ပစ္စည်းကို မိမိအသက် အိုးအိမ် တိုက်တာ လုံခြုံရေးအတွက် အရပ်ရှစ်မျက်နှာတွင် တစ်မျက်နှာလျှင် သုံးပစ္စည်းစီ စည်းချ၍ အရံအတား ပြုကြသည်။ စည်းချရာ၌ အရှေ့မြောက် (တနင်္ဂနွေ) အရပ်မှ စ၍ လက်ယာရစ် လှည့်ပတ်ကာရံပြီး အရှေ့မြောက်အရပ်တွင် ပြန်၍ စည်းကို သတ်ရမည်။ အရပ်ဆယ်မျက်နှာပြည့်အောင် အထက်အရပ် အောက်အရပ်တို့ကိုပါ စည်းချလိုလျှင် အထက်အရပ်အတွက် ၂၄-ပစ္စည်းလုံး ရွတ်ဆို၍ အောက်အရပ်အတွက်လည်း ၂၄-ပစ္စည်းလုံး ရွတ်ဆို၍ စည်းချရပါမည်။

ဆရာတော်ကြီး တစ်ပါးသည် မိမိကျောင်းတိုက်ကို ပဋ္ဌာန်း ၂၄-ပစ္စည်း ရွတ်ဆို၍ အမြဲစည်းချကာ အရံအတား ပြုလေ့ရှိသည်။ တနေ့တွင် ခိုးပြများသည် ယင်းဆရာတော်ကြီးအား ပြန်ပေးဆွဲရန် အကြံဖြင့် ထမ်းစင်ပေါ်တင်၍ ပင့်ဆောင်ကြရာ အပေါက်ရှာမတွေ့သဖြင့် မိုးစင်စင်လင်းလာ၍ ဆရာတော်ကြီးကို ကန်တော့တောင်းပန်ကာ ပြန်သွားခဲ့ကြရသည်။ ဤသို့စသည့် ကိုယ်တွေ့ဖြစ်ရပ် သာဓကများစွာ ပြောဆိုလျက် ရှိကြသည်။ လက်တွေ့ ရွတ်ဖတ်ပူဇော်မှသာ ရရှိနိုင်သော အကျိုးများဖြစ်၍ လက်တွေ့များများ ရွတ်ဖတ်ပူဇော်သင့်ကြပေသည်။

## ၂၃။ စက်ဝန်းပရိတ်ခေါ် အရပ်ဆယ်မျက်နှာ ဂြိုဟ်ရှစ်လုံး စည်းချဂါထာများ

အရှေ့မြောက်
(တနင်္ဂနွေ)

(က) သဗ္ဗေ ဗုဒ္ဓါ ဗလပ္ပတ္တာ၊
ပစ္စေကာနဉ္စ ယံ ဗလံ။
အရဟန္တာနဉ္စ တေဇေန၊
ရက္ခံ ဗန္ဓာမိ သဗ္ဗသော။

| | |
|---|---|
| အရှေ့<br>(တနင်္လာ) | (၁) သဗ္ဗေ ဗုဒ္ဓါ ခေမပ္ပတ္တာ၊<br>ပစ္စေကာနဉ္စ ယော ခေမော။<br>အရဟန္တာနဉ္စ တေဇေန၊<br>ရက္ခံ ဗန္ဓာမိ သဗ္ဗသော။ |
| အရှေ့တောင်<br>(အင်္ဂါ) | (၂) သဗ္ဗေ ဗုဒ္ဓါ ဇိနပ္ပတ္တာ၊<br>ပစ္စေကာနဉ္စ ယော ဇိနော။<br>အရဟန္တာနဉ္စ တေဇေန၊<br>ရက္ခံ ဗန္ဓာမိ သဗ္ဗသော။ |
| တောင်<br>(ဗုဒ္ဓဟူး) | (၃) သဗ္ဗေ ဗုဒ္ဓါ လာဘပ္ပတ္တာ၊<br>ပစ္စေကာနဉ္စ ယော လာဘော။<br>အရဟန္တာနဉ္စ တေဇေန၊<br>ရက္ခံ ဗန္ဓာမိ သဗ္ဗသော။ |
| အနောက်တောင်<br>(စနေ) | (၄) သဗ္ဗေ ဗုဒ္ဓါ တေဇပ္ပတ္တာ၊<br>ပစ္စေကာနဉ္စ ယော တေဇော။<br>အရဟန္တာနဉ္စ တေဇေန၊<br>ရက္ခံ ဗန္ဓာမိ သဗ္ဗသော။ |
| အနောက်<br>(ကြာသပတေး) | (၅) သဗ္ဗေ ဗုဒ္ဓါ ဗလပ္ပတ္တာ၊<br>ပစ္စေကာနဉ္စ ယံ ဗလံ။<br>အရဟန္တာနဉ္စ တေဇေန၊<br>ရက္ခံ ဗန္ဓာမိ သဗ္ဗသော။ |
| အနောက်မြောက်<br>(ရာဟု) | (၆) သဗ္ဗေ ဗုဒ္ဓါ ယသပ္ပတ္တာ၊<br>ပစ္စေကာနဉ္စ ယော ယသော။<br>အရဟန္တာနဉ္စ တေဇေန၊<br>ရက္ခံ ဗန္ဓာမိ သဗ္ဗသော။ |
| မြောက်<br>(သောကြာ) | (၇) သဗ္ဗေ ဗုဒ္ဓါ သိရိပ္ပတ္တာ၊<br>ပစ္စေကာနဉ္စ ယာ သိရီ။<br>အရဟန္တာနဉ္စ တေဇေန၊<br>ရက္ခံ ဗန္ဓာမိ သဗ္ဗသော။ |

| | |
|---|---|
| အရှေ့မြောက်<br>(တနင်္ဂနွေ) | (ဈ) သဗ္ဗေ ဗုဒ္ဓါ ဠုဒ္ဒိပ္ပတ္တာ၊<br>ပစ္စေကာနဥ္စ ယာ ဠုဒ္ဓိ။<br>အရဟန္တာနဥ္စ တေဇေန၊<br>ရက္ခံ ဗန္ဓာမိ သဗ္ဗသော။ |
| အထက်အရပ် | (ည) သဗ္ဗေ ဗုဒ္ဓါ ဈာနပ္ပတ္တာ၊<br>ပစ္စေကာနဥ္စ ယံ ဈာနံ။<br>အရဟန္တာနဥ္စ တေဇေန၊<br>ရက္ခံ ဗန္ဓာမိ သဗ္ဗသော။ |
| အောက်အရပ် | (ဋ) သဗ္ဗေ ဗုဒ္ဓါ နိဗ္ဗုပ္ပတ္တာ၊<br>ပစ္စေကာနဥ္စ ယံ နိဗ္ဗုံ။<br>အရဟန္တာနဥ္စ တေဇေန၊<br>ရက္ခံ ဗန္ဓာမိ သဗ္ဗသော။ |

(က) ဠုဒ္ဒိပ္ပတ္တာ၊ အထွေထွေအမျိုးမျိုး ပြီးစီးအောင်မြင်သော တန်ခိုးသို့ ရောက်ကုန်ပြီးသော။ သဗ္ဗေ၊ အလုံးစုံကုန်သော။ ဗုဒ္ဓါ စ၊ ဘုရားရှင်တို့၏ လည်းကောင်း။ ပစ္စေကာနဥ္စ၊ ပစ္စေကဗုဒ္ဓါအရှင်မြတ်တို့၏ လည်းကောင်း။ ယာ ဠုဒ္ဒိ၊ အကြင်တန်ခိုးသည်။ (အတ္ထိ၊ ရှိ၏။ တာယ ဠုဒ္ဓိယာ စ၊ ထိုတန်ခိုးတော်အားဖြင့်လည်းကောင်း။) အရဟန္တာနဥ္စ၊ ရဟန္တာသခင် အရှင်မြတ်တို့၏။ တေဇေန၊ ထက်မြက်တေဇော် အာနုဘော်တော်အားဖြင့် လည်းကောင်း။ သဗ္ဗသော၊ အခါခပ်သိမ်း။ ရက္ခံ၊ အကာအကွယ် အစောင့်အရှောက်ကို။ အဟံ၊ ငါသည်။ ဗန္ဓာမိ၊ အန္တရာယ်ပေါင်းစုံ ဘေးရန်လုံအောင် အာရုံယူမှတ် မျှော်မှန်းလတ်၍ စည်းကြပ်ရံကာ ဖွဲ့ထားပါ၏။ (သဗ္ဗေ ဗုဒ္ဓါ ဠုဒ္ဓိပတ္တာ-ကို ဆင့်အနက်၌ ပထမာဝိဘတ်ကြံ၍ အနက်ပြန်ထားသည်။)

(ခ) ခေမပ္ပတ္တာ၊ ချမ်းသာအေးမြ ဘေးမခြင်းသို့ ရောက်တော်မူကုန် ပြီးသော ။ပ။ ယော ခေမော၊ အကြင်ချမ်းသာအေးမြ ဘေးမခြင်းသည်။

(ဂ) ဇိနပ္ပတ္တာ၊ အောင်မြင်ခြင်းသို့ ရောက်တော်မူကုန်ပြီးသော ။ပ။ ယော ဇိနော၊ အကြင်အောင်မြင်တော်မူခြင်းသည်။

(ဃ) လာဘပ္ပတ္တာ၊ လာဘ်ပေါများခြင်းသို့ ရောက်တော်မူကုန်ပြီးသော ။ပ။ ယော လာဘော၊ အကြင်လာဘ်ပေါများခြင်းသည်။

(င) တေဇပ္ပတ္တာ၊ တန်ခိုးတေဇော် အာနုဘော်နှင့် ပြည့်စုံတော်မူခြင်းသို့ ရောက်တော်မူကုန်ပြီးသော ။ပ။ ယော တေဇော၊ အကြင်တန်ခိုးတေဇော် အာနုဘော်သည်။

(စ) ဗလပ္ပတ္တာ၊ ကိုယ်အားဉာဏ်အား ထိုနှစ်ပါးနှင့် ထင်ရှားကုံလုံ ပြည့်စုံခြင်းသို့ ရောက်တော်မူကုန်ပြီးသော ။ပ။ ယံ ဗလံ၊ အကြောင်စွမ်းအား ရှိန်စော် အာနုဘော်သည်။

(ဆ) ယသပ္ပတ္တာ၊ အခြံအရံ အကျော်အစောနှင့် ပြည့်စုံတော်မူခြင်းသို့ ရောက်တော်မူကုန်ပြီးသော ။ပ။ ယော ယသော၊ အကြောင်ကျော်စောခြင်းသည်။

(ဇ) သိရိပ္ပတ္တာ၊ လက္ခဏာကြီးငယ် ရောင်ခြောက်သွယ်တည်းဟူသော အသရေနှင့် ပြည့်စုံခြင်းသို့ ရောက်တော်မူကုန်ပြီးသော ။ပ။ ယာ သိရီ၊ အကြောင် အသရေတော်သည်။

(ဈ) အရှေ့မြောက်(တနင်္ဂနွေ)အနက် ရှေ့နှင့် တူပြီ။

(ည) ဈာနပ္ပတ္တာ၊ ဈာန်သမာပတ်နှင့် ပြည့်စုံခြင်းသို့ ရောက်တော်မူကုန်ပြီးသော ။ပ။ ယံ ဈာနံ၊ အကြောင်ဈာန်သမာပတ်သည်။

(ဋ) နိဗ္ဗုပ္ပတ္တာ၊ အမြဲတည်ရှိ သန္တိလက္ခဏာ ပြည်မေသို့ ရောက်တော်မူကုန်ပြီးသော။ပ။ ယံ နိဗ္ဗံ၊ အကြောင်အမြဲတည်ရှိ သန္တိလက္ခဏာ ပြည်မေသည်။

[အထက်၌ သိလောက်၍ မြှုပ်ထားခဲ့သော အနက်များကို ဖော်ဆိုပါလေ။]

ဤစက်ဝန်းပရိတ်များကို ရွတ်ဆို၍ စည်းချရာ၌ အရှေ့မြောက်(တနင်္ဂနွေ) အရပ်မှ စ၍ လက်ယာရစ် ကြိုဟ်စဉ်အတိုင်း စည်းချပြီး ၎င်းအရှေ့မြောက် (တနင်္ဂနွေ)အရပ်တွင် ပြန်၍ စည်းကို သတ်ရမည်။ သုံးကြိမ်သုံးတန် ကာရံနိုင်လျှင် ပို၍ လုံခြုံမှုရှိသည်။ ရွတ်ဆိုသည့်အခါ ထိုင်၍သော်လည်းကောင်း, ဆိုင်ရာအရပ်မျက်နှာသို့ မျက်နှာမူ၍သော်လည်းကောင်း, မျက်နှာမူဘဲ အာရုံပြု၍သော်လည်းကောင်း ရွတ်ဆိုနိုင်သည်။

ဤ ဂါထာများဖြင့် စည်းချခြင်းသည် ဘုရားရဟန္တာတို့၏ ထက်မြက်စူးရှသော တန်ခိုးတေဇော် အာနုဘော် အရှိန်အဝါကို ယူထားခြင်း ဖြစ်သည်။ ယင်းအရှိန်အဝါများကြောင့် အရပ်မျက်နှာ အသီးသီးမှ ဘေးအန္တရာယ် အမျိုးမျိုးတို့ မကျရောက်နိုင်ဘဲ လုံခြုံမှုရှိသည်။

[အရပ်ရှစ်မျက်နှာ စည်းချရာ၌ အရပ်(၁၀)မျက်နှာ စည်းချဂါထာများအနက် အထက်အရပ်နှင့် အောက်အရပ် စည်းချပုံ နှစ်ဂါထာ ချန်လှပ်၍ ကျန်ရှစ်ဂါထာကို အရပ်ရှစ်မျက်နှာ စည်းချဂါထာအဖြစ် အသုံးပြုရမည်။ စည်းချနည်းမှာ မြွက်ခဲ့သော အရပ် (၁၀)မျက်နှာ စည်းချနည်းအတိုင်း နည်းမှီ၍ ချပါ။ အထက်အရပ်နှင့် အောက်အရပ် ၂-ခု မပါခြင်းသာ ထူးသည်။]

## ၂၄။ အတွင်းစည်းချ သိရသ္မိံဂါထာတော်ကြီး

၁။ သိရသ္မိံ မေ ဗုဒ္ဓသေဋ္ဌော၊ သာရိပုတ္တော စ ဒက္ခိဏေ။
ဝါမအံသေ မောဂ္ဂလ္လာနော၊ ပုရတော ပိဋကတ္တယံ။

၂။ ပစ္ဆိမေ မမ အာနန္ဒော၊ စတုဒ္ဒိသာ ခီဏာသဝါ။
သမန္တာ လောကပါလာ စ၊ ဣန္ဒာ ဒေဝါ သဗြဟ္မကာ။

၃။ ဧတေသံ အာနုဘာဝေန၊ သဗ္ဗေ ဘယဥပဒ္ဒဝါ။
အနေကအန္တရာယာပိ၊ ဝိနဿန္တု အသေသတော။

၁။ ဗုဒ္ဓသေဋ္ဌော၊ ဘုရားမြတ်သည်။ မေ၊ တပည့်တော် (တပည့်တော်မ)၏။ သိရသ္မိံ၊ ဦးခေါင်းထက်၌။ တိဋ္ဌတု၊ ရှင်ပျော်နှလုံး သီတင်းသုံးတော်မူပါစေသတည်း။ သာရိပုတ္တော စ၊ အရှင်သာရိပုတ္တရာ မထေရ်မြတ်ကြီးသည်လည်း။ မေ၊ တပည့်တော်၏။ ဒက္ခိဏေ၊ လက်ယာပခုံး၌။ တိဋ္ဌတု၊ ရပ်တည်သီတင်းသုံးတော်မူပါစေသတည်း။ မောဂ္ဂလ္လာနော၊ အရှင်မောဂ္ဂလ္လာန် မထေရ်မြတ်ကြီးသည်။ မေ၊ တပည့်တော်၏။ ဝါမအံသေ၊ လက်ဝဲပခုံးထက်၌။ တိဋ္ဌတု၊ ရပ်တည် သီတင်းသုံးတော်မူပါစေသတည်း။ ပိဋကတ္တယံ၊ ပိဋကသုံးတန် ဓမ္မက္ခန်သည်။ မေ၊ တပည့်တော်၏။ ပုရတော၊ မျက်နှာမူလတ် အရှေ့အရပ်၌။ တိဋ္ဌတု၊ စံပယ်ကိန်းဝပ် ရပ်တည်နေပါစေသတည်း။

၂။ အာနန္ဒော၊ အရှင်အာနန္ဒာ မထေရ်မြတ်ကြီးသည်။ မေ၊ တပည့်တော်၏။ ပစ္ဆိမေ၊ မျက်နှာကွယ်ထား နောက်ရပ်ပါး၌။ တိဋ္ဌတု၊ ရပ်တည်သီတင်းသုံးတော်မူပါစေသား။ ခီဏာသဝါ၊ ရဟန္တာအရှင်မြတ်ကြီးတို့သည်။ မမ၊ တပည့်တော်၏။ စတုဒ္ဒိသာ၊ ခန္ဓာတည်ရာ အရပ်လေးမျက်နှာတို့၌။ တိဋ္ဌန္တု၊ ရပ်တည်နေကြပါစေသား။ သဗြဟ္မကာ၊ ဗြဟ္မာအပေါင်းတို့နှင့်တကွ ဖြစ်ကုန်သော။ ဣန္ဒာ ဒေဝါ စ၊ သိကြားနတ်အပေါင်းတို့သည်လည်းကောင်း။ လောကပါလာ စ၊ လောကစောင့်ကြပ် နတ်မြတ်အပေါင်းတို့သည် လည်းကောင်း။ မမ၊ အကျွန်ုပ်၏။ သမန္တာ၊ ထက်ဝန်းကျင် ပတ်ပတ်လည်တို့၌။ တိဋ္ဌန္တု၊ နှလုံးရွှင်ပျ ရပ်တည်နေကြပါစေသား။

၃။ ဧတေသံ၊ ထိုရတနာသုံးပါး နတ်သိကြား ဗြဟ္မာအပေါင်းတို့၏။ အာနုဘာဝေန၊ ရှိန်ဝါတန်ခိုး စွမ်းရည်အမျိုးမျိုးကြောင့်။ သဗ္ဗေ၊ ကြွင်းမဲ့ဥဿုံ အလုံးစုံကုန်သော။ ဘယဥပဒ္ဒဝါ၊ ဘေးဥပဒ်တို့သည်လည်းကောင်း။

**အနေကအန္တရာယာပိ၊ တစ်ပါးမက များလှကုန်သော ကပ်အန္တရာယ် အသွယ်သွယ်တို့သည် လည်းကောင်း။ အသေသတော၊ ကြွင်းကျန်မရှိ ပကတိ အားဖြင့်။ ဝိနဿန္တု၊ ပိန်းကြာဖက်တွင် ရေမတင်သို့ ကင်းစင်လွင့်ပျောက်ကြ ပါစေကုန်သတည်း။**

[ဤဂါထာတော်ကြီးကို သူတပါးအတွက်၊ သို့မဟုတ် လူများအတွက် ရွတ်ဆိုလျှင် (မေ)ကို (တေ)၊ (မမ)ကို (တဝ)ဟု ပြင်ရွတ်ပါ။ (တေ၊ သင်၏။) (တဝ၊ သင်၏။)။]

ဤသိရသို့ ဂါထာတော်များသည် ဘုရား, တရားနှင့် ရဟန္တာများကို မိမိ ကိုယ်ခန္ဓာ အစိတ်အပိုင်းများပေါ်သို့ ကြွရောက်သီတင်းသုံးရန် ပင့်ဖိတ်၍ နီးနီးကပ်ကပ် ပူဇော်သားဖြီး ထိုဘုရား, တရားနှင့် ရဟန္တာတို့၏ တန်ခိုးရှိန်စော် အာနုဘော်ကြောင့် ဘေးအန္တရာယ် အမျိုးမျိုး ကင်းစင် လွင့်ပျောက်ရန် ဆုတောင်းရွတ်ဆိုသော ဂါထာများဖြစ်သည်။ ဤဂါထာများကို အတွင်းစည်းချ ဂါထာများအဖြစ် အသုံးပြုခဲ့ကြသည်။

ဤဂါထာများ ရွတ်ဖတ်ပူဇော်ခြင်းဖြင့် အရပ်လေးမျက်နှာမှ ဘေးအန္တရာယ် များ မကပ်ရောက်နိုင်ဘဲ ဘေး ၁၆-ပါး၊ ဥပဒ္ဒဝေါ ၂၅-ပါး၊ ကံကြမ္မာဆိုး ၃၂-ပါးတို့မှ လွတ်မြောက်နိုင်သည်။ ရှေးဆရာ အစဉ်အဆက်တို့သည် ဤဂါထာ များကို ကာယဗလသိဒ္ဓိ ပီယသိဒ္ဓိ ဓနသိဒ္ဓိ စသော သိဒ္ဓိအမျိုးမျိုးအတွက် အသုံး ပြုခဲ့ကြကြောင်း အစဉ်အလာ မှတ်တမ်းများအရ သိရှိရသည်။ ဘုရား,တရားနှင့် ရဟန္တာ အရှင်မြတ်ကြီးတို့၏ ဂုဏ်ကျေးဇူးကို သက်ဝင်ယုံကြည်ပြီး လေးစားစွာ ရွတ်ဖတ်ပူဇော်လျှင် လောကီအကျိုး အမျိုးမျိုးသာမက လောကုတ္တရာအကျိုး ကျေးဇူးများကိုပါ ရရှိခံစားနိုင်ပေသည်။

## ၂၅။ မြစ်ကူးချောင်းခြားခရီးသွား အန္တရာယ်ကင်းဂါထာ (၃)ပုဒ်

### ဗုဒ္ဓဂုဏ်တော်

(၁) ဘဝသောတံ ဟဝေ ဗုဒ္ဓေါ၊ တိဏ္ဏော လောကန္တဂူ ဝိဒူ။
ဧတေန သစ္စဝဇ္ဇေန၊ ဂမနံ မေ သမိဇ္ဈတု။

ဗုဒ္ဓေါ၊ မြတ်စွာဘုရားရှင်သည်။ ဟဝေ၊ စင်စစ်ကေန်အမှန်ပင်။ ဘဝသောတံ၊ ဘဝတည်းဟူသော သံသရာရေလျဉ်ကို။ တိဏ္ဏော၊ ကူးမြောက်တော်မူလေပြီ။ လောကန္တဂူ၊ လောကဆုံးရာ နိဗ္ဗာန်သို့လည်း ရောက်တော်မူလေပြီ။ ဝိဒူ၊ တရားအလုံးစုံကိုလည်း သိမ်းကျုံးကုန်စင် သိမြင်တော်မူလေပြီ။ ဧတေန သစ္စဝဇ္ဇေန၊ ဤမှန်ကန်သော ဝစီသစ္စာကြောင့်။ မေ၊ ဘုရားတပည့်တော်၏။

ဂမနံ၊ ခရီးသွားခြင်းသည်။ သမိဇ္ဈတု၊ ဘေးရန်မနှောင့် ကြောင့်ကြမဝင် အောင်မြင်ပြီးပြည့်စုံပါစေသတည်း။

ဓမ္မဂုဏ်တော်

(၂) ယဒိ သန္တိဂမော မဂ္ဂေါ၊ မောက္ခော စန္တိကံ သုခံ။
ဧတေန သစ္စဝဇ္ဇေန၊ ဂမနံ မေ သမိဇ္ဈတု။

မဂ္ဂေါ၊ လောကုတ္တရာတရား မဂ်လေးပါးသည်။ ယဒိ၊ စင်စစ်ကေန် အမှန်ပင်။ သန္တိဂမော၊ နိဗ္ဗာန်ထုတ်ချောက် ရောက်စေနိုင်ပါပေ၏။ မောက္ခော စ၊ နိဗ္ဗာန်တရားမြတ်သည်လည်း။ အစန္တိကံ သုခံ၊ ချမ်းသာစစ် ချမ်းသာမှန်ကြီး ဖြစ်ပါပေ၏။ ဧတေန သစ္စဝဇ္ဇေန။ ဤမှန်ကန်သော ဝစီသစ္စာကြောင့်။ မေ၊ ဘုရားတပည့်တော်၏။ ဂမနံ၊ ခရီးသွားခြင်းသည်။ သမိဇ္ဈတု၊ ပြည့်စုံပါစေ သတည်း။

သံဃာဂုဏ်တော်

(၃) သံဃော ဝေ တိဏ္ဏကန္တာရော၊ ပုညက္ခေတ္တော အနုတ္တရော။
ဧတေန သစ္စဝဇ္ဇေန၊ ဂမနံ မေ သမိဇ္ဈတု။

သံဃော၊ အရိယာသံဃာတော်အပေါင်းသည်။ ဝေ၊ စင်စစ်ကေန် အမှန်ပင်။ တိဏ္ဏကန္တာရော၊ သံသရာခရီးကြမ်းကို တက်လှမ်းကူးမြောက်တော်မူနိုင်ပါပေ၏။ အနုတ္တရော၊ အတုမရှိမြင့်မြတ်တော်မူသော။ ပုညက္ခေတ္တော၊ ကုသိုလ်စေ့မျိုး ဖွံ့သန်ပြိုးအောင် စိုက်ပျိုးကြဲချရာ လယ်ယာမြေကောင်းသဖွယ်လည်း ဖြစ်တော်မူပါပေ၏။ ဧတေန သစ္စဝဇ္ဇေန၊ ဤမှန်ကန်သော ဝစီသစ္စာကြောင့်။ မေ၊ ဘုရားတပည့်တော်၏။ ဂမနံ၊ ခရီးသွားခြင်းသည်။ သမိဇ္ဈတု၊ ပြည့်စုံပါစေ သတည်း။

မဟာကပ္ပိနမင်းကြီးသည် ထီးနန်းကို စွန့်၍ ကုက္ကုဋဝတီ နေပြည်တော်မှ ရတနာသုံးပါးပွင့်ထွန်းရာ သာဝတ္ထိမြို့သို့ အမတ်တစ်ထောင်နှင့်အတူ မြင်းကိုယ်စီ စီး၍ ထွက်ခဲ့ကြစဉ် လမ်းခရီး၌ “အပရစ္ဆာမြစ်၊ နီလဝါဟိနီမြစ်၊ စန္ဒဘာဂါမြစ်” ဟူသော မြစ်သုံးစင်းကို တွေ့ကြသည်။

မြစ်သုံးစင်း ဖြတ်ကူးရန် လှေ ဖောင်များရှာနေလျှင် အိုဘေး နာဘေး သေဘေးတို့ အမြဲနှိပ်စက်နေသဖြင့် မိမိတို့ အသက်ခန္ဓာအတွက် စိတ်မချရ သောကြောင့် ဘုရားဂုဏ်တော်ကို အာရုံပြုပြီး “ဘဝသောတံ ဟဝေ ဗုဒ္ဓေါ” စသော ပထမဂါထာကို ရွတ်ဆို၍ မြင်းကိုယ်စီ စီးလျက် “အပရစ္ဆာ”မြစ်ကို ကူးဖြတ်ကြသည်။

တရားဂုဏ်တော်ကို အာရုံပြု၍ "ယဒိ သန္တိဂမော မဂ္ဂေါ" စသော ဒုတိယ ဂါထာကို ရွတ်ဆိုပူဇော်ပြီး "နီလဂါယိနီ"မြစ်ကို ကူးဖြတ်ကြသည်။

သံဃာဂုဏ်တော်ကို အာရုံပြု၍ "သံဃော ဝေ တိဏ္ဏကန္တာရော"စသော တတိယဂါထာကို ရွတ်ဆိုပူဇော်ပြီး "စန္ဒဘာဂါ"မြစ်ကို ကူးဖြတ်ကြသည်။

ရတနာသုံးပါး ဂုဏ်ကျေးဇူးတော်ကြောင့် ကျောက်ဖျာပေါ် ကူးဖြတ်ရ သကဲ့သို့ မြင်းများ၏ ခွါကိုပင် ရေမစွတ်ဘဲ လိုရာ တစ်ဖက်ကမ်းသို့ ချောမောစွာ ကူးဖြတ်နိုင်ခဲ့ကြသည်။

ဤသည့်ထုံးကို နှလုံးမူ၍ ဗုဒ္ဓဘာသာဝင် ရဟန်းရှင်လူ အများစုသည် ယခုအခါ ကုန်းကြောင်း ရေကြောင်း လေကြောင်းဖြင့် ခရီးသွားကြရာ၌ ယင်းဂါထာ သုံးပုဒ်ကို အမြဲမပြတ် ရွတ်ဖတ်သွားလာကြသည်။ ရွတ်ဖတ်ကြ သူတိုင်းလည်း ခရီးစဉ်ချောချော လိုရာ ခရီးပန်းတိုင်သို့ ရောက်ရှိခဲ့ကြကြောင်း လက်တွေ့ဖြစ်ရပ် သာဓကများကို ပြောဆိုလျက် ရှိကြသည်။

စင်စစ်အားဖြင့် ဤဂါထာသုံးပုဒ်သည် ဘုရား တရား သံဃာ ရတနာသုံးပါး ဂုဏ်တော်များကို ပြဆိုထားသဖြင့် ဂုဏ်တော်ကို အာရုံပြု၍ လေးလေးနက်နက် ယုံကြည်စွာ ရွတ်ဖတ်ပူဇော်ပါက ပကတိသွားရာခရီးလမ်းကြောင်း ချောမွေ့ ရုံမျှမက မဂ်ဖိုလ်နိဗ္ဗာန် ခရီးအထိ ချောမွေ့နိုင်ကြောင်း မဟာကပ္ပိနမင်းကြီးနှင့် အမတ်တစ်ထောင်တို့က လက်တွေ့ပြလျက် ရှိပေသည်။

၂၆။ ခလုတ်မထိ ဆူးမငြိနိုင်သောဂါထာ

> ပါသာဏာ သက္ခရာ စေဝ၊ ကထလာ ခါဏုကဏ္ဍကာ။
> သဗ္ဗေ မဂ္ဂါ ဝိဝဇ္ဇန္တိ၊ ဂစ္ဆန္တေ လောကနာယကေ။
> ဧတေန သစ္စဝဇ္ဇေန၊ ဂမနံ မေ သမိဇ္ဈတု။

လောကနာယကေ၊ လောကထွတ်ထား မြတ်စွာဘုရားသည်။ ဂစ္ဆန္တေ၊ ထိုထို ဤဤ ဒေသစာရီ ကြွချီတော်မူလတ်သော်။ ပါသာဏာ စေဝ၊ ကျောက်လွှာ ကျောက်ချပ်တို့သည်လည်းကောင်း။ သက္ခရာ စ၊ ကျောက်စရစ်ခဲတို့သည် လည်းကောင်း။ ကထလာ စ၊ အိုးခြမ်းကွဲ အိုးခြမ်းပဲ့ အစအနတို့သည် လည်းကောင်း။ ခါဏုကဏ္ဍကာ စ၊ သစ်ငုတ်ဆူးငြောင့်တို့သည်လည်းကောင်း။ သဗ္ဗေ၊ အလုံးစုံသော ထိခိုက်ရှနဖွယ် မှန်သမျှတို့သည်။ မဂ္ဂါ၊ ရှင်တော်ဘုရား

ကြွလာရာလမ်းမှ။ ဝိဝဇ္ဇန္တိ၊ တိမ်းရှောင်ဖယ်ရှား ကြလေကုန်၏။ ဧတေန သစ္စဝဇ္ဇေန၊ ဤမှန်ကန်သော သစ္စာစကားကြောင့်။ မေ၊ အကျွန်ုပ်၏။ ဂမနံ၊ သွားလာရခြင်းသည်။ သမိဇ္ဈတု၊ ပြည့်စုံပါစေသတည်း။

ဤဂါထာတော်အရ ဘုရားရှင် ကြွရာလမ်းမှ ကျောက်ချပ် ကျောက်လွှာ ကျောက်စရစ် အိုးခြမ်း ဆူးငြောင့် ခလုတ်စသည့် အနှောင့်အယှက်ဟူသမျှတို့ ရှောင်ကွင်းသွားကြခြင်းသည် ဘုရားရှင်၏ ပါရမီတော် ကံတော်တို့၏ အစွမ်းသတ္တိကြောင့် ဖြစ်သည်။ ယင်းသို့ ဖြစ်သည်ကို နှုတ်မြွက်၍ သစ္စာပြုပါက မိမိ သွားလေရာရာ၌ ခလုတ်မထိ ဆူးမငြိဘဲ လိုရာခရီး ချောမောစွာ ရောက်ရှိနိုင်သည်။ မိမိတို့ စားဝတ်နေရေးအတွက် မြေသွားလာ လှုပ်ရှားနေကြရာ၌ ခရီးစဉ်ချောမောအောင် အမြဲရွတ်ဖတ်ပူဇော်သင့်ကြသည်။

**၂၇။ အက်တော်မြဲဂါထာ**

အဋ္ဌာနမေတံ ဘိက္ခဝေ အနဝကာသော၊ ယံ ပစ္ဆပက္ကမေန တထာဂတံ ဇီဝိတာ ဝေါရောပေယျ၊ အနုပက္ကမေန ဘိက္ခဝေ တထာဂတာ ပရိနိဗ္ဗာယန္တိ။

ဧတေန သစ္စဝဇ္ဇေန၊ သောတ္ထိ မေ ဟောတု သဗ္ဗဒါ။

ဘိက္ခဝေ၊ ရဟန်းတို့။ ပစ္ဆပက္ကမေန၊ သူတပါးတို့၏ လုံ့လပယောဂဖြင့်။ တထာဂတံ၊ မြတ်စွာဘုရားကို။ ဇီဝိတာ၊ ဇီဝိတိန္ဒြေမှ (ဝါ) အသက်မှ။ ယံ ဝေါရောပေယျ၊ အကြင် ချရာ၏ (ဝါ) သတ်ရာ၏။ ဧတံ၊ ဤသို့ သူတပါးတို့ လုံ့လပယောဂဖြင့် အသက်ကို ချခြင်း, အသတ်ခံရခြင်းသည်။ အဋ္ဌာနံ၊ အကြောင်းမဟုတ်။ အနဝကာသော၊ အရာမဟုတ်။ ဘိက္ခဝေ၊ ရဟန်းတို့။ တထာဂတာ၊ ဘုရားရှင်တို့မည်သည်။ အနုပက္ကမေန၊ သူတပါးတို့ လုံ့လပယောဂ မရှိပါဘဲ (လုပ်ကြံ သတ်ဖြတ်ခံရခြင်းမှ ကင်းလျက်)။ ပရိနိဗ္ဗာယန္တိ၊ အလိုလိုသာ ပရိနိဗ္ဗာန်ပြုတော်မူကြရကုန်၏။

ဧတေန သစ္စဝဇ္ဇေန၊ ဤမှန်ကန်သော သစ္စာစကားကြောင့်။ သဗ္ဗဒါ၊ အခါခပ်သိမ်း။ မေ၊ အကျွန်ုပ်အား (ဝါ) အကျွန်ုပ်တို့ မိသားစုအား။ သောတ္ထိ၊ ကိုယ်စိတ်နှစ်ဖြာ ကျန်းမာချမ်းသာခြင်းသည်။ ဟောတု၊ ဖြစ်ပါစေသတည်း။

[သူတပါးအတွက် ဖြစ်လျှင် (မေ) အစား (တေ၊ သင့်အား (ဝါ) သင်တို့ မိသားစုအား) ဟု ပြောင်း၍ ဆိုပါ။]

ဤ"အဋ္ဌာနမေတံ" စသော ပါဠိတော်သည် ဝိနည်းစူဠဝါပါဠိတော် သံဃ-
ဘေဒက္ခန္ဓကတွင် လာသော ပါဠိတော်ဖြစ်သည်။ ဝတ်ရွတ်စဉ် စာအုပ်အချို့၌
"သက်တော်မြဲဂါထာ"ဟု အမည်ပေးထားသည်။

ရှင်ဒေဝဒတ်သည် ဘုရားရှင်အား သူကိုယ်တိုင်လုပ်ကြံရန် ဂိဇ္ဈကုဋ်တောင်သို့
တက်၍ ကျောက်မောင်းဆင်ကာ ကျောက်တုံးကြီးတစ်လုံးကို လှိမ့်ချလိုက်သည်။
မြတ်စွာဘုရားရှင်၏ အတုမရှိသော ဘုန်းကံပါရမီတော်ကြောင့် ကျောက်ငုတ်
ကြီးနှစ်ခု ပေါ်ထွက်လာကာ လက်ချင်း ယှက်သလို ထိုးခံလိုက်သည့်အတွက်
ဘုရားရှင်မှာ ကျောက်တုံးပိသည့်ဘေးမှ လွတ်တော်မူခဲ့သည်။ သို့သော်
ကျောက်တုံးကြီးမှ ပွဲ့စင်ထွက်လာသည့် ကျောက်ချပ်ငယ် တစ်ခုသည် ခြေမ
တော်ကို ထိမှန်၍ သွေးခြည်ဥ သွားသည်။

ထိုသတင်းသည် ရာဇဂြိုဟ်တစ်မြို့လုံး တမုဟုတ်ချင်း ပျံ့နှံ့သွားရာ
ဘုရားရှင်၏ အသက်တော် လုံခြုံရေးအတွက် ရဟန်းတော်များ ဘုရားရှင်
ကျောင်းဘော်ကို ဝိုင်းရံလျက် ရှိကြသည်။ ရဟန်းတော်များသည် ပရိတ်များ
ရွတ်ဖတ်ကြသည်။ ထိုအသံကို ဘုရားရှင်ကြားတော်မူသဖြင့် အရှင်အာနန္ဒာ
အား မေးတော်မူရာ အကြောင်းစုံ သိတော်မူ၍ ရဟန်းတော်များအား
"အဋ္ဌာနမေတံ"စသော ပါဠိတော်ကို မိန့်တော်မူသည်။

> "ချစ်သားရဟန်းတို့....ဘုရားရှင်တို့မည်သည် သူတပါးလှုံ့လပယောဂ
> ကြောင့် ပရိနိဗ္ဗာန်စံရရိုး (သေရခြင်း) ထုံးစံ မရှိ၊ ချစ်သားရဟန်းတို့....
> ဘုရားရှင်တို့မည်သည် သူတပါး ပယောဂမပါဘဲ အလိုလိုသာလျှင်
> ပရိနိဗ္ဗာန်စံရမြဲ ဖြစ်သည်"ဟု–

မိန့်တော်မူသည်။

ရဟန်းတော်များလည်း ဘုရားရှင် ဤကဲ့သို့ မိန့်တော်မူလိုက်မှ ယုံကြည်
စိတ်ချကာ ဘုရားရှင်ကို ကန်တော့၍ မိမိတို့နေရာအသီးသီးသို့ ပြန်ကြွကြသည်။

ဤကဲ့သို့ ဘုရားရှင်၏ ထူးခြားသော ဂုဏ်တော်ကို အာရုံပြု၍ ရွတ်ဖတ်
ပူဇော်ကာ သစ္စာဆိုခြင်းဖြင့် မိမိတို့ အသက်အန္တရာယ်အတွက် အကာအကွယ်
ပြုခဲ့ကြသည်။

အထူးအားဖြင့် ဤပါဠိတော်သည် သေချိန်မကျရောက်သေးဘဲနှင့် သေရခြင်း
(ဥပစ္ဆေဒကမရဏ)ဘေးဆိုးမှ လွတ်ရန်အတွက် အလွန်အားကိုးလောက်သော
ပါဠိတော်ကြီး ဖြစ်သည်။

စင်စစ်အားဖြင့် ဤပါဠိတော်ကို ယုံကြည်စွာ ရွတ်ဖတ်ပူဇော်သူများ
လေယာဉ်ပျံပျက်ကျရာ သေဘေးမှ လွတ်ခဲ့ပုံ၊ မိမိအပေါ် မကောင်းကြံသူ

များသည် သွေဒဏ် သွခံရပုံ၊ စားဝတ်နေရေး ဘဝရပ်တည်မှုအားလုံးအဆင်ပြေပုံ၊ ဘေးအန္တရာယ်အမျိုးမျိုးကင်းပုံ စသည်ဖြင့် ကိုယ်တွေ့ဖြစ်ရပ်တွေ များစွာ ရှိသည်။

စွဲမြဲစွာ ရွတ်ဖတ်ပူဇော်ပါက ကောင်းကျိုးချမ်းသာ ကျက်သရေမင်္ဂလာများ တစ်နေ့တခြား တိုးတက်လာသည်ကို ပြောရှိ မကုန်နိုင်အောင် လက်တွေ့ခံစား ကြရပါလိမ့်မည်။ သို့အတွက် အမြဲဝတ်ထား၍ စွဲမြဲစွာ ရွတ်ဖတ်ပူဇော်သင့် ကြသည်။

၂၈။ အန္တရာယ်မပြုနိုင်သော ဂုဏ်တော် ၄-ပါး

(၁) ဗုဒ္ဓါနံ ဇီဝိတဿ န သက္ကာ ကေနစိ အန္တရာယော ကာတုံ၊ တထာ မေ ဟောတု။

(၂) ဗုဒ္ဓါနံ သဗ္ဗညုတညာဏဿ န သက္ကာ ကေနစိ အန္တရာယော ကာတုံ၊ တထာ မေ ဟောတု။

(၃) ဗုဒ္ဓါနံ ဥဒ္ဒိဿ အဘိဟဋ္ဌာနံ စတုန္နံ ပစ္စယာနံ န သက္ကာ ကေနစိ အန္တရာယော ကာတုံ၊ တထာ မေ ဟောတု။

(၄) ဗုဒ္ဓါနံ ဒွတ္တိံသ မဟာပုရိသလက္ခဏာနံ အသီတိယာ အနုဗျဉ္ဇနာနဉ္စ ဗျာမပဘာဒိရံသီနဉ္စ န သက္ကာ ကေနစိ အန္တရာယော ကာတုံ တထာ မေ ဟောတု။

(၁) ဗုဒ္ဓါနံ၊ ဘုရားရှင်တို့၏။ ဇီဝိတဿ၊ အသက်၏။ ကေနစိ၊ တစုံတယောက်သော သူသည်။ အန္တရာယော၊ အန္တရာယ်ကို။ ကာတုံ၊ ပြုခြင်းငှာ။ န သက္ကာ၊ မတတ်နိုင်။ တထာ၊ ထို့အတူ။ မေ၊ အကျွန်ုပ်အတွက် (ဝါ) အကျွန်ုပ်တို့မိသားစုအတွက်။ ဟောတု၊ ဖြစ်ပါစေသတည်း။

(၂) ဗုဒ္ဓါနံ၊ ဘုရားရှင်တို့၏။ သဗ္ဗညုတညာဏဿ၊ သဗ္ဗညုတညာဏ်တော်၏။ ကေနစိ၊ တစုံတယောက်သော သူသည်။ အန္တရာယော၊ အန္တရာယ်ကို။ ကာတုံ၊ ပြုခြင်းငှာ။ န သက္ကာ၊ မတတ်နိုင်။ တထာ၊ ထို့အတူ။ မေ၊ အကျွန်ုပ်အတွက် (ဝါ) အကျွန်ုပ်တို့ မိသားစုအတွက်။ ဟောတု၊ ဖြစ်ပါစေသတည်း။

(၃) ဗုဒ္ဓါနံ၊ ဘုရားရှင်တို့၏အတွက်။ ဥဒ္ဒိဿ၊ ရည်မှန်း၍။ အဘိဟဋ္ဌာနံ၊ ယူဆောင်လာကုန်သော။ စတုန္နံ ပစ္စယာနံ၊ ပစ္စည်းလေးပါးတို့၏။ ကေနစိ၊ တစုံတယောက်သော သူသည်။ အန္တရာယော၊ အန္တရာယ်ကို။ ကာတုံ၊ ပြုခြင်းငှာ။ န သက္ကာ၊ မတတ်နိုင်။ တထာ၊ ထို့အတူ။ မေ၊ အကျွန်ုပ်အတွက် (ဝါ) အကျွန်ုပ်တို့မိသားစုအတွက်။ ဟောတု၊ ဖြစ်ပါစေသတည်း။

(၄) ဗုဒ္ဓါနံ၊ ဘုရားရှင်တို့၏။ ဒွတ္တိံသ မဟာပုရိသလက္ခဏာနဉ္စ၊ သုံးဆယ့်နှစ်ပါးသော ယောကျ်ားမြတ်တို့၏ လက္ခဏာတော်တို့၏ လည်းကောင်း။ အသီတိယာ၊ ရှစ်ဆယ်သော။ အနုဗျဉ္စနာနဉ္စ၊ လက္ခဏာတော်ငယ်တို့၏ လည်းကောင်း။ ဗျာမပဘာဒိရံသီနဉ္စ၊ အမြဲတစ်လံမျှလောက် ထွက်သော ရောင်ခြည်တော်ခြောက်သွယ် စသည်တို့၏လည်းကောင်း။ ကေနစိ၊ တစုံတယောက်သော သူသည်။ အန္တရာယော၊ အန္တရာယ်ကို။ ကာတုံ၊ ပြုခြင်းငှာ။ န သက္ကာ၊ မတတ်နိုင်။ တထာ၊ ထိုအတူ။ မေ၊ အကျွန်ုပ်အတွက် (ဝါ) အကျွန်ုပ်တို့မိသားစုအတွက်။ ဟောတု၊ ဖြစ်ပါစေသတည်း။

ဤဂုဏ်တော်လေးပုဒ်သည် ဘုရားရှင်တို့အတွက် ထူးခြားသော ဂုဏ်တော်များဖြစ်သည်။ ဘုရားရှင်တို့၏ အသက်, အသိဉာဏ်, ရည်ရွယ်ပြီး ပစ္စည်းနှင့် လက္ခဏာတော်ကြီးငယ် အမြဲ တစ်လံမျှထွက်သော ရောင်ခြည်တော်တို့ကို တစုံတယောက်သော လူ နတ်ဗြဟ္မာ သတ္တဝါမျှ အန္တရာယ် မပြုနိုင်ပုံပြသော ဂုဏ်တော်များ ဖြစ်သည်။

ယင်းဂုဏ်တော်လေးပါးကို အာရုံပြု၍ မိမိနှင့်တကွ မိမိ မိ[illegible]ားစု အသက် အန္တရာယ်ကင်း၍ အသက်ရှည်ရန်အတွက် အမှတ်(၁)ဂုဏ်တော်ကို ရွတ်ဖတ်ပူဇော်ပါ။

မိမိတို့ အကြံဉာဏ်လွဲမှားမှု မရှိစေရေးအတွက် အမှတ်(၂)ဂုဏ်တော်ကို ရွတ်ဖတ်ပူဇော်ပါ။

မိမိ ရသင့်ရထိုက်သော စည်းစိမ်ဥစ္စာ ရတနာများ တစုံတယောက် အနှောင့်အယှက်မပြုနိုင်အောင် အမှတ်(၃)ဂုဏ်တော်ကို ရွတ်ဖတ်ပူဇော်ပါ။

မိမိ၏ လက်ခြေအင်္ဂါ ကိုယ်ခန္ဓာ အစိတ်အပိုင်းတို့၏ စွမ်းရည်[illegible]တို့များ ထက်မြက်မှုမရှိအောင် ဟန့်တားနှောင့်ယှက်မှုမှ ကင်းဝေးစေရန် အမှတ်(၄) ဂုဏ်တော်ကို ရွတ်ဖတ်ပူဇော်ပါ။

**၂၉။ အာဝေဏိကဂုဏ်တော် ၁၈-ပါး**

(၁) အတီတံသေ ဗုဒ္ဓဿ ဘဂဝတော အပ္ပဋိဟတံ ဉာဏံ။

(၂) အနာဂတံသေ ဗုဒ္ဓဿ ဘဂဝတော အပ္ပဋိဟတံ ဉာဏံ။

(၃) ပစ္စုပ္ပန္နံသေ ဗုဒ္ဓဿ ဘဂဝတော အပ္ပဋိဟတံ ဉာဏံ။

ဣမေဟိ တီဟိ ဓမ္မေဟိ သမန္နာဂတဿ ဗုဒ္ဓဿ ဘဂဝတော—

( ၄ ) သဗ္ဗံ ကာယကမ္မံ ဉာဏပုဗ္ဗင်္ဂမံ ဉာဏာနုပရိဝတ္တံ။

( ၅ ) သဗ္ဗံ ဝစီကမ္မံ ဉာဏပုဗ္ဗင်္ဂမံ ဉာဏာနုပရိဝတ္တံ။

( ၆ ) သဗ္ဗံ မနောကမ္မံ ဉာဏပုဗ္ဗင်္ဂမံ ဉာဏာနုပရိဝတ္တံ။

ဣမေဟိ ဆဟိ ဓမ္မေဟိ သမန္နာဂတဿ ဗုဒ္ဓဿ ဘဂဝတော—

( ၇ ) နတ္ထိ ဆန္ဒဿ ဟာနိ။

( ၈ ) နတ္ထိ ဓမ္မဒေသနာယ ဟာနိ။

( ၉ ) နတ္ထိ ဝီရိယဿ ဟာနိ။

(၁၀) နတ္ထိ သမာဓိဿ ဟာနိ။

(၁၁) နတ္ထိ ဝိပဿနာယ ဟာနိ။

(၁၂) နတ္ထိ ဝိမုတ္တိယာ ဟာနိ။

ဣမေဟိ ဒွါဒသဟိ ဓမ္မေဟိ သမန္နာဂတဿ ဗုဒ္ဓဿ ဘဂဝတော—

(၁၃) နတ္ထိ ဒဝါ။

(၁၄) နတ္ထိ ရဝါ။

(၁၅) နတ္ထိ အပ္ဖုဋံ။

(၁၆) နတ္ထိ ဝေဂါယိတတ္တံ။

(၁၇) နတ္ထိ အဗျာဝဋမနော။

(၁၈) နတ္ထိ အပ္ပဋိသင်္ခါနုပေက္ခာ။

ဣမေဟိ အဋ္ဌာရသဟိ ဓမ္မေဟိ သမန္နာဂတဿ ဗုဒ္ဓဿ ဘဂဝတော နမော သတ္ထုနော် သမ္မာသမ္ဗုဒ္ဓါနံ။

ဥပေတော ဗုဒ္ဓဓမ္မေဟိ၊ အဋ္ဌာရသဟိ နာယကော။
ဝန္ဒေတော ဇေန သစ္စေန၊ ဟောတု မေ ဇယမင်္ဂလံ။

ဗုဒ္ဓဿ ဘဂဝတော၊ မြတ်စွာဘုရား၏။ ဉာဏံ၊ ဉာဏ်တော်သည်။ အတီတံသေ အတိတ်ကာလအဖို့၌။ အပ္ပဋိဟတံ၊ အတားအဆီးမရှိ။

ဗုဒ္ဓဿ ဘဂဝတော၊ မြတ်စွာဘုရား၏။ ဉာဏံ၊ ဉာဏ်တော်သည် အနာဂတံသေ၊ အနာဂတ်ကာလအဖို့၌။ အပ္ပဋိဟတံ၊ အတားအဆီးမရှိ။

ဗုဒ္ဓဿ ဘဂဝတော၊ မြတ်စွာဘုရား၏။ ဉာဏံ၊ ဉာဏ်တော်သည်။ ပစ္စုပ္ပန္နံသေ၊ ပစ္စုပ္ပန်ကာလအဖို့၌။ အပ္ပဋိဟတံ၊ အတားအဆီးမရှိ။

ဣမေဟိ တီဟိ ဓမ္မေဟိ၊ ဤတရားသုံးပါးတို့နှင့်။ သမန္နာဂတဿ၊ ပြည့်စုံတော်မူသော။ ဗုဒ္ဓဿ ဘဂဝတော၊ မြတ်စွာဘုရား၏။ သဗ္ဗံ ကာယကမ္မံ၊ အလုံးစုံသော ကာယကံသည်။ ဉာဏပုဗ္ဗင်္ဂမံ၊ ဉာဏ်လျှင်ရှေ့သွားရှိ၏။ ဉာဏာနုပရိဝတ္တံ၊ ဉာဏ်သို့ အစဉ်လိုက်၏။ သဗ္ဗံ ဝစီကမ္မံ၊ အလုံးစုံသော ဝစီကံသည်။ ဉာဏပုဗ္ဗင်္ဂမံ၊ ဉာဏ်လျှင် ရှေ့သွားရှိ၏။ ဉာဏာနုပရိဝတ္တံ၊ ဉာဏ်သို့ အစဉ်လိုက်၏။ သဗ္ဗံ မနောကမ္မံ၊ အလုံးစုံသော မနောကံသည်။ ဉာဏပုဗ္ဗင်္ဂမံ၊ ဉာဏ်လျှင် ရှေ့သွားရှိ၏။ ဉာဏာနုပရိဝတ္တံ၊ ဉာဏ်သို့ အစဉ်လိုက်၏။

ဣမေဟိ ဆဟိ ဓမ္မေဟိ၊ ဤတရားခြောက်ပါးတို့နှင့်။ သမန္နာဂတဿ၊ ပြည့်စုံတော်မူသော။ ဗုဒ္ဓဿ ဘဂဝတော၊ မြတ်စွာဘုရားအား။ ဆန္ဒဿ၊ ဆန္ဒတော်၏။ ဟာနိ၊ ယုတ်လျော့ခြင်းသည်။ နတ္ထိ၊ မရှိ။ ဓမ္မဒေသနာယ၊ တရားဟောခြင်း၏။ ဟာနိ၊ ယုတ်လျော့ခြင်းသည်။ နတ္ထိ၊ မရှိ။ ဝီရိယဿ၊ ဝီရိယတော်၏။ ဟာနိ၊ ယုတ်လျော့ခြင်းသည်။ နတ္ထိ၊ မရှိ။ ဝိပဿနာယ၊ ဝိပဿနာဉာဏ်တော်၏။ ဟာနိ၊ ယုတ်လျော့ခြင်းသည်။ နတ္ထိ၊ မရှိ။ သမာဓိဿ၊ သမာဓိ၏။ ဟာနိ၊ ယုတ်လျော့ခြင်းသည်။ နတ္ထိ၊ မရှိ။ ဝိမုတ္တိယာ၊ အရဟတ္တဖိုလ် ချမ်းသာ၏။ ဟာနိ၊ ယုတ်လျော့ခြင်းသည်။ နတ္ထိ၊ မရှိ။

ဣမေဟိ ဒွါဒသဟိ ဓမ္မေဟိ၊ ဤတစ်ဆယ့်နှစ်ပါးသော တရားတို့နှင့်။ သမန္နာဂတဿ၊ ပြည့်စုံတော်မူသော။ ဗုဒ္ဓဿ ဘဂဝတော၊ မြတ်စွာဘုရားအား။ ဒဝါ၊ ရယ်မြူးခြင်းသည်။ နတ္ထိ၊ မရှိ။ ရဝါ၊ ချွတ်ချော်ပြောဆိုခြင်းသည်။ နတ္ထိ၊ မရှိ။ အပ္ဖုဋ္ဌံ၊ ဉာဏ်တော်ဖြင့် မတွေ့ထိအပ်သော တရားသည်။ နတ္ထိ၊ မရှိ။ ဝေဂါယိတတ္တံ၊ ဉာဏ်ဖြင့် မဆင်ခြင်ဘဲ အဆောတလျင် ပြုမိခြင်းသည်။ နတ္ထိ၊ မရှိ။ အဗျာဝဋမနော၊ ကြောင့်ကြမဲ့ နေလိုသော စိတ်နှလုံးတော်သည်။ နတ္ထိ၊ မရှိ။ အပ္ပဋိသင်္ခါနုပေက္ခာ၊ အဆင်ခြင်ကင်း၍ ဥပေက္ခာပြုခြင်းသည်။ နတ္ထိ၊ မရှိ။

ဣမေဟိ အဋ္ဌာရသဟိ ဓမ္မေဟိ၊ ဤတရား တစ်ဆယ့် ရှစ်ပါးတို့နှင့်။ သမန္နာဂတဿ၊ ပြည့်စုံတော်မူသော။ ဗုဒ္ဓဿ ဘဂဝတော၊ ဂေါတမမြတ်စွာဘုရားအားလည်းကောင်း။ သတ္တန္နံ သမ္မာသမ္ဗုဒ္ဓါနံ၊ ဝိပဿီအစရှိသော ဘုရားခုနစ်ဆူတို့အား လည်းကောင်း။ နမော၊ ရှိခိုးပါ၏။

အဋ္ဌာရသဟိ ဗုဒ္ဓဓမ္မေဟိ၊ ဗုဒ္ဓဂုဏ်တော် တစ်ဆယ့်ရှစ်ပါးတို့နှင့်။ ဥပေတော၊ ပြည့်စုံတော်မူကြကုန်သော။ တေ နာယကေ၊ ထိုဘုရားရှင်တို့ကို။ ဝန္ဒေ၊ ရှိခိုး

ပါ၏။ တေန သစ္စေန၊ ထိုသစ္စာစကားကြောင့်။ မေ၊ အကျွန်ုပ်အား။ ဇယမင်္ဂလံ၊ အောင်ခြင်းမင်္ဂလာသည်။ ဟောတု၊ ဖြစ်ပါစေသတည်း။

ဤအာဝေဏိကဂုဏ်တော် ၁၈-ပါးသည် တပည့်သာဝကတို့နှင့်မဆက်ဆံသော ဘုရားရှင်တို့အတွက် သီးခြား ဂုဏ်တော်များ ဖြစ်သည်။ ဤ သီးခြား ဂုဏ်ကျေးဇူးတော်များကို အမြဲမပြတ် ရွတ်ဖတ်ပူဇော်ပွားများ၍ သစ္စာဆိုပါက မိမိပြုလုပ်, ပြောဆို, ကြံသမျှ ကိစ္စအားလုံး အခက်အခဲမရှိ ပြီးစီးအောင်မြင်နိုင်သည်။ ဤဂုဏ်တော်များသည် မိမိ၏ အသိဉာဏ်၊ ပြုသမျှ ကာယကံမှု၊ ပြောသမျှ ဝစီကံမှုနှင့် ကြံသမျှ မနောကံမှုအားလုံး ချွတ်ချော်တိမ်းစောင်းမှု မရှိရအောင် ရွတ်ဆိုပွားများ၍ သစ္စာပြုရန် အထူးသင့်လျော်သော ဂုဏ်တော်များဖြစ်သည်။

အမြဲမပြတ် လက်တွေ့ရွတ်ဆိုပွားများ ပူဇော်ပါက ယခုလက်ငင်း ဆောင်ရွက်လုပ်ကိုင်နေသောကိစ္စများ ချွတ်ချော်တိမ်းပါးမှု မရှိသည့်အပြင် မဂ်ဖိုလ်နိဗ္ဗာန် မျက်မှောက်ပြုနိုင်သည်အထိ ထူးခြားသော အကျိုးများကို ရရှိပါလိမ့်မည်။

## ၃၀။ နာညတြဂါထာ

နာညတြ ဗောဇ္ဈာတပသာ၊ နာညတြိန္ဒြိယသံဝရာ။
နာညတြ သဗ္ဗနိဿဂ္ဂါ၊ သောတ္ထိံ ပဿာမိ ပါဏိနံ။

ဗောဇ္ဈာတပသာ၊ ဗောဇ္ဈင်ဟူသော ဝိပဿနာ, ခြိုးခြံခြင်းဟူသော စုတင်အကျင့်ကို။ အညတြ၊ ကြဉ်ဖယ်ထား၍။ ပါဏိနံ၊ သတ္တဝါတို့၏။ သောတ္ထိံ၊ ချမ်းသာကြောင်းတရားကို။ န ပဿာမိ၊ ငါဘုရားမြင်တော်မမူ။ ဣန္ဒြိယသံဝရာ၊ ဣန္ဒြေခြောက်ခု စောင့်ထိန်းမှုကို။ အညတြ၊ ကြဉ်ဖယ်ထား၍။ ပါဏိနံ၊ သတ္တဝါတို့၏။ သောတ္ထိံ၊ ချမ်းသာကြောင်းတရားကို။ န ပဿာမိ၊ ငါဘုရားမြင်တော်မမူ။ သဗ္ဗနိဿဂ္ဂါ၊ ကိလေသာအနှောင်အဖွဲ့အားလုံးမှ လွတ်မြောက်ရာ နိဗ္ဗာန်ကို။ အညတြ၊ ကြဉ်ဖယ်ထား၍၊ ပါဏိနံ၊ သတ္တဝါတို့၏။ သောတ္ထိံ၊ ချမ်းသာကြောင်းတရားကို။ န ပဿာမိ၊ ငါဘုရားမြင်တော်မမူ။

ဤဂါထာသည် သုဗြဟ္မာနတ်သားအား ဘုရားရှင် ဟောကြားတော်မူသော ဂါထာဖြစ်သည်။ သုဗြဟ္မာနတ်သားသည် သူ၏ အခြံအရံ နတ်သမီးငါးရာတို့ နန္ဒဝန်ဥယျာဉ်အတွင်း ပင်လယ်ကသစ်ပန်းခူးရင်း ဥပစ္ဆေဒကကံနှင့် ရုတ်တရက် ကွယ်လွန်ကာ အဝီစိငရဲ ကျရောက်သည်ကို မြင်တွေ့ရသဖြင့် ထိတ်လန့်တုန်လှုပ်သွားသည်။ သူ့အသက် အနေအထားကို ကြည့်ပြန်ရာ ခုနစ်ရက်သာ နေရပြီး သေရင် အဝီစိငရဲ ကျမည့်အရေးကို မြင်သဖြင့် ဆောက်တည်ရာမရ အကြီးအကျယ် ပူပင်သောက ရောက်သွားသည်။ ထိုဖြစ်၍ ဘုရားရှင်ထံ ချဉ်းကပ်ပြီး—

"ဘုန်းတော်ကြီးသော မြတ်စွာဘုရား.... ဘုရားတပည့်တော်၏ စိတ်သည် ဆောက်တည်ရာမရအောင် အလွန်တုန်လှုပ်ချောက်ချားနေပါပြီ။ ထိတ်လန့်တုန်လှုပ် ကြောက်ရွံ့ခြင်း ကင်းဝေးတဲ့ နည်းလမ်းကို ဟောကြားတော်မူပါ" ဟု–

လျှောက်ထားသဖြင့် ဤ "နာညတြ ဗောဇ္ဈာတပသာ" ဂါထာကို ဟောတော်မူသည်။ သုဗြဟ္မာနတ်သားလည်း သောတာပန်ဖြစ်ပြီး ထိတ်လန့်တုန်လှုပ်မှု ကင်းဝေးကာ ပူပင်သောက အားလုံး အေးငြိမ်းသွားသည်။

ဤဂါထာကို ရွတ်ဆိုခြင်းဖြင့် ဥပစ္ဆေဒကမရဏ (သေချိန်မရောက်ဘဲ ရုတ်တရက် သေခြင်းဘေး)မှ လွတ်မြောက်နိုင်သည်၊ အသက်ရှည်နိုင်သည်။ သူတပါး မပြုစားနိုင်၊ အကြီးအကျယ် စိတ်ညစ်စရာတွေ အခက်အခဲတွေ အားလုံး ပျောက်ကင်းနိုင်ကြောင်း ရှေးလူကြီး သူမတို့ အစဉ်အဆက် ပြောဆို မှတ်တမ်းတင်ခဲ့ကြသည်။ ထို့ကြောင့် ဤဂါထာကို ဝတ်ရွတ်စဉ်စာအုပ်များ၌ သက်တော်ရှည်ဂါထာ၊ ဥပစ္ဆေဒကနှင့် လူမှုဒုက္ခ အမျိုးမျိုးမှ လွတ်မြောက်စေသည့် ဂါထာ စသည်ဖြင့် အမည်အမျိုးမျိုး ပေးခဲ့ကြသည်။

**၃၁။ ကျည်မထွက် လက်နက်တုံးဂါထာ**

မာရာရိဗလဝိဓဿ္တာ၊ ကုဏ္ဌာ နာနာဝိဓာယုဓာ။
လဇ္ဇမာနာညဝေဓေန၊ ဇိန ပါဒါနတာ တဝ။
ဧတေန သစ္စဝဇ္ဇေန၊ ပရိဝဇ္ဇန္တု အာဝုဓာ။

ဇိန၊ မြတ်စွာဘုရား။ မာရာရိဗလဝိဓဿ္တာ၊ မာရ်နတ်မင်းတည်းဟူသော ရန်သူ၏ စစ်သည်တပ်သားတို့ ပစ်လွှတ်အပ်ကုန်သော။ နာနာဝိဓာယုဓာ၊ အမျိုးမျိုးသော လက်နက်တို့သည်။ ကုဏ္ဌာ၊ မထက်လုံးလုံး တုံးကြကုန်သည်။ ဟုတ္တွာ၊ ဖြစ်၍။ လဇ္ဇမာနာ၊ ရှက်နိုးကြကုန်လျက်။ အညဝေဓေန၊ လက်နက် အသွင်မှတပါး ပန်းပေါက်ပေါက် အသွင်အားဖြင့်။ တဝ၊ ရှင်တော်ဘုရား၏။ ပါဒါနတာ၊ ခြေတော်ရင်းဝယ် ဝပ်စင်းရှိကျိုး သွယ်ထက်ငါ ဝင်တိုးလျက် ရှိခိုး ဦးတိုက်ကြလေကုန်ပြီတကား။

ဧတေန သစ္စဝဇ္ဇေန၊ ဤသို့ မှန်သော သစ္စာစကားကို ဆိုရခြင်းကြောင့်။ အာဝုဓာ၊ လက်နက်တို့သည်။ ပရိဝဇ္ဇန္တု၊ ရှောင်ကြစေကုန်သတည်း။

မာရ်နတ်သားသည် ဗောဓိပင်နှင့် ရွှေပလ္လင်ကို လုယူလိုသဖြင့် လက်နက် အမျိုးမျိုးဖြင့် ပစ်ခတ်ရာ ဘုရားရှင်၏ ဘုန်းတော် ကံတော် မေတ္တာပါရမီ တော်တို့၏ အစွမ်းသတ္တိကြောင့် ပစ်ခတ်လိုက်သော လက်နက်မျိုးစုံတို့သည်

အသွားများတုံးသွား၍ ရှက်စနိုးဟန်ဖြင့် လက်နက်အသွင်ပျောက်၍ ပန်းပေါက်ပေါက် အသွင်ဖြင့် ဘုရားရှင်၏ ခြေတော်အစုံကို ဦးခိုက်ပူဇော်ကြပုံကို ဖွဲ့ဆိုထားသော ဂါထာဖြစ်သည်။

ဘုရားရှင်၏ ဘုန်းကံပါရမီတော်တွေကို အာရုံပြု၍ ဤဂါထာကို ယုံကြည်စွာ ရွတ်ဖတ်ပူဇော်လျှင် တစ်ဖက်ရန်သူတို့ ပစ်ခတ်ကြသော လက်နက်အမျိုးမျိုး တို့သည် ကျည်မထွက်နိုင်၊ ကျည်လွဲနိုင်သည်၊ ဓားလှံစသော လက်နက် များလည်း အသွားမထက်ဘဲ လုံးလုံး တုံးသွားနိုင်သည်။

ဤသို့ အစွမ်းသတ္တိထက်လှသော ဤဂါထာကို လက်နက်အန္တရာယ် အမျိုးမျိုးကြားတွင် သွားလာလုပ်ကိုင် ဆောင်ရွက်နေကြသော ပုဂ္ဂိုလ်များ အထူး ကြိုးစား၍ ရွတ်ဖတ်ပူဇော်သင့်ကြသည်။

၁၂။ လက်နက်ရန်သူကွင်းဂါထာ

ဥပေတပုညော ဝရဗောဓိမူလေ၊ သသေနမာရံ သုဂတော ဇိနိတွာ။
အဗုဇ္ဈိ ဗောဓိံ အရုဏောဒယမှိ၊ နမာမိ တံ မာရဇိနံ အဘင်္ဂံ။

ဥပေတပုညော၊ ပြည့်စုံသော ဘုန်းတော်လည်း ရှိတော်မူသော။ ယော သုဂတော၊ အကြင်မြတ်စွာဘုရားသည်။ ဝရဗောဓိမူလေ၊ မြတ်သောဗောဓိပင်၏ အနီး၌။ သသေနမာရံ၊ စစ်သည်ဗိုလ်ပါနှင့် တကွသော မာရ်နတ်သားကို။ ဇိနိတွာ၊ အောင်တော်မူပြီး၍။ အရုဏောဒယမှိ၊ နေအရုဏ်တက်သောအခါ၌။ ဗောဓိံ၊ အရဟတ္တမဂ်ဉာဏ်, သဗ္ဗညုတဉာဏ်ကို။ အဗုဇ္ဈိ၊ သိတော်မူပြီ။ မာရဇိနံ၊ မာရ်ငါးပါးကို အောင်မြင်တော်မူပြီးထသော။ အဘင်္ဂံ၊ မာရ် စစ်သည်တို့သည် မဖျက်ဆီးနိုင်ထသော။ တံ သုဂတံ၊ ထိုမြတ်စွာဘုရားကို။ အဟံ၊ အကျွန်ုပ်သည်။ နမာမိ၊ ရှိခိုးပါ၏။

ဤဂါထာသည် နမက္ကာရ ဘုရားရှိခိုး ၆-ခုမြောက် ဂါထာ ဖြစ်သည်။ ဤဂါထာကို ရွတ်ဖတ်ပူဇော်ခြင်းဖြင့် လက်နက်ကွင်းရှောင်ခြင်း၊ ရန်သူများ လက်မှ လွတ်မြောက်နိုင်ခြင်း၊ အခက်အခဲအမျိုးမျိုးကို ကျော်လွှားအောင်မြင် နိုင်ခြင်းစသော မျက်မှောက်ပစ္စက္ခ အကျိုးများအပြင် နောက်ဆုံးတွင် ကိလေသာ အာသဝေါတရားအားလုံးကို ပယ်သတ်အောင်မြင်နိုင်ပြီး မဂ်ဖိုလ် နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်သည်အထိ အကျိုးတရားများ ရရှိနိုင်ပါသည်။

## ၃၃။ ကပ်ဆိုး ရောဂါဆိုး အမျိုးမျိုးတို့မှ ကင်းလွတ်စေနိုင်သော ဂါထာ

၁။ ဗုဒ္ဓေါ စ မင်္ဂလော လောကေ၊ ဒေဝဗ္ဗန္နမြဟ္မိ သက္ကရော။
ဗုဒ္ဓံ သရဏာမာဂမ္မ၊ သဗ္ဗဒုက္ခာ ပမုစ္စရေ။

၂။ ဓမ္မော စ မင်္ဂလော လောကေ၊ သဗ္ဗပါပဝိနာသကော။
ဓမ္မံ သရဏာမာဂမ္မ၊ သဗ္ဗဒုက္ခာ ပမုစ္စရေ။

၃။ သံဃော စ မင်္ဂလော လောကေ၊ ဘယဝေရဝိနောဒနော။
သံဃံ သရဏာမာဂမ္မ၊ သဗ္ဗဒုက္ခာ ပမုစ္စရေ။

၄။ တေ ခေါ မင်္ဂလံ ခေမံ၊ တေ မင်္ဂလမုတ္တမံ။
တေ မင်္ဂလမာဂမ္မ၊ သဗ္ဗပါပါ ပမုစ္စရေ။

၅။ တေ ခေါ သရဏံ ခေမံ၊ တေ မင်္ဂလမုတ္တမံ။
တေ သရဏမာဂမ္မ၊ သဗ္ဗဒုက္ခာ ပမုစ္စရေ။

၆။ တေ ခေါ ရတနံ ခေမံ၊ တေ ရတနမုတ္တမံ။
တေ ရတနမာဂမ္မ၊ သဗ္ဗဒေါသာ ပမုစ္စရေ။

၁။ လောကေ၊ လောကသုံးခွင် ဘုံအပြင်၌။ ဗုဒ္ဓေါ စ၊ မြတ်စွာဘုရားသည် သာလျှင်။ မင်္ဂလော၊ လူ နတ် ဗြဟ္မာ သတ္တဝါအပေါင်းတို့တွင် အတုမရှိ အဘက်မရှိ လွန်မြတ်လှသော အနုတ္တရ မဟာမင်္ဂလာကြီး အစစ်ဖြစ်တော်မူပေ၏။ ဒေဝဗ္ဗန္နမြဟ္မိ သက္ကရော၊ ဘုန်းတန်ခိုး ဣဒ္ဓိပါဒ် လွန်ကြီးမြတ်သော နတ်မင်း အပေါင်း သိကြားမင်းအပေါင်း ဗြဟ္မာမင်းအပေါင်းတို့ကို အစိုးရတော်မူပေ၏။ ဗုဒ္ဓံ သရဏံ၊ ဘုရားတည်းဟူသော ကိုးကွယ်ရာကို။ အာဂမ္မ၊ ကိုးကွယ်သမှု အစွဲပြု၍။ သတ္တာ၊ နတ်လူ ဗြဟ္မာ သတ္တဝါတို့သည်။ သဗ္ဗဒုက္ခာ- သဗ္ဗဒုက္ခေဟိ၊ ခပ်သိမ်းသော ဒုက္ခအပေါင်းတို့မှ။ ပမုစ္စရေ-ပမုစ္စန္တိ၊ ကင်းလွတ်ကြရကုန်၏။

၂။ လောကေ၊ လောကသုံးခွင် ဘုံအပြင်၌။ ဓမ္မော စ၊ မဂ်လေးပါး ဖိုလ်လေးပါး နိဗ္ဗာန်တရားတော်မြတ်သည်သာလျှင်။ မင်္ဂလော၊ တရားအပေါင်း တို့တွင် အတုမရှိ အဘက်မရှိ လွန်မြတ်လှသော အနုတ္တရ မဟာမင်္ဂလာကြီး အစစ် ဖြစ်တော်မူပေ၏။ သဗ္ဗပါပဝိနာသကော၊ ဆိုးရွားညစ်ညမ်း ကြမ်းတမ်း ယုတ်မာ မကောင်းစွာသော မိစ္ဆာဓမ္မ ဟူသမျှတို့ကို မြူမျှမကျန် ပယ်လှန် ဖျက်ဆီးတော်မူနိုင်ပေ၏။ ဓမ္မံ သရဏံ၊ တရားတည်းဟူသော ကိုးကွယ်ရာကို။

အာဂမ္မ၊ ကိုးကွယ်သမှု အစွဲပြု၍။ သတ္တာ၊ နတ်လူ ဖြဟ္မာ သတ္တဝါတို့သည်။ သဗ္ဗဒုက္ခာ သဗ္ဗဒုက္ခေဟိ၊ ခပ်သိမ်းသော ဒုက္ခအပေါင်းတို့မှ။ ပမုစ္စရေ–ပမုစ္စန္တိ၊ ကင်းလွတ်ကြရကုန်၏။

၃။ လောကေ၊ လောကသုံးခွင် ဘုံအပြင်၌။ သံဃော၀၊ မြတ်စွာဘုရား၏ တပည့်သား သံဃာတော်မြတ်သည်သာလျှင်။ မင်္ဂလော၊ အပေါင်းအများ တပည့်သား အစုတွင် အတုမရှိ အဘက်မရ လွန်မြတ်လှသော အနုတ္တရ မဟာ မင်္ဂလာကြီး အစစ် ဖြစ်တော်မူပေ၏။ ဘယဝေရဝိနောဒနော၊ ခပ်သိမ်းသော ဘေး, ခပ်သိမ်းသော ရန်တို့ကို ပယ်လှန် ဖြေဖျောက်တော်မူနိုင်ပေ၏။ သံဃံ သရဏံ၊ သံဃာတည်းဟူသော ကိုးကွယ်ရာကို။ အာဂမ္မ၊ ကိုးကွယ်သမှု အစွဲပြု၍။ သတ္တာ၊ နတ်လူဗြဟ္မာသတ္တဝါတို့သည်။ သဗ္ဗဒုက္ခာ-သဗ္ဗဒုက္ခေဟိ၊ ခပ်သိမ်းသော ဒုက္ခအပေါင်းတို့မှ။ ပမုစ္စရေ–ပမုစ္စန္တိ၊ ကင်းလွတ်ကြရကုန်၏။

၄။ ခေါ၊ စင်စစ်။ ဧတံ မင်္ဂလံ၊ ဤဘုရား တရား သံဃာ မင်္ဂလာသုံးပါး သည်သာလျှင်။ ခေမံ၊ ဘေးရန်ကင်းရာ မင်္ဂလာကြီးအစစ် ဖြစ်တော်မူပေ၏။ ဧတံ မင်္ဂလံ၊ ဤဘုရား တရား သံဃာ မင်္ဂလာသုံးပါးသာလျှင်။ ဥတ္တမံ၊ လောက အားလုံး၌ အမြတ်ဆုံးသော မင်္ဂလာကြီး ဖြစ်တော်မူပေ၏။ ဧတံ မင်္ဂလံ၊ ဤဘုရား တရား သံဃာ မင်္ဂလာကို။ အာဂမ္မ၊ ကိုးကွယ်သမှု အစွဲပြု၍။ သတ္တာ၊ နတ်လူ ဗြဟ္မာ သတ္တဝါတို့သည်။ သဗ္ဗပါပါ– သဗ္ဗပါပေဟိ၊ ခပ်သိမ်းသော အယုတ်တမာ မိစ္ဆာဓမ္မ ဟူသမျှတို့မှ။ ပမုစ္စရေ–ပမုစ္စန္တိ၊ ကင်းလွတ်ကြရကုန်၏။

၅။ ခေါ၊ စင်စစ်။ ဧတံ သရဏံ၊ ဤဘုရား တရား သံဃာ ကိုးကွယ်ရာ သုံးပါးသည်သာလျှင်။ ခေမံ၊ ဘေးရန်ကင်းကွာ ကိုးကွယ်ရာအစစ် ဖြစ်ကြီးဖြစ် တော်မူပေ၏။ ဧတံ သရဏံ၊ ဤဘုရား တရား သံဃာ ကိုးကွယ်ရာ သုံးပါး သည်သာလျှင်။ ဥတ္တမံ၊ လောကအားလုံး၌ အမြတ်ဆုံးသော ကိုးကွယ်ရာကြီး ဖြစ်တော်မူပေ၏။ ဧတံ သရဏံ၊ ဤဘုရား တရား သံဃာ ကိုးကွယ်ရာ သုံးပါး ကို။ အာဂမ္မ၊ ကိုးကွယ်သမှု အစွဲပြု၍။ သတ္တာ။ နတ်လူဗြဟ္မာ သတ္တဝါတို့သည်။ သဗ္ဗဒုက္ခာ–သဗ္ဗဒုက္ခေဟိ၊ ခပ်သိမ်းသော ဒုက္ခအပေါင်းတို့မှ။ ပမုစ္စရေ–ပမုစ္စန္တိ၊ ကင်းလွတ်ကြရကုန်၏။

၆။ ခေါ၊ စင်စစ်။ ဧတံ ရတနံ၊ ဤဘုရား တရား သံဃာ ရတနာသုံးပါးသည် သာလျှင်။ ခေမံ၊ ဘေးရန်ကင်းရာ ရတနာစစ် ဖြစ်ကြီးဖြစ်တော်မူပေ၏။ ဧတံ ရတနံ၊ ဤဘုရား တရား သံဃာ ရတနာသုံးပါးသည်သာလျှင်။ ဥတ္တမံ၊ လူ့ရပ် နတ်ရွာ ရတနာအားလုံးတို့ထက် အမြတ်ဆုံးသော ရတနာ ဖြစ်တော်

မူပေ၏။ ဧတံ ရတနံ၊ ဤဘုရား တရား သံဃာ ရတနာသုံးပါးကို။ အာဂမ္မ၊ ကိုးကွယ်သမှု အစွဲပြု၍။ သတ္တာ၊ နတ်လူဗြဟ္မာ သတ္တဝါတို့သည်။ သဗ္ဗဒေါသာ-သဗ္ဗဒေါသေဟိ၊ ခပ်သိမ်းသော အပြစ်ဒေါသ ဟူသမျှတို့မှ။ ပမုစ္စရေ-ပမုစ္စန္တိ၊ ကင်းလွတ်ကြရကုန်၏။

ဤ ၆-ဂါထာ တို့ကို အနုဿတိဘာဝနာကိုစွန့် ကုသိုလ်ဖြစ် ရွတ်ဆိုသော အခါ၌ သာယာစွာ ရွတ်ဆိုရသည်။ အန္တရာယ်ရှိ၍ အန္တရာယ်ကင်းရန် ရွတ်ဆို သောအခါ၌ စိတ်မာန်တင်းတင်းနှင့် ပြင်းထန်စွာ ရွတ်ဆိုရသည်။

အိပ်ရာဝင်လျှင် နေ့စဉ် သက်စေ့ရွတ်၍ သားငယ်သမီးငယ်ရှိသော မိဘ များသည် သားငယ်သမီးငယ်များအတွက် ပို၍ ရွတ်ဆိုသင့်ကြောင်း လယ်တီ ဆရာတော်ကြီး အထူးအမိန့်ရှိတော်မူသည်။

ဤ ဂါထာများကို ရွတ်ဖတ် ပူဇော်ခြင်းဖြင့် ပကတိအနာရောဂါများ ကင်းလွတ်ရုံမျှမက မိမိတို့သန္တာန်မှာရှိသော ကိလေသာအနာရောဂါဆိုးများပါ ကင်းပျောက်၍ မဂ် ဖိုလ် နိဗ္ဗာန်အထိ မျက်မှောက်ပြုနိုင်သည်။ သို့ဖြစ်၍ ယုံကြည်စွာ အမြဲရွတ်ဖတ်ပူဇော်သင့်ကြသည်။

**၃၄။ ရန်သူမမြင်နိုင်သောဂါထာ (ကိုယ်ပျောက်ဂါထာ)**

> ဘဝေ ဝါဟံ ဘယံ ဒိသွာ၊ ဘဝဉ္စ ဝိဘဝေသိနံ။
> ဘဝံ နာဘိဝဒိံ ကိဉ္စိ၊ နန္ဒိံ စ န ဥပါဒိယိံ။

အဟံ၊ ငါဘုရားသည်။ ဘဝေ၊ ဘဝတည်းဟူသော သံသရာထောင်အကျဉ်း၌။ ဘယံ၊ ဘေးအပေါင်းကို။ ဒိသွာ ဝေ၊ သိမြင်တော်မူခြင်းကြောင့်သာလျှင်။ ဘဝဉ္စ၊ ဘဝကိုလည်းကောင်း။ ဝိဘဝေသိနံ၊ ဘဝကင်းရာ ရှာနေကြသည့် သတ္တဝါအပေါင်းကိုလည်းကောင်း။ ဒိသွာ၊ သိမြင်တော်မူသည်ဖြစ်၍။ ကိဉ္စိ ဘဝံ၊ တစုံတခုသော ဘဝကို။ နာဘိဝဒိံ၊ လိုချင်တောင့်တတော်မမူပေ။ နန္ဒိံ စ၊ ဘဝတဏှာကိုလည်း။ န ဥပါဒိယိံ၊ စွဲလမ်းတော်မမူခဲ့ပေ။

ဤဂါထာသည် ဗကဗြဟ္မာကြီးချွတ်ခန်း၌ မြတ်စွာဘုရား ဟောကြားတော် မူသော ဂါထာ ဖြစ်သည်။ ဗြဟ္မာကြီးနှင့် မြတ်စွာဘုရားတို့ တန်ခိုးပြိုင်သည့် အနေဖြင့် တလှည့်စီ ကိုယ်ဖျောက်ကြသည်။ ဗြဟ္မာကြီး ကိုယ်ဖျောက်သမျှ ဘုရားရှင်မြင်တော်မူသည်။ ဘုရားရှင် ကိုယ်ဖျောက်တော်မူသည့် အလှည့်တွင် ဗြဟ္မာကြီး မတွေ့မမြင်နိုင်ဘဲ ရှိသည်။ ဘုရားရှင် တခြားသို့ ကြွသွားလေ သလားဟု ဗြဟ္မာကြီး ထင်မည်စိုး၍ အနီးအနားမှာပင် ရှိတော်မူကြောင်း အသံ

ပြုသည့် သဘောဖြင့် ဤ"ဘဝေ ဝါယံ"စသော ဂါထာကို ဟောကြားတော်မူသည်။ ဤဖြစ်ရပ်ကို အကြောင်းပြု၍ ဝတ်ရွတ်စဉ်စာအုပ်များ၌ ကိုယ်ပျောက်ဂါထာဟု အမည်ပေးကြသည်။

စင်စစ်အားဖြင့် ဤဂါထာ၏ ဆိုလိုရင်း အဓိပ္ပါယ်မှာ ဘဝတွေ မှန်သမျှ ဘေးဒုက္ခအန္တရာယ်တွေနှင့် ရောပြွမ်းနေသည်။ ထို့ကြောင့် ငါဘုရားသည် ဘဝဆိုလျှင် မည်သည့်ဘဝကိုမှ မတွယ်တာ မတပ်မက်ဘူး မစွဲလမ်းဘူးဟု ဆိုလိုပါသည်။

သို့ဖြစ်၍ ဤဂါထာ၏ မူရင်းဇာတ်ကြောင်းနှင့် ဆိုလိုရင်းအနက်အဓိပ္ပါယ်ကို အာရုံပြုပြီး ရွတ်ဖတ်ပူဇော်ပါက ကိုယ်ပျောက်ရုံ၊ ရန်သူမမြင်နိုင်ရုံမက သံသရာ၌ အမျိုးမျိုး ကျင်လည်ရသည့် ဘဝဟူသမျှကို အပြစ်မြင်ကာ ဘဝဝဋ်ဒုက္ခအပေါင်းမှ လွတ်မြောက်၍ နိဗ္ဗာန်သို့ ဆိုက်ရောက်နိုင်သည်အထိ အကျိုးထူးများ ခံစားကြရပါလိမ့်မည်။

## ၃၅။ အန္တရာယ်ကင်းဂါထာ

ဇိနော အဘေဇ္ဇကာယောပိ၊ နတ္ထိ လောဟိတသူဒနံ။
တဒေဝ ဝစနံ သစ္စံ၊ ဝန္ဒေတံ လောကနာယကံ။
တေန သစ္စေန ပုညေန၊ ဟောတု မေ ဇယမင်္ဂလံ။

ဇိနော၊ ငါးမာရ်အောင်မြင် ဘုရားရှင်သည်။ အဘေဇ္ဇကာယောပိ၊ မကွဲမပြတ်နိုင်သော ကိုယ်ခန္ဓာ ရှိတော်မူ၏။ လောဟိတသူဒနံ၊ မြတ်စွာဘုရား၏ ကိုယ်တော်မှ ထွက်သောသွေး ယိုစီးခြင်းသည်။ နတ္ထိ၊ လုံးဝမရှိပေ။ တဒေဝ ဝစနံ၊ ထိုဆိုခဲ့ပြီးသော စကားသည်သာလျှင်။ သစ္စံ၊ မှန်၏။ တံ လောကနာယကံ၊ ထိုမြတ်စွာဘုရားကို။ အဟံ၊ အကျွန်ုပ်သည်။ ဝန္ဒေ၊ ရှိခိုးပါ၏။ တေန သစ္စေန၊ ထိုသို့ဆိုထား သစ္စာစကားကြောင့်လည်းကောင်း။ တေန ပုညေန၊ ရှိခိုးပြုရာ ထိုကောင်းမှုကြောင့်လည်းကောင်း။ မေ၊ အကျွန်ုပ်အား။ ဇယမင်္ဂလံ၊ အောင်ခြင်းမင်္ဂလာသည်။ ဟောတု၊ မုချမသွေ ဖြစ်ပါစေသတည်း။

ဤဂါထာသည် မြတ်စွာဘုရားကိုယ်ခန္ဓာတော်ကို မည်သူမျှမဖောက်ခွဲမဖျက်ဆီးနိုင်ပုံ မှန်ကန်ကြောင်း သစ္စာဆို၍ အရာရာအောင်မြင်ရန် ဆုတောင်းသောဂါထာဖြစ်သည်။ ရွှေတိဂုံစေတီတော်ကြီး၏ ကြေးစလောင်းတွင် ရေးထိုးထားသည်ဟုလည်း မှတ်တမ်းများအရ သိရသည်။ အရာခပ်သိမ်း အောင်မြင်လိုသူများ အမြဲရွတ်သင့်သော ဂါထာဖြစ်သည်။ ကာယသိဒ္ဓိပြီးလိုသူများ

အထူးရွှတ်ဖတ်ပွားများခဲ့ကြောင်း ရှေးလူကြီးသူမတို့ အစဉ်အဆက် ပြောဆိုခဲ့ကြသည်။ ဘုရားရှင်ဂုဏ်တော်ကို ဖွဲ့ဆိုထားသော ဂါထာဖြစ်၍ စွဲမြဲစွာရွှတ်ဖတ်ပူဇော်ပါက အကန့်အသတ် မရှိ ထူးခြားသော အကျိုးကျေးဇူးများ ရရှိနိုင်သည်။

၃၆။ အသက်အန္တရာယ်ကင်းဂါထာ

> တိဋ္ဌေယျ အန္တဝဿမှိ၊ ဇယုဿဝေါ သမာပန္နော။
>
> တဒေဝ ဝစနံ သစ္စံ၊ ဝန္ဒေတံ လောကနာယကံ။
>
> တေန သစ္စေန ပုညေန၊ ဟောတု မေ ဇယမင်္ဂလံ။

ဇယုဿဝေါ၊ အတွင်းအပ နှစ်ဌာန၌ လုံးဝကုန်စင် အောင်ပန်းဆင်တော်မူပြီးသောသော။ သမာပန္နော၊ နေ့စဉ်မပြတ် သမာပတ်ကို ဝင်စားတော်မူနိုင်သော မြတ်စွာဘုရားသည်။ အန္တဝဿမှိ၊ သက်တော်တွက်စစ် ခုနစ်ကာလ အဆုံးကျအောင်။ တိဋ္ဌေယျ၊ တည်နေတော်မူနိုင်ပါပေ၏၊

တဒေဝ ဝစနံ၊ ထိုစကားသည်သာလျှင်။ သစ္စံ၊ မှန်ကန်ပါပေ၏။ တံ လောကနာယကံ၊ လောကသုံးပါး၏ အကြီးအမှူးဖြစ်တော်မူသော ထိုမြတ်စွာဘုရားကို။ အဟံ၊ အကျွန်ုပ်သည်။ ဝန္ဒေ-ဝန္ဒာမိ၊ ရှိခိုးပါ၏။ တေန သစ္စေန၊ ထိုသို့ဆိုထား သစ္စာစကားကြောင့်လည်းကောင်း။ တေန ပုညေန စ၊ ထိုသို့ ရှိခိုးပူဇော် မြတ်ကောင်းမှုကြောင့် လည်းကောင်း။ မေ၊ တပည့်တော်အား။ ဇယမင်္ဂလံ၊ အောင်ခြင်းမင်္ဂလာသည်။ ဟောတု၊ ဖြစ်ပါစေသတည်း။

ဤဂါထာသည် အတွင်းရန် အပြင်ရန်ကို အောင်မြင်တော်မူပြီးသော မြတ်စွာဘုရားသည် သမာပတ် ဝင်စားတော်မူလျက် အာယုကပ်ပတ်လုံး တည်နေတော်မူနိုင်ပုံကို သစ္စာပြု၍ အသက်အန္တရာယ်ကင်းရန် ဆုတောင်းသော ဂါထာဖြစ်သည်

မြတ်စွာဘုရားရှင်တို့မည်သည် ဘုရားရှင်ဗိုဒ္ဓိမဏ္ဍာ၏ ထုံးစံအရ သက်တမ်း ၅-ပုံပုံ ၄-ပုံအထိသာ အသက်ရှည်တော်မူကြ၏။ အလိုရှိက အာယုကပ်ပတ်လုံး နေတော်မူနိုင်ကြသည်။ ဤအချိန်ကာလအတွင်း မည်သည့်အန္တရာယ်မျှ မရှိဘဲ တည်နေတော်မူနိုင်ကြသည်။

ဤဂါထာတော်ကို ရွှေတိဂုံစေတီတော်ကြီး ထီးတော်ကြေးစလောင်း၌ ရေးထိုးထားသည်ဟု မှတ်တမ်းများအရ သိရသည်။ အနည်းဆုံး တစ်နေ့ ၃-ကြိမ် ရွတ်ဖတ်ပူဇော်ပါက ဥပဒ္ဒဝေဒကကံမှ လွတ်မြောက်နိုင်သည်။ လိုရာကိစ္စ အဝဝ ပြီးပြည့်စုံနိုင်သည်။ သို့ဖြစ်၍ အသက်ရှည်ပြီး အန္တရာယ်ကင်းရှင်းစွာ နေထိုင်ရန်အတွက် အမြဲရွတ်ဖတ်ပူဇော်သင့်ကြသည်။

၃၇။ ဘီလူး ပြေးသောဂါထာ

သုဝဏ္ဏဘူမိံ ဂန္တွာန၊ သောဏုတ္တရာ မဟိဒ္ဓိကာ။
ပိသာစေ နိဒ္ဓမိတွာန၊ ဗြဟ္မဇာလမဒေသယုံ။

မဟိဒ္ဓိကာ၊ ကြီးသောတန်ခိုးရှိကုန်သော။ သောဏုတ္တရာ၊ အရှင်သောဏ အရှင်ဥတ္တရတို့သည်။ သုဝဏ္ဏဘူမိံ ၊ သုဝဏ္ဏဘူမိအရပ်သို့၊ ဂန္တွာန၊ ကြွတော်မူကြ၍။ ဗြဟ္မဇာလံ၊ ဗြဟ္မဇာလသုတ်ကို။ အဒေသယုံ၊ ဟောကြားတော်မူကြလေကုန်ပြီ။

ဤဂါထာသည် တန်ခိုးကြီးမားသော ရဟန္တာအရှင်သောဏနှင့် အရှင်ဥတ္တရတို့ သုဝဏ္ဏဘူမိသို့ ကြွတော်မူကြ၍ ဘီလူးသဘက်များ ထွက်ပြေးစေပြီးနောက် ဗြဟ္မဇာလသုတ် ဟောကြားတော်မူခဲ့ပုံကို ဖော်ပြသောဂါထာ ဖြစ်သည်။

ဤဂါထာကို ရွတ်ဖတ်ပူဇော်၍ သဲ ရေကို ကိုင်ကာ မန်းပြီး မိမိတို့ နေရာအိမ်ဝင်း ကျောင်းဝင်း ပတ်လည်ပတ်ဝိုင်း၌ ပက်ဖျန်းပါက မကောင်းဆိုးဝါးများ မကပ်ရောက်နိုင်။ အရှင်သောဏနှင့် အရှင်ဥတ္တရ ရဟန္တာအရှင်မြတ်ကြီး ၂-ပါးတို့၏ ဂုဏ်ကို အာရုံပြု၍ ဤဂါထာကို ယုံကြည်စွာ ရွတ်ဖတ်ပါက ဘီလူးသရဲ သဘက်အန္တရာယ်မှ ကင်းနိုင်သည်။

၃၈။ သံ ဂ-ချက်ဂါထာ

သံသာရစက္ကဝိဒ္ဓံသံ၊ သံသုဒ္ဓမဿ ဩရသံ။
သံဆိန္နကံ ဘဝေ အာသံ၊ သံသံ အပိ သုမာနသံ။

သံသာရစက္ကဝိဒ္ဓံသံ၊ သံသရာစက်ကို ချိုးဖျက်တော်မူပြီးထသော။ သံသုဒ္ဓံ၊ အဝိဇ္ဇာအမှောင်ကင်းသဖြင့် ဖြူဝင်းစင်ကြယ်သော စိတ်ရှိထသော။ အဿ၊ ထိုဘုရားရှင်၏။ ဩရသံ၊ သဒ္ဓမ္မ ဘာဏ္ဍာဘာခေါ် ရုပ်ရွေးတော်အစစ် ဖြစ်တော်မူထသော။ ဘဝေ၊ သုံးဆယ့်တစ်ဘုံ ဘဝရပ်၌။ အာသံ၊ ခင်မင်တွယ်တာ တဏှာ ကရုးကို၊ သံဆိန္နကံ၊ ကောင်းကောင်းကြီး တော်လှန်ဖြတ်တောက်တော်မူပြီး

ထသော။ သုမာနသံ၊ ရှင်ကြည်အေးမြ ကောင်းမွန်လှသော ရွှေနှလုံးရှိတော်မူထသော။ သံဃံ အပ်၊ အရိယာရှစ်ဖော် သံဃာတော်မြတ်ကိုလည်း။ အဟံ၊ တပည့်တော်(တပည့်တော်မ)သည်။ ဝန္ဒာမိ၊ ညွှတ်နူးကြည်သာ ထိပ်ပါးဖြာဖြင့် ကြည်စွာရှိကျိုး ရှိခိုးပါ၏ဘုရား။

ဤဂါထာသည် မြတ်စွာဘုရား၏ တန်ခိုးရှင်နှစ် ဖြစ်သော တပည့်သားသာဝက အရိယာသံဃာတော်များကို ရှိခိုး ပူဇော်သော ဂါထာ ဖြစ်သည်။ ဝတ်ရွတ်စဉ်စာအုပ်များ၌ "မိုးကြိုးကွင်းဂါထာ"ဟု ဆိုကြသည်။

ဤဂါထာကို ရွတ်ဖတ် ပူဇော်ခြင်းဖြင့် သရဲသဘက်များ အန္တရာယ်မှ ကင်းသည်။ အပြိုင်အဆိုင်များကိုနိုင်သည်။ လာဘ်ရွှင်သည်။အနည်းဆုံး တစ်နေ့ သုံးခေါက်ရွတ်လျှင် အလွန်ကောင်းသည်။ မိုးကြိုးကွင်းသည်ဟု ရှေးဆရာ အစဉ်အဆက်တို့ မှတ်တမ်းတင်ခဲ့ကြသည်။

ဤဂါထာသည် အရိယာရှစ်ဖော် အမြတ်ဆုံး သံဃာတော်၏ ဂုဏ်တော်ကို ထုတ်ဖော်ရွတ်ဆိုပူဇော်ခြင်းဖြစ်၍ အတိုင်းမသိ အမြတ်ဆုံးသော အကျိုးကို ရရှိနိုင်သည်။ သို့ဖြစ်၍ သံဃာ့ဂုဏ်တော်ကို အာရုံပြုကာ အမြဲရွတ်ဖတ် ပူဇော်သင့်ကြသည်။

## ၃၉။ စမကြီး လေးလုံး ဂါထာ

စက္ခုမာစရမာစိဏ္ဏော၊ ဓမ္မညူ ဓမ္မသာမိကော။
ဗလူပေတော ဗလမရော၊ ဝရဒေါ ဒေတု မေ ဝရံ။

စက္ခုမာ၊ မံသပညာ နှစ်ဖြာသော စက္ခုနှင့် ပြည့်စုံတော်မူထသော။ စရံ၊ စရဏတရား တစ်ဆယ့်ငါးပါးကို။ အာစိဏ္ဏော၊ အမြဲမပြတ် လေ့ကျင့်တော်မူအပ်ပြီးထသော။ ဓမ္မညူ၊ တရားအားလုံး သိမ်းကျုံးသိမြင်တော်မူပြီးထသော။ ဓမ္မသာမိကော၊ တရားပိုင်ရှင် ဖြစ်တော်မူပေထသော။ ဗလူပေတော၊ ဉာဏ်တော်အင်အား ဆယ်ပါးနှင့်လည်း ပြည့်စုံတော်မူပေထသော။ ဗလမရော၊ ကိုယ်တော်အင်အား ဆယ်ပါးကိုလည်း ဆောင်တော်မူထသော။ ဝရဒေါ၊ မြင့်မြတ်သမှု နိဗ္ဗာန်ဆုကိုလည်း ပေးတော်မူတတ်သော မြတ်စွာဘုရားသည်။ မေ၊ အကျွန်ုပ်အား။ ဝရံ၊ ကောင်းကျိုးစုစု မြတ်သောဆုကို။ ဒေတု၊ လျင်စွာမနှေး ပေးသနားတော်မူပါအရှင်ဘုရား။

ဤဂါထာသည် ဘုရားဂုဏ်တော်များကို ဖွဲ့ဆိုထားပြီး ထိုဂုဏ်တော် အပေါင်းနှင့်ပြည့်စုံသော ဘုရားရှင်အား ကောင်းမြတ်သောဆုကို ပေးသနားရန် လျှောက်ထားသော ဂါထာ ဖြစ်သည်။ "စက္ခုမာ၊ ခမ္မညူ၊ ဗလူပေတော၊ ဝရဒေါ" ဟူသော ဂါထာ ၄-ပါဒ၏ အစ... ပါရှိသော အက္ခရာလေးလုံးကို ကောက်ယူ၍ "စ-ခ-ဗ-ဝ" ဂါထာဟု အတိုကောက် ခေါ်ကြသည်။

ဤဂါထာကို ရွတ်ဖတ်ပူဇော်ခြင်းဖြင့် လောကီသိဒ္ဓိအမျိုးမျိုး ရစေနိုင်သည်။ နေ့စဉ် ရွတ်ဖတ် ပူဇော်ပါက လောကီရေးရာ ကိစ္စမျိုး၌ လည်းကောင်း၊ လောကုတ္တရာရေးရာ ကိစ္စများ၌ လည်းကောင်း အလွန် အကျိုးများသည်။ အခေါက် တစ်ထောင်ရွတ်ပြီး ပုတီးစိပ်ပါက အန္တရာယ်ကင်းသည်။ စီးပွား လာဘ်လာဘ တိုးတက်သည်။ ကြံသမျှ အောင်၍ လုပ်သမျှကိစ္စ ပြီးစီးသည်ဟု ရှေးဆရာ အစဉ်အဆက်တို့ ပြောဆိုမှတ်တမ်းတင်ခဲ့ကြသည်။

ဤဂါထာသည် လောကဓာတ်တခုလုံး အသာဆုံး အမြတ်ဆုံးဖြစ်သော မြတ်စွာဘုရား၏ ဂုဏ်တော်ကို ထုတ်ဖော်ရွတ်ဆိုခြင်းဖြစ်၍ အကန့်အသတ် အတိုင်းအဆမရှိ အသာဆုံး အမြတ်ဆုံးသော အကျိုးကို ရရှိပြီး မဂ်ဖိုလ် နိဗ္ဗာန်အထိ အဆင့်ဆင့်သော အကျိုးထူးကို ရရှိနိုင်သည်။

## ၄၀။ "ဧ" ကိုးချက်ဂါထာ

ဧကစိတ္တံ ဝိစိန္တေတွာ၊ ဧကမ္ဗံ သုနိဿတိ။
သေတော သေမော လောကေ၊ ဧကရာဇာတိ ပါကဋော။

သေတိ သမ္မာသမ္ဗုဒ္ဓံ၊ သေတိ ဓမ္မမုတ္တမံ။
သေတိ မဂ္ဂမဂ္ဂယုံ၊ သေတိ ပန တေ နမော။

သေတော၊ နိဗ္ဗာန်ရောက်ကြောင်း တရားကို ရှာမှီးတတ်သော သူအား။ သေမော လောကေ၊ ရှာမှီးအပ်သော သဘောရှိသော လောကဓာတ်တခွင်လုံး၌။ ဧကရာဇာတိ၊ ပြိုင်သူဘက်ကင်း တစ်ဆူတည်းသော မင်းဟူ၍။ ပါကဋော၊ ထင်ရှား ကျော်ကြားတော်မူသော။ ယော၊ အကြင် မြတ်စွာဘုရားသည်။ ဧကစိတ္တံ၊ တစ်ခုတည်းသော ကောင်းမြတ်သော အကြံအစည်ကို။ ဝိစိန္တေတွာ၊ ကြံစည်တော်မူပြီး၍။ ဧကမ္ဗံ၊ နိဗ္ဗာန်ရောက်ကြောင်း တရားကောင်းတစ်ခုကို သာလျှင်။ သုနိဿတိ၊ ကောင်းစွာညွှန်ပြ ဆုံးမတော်မူ၏။

တံ သမ္မာသမ္ဗုဒ္ဓံ၊ ထိုမြတ်စွာဘုရားကို။ ယော၊ အကြင်သူသည်။ သေတိ၊ ရှာမှီး၏။ ဓမ္မံ၊ ဘုရားဟောဖော် တရားတော်ကို။ သေတိ၊ ရှာမှီး၏။ ဥတ္တမံ၊ ဘုရား၏ ကပည့်မြတ်ကို။ သေတိ၊ ရှာမှီး၏။ ဥဂ္ဂယုံ၊ စွဲမြဲသမူ အာရုံပြု၍။ ပဂ္ဂံ၊

နိဗ္ဗာန်ဈောက်ခန်း ခရီးလမ်းကို။ ဒေသတိ၊ ရှာမှီး၏။ ဒေသေတာ၊ ထိုထိုအရာကို ရှာမှီးတော်မူသော။ တေ၊ ရှင်တော်ဘုရားအား။ နမော၊ သက္ကစ္စ ရိုကျိုး ထပည့်တော်၏ ရှိခိုးခြင်းသည်။ အတ္ထု၊ ဖြစ်ပါစေသတည်း။

ဤဂါထာသည် ရှေးပညာရှိကြီးများ "ဧ" ကိုးချက်ပါအောင် စီထားသော ဂါထာဖြစ်သည်။ ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးကို ရှာမှီး၍ ကိုးကွယ် ဆည်းကပ်ပုံကို ဖော်ပြသော ဂါထာ ဖြစ်သည်။

ဤဂါထာကို ရွတ်ဖတ်ပူဇော်ခြင်းဖြင့် ဉာဏ်ပညာ တိုးပွားသည်။ မှတ်ဉာဏ် ကောင်းသည်။ ပေးကမ်းချီးမြှောက်လိုသူများနှင့် အမြဲ တွေ့ဆုံတတ်သည်။ ကောင်းသော စကားကို အမြဲကြားရတတ်သည်။ ကောင်းသော အိပ်မက်ကို အမြဲ မြင်မက်ရတတ်သည်၊ လာဘ်လာဘ ရွှင်သည်။ လောကီ လောကုတ္တရာ နှစ်ဖြာလုံးအတွက် ကောင်းကျိုးများသည်ဟု ဆရာ အစဉ်အဆက် မှတ်သား ပြောဆိုခဲ့ကြသည်။

ဤဂါထာသည် ဘုရား တရား သံဃာ ရတနာသုံးပါးကို ရှာမှီး၍ ရှိခိုးပူဇော် ကန်တော့ပုံကို ဖော်ပြထားသော ဂါထာဖြစ်၍ ယုံကြည်စွဲမြဲစွာ ရွတ်ဖတ် ပူဇော်ပါက ဖော်ပြခဲ့ပြီးသော အကျိုးတရားများထက် သာလွန် မြင့်မြတ်သော အကျိုးတရားကို ကေန်ရရှိနိုင်သည်။

## ၄၁။ မနောမယိဒ္ဓိဂါထာ

၁။ အနေကာသတာ သမ္ဗုဒ္ဓါ၊ ဥပ္ပန္နာ ဘယနာသကာ။
မမံ သီသေ ပတိဋ္ဌန္တု၊ ရက္ခန္တု တေ မမံ သဒါ။

၂။ သုခါဝဟံ သတံ ဓမ္မာ၊ တိဋ္ဌန္တု ဟဒယေ မမံ။
အမ္ဟေ တေ ပါလယန္တု၊ သုခံ ဒေန္တု မမံ သဒါ။

၃။ သမ္ဗုဒ္ဓါနံ အရဟန္တာ၊ တေဇဝန္တော တတော တတော။
တေ မေ အံသေ ပတိဋ္ဌန္တု၊ ပါလယန္တု မမံ သဒါ။

၁။ အနေကာသတာ၊ ရေတွက်မရ များပြားလှကုန်သော။ ဘယနာသကာ၊ ဘေးရန်အပေါင်း ဖျက်ဆီးတော်မူတတ်ကုန်သော။ သမ္ဗုဒ္ဓါ၊ ဘုရားရှင်တို့သည်။ ဥပ္ပန္နာ၊ ပွင့်တော်မူကြလေကုန်ပြီ။ တေ၊ ထိုဘုန်းတော်သခင် ဘုရားရှင်တို့သည်။ မမံ၊ အကျွန်ုပ်၏။ သီသေ၊ ဦးခေါင်းရတနာ မြတ်အင်္ဂါ၌။ ပတိဋ္ဌန္တု၊ တည်နေ

တော်မူကြပါစေကုန်သတည်း။ ဧတေ၊ ထိုဘုန်းတော်သခင် ဘုရားရှင်တို့သည်။ မယှံ၊ အကျွန်ုပ်ကို။ သဒါ၊ အခါခပ်သိမ်း။ ရက္ခန္တု၊ အန္တရာယ်ဘေး ကင်းစင်ဝေးအောင် စောင့်ရှောက်တော်မူကြပါစေကုန်သတည်း။

၂။ သုခါဝဟံ၊ ချမ်းသာကို ဆောင်တတ်ကုန်သော။ သတံ၊ ဘုရားအစရှိသော အရိယာသူတော်ကောင်းတို့၏။ ဓမ္မာ၊ မဂ်ဖိုလ်နိဗ္ဗာန် ဓမ္မက္ခန်ဟု ဆယ်တန်သော တရားတော်မြတ်တို့သည်။ မမံ၊ အကျွန်ုပ်၏။ ဟဒယေ၊ စိတ်နှလုံး၌။ တိဋ္ဌန္တု၊ တည်နေတော်မူကြပါစေကုန်သတည်း။ ဧတေ၊ ထိုတရားတော်တို့သည်။ အမှေ၊ အကျွန်ုပ်တို့ကို။ ပါလယန္တု၊ ဘေးရန်ကင်းပျောက် ချမ်းသာရောက်အောင် စောင့်ရှောက်တော်မူကြပါစေကုန်သတည်း။ သဒါ၊ အခါခပ်သိမ်း။ မမံ၊ အကျွန်ုပ်အား။ သုခံ၊ ချမ်းသာကို။ ဒေန္တု၊ ပေးသနားတော်မူကြပါစေကုန်သတည်း။

၃။ သမ္ဗုဒ္ဓါနံ၊ ဘုရားရှင်တို့၏။ တေဇဝန္တော၊ ဘုန်းတန်ခိုးတေဇော်အာနုဘော် ရှိကြကုန်သော။ အရဟန္တာ၊ ရွှေရင်တော်နှစ် သားတော်စစ်ဖြစ်ကြသော ရဟန္တာအရှင်မြတ်တို့သည်။ တတော တတော၊ ထိုထိုအရပ်မျက်နှာတို့၌။ သန္တိ၊ ထင်ရှားရှိတော်မူကြကုန်၏။ တေ၊ ထိုရဟန္တာသခင် အရှင်မြတ်တို့သည်။ မေ၊ အကျွန်ုပ်၏။ အံသေ၊ ဝဲယာနှစ်ဖက် ပခုံးထက်၌။ တိဋ္ဌန္တု၊ တည်နေတော်မူကြပါစေကုန်သတည်း။ သဒါ၊ အခါခပ်သိမ်း။ မမံ၊ အကျွန်ုပ်ကို။ ပါလယန္တု၊ ဘေးရန်ကင်းပျောက် ချမ်းသာရောက်အောင် စောင့်ရှောက်တော်မူကြပါစေကုန်သတည်း။

ဤဂါထာများသည် ဘုရား တရား သံဃာ ရတနာသုံးပါးပွဲသည် မိမိတို့၏ ကိုယ်ခန္ဓာ အစိတ်အပိုင်းတို့၌ ကိန်းဝပ်စံပယ်တော်မူကြ၍ ဘေးရန်အန္တရာယ် ကင်းအောင် စောင့်ရှောက်တော်မူကြပါရန် လျှောက်ထားသော ဂါထာများဖြစ်သည်။

ဤဂါထာများကို ရွတ်ဖတ်ပူဇော်သူတိုင်း စိတ်အလို ပြီးစီးသောကြောင့် "မနောမယိဒ္ဓိဂါထာများ" ဟု ခေါ်သည်။ သာလွန် မင်းတရားကြီး၏ ဆရာ သာသနာပိုင် သံဃရာဇာ ဖြစ်တော်မူသည့် တောင်ဖီလာ ဆရာတော်ဘုရားကြီးသည် နေထွက် မှန်းတည့် နေဝင် တစ်နေ့ သုံးကြိမ် အမြဲရွတ်ဖတ်တော်မူသော ဂါထာများ ဖြစ်သည်။ ဘေးအန္တရာယ် အထူးကင်းရှင်းသည်။

ဂါထာများ၏ ဆိုလိုရင်း အနက်အဓိပ္ပာယ်များကို အာရုံပြု ဆင်ခြင်၍ လေးလေးစားစား ရွတ်ဖတ်ပူဇော်ပါက အစိန္တေယျဂုဏ်နှင့် ပြည့်စုံသော ရတနာသုံးပါးအား ပူဇော်ပြီး ဖြစ်၍ မကြံစည်အပ် မကြံစည်နိုင်သော အကျိုးထူးများကို ရရှိနိုင်သည်။ ယုံကြည်စွာ ရွတ်ဖတ်ပူဇော်ကြပါလေ။

## ၄၂။ သဗ္ဗသိဒ္ဓိဂါထာ

၁။ သဗ္ဗေ ဒေဝါ စ ယက္ခာ စ၊ ဘူတာ ပေတာ စ ဇောဂနီ။
ရာဇာမတ္တာ မနုဿာ စ၊ သဗ္ဗေ ဒေဝါ ဝိနာမေန္တု။

၂။ ဒိသွာဝ ပိယတော စိတ္တံ၊ ပုတ္တောဝ သိနေဟံ မမ။
ဗုဒ္ဓဿ အာနုဘာဝေန၊ သဒါ ဟောန္တု ပိယာ မမ။

၁။ သဗ္ဗေ၊ ခပ်သိမ်းကုန်သော။ ဒေဝါ စ၊ နတ်တို့သည် လည်းကောင်း။ ယက္ခာ စ၊ ဘီလူးတို့သည်လည်းကောင်း။ ဘူတာ ပေတာ စ၊ ဖုတ် ပြိတ္တာတို့သည်လည်းကောင်း။ ဇောဂနီ၊ စုန်းကဝေ ဇောဂနီ တို့သည်လည်းကောင်း။ ရာဇာမတ္တာ စ၊ မင်း မင်းအမတ်တို့သည်လည်းကောင်း။ မနုဿာ စ၊ လူတို့သည် လည်းကောင်း။ သဗ္ဗေ၊ ခပ်သိမ်းကုန်သော။ ဒေဝါ စ၊ နတ်တို့သည် လည်းကောင်း။ (မမ၊ အကျွန်ုပ်ထံသို့။) ဝိနာမေန္တု၊ ညွတ်ကြစေကုန်သတည်း။

၂။ (တေသံ၊ ထိုပုဂ္ဂိုလ်တို့၏။) စိတ္တံ၊ စိတ်သည်။ ပိယတော၊ ချစ်သော အားဖြင့်။ ဒိသွာဝ၊ ကြည့်၍သာလျှင်။ မမ၊ အကျွန်ုပ်အား။ ပုတ္တောဝ၊ သား ကဲ့သို့။ သိနေဟံ၊ ချစ်ခြင်းကို။ (ကရောန္တု၊ ပြုကြပါစေကုန်သတည်း။) ဗုဒ္ဓဿ၊ မြတ်စွာဘုရား၏။ အာနုဘာဝေန၊ တန်ခိုးရှိန်စော် အာနုဘော်တော်ကြောင့်။ မမ၊ အကျွန်ုပ်အား။ သဒါ၊ အခါခပ်သိမ်း။ ပိယာ၊ ချစ်မြတ်နိုးကြကုန်သည်။ ဟောန္တု၊ ဖြစ်ကြပါစေကုန်သတည်း။

ဤဂါထာများသည် "နတ်ဘီလူး ဖုတ် ပြိတ္တာ စုန်းကဝေများနှင့် ရှင်ဘုရင်၊ မှူးမတ်၊ တိုင်းသူပြည်သား လူအများတို့သည် လေးလေးစားစား စိတ်ညွတ် ကြ၍ မြင်လျှင်မြင်ချင်း သားအရင်းကဲ့သို့ ချစ်ခင်ကြပါစေ၊ ဘုရားရှင်၏ တန်ခိုး ရှိန်စော် အာနုဘော်တော်ကြောင့် အခါခပ်သိမ်း အကျွန်ုပ်အပေါ် ချစ်ခင် ကြပါစေ"ဟု ဘုရားဂုဏ်တော်ကို အာရုံပြု၍ အားလုံး၏ ချစ်ခင်မှုကို ခံယူ နိုင်ရန် မေတ္တာတောင်းခံသော ဂါထာများ ဖြစ်သည်။

ဘုရားရှင်၏ ဂုဏ်တော်များကို အာရုံပြု၍ ဤဂါထာများကို လေးလေးစားစား ယုံကြည်စွာ ရွတ်ဖတ်ပါက လူနတ်အားလုံး၏ ချစ်ခင်မြတ်နိုးမှုအပြင် အရာခပ်သိမ်း ပြီးစီးအောင်မြင်နိုင်သည်၊ ထို့ကြောင့် ဤဂါထာကို "သဗ္ဗသိဒ္ဓိ ဂါထာ"ဟု ရှေးဆရာတို့အမည်ပေးခဲ့ကြသည်။

### ၄၃။ ဣစ္ဆန္တောဂါထာ

ဣစ္ဆန္တော သာသပဂမ္ဘော၊ စက်ီမတိ ဣတော စိတော။

ဣစ္ဆန္တော လောကဓာတုမှို၊ အတ္တဘာဝေန ဆာဒယေ။

ဘဂဝါ၊ မြတ်စွာဘုန်းတော်သခင် ရှင်တော်မြတ်ဘုရားသည်။ ဣစ္ဆန္တော၊ သေးငယ်လေဟန် ပုံသဏ္ဌာန်သွင်း ဖန်ဆင်းတော်မူလိုသည် ရှိသော်။ သာသပဂမ္ဘော၊ သေးငယ်သိမ်မွေ့ မုန်ညင်းစေ့အတွင်း၌။ ဣတော စိတော၊ တုံပြန်ကိုကြ လှည့်လည်တော်မူလျက်လည်း။ စက်ီမတိ၊ ပရိက္ခရာရှစ်တန် ကိုယ်လုံးရံ၍ စင်္ကြံ ကြွသွားတော်မူနိုင်ပါပေ၏။ ဣစ္ဆန္တော၊ ကြီးမားလေဟန် ပုံသဏ္ဌာန်သွင်း ဖန်ဆင်းတော်မူလိုသည် ရှိသော်။ မလောကဓာတုမှို၊ စကြဝဠာ ကမ္ဘာစဆုံး တစ်ခုလုံး၌။ အတ္တဘာဝေန၊ ကြီးမားမြင့်မော် ရွှေကိုယ်တော်ဖြင့်။ ဆာဒယေ၊ အကုန်သိမ်းကျုံး လွှမ်းဖုံးတော်မူနိုင်ပါပေ၏။

ဤဂါထာသည် ဘုရားရှင်၏ ဘုန်းတန်ခိုးတော်ကြီးမားပုံ၊ တန်ခိုးတော်ကို အလိုရှိသလို ပြုစီမံနိုင်ပုံကို ဖော်ပြသော ဂါထာဖြစ်သည်။ ဘုရားရှင်သည် မည်သူတစ်ဦးတစ်ယောက်မျှ တုမရအောင် ကြီးမားသော ဘုန်းတန်ခိုးပိုင်ရှင် ဖြစ်တော်မူသည်။ အလိုရှိတော်မူ၍ ကိုယ်ကို အသေးငယ်ဆုံး ဖန်ဆင်းလိုလျှင် မုန်ညင်းစေ့လေး အတွင်း၌ ပရိက္ခရာရှစ်ပါးကို လွယ်၍ ခေါက်တုံ့ခေါက်ပြန် စင်္ကြံလျှောက်တော်မူနိုင်သည်အထိ သေးငယ်အောင် ဖန်ဆင်းတော်မူနိုင်သည်။ ကြီးမားသော ပုံသဏ္ဌာန်ဖန်ဆင်းလိုပြန်လျှင်လည်း စကြဝဠာ ကမ္ဘာလောကကြီး တစ်ခုလုံး ကိုယ်တော်ဖြင့် ဖုံးလွှမ်းနိုင်သည်အထိ ကြီးမားအောင် ဖန်ဆင်းတော်မူနိုင်သည်။

ဤဂါထာကို နေ့စဉ်မပြတ် ရွတ်ဖတ်ပူဇော်ခြင်းဖြင့် မိမိ အား မကောင်းကြံသူတို့ ဘေးမှ ကင်းဝေးသည်။ အိမ်နှင့်တကွ ဝင်းခြံကို လုံခြုံစေသည်။ မီးဘေး, ရောဂါဘေးတို့မှ ကင်းဝေးသည်။ မကောင်းသော အိပ်မက်နှင့် အတိတ်ဆိုး, နိမိတ်ဆိုးများကို ပြေပျောက်စေသည်။ ရန်သူများ ရှာဖွေ၍ မတွေ့နိုင်အောင် လုံခြုံသော အကာအကွယ်ကို ရရှိစေနိုင်သည်ဟု ရှေးဆရာ အစဉ်အဆက်တို့ ပြောဆို မှတ်တမ်းတင်ခဲ့ကြသည်။

ဤဂါထာသည် ဘုရားရှင်၏ ဘုန်းတန်ခိုးတော် အတုမရှိ ကြီးမားတော်မူပုံ၊ တန်ခိုးတော်ကို အလိုရှိသလို ပြုလုပ်ဖန်ဆင်းနိုင်ပုံကို ဖော်ပြထားသော ဂါထာဖြစ်ရာ ဘုရားရှင်၏ ဘုန်းတန်ခိုးတော်ကြီးမားပုံကို အာရုံပြု၍ လေးလေးစားစား ရွတ်ဆိုပူဇော်ပါက ကောင်းမြတ်သော အလိုဆန္ဒဟူသမျှ ပြည့်ဝ အောင်မြင်နိုင်သည်။ မိမိတို့အမှန်မြတ်ဆုံးအလိုရှိအပ်သော မဂ် ဖိုလ် နိဗ္ဗာန်အထိ အကျိုးကျေးဇူးပြုနိုင်သည်။

၄၄။ ဣစ္ဆိတဂါထာတော်

အဂ္ဂေါ ဗုဒ္ဓေါ အဂ္ဂေါ ဓမ္မော၊ အဂ္ဂေါ သံဃော အနုတ္တရော။
အဂ္ဂေါ စ ဝိပါကော ဟောတိ၊ ယံ ယံ ဣစ္ဆာ သမိဇ္ဈတု။

ဗုဒ္ဓေါ၊ မြတ်စွာဘုရားသည်။ အနုတ္တရော အဂ္ဂေါ၊ အတုမရှိ အမြတ်ဆုံး ဖြစ်တော်မူပါပေ၏။ ဓမ္မော၊ မဂ်ဖိုလ်နိဗ္ဗာန် ဓမ္မက္ခန်ဟု ဆယ်တန်သော တရားတော်မြတ်သည်။ အနုတ္တရော အဂ္ဂေါ၊ အတုမရှိ အမြတ်ဆုံး ဖြစ်တော်မူပါပေ၏။ သံဃော၊ အရိယာရှစ်ဖော် သံဃာတော်အပေါင်းသည်။ အနုတ္တရော အဂ္ဂေါ၊ အတုမရှိ အမြတ်ဆုံး ဖြစ်တော်မူပါပေ၏။ (အဂ္ဂေ၊ အမြတ်ဆုံး ဘုရား, တရား, သံဃာရတနာ၌။ ပသန္နာနံ၊ ကြည်ညိုဆည်းကပ်ကြသူတို့အား။) ဝိပါကော စ၊ အကျိုးသည်လည်း။ အဂ္ဂေါ၊ အမြတ်ဆုံးသည်။ ဟောတိ၊ ဖြစ်ပါပေ၏။ ယံ ယံ ဣစ္ဆာ၊ အကြင်အကြင် လိုလားမှု ဟူသမျှသည်။ သမိဇ္ဈတု၊ ပြည့်စုံပါစေသတည်း။

ဤဂါထာသည် အမြတ်ဆုံးဖြစ်သော ဘုရားရတနာ, တရားရတနာ, သံဃာရတနာကို ကိုးကွယ် ဆည်းကပ်ကြသူတို့အား အမြတ်ဆုံးသော အကျိုးကို ပေးနိုင်ကြောင်း ဖွဲ့ဆိုထားသော ဂါထာ ဖြစ်သည်။

ဤဂါထာကို ရွတ်ဖတ်ပူဇော်ခြင်းဖြင့် ကျရောက်မည့် ဘေးအန္တရာယ် အပေါင်းမှ ကာကွယ် စောင့်ရှောက်နိုင်သည်။ ကောင်းမြတ်သော လိုအင်ဆန္ဒကို ပြည့်ဝစေနိုင်သည်ဟု ရှေးလူကြီးသူမတို့ အစဉ်အဆက် ပြောဆို မှတ်သား ခဲ့ကြသည်။ သို့ဖြစ်၍ လောကီကိစ္စ လောကုတ္တရာကိစ္စ ဟူသမျှတို့၌ အမြတ်ဆုံး အသာဆုံးသော အကျိုးကို လိုလားသူများ အမြဲ ရွတ်ဖတ်ပူဇော်သင့်ကြသည်။

## ၄၅။ ထွတ်ခေါင်ဆရာတော်ဘုရားကြီး၏ ရန်အောင်မြင်ဂါထာတော်

၁။ ဗုဒ္ဓေါ မေ ရက္ခတု နိစ္စံ၊ ဓမ္မော မေ ရက္ခတု သဒါ။
သံဃော မေ ရက္ခတု ဒိနေ၊ သုခီ ဒီဃာယုကော ဘဝ။

၂။ မာရာဠဝကနာဠာဂြိ ၊ အင်္ဂုလိ စိဉ္စသစ္စကံ။
နန္ဒောပနန္ဒဗြဟ္မဉ္စ၊ ဇယော ဇယတု မင်္ဂလံ။

၁။ ဗုဒ္ဓေါ၊ မြတ်စွာဘုရားသည်။ မေ၊ အကျွန်ုပ်အား။ နိစ္စံ၊ အမြဲမပြတ်။ ရက္ခတု၊ စောင့်ရှောက်တော်မူပါစေသတည်း။ ဓမ္မော၊ မဂ်ဖိုလ်နိဗ္ဗာန် ဆယ်တန်သောတရားတော်မြတ်သည်။ မေ၊ အကျွန်ုပ်အား။ သဒါ၊ အခါခပ်သိမ်း။ ရက္ခတု၊ စောင့်ရှောက်တော်မူပါစေသတည်း။ သံဃော၊ သမ္မုတိ, အရိယာ နှစ်ဖြာသော သံဃာတော်အပေါင်းသည်။ မေ၊ အကျွန်ုပ်အား။ ဒိနေ၊ နေ့တိုင်း။ ရက္ခတု၊ စောင့်ရှောက်တော်မူပါစေသတည်း။ အဟံ၊ အကျွန်ုပ်သည်။ သုခီ၊ ချမ်းသာခြင်းရှိသည်။ ဒီဃာယုကော၊ အသက်ရှည်ခြင်းရှိသည်။ ဘဝ-ဘဝါမိ၊ ဖြစ်ရပါလို၏။

၂။ မုနိန္ဒော၊ မြတ်စွာဘုရားသည်။ မာရာဠဝကနာဠာဂြိ ၊ မာရ်နတ်မင်း, အာဠဝကဘီလူး, နာဠာဂိရိဆင်ကိုလည်းကောင်း။ အင်္ဂုလိ ၊ အင်္ဂုလိမာလကိုလည်းကောင်း။ စိဉ္စသစ္စကဉ္စ၊ စိဉ္စမာဏဝိကာနှင့် သစ္စကပရိဗိုဇ်ကိုလည်းကောင်း။နန္ဒောပနန္ဒဗြဟ္မဉ္စ၊နန္ဒောပနန္ဒနဂါးမင်းနှင့်ဗကဗြဟ္မာကိုလည်းကောင်း။ ဇေယျာ၊ အောင်မြင်ခြင်းသည်။ (ဟောတိ ယထာ၊ ဖြစ်သကဲ့သို့။) တထာ၊ ထို့အတူ။ မေ၊ အကျွန်ုပ်အား။ မင်္ဂလံ၊ အောင်ရာအောင်ကြောင်း မင်္ဂလာအပေါင်းသည်။ ဇယတု၊ အောင်မြင်ပြီးစီးပါစေသတည်း။

ဤဂါထာသည် ထွတ်ခေါင်ဆရာတော်ဘုရားကြီး ရွတ်ဖတ်သရဇ္ဈာယ်တော်မူသော ဂါထာတော်ကြီးဖြစ်သည်။ ဤဂါထာများကို ရွတ်ဖတ် ပူဇော်ခြင်းဖြင့် အောင်မြင်မှုအမျိုးမျိုး လက်တွေ့ခံစားရသည်။ ရန်အမျိုးမျိုး အောင်နိုင်သည်။

## ၄၆။ ဇလွန်ပြည်တော်ပြန် မြတ်စွာဘုရားကြီး၏ စမ္မခဏ်ဂါထာတော်

ဣတိပိ ပိဋကတ္တယံ အနိစ္စံ၊ ဒုက္ခံ၊ အနတ္တံ။
သတ္တဗောဇ္ဈင်္ဂါ အဋ္ဌင်္ဂိကော မဂ္ဂေါ စတုပဋ္ဌာနံ၊
သဗ္ဗညု ဣန္ဒော သဟဿသူရိယော။
ဩြောင်း နမော မေတ္တာနံ၊ ရာဇဘယံ၊ စောရဘယံ၊
ဥဒကဘယံ၊ အဂ္ဂိဘယံ၊ သတ္တုဘယံ၊ သဗ္ဗဘယံ၊
ဇယော ဇယတု မင်္ဂလံ၊ အနိစ္စံ သင်္ခတံ ပဋိစ္စသမုပ္ပန္နံ၊
ခယဓမ္မံ ဝယဓမ္မံ ဝိရာဂဓမ္မံ နိရောဓဓမ္မံ ပဏ္ဍိတာ ခမန္တိ။

ဝိဠ္ဌကာဌ္ဌာယီး သိမ္မာ:ခဏ္ဍေးမုံသည့်။ ဣဟုဟိပိ ဣမိနာ စ ကာရဏေန၊ ဤသို့ ဖြစ်ခြင်း ပျက်ခြင်း သဘောရှိသောအကြောင်းကြောင့်လည်း။ အနိစ္စံ၊ အနိစ္စ မည်၏။ ဣတိပိ ဣမိနာ စ ကာရဏေန၊ ဤသို့ မပြတ်နှိပ်စက်ခြင်း သဘောရှိသော အကြောင်းကြောင့်လည်း။ ဒုက္ခံ၊ ဒုက္ခမည်၏။ ဣတိပိ ဣမိနာ စ ကာရဏေန၊ ဤသို့ မိမိအလိုသို့ မလိုက်ခြင်းသဘောရှိသော အကြောင်းကြောင့်လည်း။ အနတ္တံ၊ အနတ္တမည်၏။

သတ္တဓဗောဇ္ဈင်္ဂါ၊ ခုနစ်ပါးသော ဗောဇ္ဈင်တို့သည်လည်းကောင်း။ အဋ္ဌင်္ဂိကော၊ အင်္ဂါရှစ်ပါးရှိသော။ မဂ္ဂေါ၊ မဂ်သည်လည်းကောင်း။ စတုပဋ္ဌာနံ၊ အာရမ္မဏ ဥပနိဿယ ကမ္မ အတ္ထိ ပစ္စည်းဟူသော လေးပါးသော ပဋ္ဌာန်းသည်လည်း ကောင်း။ သဗ္ဗဿ၊ အလုံးစုံသော တရားအပေါင်းကို။ ဉာတ္တော၊ အစိုးရသော မြတ်စွာဘုရားသည်လည်းကောင်း။ သဟဿသူရိယော၊ ရောင်ခြည်တစ်ထောင် ဆောင်သော နေမင်းသည်လည်းကောင်း။ ဣတိပိ ဣမိနာ စ ကာရဏေန၊ ဤသို့ဖြစ်ခြင်း ပျက်ခြင်းဟသော သဘောရှိသော အကြောင်းကြောင်လည်း ကောင်း။ အနိစ္စံ၊ အနိစ္စမည်၏။ ဒုက္ခံ၊ ဒုက္ခမည်၏။ အနတ္တံ၊ အနတ္တမည်၏။

မြေသြာင်း၊ အထူးသဖြင့် မြင်တော်မူကုန်သော။ မေတ္တာနံ၊ မေတ္တာအရှင် ဖြစ်တော်မူကုန်သော ဘုရားရှင်တို့အား။ နမော၊ ရှိခိုးပါ၏။ တေသံ၊ ထိုဘုရား ရှင်တို့၏။ အာနုဘာဝေန၊ အာနုဘော်တော်အားဖြင့်။ ရာဇဘယံ၊ မင်းဘေးကို လည်းကောင်း။ စောရဘယံ၊ ခိုးသူဘေးကိုလည်းကောင်း။ ဥဒကဘယံ၊ ရေဘေးကိုလည်းကောင်း။ အဂ္ဂိဘယံ၊ မီးဘေးကိုလည်းကောင်း။ သတ္ထဘယံ၊ ဓားလက်နက်ဘေးကိုလည်းကောင်း။ သဗ္ဗဘယံ၊ အလုံးစုံသော ဘေးကိုလည်း ကောင်း။ ဇေယျော၊ အောင်မြင်နိုင်သည်။ ဟောတု၊ ဖြစ်ပါစေသတည်း။ မင်္ဂလံ၊ ကုသိုလ်မင်္ဂလာ ဟူသမျှသည်။ ဇယတု၊ အောင်မြင်ပါစေသတည်း။

ပဋိစ္စသမုပ္ပန္နံ၊ အကြောင်းတရားကို စွဲ၍ ဖြစ်သော အကျိုးတရားသည်။ သင်္ခတံ၊ ကံ,စိတ်,ဥတု,အာဟာရ တည်းဟူသော အကြောင်းတရားလေးပါး တို့သည် ပေါင်း၍ ပြုပြင်အပ်သည် ဖြစ်၍။ အနိစ္စံ၊ အမြဲမရှိ။ ခယဓမ္မံ၊ ကုန်ခြင်း သဘောရှိ၏။ ဝယဓမ္မံ၊ ပျက်ခြင်းသဘောရှိ၏။ တသ္မာ၊ ထို့ကြောင့်။ ဝိရာဂဓမ္မံ၊ ရာဂကင်းခြင်းသဘောရှိသော။ နိရောဓဓမ္မံ၊ ချုပ်ငြိမ်းခြင်း သဘောရှိသော နိဗ္ဗာန်ကို။ ပဏ္ဍိတာ၊ ပညာရှိတို့သည်။ ခမန္တိ၊ နှစ်သက်မြတ်နိုးတော်မူကြပါပေ ကုန်၏ဘုရား။

ဤဂါထာတော်ကြီးကို နေ့စဉ်မပြတ် ရွတ်ဖတ်ပူဇော်ခြင်းဖြင့် အတွင်းရန် အပြင်ရန်များ ကင်းစင် ပပျောက်ခြင်း၊ သူတပါးတို့ မကောင်းမကြံစည် နိုင်ခြင်း၊ မိမိတောင့်တသောဆုကို ရရှိနိုင်ခြင်း၊ အိမ်သူအိမ်သားများနှင့် မကွဲ

မကျွာနေရခြင်း၊ မိမိနေလိုသော အရပ်ဒေသများ၌သာ နေထိုင်ရခြင်း၊ ဘုန်းတန်ခိုးကြီးခြင်း၊လာဘ်လာဘပေါခြင်း၊ ရန်အောင်မြင်ခြင်းစသောအကျိုးများကို လက်တွေ့ခံစားရသည်ဟု ရှေးလူကြီးသူမတို့ အစဉ်အဆက် ပြောဆိုမှတ်တမ်းတင်ခဲ့ကြသည်။ ပါဠိသက်သက် နေ့စဉ် ရွတ်ဖတ် ပူဇော်ရုံမျှဖြင့် ထူးဆန်းသော ဒကောင်းကျိုးဟူသမျှကို ပေးစွမ်းနိုင်သော ဂါထာတော်ကြီးဖြစ်သည်။

## ၄၇။ ဆဒိသာပါလသုတ်

၁။ ဧဝံ မေ သုတံ– ဧကံ သမယံ ဘဂဝါ ရာဇဂဟေ ဝိဟရတိ ဂိဇ္ဈကူဋေ ပဗ္ဗတေ။ တေန ခေါ ပန သမယေန ဘဂဝါ ဘိက္ခူ အာမန္တေသိ—

၂။ ပုရတ္ထိမသ္မိံ ခေါ ပန ဘိက္ခဝေ ဒိသာဘာဂေ စတ္တာရော ယက္ခာ မဟာယက္ခာ အာဓိပတေယျာ စ ဟောန္တိ၊ သေယျထိဒံ? သာတာဂိရော စ ဟေမဝတော စ ပုဏ္ဏကော စ ဂုတ္တိယော စ၊ ဧတေ စတ္တာရော ယက္ခာ မဟာယက္ခာ ဗုဒ္ဓေ ပသန္နာ, ဓမ္မေ ပသန္နာ, သံဃေ ပသန္နာ၊ ဗုဒ္ဓေ သဂါရဝါ, ဓမ္မေ သဂါရဝါ, သံဃေ သဂါရဝါ၊ တမဟံ ဝဒါမိ သာတာဂိရဉ္စ ဟေမဝတဉ္စ ပုဏ္ဏကဉ္စ ဂုတ္တိယဉ္စ၊ ဣမံ ရက္ခံ သံဝိဒဟန္တု၊ မာ မံ ကောစိ ကိဉ္စိ ဝိဟေဌေသိ မနုဿော ဝါ အမနုဿော ဝါ ဂစ္ဆန္တံ ဝါ ဌိတံ ဝါ နိသိန္နံ ဝါ နိပန္နံ ဝါ သုတ္တံ ဝါ ဇာဂရန္တံ ဝါ ပမတ္တံ ဝါ၊ ရတ္တိံ ဝါ ဒိဝါ ဝါ သဒါ တံ တံ ရက္ခန္တု ဒေဝတာ။

၃။ ဒက္ခိဏသ္မိံ ခေါ ပန ဘိက္ခဝေ ဒိသာဘာဂေ စတ္တာရော ယက္ခာ မဟာယက္ခာ အာဓိပတေယျာ စ ဟောန္တိ၊ သေယျထိဒံ? ကာလော စ ဥပကာလော စ ဗိမ္ဗော စ ဗိမ္ဗသေနော စ၊ ဧတေ စတ္တာရော ယက္ခာ မဟာယက္ခာ ဗုဒ္ဓေ ပသန္နာ, ဓမ္မေ ပသန္နာ, သံဃေ ပသန္နာ၊ ဗုဒ္ဓေ သဂါရဝါ, ဓမ္မေ သဂါရဝါ, သံဃေ သဂါရဝါ၊ တမဟံ ဝဒါမိ ကာလဉ္စ ဥပကာလဉ္စ ဗိမ္ဗဉ္စ ဗိမ္ဗသေနဉ္စ၊ ဣမံ ရက္ခံ သံဝိဒဟန္တု၊ မာ မံ ကောစိ ကိဉ္စိ ဝိဟေဌေသိ မနုဿော ဝါ အမနုဿော ဝါ ဂစ္ဆန္တံ ဝါ ဌိတံ ဝါ နိသိန္နံ ဝါ နိပန္နံ ဝါ သုတ္တံ ဝါ ဇာဂရန္တံ ဝါ ပမတ္တံ ဝါ၊ ရတ္တိံ ဝါ ဒိဝါ ဝါ သဒါ တံ တံ ရက္ခန္တု ဒေဝတာ။

၄။ ပစ္ဆိမသ္မိံ ခေါ ပန ဘိက္ခဝေ ဒိသာဘာဂေ စတ္တာရော ယက္ခာ မဟာယက္ခာ အာဓိပတေယျာ စ ဟောန္တိ၊ သေယျထိဒံ? ဟာရိရော စ ဟာရဟာရိရော စ ပါပေါ စ ပိင်္ဂလော စ၊ ဧတေ စတ္တာရော ယက္ခာ မဟာယက္ခာ ဗုဒ္ဓေ ပသန္နာ, ဓမ္မေ ပသန္နာ, သံဃေ ပသန္နာ၊ ဗုဒ္ဓေ သဂါရဝါ, ဓမ္မေ သဂါရဝါ, သံဃေ သဂါရဝါ၊ တမဟံ ဝဒါမိ ဟာရိရဉ္စ ဟာရဟာရိရဉ္စ ပါပဉ္စ ပိင်္ဂလဉ္စ၊ ဣမံ ရက္ခံ

သံဝိဒဟန္တု၊ မာ မံ ကောစိ ကိဉ္စိ ဝိဟေဌေသိ မနုဿော ဝါ အမနုဿော ဝါ ဂစ္ဆန္တံ ဝါ ဌိတံ ဝါ နိသိန္နံ ဝါ နိပန္နံ ဝါ သုတ္တံ ဝါ ဇာဂရန္တံ ဝါ ပမတ္တံ ဝါ၊ ရတ္တိံ ဝါ ဒိဝါ ဝါ သဒါ တံ တံ ရက္ခန္တု ဒေဝတာ။

၅။ ဥတ္တရာယံ ဒိသာယံ ခေါ ပန ဘိက္ခဝေ ဒိသာဘာဂေ စတ္တာရော ယက္ခာ၊ မဟာယက္ခာ အာဓိပတေယျာ စ ဟောန္တိ၊ သေယျထိဒံ? သံဃော စ သံဃုလိမော စ သုသုရော စ ဥဂ္ဂတေဇော စ၊ ဧတေ စတ္တာရော ယက္ခာ မဟာယက္ခာ ဗုဒ္ဓေ ပသန္နာ, ဓမ္မေ ပသန္နာ, သံဃေ ပသန္နာ၊ ဗုဒ္ဓေ သဂါရဝါ, ဓမ္မေ သဂါရဝါ, သံဃေ သဂါရဝါ၊ တမဟံ ဝဒါမိ သံဃဉ္စ သံဃုလိမဉ္စ သုသုရဉ္စ ဥဂ္ဂတေဇဉ္စ၊ တုမှေ ရက္ခံ သံဝိဒဟန္တု၊ မာ မံ ကောစိ ကိဉ္စိ ဝိဟေဌေသိ မနုဿော ဝါ အမနုဿော ဝါ ဂစ္ဆန္တံ ဝါ ဌိတံ ဝါ နိသိန္နံ ဝါ နိပန္နံ ဝါ သုတ္တံ ဝါ ဇာဂရန္တံ ဝါ ပမတ္တံ ဝါ၊ ရတ္တိံ ဝါ ဒိဝါ ဝါ သဒါ တံ တံ ရက္ခန္တု ဒေဝတာ။

၆။ ဟေဋ္ဌိမာယံ ဒိသာယံ ခေါ ပန ဘိက္ခဝေ ဒိသာဘာဂေ စတ္တာရော ယက္ခာ မဟာယက္ခာ အာဓိပတေယျာ စ ဟောန္တိ၊ သေယျထိဒံ? ဓရဏ္ဍော စ ဓတရဋ္ဌော စ သေဋ္ဌော စ ကမ္ဗလသေဋ္ဌော စ၊ ဧတေ စတ္တာရော ယက္ခာ မဟာယက္ခာ ဗုဒ္ဓေ ပသန္နာ, ဓမ္မေ ပသန္နာ, သံဃေ ပသန္နာ၊ ဗုဒ္ဓေ သဂါရဝါ, ဓမ္မေ သဂါရဝါ, သံဃေ သဂါရဝါ၊ တမဟံ ဝဒါမိ ဓရဏ္ဍဉ္စ ဓတရဋ္ဌဉ္စ သေဋ္ဌဉ္စ ကမ္ဗလသေဋ္ဌဉ္စ၊ တုမှေ ရက္ခံ သံဝိဒဟန္တု၊ မာ မံ ကောစိ ကိဉ္စိ ဝိဟေဌေသိ မနုဿော ဝါ အမနုဿော ဝါ ဂစ္ဆန္တံ ဝါ ဌိတံ ဝါ နိသိန္နံ ဝါ နိပန္နံ ဝါ သုတ္တံ ဝါ ဇာဂရန္တံ ဝါ ပမတ္တံ ဝါ၊ ရတ္တိံ ဝါ ဒိဝါ ဝါ သဒါ တံ တံ ရက္ခန္တု ဒေဝတာ။

၇။ ဥပရိမာယံ ဒိသာယံ ခေါ ပန ဘိက္ခဝေ ဒိသာဘာဂေ စတ္တာရော ယက္ခာ မဟာယက္ခာ အာဓိပတေယျာ စ ဟောန္တိ၊ သေယျထိဒံ? စန္ဒော စ သူရိယော စ တုန္ဒော စ ဖြဟ္မာ စ၊ ဧတေ စတ္တာရော ယက္ခာ မဟာယက္ခာ ဗုဒ္ဓေ ပသန္နာ, ဓမ္မေ ပသန္နာ, သံဃေ ပသန္နာ၊ ဗုဒ္ဓေ သဂါရဝါ, ဓမ္မေ သဂါရဝါ, သံဃေ သဂါရဝါ၊ တမဟံ ဝဒါမိ စန္ဒဉ္စ သူရိယဉ္စ တုန္ဒဉ္စ ဖြဟ္မဉ္စ၊ တုမှေ ရက္ခံ သံဝိဒဟန္တု၊ မာ မံ ကောစိ ကိဉ္စိ ဝိဟေဌေသိ မနုဿော ဝါ အမနုဿော ဝါ ဂစ္ဆန္တံ ဝါ ဌိတံ ဝါ နိသိန္နံ ဝါ နိပန္နံ ဝါ သုတ္တံ ဝါ ဇာဂရန္တံ ဝါ ပမတ္တံ ဝါ၊ ရတ္တိံ ဝါ ဒိဝါ ဝါ သဒါ တံ တံ ရက္ခန္တု ဒေဝတာ။

၁။ အာယသ္မန္တော၊ အရှင်မြတ်တို့။ တုမှံ၊ သင်ဒိသာပါလသုတ်ကို။ မေ မယာ၊ အကျွန်ုပ်အားနန္တာသည်။ ဧဝံ၊ ဤသို့။ သုတံ၊ ကြားအပ်၏။ ဧကံ၊ တပါးသော။ သမယံ၊ အခါ၌။ ဘဂဝါ၊ မြတ်စွာဘုရားသည်။ ရာဇဂဟေ၊

ရာဇဂြိုဟ်ပြည်၌။ ဂိဇ္ဈကူဋေ ပဗ္ဗတေ၊ ဂိဇ္ဈကုဋ်တောင်၌။ ဝိဟရတိ၊ နေတော်မူ၏။ တေန ခေါ ပန သမယေန၊ ထိုသို့ သီတင်းသုံးနေတော်မူသောအခါ၌။ ဘဂဝါ၊ မြတ်စွာဘုရားသည်။ ဘိက္ခူ၊ ရဟန်းတို့ကို။ တေ ဝစနံ၊ ဤဆိုလတ္တံ့သော စကားကို။ အဝေါစ၊ မိန့်တော်မူ၏—

၂။ ဘိက္ခဝေ၊ ရဟန်းတို့။ ပုရတ္ထိမသ္မိံ ခေါ ပန ဒိသာဘာဂေ၊ အရှေ့မျက်နှာအရပ်အဖို့၌။ ဌိတာ၊ တည်ကုန်သော။ မဟာယက္ခာ၊ နတ်မြတ်ဖြစ်ကုန်သော။ အာဓိပတေယျာ၊ အကြီးအမှူးဖြစ်ကုန်သော။ စတ္တာရော ယက္ခာ၊ နတ်မင်းကြီး လေးဦးတို့သည်။ ဟောန္တိ၊ ရှိကုန်၏။ ဣဒံ၊ ဤနတ်မင်းတို့ဟူသည်။ သေယျထာ ကတမေ၊ အဘယ်သည်တို့နည်း။ သာတာဂိရော စ၊ သာတာဂိရိနတ်မင်းသည်းကောင်း။ ဟေမဝတော စ၊ ဟေမဝတနတ်မင်းလည်းကောင်း။ ပုဏ္ဏကော စ၊ ပုဏ္ဏကနတ်မင်းလည်းကောင်း။ ဂုတ္တိယော စ၊ ဂုတ္တိယနတ်မင်းလည်းကောင်း။ ဣတိ၊ ဤသို့။ စတ္တာရော၊ လေးယောက်ကုန်သော။ ဧတေ မဟာယက္ခာ၊ ထိုနတ်မင်းကြီးတို့သည်။ ဗုဒ္ဓေ၊ မြတ်စွာဘုရား၌။ ပသန္နာ၊ ကြည်ညိုကုန်၏။ ဓမ္မေ၊ တရားတော်၌။ ပသန္နာ၊ ကြည်ညိုကုန်၏။ သံဃေ၊ သံဃာတော်၌။ ပသန္နာ၊ ကြည်ညိုကုန်၏။ ဗုဒ္ဓေ၊ မြတ်စွာဘုရား၌။ သဂါရဝါ၊ ရိုသေခြင်းရှိကုန်၏။ ဓမ္မေ၊ တရားတော်၌။ သဂါရဝါ၊ ရိုသေခြင်းရှိကုန်၏။ သံဃေ၊ သံဃာတော်၌။ သဂါရဝါ၊ ရိုသေခြင်းရှိကုန်၏။ အဟံ၊ ငါဘုရားသည်။ တံ တာဒိသံ၊ ထိုသို့ သဘောရှိသော။ သာတာဂိရိဥ္စ၊ သာတာဂိရိနတ်မင်းကိုသည်းကောင်း။ ဟေမဝတဥ္စ၊ ဟေမဝတ နတ်မင်းကိုလည်းကောင်း။ ပုဏ္ဏကဥ္စ၊ ပုဏ္ဏကနတ်မင်းကိုလည်းကောင်း။ ဂုတ္တိယဥ္စ၊ ဂုတ္တိယ နတ်မင်းကိုသည်းကောင်း။ ဝဒါမိ၊ မိန့်တော်မူ၏။ တုမှေ၊ သင်နတ်မင်းတို့သည်။ ဣမံ ရက္ခံ၊ ဤအစောင့်အရှောက်ကို။ သံဝိဒဟန္တု၊ ကောင်းစွာ စီရင်ကြကုန်လော့။ မံ၊ ငါ့ကို။ ကောစိ၊ တစုံတယောက်သော။ မနုဿော ဝါ၊ လူသည်လည်းကောင်း။ အမနုဿော ဝါ၊ ဘီလူးသည်လည်းကောင်း (ဝါ) လူမှတပါးသော သတ္တဝါသည်လည်းကောင်း။ ဂစ္ဆန္တံ ဝါ၊ သွားသော်လည်းကောင်း။ ဌိတံ ဝါ၊ ရပ်သော်လည်းကောင်း။ နိသိန္နံ ဝါ၊ ထိုင်သော်လည်းကောင်း။ နိပန္နံ ဝါ၊လျောင်းသော်လည်းကောင်း။သုတ္တံ ဝါ၊အိပ်ပျော်သော်လည်းကောင်း။ ဇာဂရန္တံ ဝါ၊ နိုးကြားသော်လည်းကောင်း။ ပမတ္တံ ဝါ၊ မေ့လျော့သော်လည်းကောင်း။ ရတ္တိံ ဝါ၊ ညဉ့်၌သော်လည်းကောင်း။ ဒိဝါ ဝါ၊ နေ့၌သော်လည်းကောင်း။ သဒါ၊ အခါခပ်သိမ်း။ ကိဥ္စိ၊ စိုးစဉ်းမျှ၊ မာ ဝိဟေဌေသိ၊ မနှိပ်စက် မညှဉ်းဆဲပါစေလင့်။ ဒေဝတာ၊ နတ်အပေါင်းတို့သည်။ တံ တံ၊ ထိုထိုသို့သော ရန်သူအပေါင်းကို။ ရက္ခန္တု၊ စောင့်ကြကုန်လော့။

၃။ ဘိက္ခဝေ၊ ရဟန်းတို့။ ဒက္ခိဏသို့ ခေါ် ပန ဒိသာဘာဂေ၊ တောင်မျက်နှာအရပ်အဖို့၌။ ဌိတာ၊ တည်ကုန်သော။ မဟာယက္ခာ၊ နတ်မြတ်ဖြစ်ကုန်သော။ အာဓိပတေယျာ၊ အကြီးအမှူး ဖြစ်ကုန်သော။ စတ္တာရော ယက္ခာ၊ နတ်မင်းကြီးလေးဦးတို့သည်။ ဟောန္တိ၊ ရှိကုန်၏။ ဣဒံ၊ ဤနတ်မင်းတို့ဟူသည်။ သေယျထာ ကတမေ၊ အဘယ်သည်တို့နည်း။ ကာလော စ၊ ကာလနတ်မင်းလည်းကောင်း။ ဥပကာလော စ၊ ဥပကာလနတ်မင်းလည်းကောင်း။ ဗိမ္ဗော စ၊ ဗိမ္ဗနတ်မင်းလည်းကောင်း၊ ဗိမ္ဗသေနော စ၊ ဗိမ္ဗသေနနတ်မင်းလည်းကောင်း။ ဣတိ၊ ဤသို့။ စတ္တာရော၊ လေးယောက်ကုန်သော။ တေ မဟာယက္ခာ၊ ထိုနတ်မင်းကြီးတို့သည်။ ဗုဒ္ဓေ၊ မြတ်စွာဘုရား၌။ ပသန္နာ၊ ကြည်ညိုကုန်၏။ ဓမ္မေ၊ တရားတော်၌။ ပသန္နာ၊ ကြည်ညိုကုန်၏။ သံဃေ၊ သံဃာတော်၌။ ပသန္နာ၊ ကြည်ညိုကုန်၏။ ဗုဒ္ဓေ၊ မြတ်စွာဘုရား၌။ သဂါရဝါ၊ ရိုသေခြင်းရှိကုန်၏။ ဓမ္မေ၊ တရားတော်၌။ သဂါရဝါ၊ ရိုသေခြင်းရှိကုန်၏။ သံဃေ၊ သံဃာတော်၌။ သဂါရဝါ၊ ရိုသေခြင်းရှိကုန်၏။ အဟံ၊ ငါဘုရားသည်။ တံ တာဒိသံ၊ ထိုသို့ သဘောရှိသော။ ကာလဉ္စ၊ ကာလနတ်မင်းကိုလည်းကောင်း။ ဥပကာလဉ္စ၊ ဥပကာလနတ်မင်းကိုလည်းကောင်း။ ဗိမ္ဗဉ္စ၊ ဗိမ္ဗနတ်မင်းကိုလည်းကောင်း။ ဗိမ္ဗသေနဉ္စ၊ ဗိမ္ဗသေနနတ်မင်းကိုလည်းကောင်း။ ဝဒါမိ။ မိန့်တော်မူ၏။ တုမှေ၊ သင်နတ်မင်းတို့သည်။ ဣမံ ရက္ခံ၊ ဤအစောင့်အရှောက်ကို။ သံဝိဒဟန္တု၊ ကောင်းစွာစီရင်ကြကုန်လော့။ မံ၊ ငါ့ကို။ ကောစိ၊ တစုံတယောက်သော။ မနုဿော ဝါ၊ လူသည်လည်းကောင်း။ အမနုဿော ဝါ၊ ဘီလူးသည်လည်းကောင်း (ဝါ) လူမှပါပါးသော သတ္တဝါသည်လည်းကောင်း။ ဂစ္ဆန္တံ ဝါ၊ သွားသော်လည်းကောင်း။ ဌိတံ ဝါ၊ ရပ်သော်လည်းကောင်း။ နိသိန္နံ ဝါ၊ ထိုင်သော်လည်းကောင်း။ နိပန္နံ ဝါ၊ လျောင်းသော်လည်းကောင်း။ သုတ္တံ ဝါ၊ အိပ်ပျော်သော်လည်းကောင်း။ ဇာဂရန္တံ ဝါ၊ နိုးကြားသော်လည်းကောင်း။ ပမတ္တံ ဝါ၊ မေ့လျော့သော်သည်းကောင်း။ ရတ္တိံ ဝါ၊ ညဉ့်၌သော်လည်းကောင်း။ ဒိဝါ ဝါ၊ နေ့၌သော်လည်းကောင်း၊ သဒါ၊ အခါခပ်သိမ်း။ ယထာ၊ စိုးစဉ်းမျှ။ မာ ဝိဟေဌေသိ၊ မနှိပ်စက် မညှဉ်းဆဲပါစေလင့်။ ဒေဝတာ၊ နတ်အပေါင်းတို့သည်။ တံ တံ၊ ထိုထိုသို့သော ရန်သူအပေါင်းကို။ ရက္ခန္တု၊ စောင့်ကြကုန်လော့။

၄။ ဘိက္ခဝေ၊ ရဟန်းတို့။ ပစ္ဆိမသ္မိံ ခေါ် ပန ဒိသာဘာဂေ၊ အနောက်မျက်နှာအရပ်အဖို့၌။ ဌိတာ၊ တည်ကုန်သော။ မဟာယက္ခာ၊ နတ်မြတ်ဖြစ်ကုန်သော။ အာဓိပတေယျာ၊ အကြီးအမှူးဖြစ်ကုန်သော။ စတ္တာရော ယက္ခာ၊ နတ်မင်းကြီးလေးဦးတို့သည်။ ဟောန္တိ၊ ရှိကုန်၏။ ဣဒံ၊ ဤနတ်မင်းကြီးတို့ဟူသည်။ သေယျထာ ကတမေ၊ အဘယ်သည်တို့နည်း။ ဟရိရော စ၊ ဟရိရနတ်မင်း

လည်းကောင်း။ ဟာရဟာရိရော စ၊ ဟာရဟာရိရနတ်မင်းလည်းကောင်း။ ပါပေါ စ၊ ပါပနတ်မင်းလည်းကောင်း။ ပိင်္ဂလော စ၊ ပိင်္ဂလနတ်မင်းလည်းကောင်း။ ဣတိ၊ ဤသို့။ စတ္တာရော၊ လေးယောက်ကုန်သော။ ဧတေ မဟာယက္ခာ၊ ထိုနတ်မင်းကြီးတို့သည်။ ဗုဒ္ဓေ၊ မြတ်စွာဘုရား၌။ ပသန္နာ၊ ကြည်ညိုကုန်၏။ ဓမ္မေ၊ တရားတော်၌။ ပသန္နာ၊ ကြည်ညိုကုန်၏။ သံဃေ၊ သံဃာတော်၌။ ပသန္နာ၊ ကြည်ညိုကုန်၏။ ဗုဒ္ဓေ၊ မြတ်စွာဘုရား၌။ သဂါရဝါ၊ ရိုသေခြင်းရှိကုန်၏။ ဓမ္မေ၊ တရားတော်၌။ သဂါရဝါ၊ ရိုသေခြင်းရှိကုန်၏။ သံဃေ၊ သံဃာတော်၌။ သဂါရဝါ၊ ရိုသေခြင်းရှိကုန်၏။ အဟံ၊ ငါဘုရားသည်။ တံ တာဒိသံ၊ ထိုသို့ သဘောရှိသော။ ဟာရိရဥ္စ၊ ဟာရိရနတ်မင်းကိုလည်းကောင်း။ ဟာရဟာရိရဥ္စ၊ ဟာရဟာရိရနတ်မင်းကိုလည်းကောင်း။ ပါပဥ္စ၊ ပါပနတ်မင်းကိုလည်းကောင်း။ ပိင်္ဂလဥ္စ။ ပိင်္ဂလနတ်မင်းကိုလည်းကောင်း။ ဝဒါမိ၊ မိန့်တော်မူ၏။ တုမှေ၊ သင်နတ်မင်းတို့သည်။ ဣမံ ရက္ခံ၊ ဤအစောင့်အရှောက်ကို။ သံဝိဒဟန္တု၊ ကောင်းစွာစီရင်ကြကုန်လော့။ မံ၊ ငါ့ကို။ ကောစိ၊ တစုံတယောက်သော။ မနုဿော ဝါ၊ လူသည်လည်းကောင်း။ အမနုဿော ဝါ၊ ဘီလူးသည်လည်းကောင်း။(ဝါ) လူမှတပါးသော သတ္တဝါသည်လည်းကောင်း။ ဂစ္ဆန္တံ ဝါ၊ သွားသော်လည်းကောင်း။ ဌိတံ ဝါ၊ ရပ်သော်လည်းကောင်း။ နိသိန္နံ ဝါ၊ ထိုင်သော်လည်းကောင်း။ နိပန္နံ ဝါ၊ လျောင်းသော်လည်းကောင်း။ သုတ္တံ ဝါ၊ အိပ်ပျော်သော်လည်းကောင်း။ ဇာဂရန္တံ ဝါ၊ နိုးကြားသော်လည်းကောင်း။ ပမတ္တံ ဝါ၊ မေ့လျော့သော်လည်းကောင်း။ ရတ္တိံ ဝါ၊ ညဉ့်၌သော်လည်းကောင်း။ ဒိဝါ ဝါ၊ နေ့၌သော်လည်းကောင်း။ သဒါ၊ အခါခပ်သိမ်း။ ကိဉ္စိ၊ စိုးစဉ်းမျှ။ မာ ဝိဟေဌေသိ၊ မနှိပ်စက် မညှဉ်းဆဲပါစေလင့်။ ဒေဝတာ၊ နတ်အပေါင်းတို့သည်။ တံ တံ၊ ထိုထိုသို့သော ရန်သူအပေါင်းကို။ ရက္ခန္တု၊ စောင့်ကြကုန်လော့။

၅။ ဘိက္ခဝေ၊ ရဟန်းတို့။ ဥတ္တရသ္မိံ ခေါ ပန ဒိသာဘာဂေ၊ မြောက်မျက်နှာအရပ်အဖို့၌။ ဌိတာ၊ တည်ကုန်သော။ မဟာယက္ခာ၊ နတ်မြတ်ဖြစ်ကုန်သော။ အာဓိပတေယျာ၊ အကြီးအမှူးဖြစ်ကုန်သော။ စတ္တာရော ယက္ခာ၊ နတ်မင်းကြီး လေးဦးတို့သည်။ ဟောန္တိ၊ ရှိကုန်၏။ ဣဒံ၊ ဤနတ်မင်းကြီးတို့သည်။ သေယျထာ ကတမေ၊ အဘယ်တို့နည်း။ သံဃော စ၊ သံဃနတ်မင်းလည်းကောင်း။ သံဃုလိမော စ၊ သံဃုလိမ နတ်မင်းလည်းကောင်း။ သုသုရော စ၊ သုသုရနတ်မင်းလည်းကောင်း။ ဥဂ္ဂတေဇော စ၊ ဥဂ္ဂတေဇနတ်မင်းလည်းကောင်း။ ဣတိ၊ ဤသို့။ စတ္တာရော၊ လေးယောက်ကုန်သော။ ဧတေ မဟာယက္ခာ၊ ထိုနတ်မင်းကြီးတို့သည်။ ဗုဒ္ဓေ၊ မြတ်စွာဘုရား၌။ ပသန္နာ၊ ကြည်ညိုကုန်၏။ ဓမ္မေ၊ တရားတော်၌။ ပသန္နာ၊ ကြည်ညိုကုန်၏။ သံဃေ၊ သံဃာတော်၌။ ပသန္နာ၊ ကြည်ညိုကုန်၏။ ဗုဒ္ဓေ၊ မြတ်စွာဘုရား၌။ သဂါရဝါ၊ ရိုသေခြင်း

ရှိကုန်၏။ ဓမ္မေ၊ တရားတော်၌။ သဂါရဝါ၊ ရှိသေခြင်း ရှိကုန်၏။ သံဃေ၊ သံဃာတော်၌။ သဂါရဝါ၊ ရှိသေခြင်း ရှိကုန်၏။ အဟံ၊ ငါဘုရားသည်။ တံ တာဒိသံ၊ ထိုသို့သဘောရှိသော။ သံဃဥ္စ၊ သံဃနတ်မင်းကိုလည်းကောင်း။ သံဃုလိမဥ္စ၊ သံဃုလိမ နတ်မင်းကိုလည်းကောင်း။ သုသုရဥ္စ၊ သုသုရနတ်မင်းကိုလည်းကောင်း။ ဥဂ္ဂတေဇဥ္စ၊ ဥဂ္ဂတေဇနတ်မင်းကိုလည်းကောင်း။ ဝဒါမိ၊ မိန့်တော်မူ၏။ တုမှေ၊ သင်နတ်မင်းတို့သည်။ ဣမံ ရက္ခံ၊ ဤအစောင့်အရှောက်ကို။ သံဝိဒဟန္တု၊ ကောင်းစွာ စီရင်ကြကုန်လော့။ မံ၊ ငါ့ကို။ ကောစိ၊ တစုံတယောက်သော။ မနုဿော ဝါ၊ လူသည်လည်းကောင်း။ အမနုဿော ဝါ၊ ဘီလူးသည်လည်းကောင်း (ဝါ) လူမှတပါးသော သတ္တဝါသည်လည်းကောင်း။ ဂစ္ဆန္တော ဝါ၊ သွားသော်လည်းကောင်း။ ဌိတံ ဝါ၊ ရပ်သော်လည်းကောင်း။ နိသိန္နံ ဝါ၊ ထိုင်သော်လည်းကောင်း။ နိပန္နံ ဝါ၊ လျောင်းသော်လည်းကောင်း။ သုတ္တံ ဝါ၊ အိပ်ပျော်သော်လည်းကောင်း။ ဇာဂရန္တံ ဝါ၊ နိုးကြားသော်လည်းကောင်း။ ပမတ္တံ ဝါ၊ မေ့လျော့သော်လည်းကောင်း။ သဒါ၊ အခါခပ်သိမ်း။ ကိဉ္စိ၊ စိုးစဉ်းမျှ။ မာ ဝိဟေဌေသိ၊ မညှိုးပန်းစေလင့်။ ဒေဝတာ၊ နတ်အပေါင်းတို့သည်။ တံ တံ၊ ထိုထိုသို့သော ရန်သူအပေါင်းကို။ ရက္ခန္တု၊ စောင့်ကြကုန်လော့။

၆။ ဘိက္ခဝေ၊ ရဟန်းတို့။ ပေဌိမသို့ ခေါ် ပန ဒိသာဘာဂေ၊ အောက်မျက်နှာအရပ်အဖို့၌။ ဌိတာ၊ တည်ကုန်သော။ မဟာယက္ခာ၊ နတ်မြတ်ဖြစ်ကုန်သော။ အာဓိပတေယျာ၊ အကြီးအမှူးဖြစ်ကုန်သော။ စတ္တာရော ယက္ခာ၊ နတ်မင်းကြီး လေးဦးတို့သည်။ ဟောန္တိ၊ ရှိကုန်၏။ ဣဒံ၊ ဤနတ်မင်းကြီးတို့ဟူသည်။ သေယျထာ ကတမေ၊ အဘယ်သည်တို့နည်း။ ရေဝတ္တော စ၊ ရေဝတ္တ နတ်မင်းလည်းကောင်း။ ဝေရဝတ္တော စ၊ ဝေရဝတ္တနတ်မင်းလည်းကောင်း။ သေဋ္ဌော စ၊ သေဋ္ဌနတ်မင်းလည်းကောင်း။ ကမ္ဗလသေဋ္ဌော စ၊ ကမ္ဗလသေဋ္ဌ နတ်မင်းလည်းကောင်း။ ဣတိ၊ ဤသို့။ စတ္တာရော၊ လေးယောက်ကုန်သော။ တေ မဟာယက္ခာ၊ ထိုနတ်မင်းကြီးတို့သည်။ ဗုဒ္ဓေ၊ မြတ်စွာဘုရား၌။ ပသန္နာ၊ ကြည်ညိုကုန်၏။ ဓမ္မေ၊ တရားတော်၌။ ပသန္နာ၊ ကြည်ညိုကုန်၏။ သံဃေ၊ သံဃာတော်၌။ ပသန္နာ၊ ကြည်ညိုကုန်၏။ ဗုဒ္ဓေ၊ မြတ်စွာဘုရား၌။ သဂါရဝါ၊ ရှိသေခြင်း ရှိကုန်၏။ ဓမ္မေ၊ တရားတော်၌။ သဂါရဝါ၊ ရှိသေခြင်း ရှိကုန်၏။ သံဃေ၊ သံဃာတော်၌။ သဂါရဝါ၊ ရှိသေခြင်း ရှိကုန်၏။ အဟံ၊ ငါဘုရားသည်။ တံ တာဒိသံ၊ ထိုသို့သဘောရှိသော။ ရေဝတ္တဥ္စ၊ ရေဝတ္တနတ်မင်းကိုလည်းကောင်း။ ဝေရဝတ္တဥ္စ၊ ဝေရဝတ္တနတ်မင်းကိုလည်းကောင်း။ သေဋ္ဌဥ္စ၊ သေဋ္ဌနတ်မင်းကိုလည်းကောင်း။ ကမ္ဗလသေဋ္ဌဥ္စ၊ ကမ္ဗလသေဋ္ဌနတ်မင်းကိုလည်းကောင်း။ ဝဒါမိ၊ မိန့်တော်မူ၏။ တုမှေ၊ သင်နတ်မင်းတို့သည်။ ဣမံ ရက္ခံ၊

ဤအစောင့်အရှောက်ကို။ သံဝိဒဟန္တု၊ ကောင်းစွာ စီရင်ကြကုန်လော့။ မံ၊ ငါ့ကို။ ကောစိ၊ တစုံတယောက်သော။ မနုဿော ဝါ၊ လူသည်လည်းကောင်း။ အမနုဿော ဝါ၊ ဘီလူးသည်လည်းကောင်း (ဝါ) လူမှတပါးသော သတ္တဝါသည်လည်းကောင်း။ ဂစ္ဆန္တံ ဝါ၊ သွားစဉ်သော်လည်းကောင်း။ ဌိတံ ဝါ ရပ်သော်လည်းကောင်း။ နိသိန္နံ ဝါ၊ ထိုင်သော်လည်းကောင်း။ နိပန္နံ ဝါ၊ လျောင်းသော်လည်းကောင်း။ သုတ္တံ ဝါ၊ အိပ်ပျော်သော်လည်းကောင်း။ ဇာဂရန္တံ ဝါ၊ နိုးကြားသော်လည်းကောင်း။ ပမတ္တံ ဝါ၊ မေ့လျော့သော်လည်းကောင်း။ သဒါ၊ အခါခပ်သိမ်း။ ကိဉ္စိ၊ စိုးစဉ်းမျှ။ မာ ဝိဟေဌေသိ၊ မနှိပ်စက် မညှဉ်းဆဲပါစေလင့်။ ဒေဝတာ၊ နတ်အပေါင်းတို့သည်။ တံ တံ၊ ထိုထိုသို့သော ရန်သူအပေါင်းကို။ ရက္ခန္တု၊ စောင့်ကြကုန်လော့။

၇။ ဘိက္ခဝေ၊ ရဟန်းတို့။ ဥပရိမသ္မိံ ခေါ ပန ဒိသာဘာဂေ၊ အထက်မျက်နှာ အရပ်၌။ ဌိတာ၊ တည်ကုန်သော။ မဟာယက္ခာ၊ နတ်မြတ်ဖြစ်ကုန်သော။ အာဓိပတေယျာ၊ အကြီးအမှူးဖြစ်ကုန်သော။ စတ္တာရော ယက္ခာ၊ နတ်မင်းကြီးလေးဦးတို့သည်။ ဟောန္တိ၊ ရှိကုန်၏။ ဣဒံ၊ ဤနတ်မင်းကြီးတို့ဟူသည်။ သေယျထာ ကတမေ၊ အဘယ်သည်တို့နည်း။ စန္ဒော စ၊ စန္ဒနတ်မင်းလည်းကောင်း။ သူရိယော စ၊ သူရိယနတ်မင်းလည်းကောင်း။ ဣန္ဒော စ၊ ဣန္ဒနတ်မင်းလည်းကောင်း။ ဗြဟ္မာ စ၊ ဗြဟ္မနတ်မင်းလည်းကောင်း။ ဣတိ၊ ဤသို့။ စတ္တာရော၊ လေးယောက်ကုန်သော။ တေ မဟာယက္ခာ၊ ထိုနတ်မင်းကြီးတို့သည်။ ဗုဒ္ဓေ၊ မြတ်စွာဘုရား၌။ ပသန္နာ၊ ကြည်ညိုကုန်၏။ ဓမ္မေ၊ တရားတော်၌။ ပသန္နာ၊ ကြည်ညိုကုန်၏။ သံဃေ၊ သံဃာတော်၌။ ပသန္နာ၊ ကြည်ညိုကုန်၏။ ဗုဒ္ဓေ၊ မြတ်စွာဘုရား၌။ သဂါရဝါ၊ ရိုသေခြင်း ရှိကုန်၏။ ဓမ္မေ၊ တရားတော်၌။ သဂါရဝါ၊ ရိုသေခြင်း ရှိကုန်၏။ သံဃေ၊ သံဃာတော်၌။ သဂါရဝါ၊ ရိုသေခြင်း ရှိကုန်၏။ အဟံ၊ ငါဘုရားသည်။ တံ တာဒိသံ၊ ထိုသို့သဘောရှိသော။ စန္ဒဥ္စ၊ စန္ဒနတ်မင်းကိုလည်းကောင်း။ သူရိယဥ္စ၊ သူရိယနတ်မင်းကိုလည်းကောင်း။ ဣန္ဒဥ္စ၊ ဣန္ဒနတ်မင်းကိုလည်းကောင်း။ ဗြဟ္မဥ္စ၊ ဗြဟ္မနတ်မင်းကိုလည်းကောင်း။ ဝဒါမိ၊ မိန့်တော်မူ၏။ တုမှေ၊ သင်နတ်မင်းတို့သည်။ ဣမံ ရက္ခံ၊ ဤအစောင့်အရှောက်ကို။ သံဝိဒဟန္တု၊ ကောင်းစွာ စီရင်ကြကုန်လော့။ မံ၊ ငါ့ကို။ ကောစိ၊ တစုံတယောက်သော။ မနုဿော ဝါ၊ လူသည်လည်းကောင်း။ အမနုဿော ဝါ၊ ဘီလူးသည်လည်းကောင်း (ဝါ) လူမှတပါးသော သတ္တဝါသည်လည်းကောင်း။ ဂစ္ဆန္တံ ဝါ၊ သွားသော်လည်းကောင်း။ ဌိတံ ဝါ၊ ရပ်သော်လည်းကောင်း။ နိသိန္နံ ဝါ၊ ထိုင်သော်လည်းကောင်း။ နိပန္နံ ဝါ၊ လျောင်းသော်လည်းကောင်း။ သုတ္တံ ဝါ၊ အိပ်ပျော်သော်လည်းကောင်း။ ဇာဂရန္တံ ဝါ၊ နိုးကြားသော်လည်းကောင်း။ ပမတ္တံ ဝါ၊ မေ့လျော့

သော်လည်းကောင်း။ ရတ္တိံ ဝါ၊ ညဉ့်၌သော် လည်းကောင်း။ ဒိဝါ ဝါ၊ နေ့၌သော် လည်းကောင်း။ သဒါ၊ အခါခပ်သိမ်း။ ကိဉ္စိ၊ စိုးစဉ်းမျှ။ မာ ဝိဟေဌယိ၊ မနှိပ်စက် မညှဉ်းဆဲပါစေလင့်။ ဒေဝတာ၊ နတ်အပေါင်းတို့သည်။ တံ တံ၊ ထိုထိုသို့ သဘောရှိသော ရန်သူဖြစ်သော လူ, ဘီလူးအပေါင်းကို။ ရက္ခန္တု၊ စောင့်ကြကုန်လော့။

ဤသုတ်ကို နေ့စဉ်မပြတ် ရွတ်ဖတ်ပူဇော်လျှင် နတ်ကောင်း နတ်မြတ်တို့ စောင့်မကြည့်ရှု၏။ ရန်ဟူသမျှ ကင်းရှင်း၍ ဘေးဟူသမျှ ပပျောက်သည်။ အမြဲရွတ်ဖတ်ပူဇော်ကြပါလေ။

၄၈။ စက္ကပရိတ္တ (စက်ပရိတ်)

၁။ ဧဝံ မေ သုတံ–ဧကံ သမယံ ဘဂဝါ သာဝတ္ထိယံ ဝိဟရတိ ဇေတဝနေ အနာထပိဏ္ဍိကဿ အာရာမေ။ တတြ ခေါ ဘဂဝါ အာယသ္မန္တံ အာနန္ဒံ ဧတဒဝေါစ—

၂။ အဓိဂကော ခေါ မျာယံ ဓမ္မော၊ ဧဝံ အာနန္ဒ မယာ ပါရမိယော ပူရေတွာ ဗုဒ္ဓတ္တံ ပတ္တော မာရသေနံ ဝိဒ္ဓံသေတွာ အသနိစက္ကဿ ပတိတော ဝိယ ခုရစက္ကဿ ပတိတော ဝိယ၊ ဧဝံ အာနန္ဒ မယာ ပါရမိယော ပူရေတွာ ဗုဒ္ဓတ္တံ ပတ္တော မာရသေနံ ဝိဒ္ဓံသေတွာ တဒါ လဒ္ဓဓမ္မစက္ကဿ အာနုဘာဝေန ပုရတ္ထိမာယ ဒိသာယ အာဂတာနံ သတြုဘယံ အသီတိသတသဟဿာနံ မဒ္ဒတိ ဝိဒ္ဓံသေတိ အတ္ထင်္ဂမေတိ နိဗ္ဗာပေတိ၊ ပုရတ္ထိမာယ အနုဒိသာယ အာဂတာနံ သတြုဘယံ အသီတိသတသဟဿာနံ မဒ္ဒတိ ဝိဒ္ဓံသေတိ အတ္ထင်္ဂမေတိ နိဗ္ဗာပေတိ။

၃။ ဒက္ခိဏာယ ဒိသာယ အာဂတာနံ သတြုဘယံ အသီတိသတသဟဿာနံ မဒ္ဒတိ ဝိဒ္ဓံသေတိ အတ္ထင်္ဂမေတိ နိဗ္ဗာပေတိ၊ ဒက္ခိဏာယ အနုဒိသာယ အာဂတာနံ သတြုဘယံ အသီတိသတသဟဿာနံ မဒ္ဒတိ ဝိဒ္ဓံသေတိ အတ္ထင်္ဂမေတိ နိဗ္ဗာပေတိ။

၄။ ပစ္ဆိမာယ ဒိသာယ အာဂတာနံ သတြုဘယံ အသီတိသတသဟဿာနံ မဒ္ဒတိ ဝိဒ္ဓံသေတိ အတ္ထင်္ဂမေတိ နိဗ္ဗာပေတိ၊ ပစ္ဆိမာယ အနုဒိသာယ အာဂတာနံ သတြုဘယံ အသီတိသတသဟဿာနံ မဒ္ဒတိ ဝိဒ္ဓံသေတိ အတ္ထင်္ဂမေတိ နိဗ္ဗာပေတိ။

၅။ ဥတ္တရာယ ဒိသာယ အာဂတာနံ့ သတ္တြာဘယံ အသီတိသတသဟဿာနံ မဒ္ဒတိ ဝိဒ္ဓံသေတိ အတ္တဂ်မေတိ နိဗ္ဗာပေတိ၊ ဥတ္တရာယ အနုဒိသာယ အာဂတာနံ သတ္တြာဘယံ အသီတိသတသဟဿာနံ မဒ္ဒတိ ဝိဒ္ဓံသေတိ အတ္တဂ်မေတိ နိဗ္ဗာပေတိ။

၆။ ဟေဋ္ဌိမာယ ဒိသာယ အာဂတာနံ သတ္တြာဘယံ အသီတိသတသဟဿာနံ မဒ္ဒတိ ဝိဒ္ဓံသေတိ အတ္တဂ်မေတိ နိဗ္ဗာပေတိ။

၇။ ဥပရိမာယ ဒိသာယ အာဂတာနံ သတ္တြာဘယံ အသီတိသတသဟဿာနံ မဒ္ဒတိ ဝိဒ္ဓံသေတိ အတ္တဂ်မေတိ နိဗ္ဗာပေတိ။

၈။ ဧဝံ အာနန္ဒ မယာ ပါရမိယော ပူရေတွာ ဗုဒ္ဓတ္တံ ပတွာ မာရသေနံ ဝိဒ္ဓံသေတွာ လဒ္ဓမဟေစက္ကသ္သ အာနုဘာဝေန ဗုဒ္ဓမသ္သိံ ဝိဟာရေ ဂေါစရဂါမေ ဇနပဒေ နိဂမေ နဂရေ ရဋ္ဌေ ဇမ္ဗုဒီပေ စက္ကဝါဠေ ဇာတိခေတ္တေ အာဏာခေတ္တေ ဝိသယခေတ္တေ ဠိတာ ဘိက္ခူ ဝါ ဘိက္ခုနီ ဝါ ဥပါသကော ဝါ ဥပါသိကာ ဝါ ဂဟပတိ ဝါ ဂဟပတာနီ ဝါ သုဒ္ဒေါ ဝါ သုဒ္ဒီ ဝါ ဝေဿော ဝါ ဝေဿီ ဝါ ဗြာဟ္မဏော ဝါ ဗြာဟ္မဏီ ဝါ ရာဇာ ဝါ ရာဇဒေဝီ ဝါ ဥပရာဇာ ဝါ ဥပရာဇဒေဝီ ဝါ အမစ္စော ဝါ အမစ္စဘရိယာဒယော ဝါ တေ သဗ္ဗေ သုခိတာ ဟောန္တု၊ အနီဃာ ဟောန္တု၊ အဗျာပဇ္ဇာ ဟောန္တု၊ အဝေရာ ဟောန္တု၊ အရောဂါ ဟောန္တု၊ အညမညံ ပိယာ ဟောန္တု၊ မမမ္ပိ ဝါ သဗ္ဗလောကမ္ပိ ဝါ။

၉။ သီသရောဂေါ စက္ခုရောဂေါ သောတရောဂေါ ဃာနရောဂေါ ဇိဝှါ-ရောဂေါ မုခရောဂေါ ဒန္တရောဂေါ ဩဋ္ဌရောဂေါ ဟနုရောဂေါ ဂီဝါရောဂေါ ဟတ္ထရောဂေါ ပါဒရောဂေါ ကုစ္ဆိရောဂေါ ပိဋ္ဌိရောဂေါ အဋ္ဌိရောဂေါ မံသ-ရောဂေါ စမ္မရောဂေါ သကလသရီရရောဂေါ ပဉ္စဝီသတိ ဘယာ ဒွတ္တိံသ ကမ္မကာရဏာ ဆနဝုတိ ရောဂါ သောဠသ ဥပဒ္ဒဝါ စ ဝိဒ္ဓံသေန္တု အတ္တဂ်မေန္တု နိဗ္ဗာပေန္တု ဒူရဋ္ဌာနေ ဂစ္ဆန္တု။

၁၀။ ဧဝံ ဘဂဝတာ ဘာသိတံ အာယသ္မာ အာနန္ဒော အဘိနန္ဒီတိ။

၁။ အာယသ္မန္တော၊ အရှင်မြတ်တို့။ ဣဒံ၊ ဤစက်ပရိတ်ကို။ မေ-မယာ၊ အကျွန်ုပ် အာနန္ဒာသည်။ ဧဝံ၊ ဤသို့။ သုတံ၊ ကြားအပ်၏။ ဧကံ၊ တစ်ပါးသော။ သမယံ၊ အခါ၌။ ဘဂဝါ၊ မြတ်စွာဘုရားသည်။ သာဝတ္ထိယံ၊ သာဝတ္ထိပြည်၌။ အနာထပိဏ္ဍိကဿ၊ အနာထပိဏ်သူဌေး၏။ အာရာမေ၊ လှုန်စွာမွေ့လျော်ရာ ဖြစ်သော။ ဇေတဝနေ၊ ဇေတဝန်ကျောင်းတော်၌။ ဝိဟရတိ၊ သီတင်းသုံး

နေတော်မူကြ၏။ တတြ ခေါ၊ ထိုသို့ ဇေတဝန်ကျောင်းတော်ဝယ် သီတင်းသုံး နေတော်မူသောအခါ၌။ ဘဂဝါ၊ မြတ်စွာဘုရားသည်။ အာယသ္မန္တံ၊ ရှည်သော သက်တော်ရှိသော။ အာနန္ဒံ၊ အရှင်အာနန္ဒာကို။ ဧတံ ဝစနံ၊ ဤဆိုလတ္တံ့သော စကားကို။ အဝေါစ၊ မိန့်တော်မူ၏—

၂။ အာနန္ဒ၊ အာနန္ဒာ။ ဧဝံ၊ ဤသို့။ မယာ၊ ငါဘုရားသည်။ ပါရမိယော၊ ပါရမီတော်တို့ကို။ ပူရေတွာ၊ ဖြည့်ကျင့်တော်မူပြီး၍။ ဗုဒ္ဓတ္တံ၊ ဘုရားအဖြစ်သို့။ ပတွာ၊ ရောက်တော်မူပြီး၍။ မာရသေနံ၊ မာရ်စစ်သည်ကို။ အသနိစက္ကဿ၊ မိုးကြိုးစက်၏။ ပတိတော ဝိယ၊ ကျခြင်းကဲ့သို့လည်းကောင်း။ ခုရစက္ကဿ၊ သင်တုန်းစက်၏။ ပတိတော ဝိယ၊ ကျခြင်းကဲ့သို့လည်းကောင်း။ ဝိဒ္ဓံသေတွာ၊ ဖျက်ဆီးတော်မူပြီး၍။ မေ မယာ၊ ငါဘုရားသည်။ အယံ ဓမ္မော၊ ဤသစ္စာ လေးပါးတရားကို။ အဓိဂတော ခေါ၊ ရအပ် သိအပ်ပြီ။ အာနန္ဒ၊ အာနန္ဒာ။ ဧဝံ၊ ဤသို့။ မယာ၊ ငါဘုရားသည်။ ပါရမိယော၊ ပါရမီတော်တို့ကို။ ပူရေတွာ၊ ဖြည့်ကျင့်တော်မူပြီး၍။ ဗုဒ္ဓတ္တံ၊ ဘုရားအဖြစ်သို့။ ပတွာ၊ ရောက်တော်မူပြီး၍။ မာရသေနံ၊ မာရ်စစ်သည်ကို။ ဝိဒ္ဓံသေတွာ၊ ဖျက်ဆီးတော်မူပြီး၍။ တဒါ တသ္မိံ ကာလေ၊ ထိုအခါ၌။ လဒ္ဓမေ့စက္ကဿ၊ ရအပ်သော တရားတည်းဟူသော စက်ရတနာ၏။ အာနုဘာဝေန၊ အစွမ်းသတ္တိ အာနုဘော်ကြောင့်။ ပုရတ္ထိမာယ ဒိသာယ၊ အရှေ့မျက်နှာအရပ်မှ။ အာဂတာနံ၊ လာလတ်ကုန်သော။ အသီတိ-သတသဟဿာနံ၊ ရှစ်သန်းကုန်သော။ သတြုဘယံ၊ ဘေးရန်အပေါင်းကို။ မဒ္ဒတိ၊ နှိမ်နင်း၏။ ဝိဒ္ဓံသေတိ၊ ဖျက်ဆီး၏။ အတ္ထင်္ဂမေတိ၊ ချုပ်စေ၏ (ဝါ) ချုပ်ပျက်ပျောက်ကွယ်ခြင်းသို့ ရောက်စေ၏။ နိဗ္ဗာဖေတိ၊ ငြိမ်းစေ၏။ ပုရတ္ထိမာယ အနုဒိသာယ၊ အရှေ့တောင်ထောင့် မျက်နှာအရပ်မှ။ အာဂတာနံ၊ လာလတ်ကုန်သော။ အသီတိသတသဟဿာနံ၊ ရှစ်သန်းကုန်သော။ သတြုဘယံ၊ ဘေးရန်အပေါင်းကို။ မဒ္ဒတိ၊ နှိမ်နင်း၏။ ဝိဒ္ဓံသေတိ၊ ဖျက်ဆီး၏။ အတ္ထင်္ဂမေတိ၊ ချုပ်စေ၏။ နိဗ္ဗာပေတိ၊ ငြိမ်းစေ၏။

၃။ ဒက္ခိဏာယ ဒိသာယ၊ တောင်မျက်နှာအရပ်မှ။ အာဂတာနံ၊ လာလတ် ကုန်သော။ အသီတိသတသဟဿာနံ၊ ရှစ်သန်းကုန်သော။ သတြုဘယံ၊ ဘေးရန်အပေါင်းကို။ မဒ္ဒတိ၊ နှိမ်နင်း၏။ ဝိဒ္ဓံသေတိ၊ ဖျက်ဆီး၏။ အတ္ထင်္ဂမေတိ၊ ချုပ်စေ၏။ နိဗ္ဗာပေတိ၊ ငြိမ်းစေ၏။ ဒက္ခိဏာယ အနုဒိသာယ၊ အနောက် တောင်ထောင့်အရပ်မျက်နှာမှ။ အာဂတာနံ၊ လာလတ်ကုန်သော။ အသီတိ-သတသဟဿာနံ၊ ရှစ်သန်းကုန်သော။ သတြုဘယံ၊ ဘေးရန်အပေါင်းကို။ မဒ္ဒတိ၊ နှိမ်နင်း၏။ ဝိဒ္ဓံသေတိ၊ ဖျက်ဆီး၏။ အတ္ထင်္ဂမေတိ၊ ချုပ်စေ၏။ နိဗ္ဗာပေတိ၊ ငြိမ်းစေ၏။

၄။ ပစ္ဆိမာယ ဒိသာယ၊ အနောက်မျက်နှာအရပ်မှ။ အာဂတာနံ၊ လာလတ်ကုန်သော။ အသီတိသတသဟဿာနံ၊ ရှစ်သိန်းကုန်သော။ သတြုဘယံ၊ ဘေးရန်အပေါင်းကို။ မဒ္ဒတိ၊ နှိမ်နင်း၏။ ဝိဒ္ဓံသေတိ၊ ဖျက်ဆီး၏။ အတ္တဂ်မေတိ၊ ချုပ်စေ၏။ နိဗ္ဗာပေတိ၊ ငြိမ်းစေ၏။ ပစ္ဆိမာယ အနုဒိသာယ၊ အနောက်မြောက်ထောင့်အရပ်မှ။ အာဂတာနံ၊ လာလတ်ကုန်သော။ အသီတိသတသဟဿာနံ၊ ရှစ်သိန်းကုန်သော။ သတြုဘယံ၊ ဘေးရန်အပေါင်းကို။ မဒ္ဒတိ၊ နှိမ်နင်း၏။ ဝိဒ္ဓံသေတိ၊ ဖျက်ဆီး၏။ အတ္တဂ်မေတိ၊ ချုပ်စေ၏။ နိဗ္ဗာပေတိ၊ ငြိမ်းစေ၏။

၅။ ဥတ္တရာယ ဒိသာယ၊ မြောက်မျက်နှာအရပ်မှ။ အာဂတာနံ၊ လာလတ်ကုန်သော။ အသီတိသတသဟဿာနံ၊ ရှစ်သိန်းကုန်သော။ သတြုဘယံ၊ ဘေးရန်အပေါင်းကို။ မဒ္ဒတိ၊ နှိမ်နင်း၏။ ဝိဒ္ဓံသေတိ၊ ဖျက်ဆီး၏။ အတ္တဂ်မေတိ၊ ချုပ်စေ၏။ နိဗ္ဗာပေတိ၊ ငြိမ်းစေ၏။ ဥတ္တရာယ အနုဒိသာယ၊ အရှေ့မြောက်ထောင့်အရပ်မှ။ အာဂတာနံ၊ လာလတ်ကုန်သော။ အသီတိသတသဟဿာနံ၊ ရှစ်သိန်းကုန်သော။ သတြုဘယံ၊ ဘေးရန်အပေါင်းကို။ မဒ္ဒတိ၊ နှိမ်နင်း၏။ ဝိဒ္ဓံသေတိ၊ ဖျက်ဆီး၏။ အတ္တဂ်မေတိ၊ ချုပ်စေ၏။ နိဗ္ဗာပေတိ၊ ငြိမ်းစေ၏။

၆။ ဟေဋ္ဌိမာယ ဒိသာယ၊ အောက်အရပ်မျက်နှာမှ။ အာဂတာနံ၊ လာလတ်ကုန်သော။ အသီတိသတသဟဿာနံ၊ ရှစ်သိန်းကုန်သော။ သတြုဘယံ၊ ဘေးရန်အပေါင်းကို။ မဒ္ဒတိ၊ နှိမ်နင်း၏။ ဝိဒ္ဓံသေတိ၊ ဖျက်ဆီး၏။ အတ္တဂ်မေတိ၊ ချုပ်စေ၏။ နိဗ္ဗာပေတိ၊ ငြိမ်းစေ၏။

၇။ ဥပရိမာယ ဒိသာယ၊ အထက်အရပ်မျက်နှာမှ။ အာဂတာနံ၊ လာလတ်ကုန်သော။ အသီတိသတသဟဿာနံ၊ ရှစ်သိန်းကုန်သော။ သတြုဘယံ၊ ဘေးရန်အပေါင်းကို။ မဒ္ဒတိ၊ နှိမ်နင်း၏။ ဝိဒ္ဓံသေတိ၊ ဖျက်ဆီး၏။ အတ္တဂ်မေတိ၊ ချုပ်စေ၏။ နိဗ္ဗာပေတိ၊ ငြိမ်းစေ၏။

၈။ အာနန္ဒ၊ အာနန္ဒာ။ ဧဝံ၊ ဤသို့။ မေမယာ၊ ငါဘုရားသည်။ ပါရမီယော၊ ပါရမီတော်တို့ကို။ ပူရေတွာ၊ ဖြည့်ကျင့်တော်မူပြီး၍။ ဗုဒ္ဓတ္တံ၊ ဘုရားအဖြစ်သို့။ ပတ္တော၊ ရောက်တော်မူပြီး၍။ မာရသေနံ၊ မာရ်စစ်သည်ကို။ ဝိဒ္ဓံသေတွာ၊ ဖျက်ဆီးတော်မူပြီး၍။ လဒ္ဓဓမ္မစက္ကာသာ၊ ရအပ်သော တရားစည်းဟူသော စက်ရတနာ၏။ အာနုဘာဝေန၊ အစွမ်းသတ္တိ အာနုဘော်ကြောင့်။

ဣမသ္မိံ ဝိဟာရေ၊ ဤကျောင်း၌လည်းကောင်း။ ဂေါစရဂါမေ၊ ဆွမ်းခံရွာ၌
လည်းကောင်း။ ဇနပဒေ၊ ဇနပုဒ်၌လည်းကောင်း။ နိဂမေ၊ နိဂုံးရွာ၌လည်း
ကောင်း။ နဂရေ၊ မြို့၌လည်းကောင်း။ ရဋ္ဌေ၊ တိုင်းနိုင်ငံ၌လည်းကောင်း။
ဇမ္ဗုဒီပေ၊ ဇမ္ဗူဒိပ်ကျွန်း၌လည်းကောင်း။ စက္ကဝါဠေ၊ စကြဝဠာ၌လည်းကောင်း။
ဇာတိခေတ္တေ၊ ဇာတိခေတ်၌လည်းကောင်း။ အာဏာခေတ္တေ၊ အာဏာခေတ်၌
လည်းကောင်း။ ဝိသယခေတ္တေ၊ ဝိသယခေတ်၌ လည်းကောင်း။ ဌိတာ၊
တည်ကြကုန်သော။ ဘိက္ခူ ဝါ၊ ရဟန်းယောကျ်ားသည် လည်းကောင်း။
ဘိက္ခုနီ ဝါ၊ ရဟန်းမိန်းမသည်လည်းကောင်း။ ဥပါသကော ဝါ၊ ဒါယကာ
ယောကျ်ားသည်လည်းကောင်း။ ဥပါသိကာ ဝါ၊ ဒါယိကာမိန်းမသည်လည်း
ကောင်း။ ဂဟပတိ ဝါ၊ သူကြွယ်ယောကျ်ားသည်လည်းကောင်း။ ဂဟပတာနီ
ဝါ၊ သူကြွယ်မိန်းမသည်လည်းကောင်း။ သုဒ္ဒေါ ဝါ၊ သူဆင်းရဲယောကျ်ားသည်
လည်းကောင်း။ သုဒ္ဒီ ဝါ၊ သူဆင်းရဲမိန်းမသည်လည်းကောင်း။ ဝေဿော ဝါ၊
ကုန်သည်ယောကျ်ားသည်လည်းကောင်း။ ဝေဿီ ဝါ၊ ကုန်သည်မိန်းမသည်
လည်းကောင်း။ ဗြာဟ္မဏော ဝါ၊ ပုဏ္ဏားသည်လည်းကောင်း။ ဗြာဟ္မဏီ ဝါ၊
ပုဏ္ဏေးမသည်လည်းကောင်း။ ရာဇာ ဝါ၊ မင်းသည်လည်းကောင်း။ ရာဇဒေဝီ ဝါ၊
မင်း၏ မိဖုရားသည်လည်းကောင်း။ ဥပရာဇာ ဝါ၊ အိမ်ရှေ့မင်းသည်လည်း
ကောင်း။ ဥပရာဇဒေဝီ ဝါ၊ အိမ်ရှေ့မင်း၏ မိဖုရားသည်လည်းကောင်း။ အမစ္စော
ဝါ၊ အမတ်သည်လည်းကောင်း။ အမစ္စဘရိယာဒယော ဝါ၊ အမတ်၏မယား
အစရှိသည်တို့သည်လည်းကောင်း။ သဗ္ဗေ၊ ခပ်သိမ်းကုန်သော။ တေ သတ္တာ၊
ထိုသတ္တဝါတို့သည်။ သုခိတာ၊ ချမ်းသာကြကုန်သည်။ ဟောန္တု၊ ဖြစ်စေ
ကုန်သတည်း။ အနီဃာ၊ ဆင်းရဲခြင်း မရှိကြကုန်သည်။ ဟောန္တု၊ ဖြစ်စေ
ကုန်သတည်း။ အဗျာပဇ္ဇာ၊ စိုးရိမ်ကြောင့်ကြ မရှိကြကုန်သည်။ ဟောန္တု၊
ဖြစ်စေကုန်သတည်း။ အဝေရာ၊ ရန်မရှိကြကုန်သည်။ ဟောန္တု၊ ဖြစ်စေကုန်
သတည်း။ အရောဂါ၊ အနာရောဂါ မရှိကြကုန်သည်။ ဟောန္တု၊ ဖြစ်စေကုန်
သတည်း။ အညမညံ၊ အချင်းချင်း (ဝါ) တယောက်သည် တယောက်အား။
ပိယာ၊ ချစ်ကြကုန်သည်။ ဟောန္တု၊ ဖြစ်စေကုန်သတည်း။ မမမ္ပိ ဝါ၊ ငါ့ကို
လည်းကောင်း။ သဗ္ဗလောကမ္ပိ ဝါ၊ ခပ်သိမ်းသော လောကကိုလည်းကောင်း။
ပိယာ၊ ချစ်ကြကုန်သည်။ ဟောန္တု၊ ဖြစ်စေကုန်သတည်း။

၉။ (သဗ္ဗေသံ၊ ခပ်သိမ်းကုန်သော။ တေသံ သတ္တာနံ၊ ထိုသတ္တဝါတို့၏။)
သီသရောဂေါ၊ ဦးခေါင်း၌ဖြစ်သော အနာသည်လည်းကောင်း။ စက္ခုရောဂေါ၊
မျက်စိ၌ဖြစ်သော အနာသည်လည်းကောင်း။ သောတရောဂေါ၊ နား၌ဖြစ်သော
အနာသည်လည်းကောင်း။ ဃာနရောဂေါ၊ နှာခေါင်း၌ ဖြစ်သော အနာသည်
လည်းကောင်း။ ဇိဝှါရောဂေါ၊ လျှာ၌ ဖြစ်သော အနာသည်လည်းကောင်း။

မုခရောဂေါ၊ ခံတွင်း၌ဖြစ်သော အနာသည်လည်းကောင်း။ ဒန္တရောဂေါ၊ သွား၌ဖြစ်သော အနာသည်လည်းကောင်း။ ဩဋ္ဌရောဂေါ၊ နှုတ်ခမ်း၌ ဖြစ်သော အနာသည်လည်းကောင်း။ ဟနုရောဂေါ၊ မေး၌ ဖြစ်သော အနာသည်လည်းကောင်း။ ဂီဝါရောဂေါ၊ လည်၌ ဖြစ်သော အနာသည်လည်းကောင်း။ ဟတ္ထရောဂေါ၊ လက်၌ဖြစ်သော အနာသည်လည်းကောင်း။ ပါဒရောဂေါ၊ ခြေ၌ ဖြစ်သော အနာသည်လည်းကောင်း။ ကုစ္ဆိရောဂေါ၊ ဝမ်း၌ဖြစ်သော အနာသည်လည်းကောင်း။ ပိဋ္ဌိရောဂေါ၊ ကျောကုန်း၌ဖြစ်သော အနာသည်လည်းကောင်း။ အဋ္ဌိရောဂေါ၊ အရိုး၌ ဖြစ်သော အနာသည်လည်းကောင်း။ မံသရောဂေါ၊ အသား၌ဖြစ်သော အနာသည်လည်းကောင်း။ စမ္မရောဂေါ၊ အရေ၌ဖြစ်သော အနာသည်လည်းကောင်း။ သကလသရီရရောဂေါ၊ တကိုယ်လုံး၌ ဖြစ်သော အနာသည်လည်းကောင်း။ ပဉ္စဝီသတိဘယာ စ၊ နှစ်ဆယ့်ငါးပါးသော ဘေးတို့သည်လည်းကောင်း။ ဒွတ္တိံသ ကမ္မကာရဏာ စ၊ သုံးဆယ့်နှစ်ပါးသော ကံကြမ္မာတို့သည်လည်းကောင်း။ ဆနဝုတိ ရောဂါ စ၊ ကိုးဆယ့်ခြောက်ပါးသော ရောဂါတို့သည်လည်းကောင်း။ သောဠသ ဥပဒ္ဒဝါ စ၊ တစ်ဆယ့်ခြောက်ပါးသော ဥပဒ္ဒဝေါတို့သည်လည်းကောင်း။ ဝိဒ္ဓံသေန္တု၊ ပျက်စီးစေကုန်သတည်း။ အတ္ထင်္ဂမေန္တု၊ ချုပ်စေကုန်သတည်း။ နိဗ္ဗာပေန္တု၊ ငြိမ်းစေကုန်သတည်း။ ဒူရဋ္ဌာနေ၊ ဝေးသောအရပ်သို့။ ဂစ္ဆန္တု၊ ဖဲသွားစေကုန်သတည်း။

၁၀။ ဝေံ၊ ဤသို့။ ဘဂဝတာ၊ မြတ်စွာဘုရားသည်။ ဘာသိတံ၊ ဟောတော်မူအပ်သော စကားတော်ကို။ အာယသ္မာ၊ ရှည်သော သက်တော်ရှိသော။ အာနန္ဒော၊ အာနန္ဒာမထေရ်သည်။ အဘိနန္ဒိ၊ နှစ်သက်တော်မူ၏။ ဣတိ၊ ဤသည်လျှင် စက်ပရိတ်တော်အနက် အပြီးတည်း။

ဤစက်ပရိတ်ကို နေ့ညဥ့်မပြတ် ရွတ်ဖတ်ပူဇော်လျှင် အန္တရာယ်ခပ်သိမ်း ကင်းငြိမ်းသည်။ ရန်သူတို့ မကောင်းမကြံနိုင်။ ကုန်းလမ်း ရေလမ်း လေလမ်း ခရီးသွားရာ၌ အန္တရာယ်ကင်း၏။ ဖုတ် တစ္ဆေ မြေဘုတ်တို့ မခြောက်လှန့်နိုင်။ နတ်အများချစ်ခင်၏။ မိုးကြိုးလောင်မီးကင်း၏။ ဘေးအမျိုးမျိုး ရန်အမျိုးမျိုးမှ ကင်း၏။ ယုံကြည်စွာ နေ့ညဥ့်မပြတ် ရွတ်ဖတ်ပူဇော် သင့်ကြသည်။ ရွတ်ဖတ်ပူဇော်ကြပါလေ။

**၄၉။ မဟာဇေဒမ္မမန္တန်တော်**

၁။ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ။
ဣတိပိ သော ဘဂဝါ အရဟံ
သမ္မာသမ္ဗုဒ္ဓေါ ဝိဇ္ဇာစရဏသမ္ပန္နော
သုဂတော လောကဝိဒူ အနုတ္တရော
ပုရိသဒမ္မသာရထိ သတ္ထာ ဒေဝမနုဿာနံ
ဗုဒ္ဓေါ ဘဂဝါတိ။

နတ္ထိ မေ သရဏံ အညံ၊ ဗုဒ္ဓေါ မေ သရဏံ ဝရံ။
ဧတေန သစ္စဝဇ္ဇေန၊ ဟောတု မေ ဇယမင်္ဂလံ။
ဟောတု မေ အာယုဝဍ္ဎနံ၊ ဟောတု မေ သုခဝဍ္ဎနံ။

၂။ ဓမ္မံ သရဏံ ဂစ္ဆာမိ။
သွာက္ခာတော ဘဂဝတာ ဓမ္မော
သန္ဒိဋ္ဌိကော အကာလိကော
ဧဟိပဿိကော ဩပနေယျိကော
ပစ္စတ္တံ ဝေဒိတဗ္ဗော ဝိညူဟီတိ။

နတ္ထိ မေ သရဏံ အညံ၊ ဓမ္မော မေ သရဏံ ဝရံ။
ဧတေန သစ္စဝဇ္ဇေန၊ ဟောတု မေ ဇယမင်္ဂလံ။
ဟောတု မေ အာယုဝဍ္ဎနံ၊ ဟောတု မေ သုခဝဍ္ဎနံ။

၃။ သံဃံ သရဏံ ဂစ္ဆာမိ။
သုပ္ပဋိပန္နော ဘဂဝတော သာဝကသံဃော။
ဥဇုပ္ပဋိပန္နော ဘဂဝတော သာဝကသံဃော။
ဉာယပ္ပဋိပန္နော ဘဂဝတော သာဝကသံဃော။
သာမီစိပ္ပဋိပန္နော ဘဂဝတော သာဝကသံဃော။
ယဒိဒံ စတ္တာရိ ပုရိသယုဂါနိ အဋ္ဌပုရိသပုဂ္ဂလာ၊
ဧသ ဘဂဝတော သာဝကသံဃော–
အာဟုနေယျော၊ ပါဟုနေယျော၊
ဒက္ခိဏေယျော၊ အဉ္ဇလိကရဏီယော၊
အနုတ္တရံ ပုညက္ခေတ္တံ လောကဿာတိ။

နတ္ထိ မေ သရဏံ အညံ၊ သံဃော မေ သရဏံ ဝရံ။
ဧတေန သစ္စဝဇ္ဇေန၊ ဟောတု မေ ဇယမင်္ဂလံ။
ဟောတု မေ အာယုဝဍ္ဎနံ၊ ဟောတု မေ သုခဝဍ္ဎနံ။

၄။ သမာဒိယိ ပဥ္စသီလံ၊ အဋ္ဌင်္ဂိကမ္ပိ ဥပုဒေသိတံ။
ဧတေန သစ္စဝဇ္ဇေန၊ ဟောတု မေ ဇယမင်္ဂလံ။
ဟောတု မေ အာယုဝဍ္ဎနံ၊ ဟောတု မေ သုခဝဍ္ဎနံ။

၅။ န ဇီဝိတန္တရာယောပိ၊ ကာတုံ ဗုဒ္ဓဿ ကေနစိ။
ဧတေန သစ္စဝဇ္ဇေန၊ ဟောတု မေ ဇယမင်္ဂလံ။
ဟောတု မေ အာယုဝဍ္ဎနံ၊ ဟောတု မေ သုခဝဍ္ဎနံ။

၆။ န ဉာဏန္တရာယောပိ၊ ကာတုံ ဗုဒ္ဓဿ ကေနစိ။
ဧတေန သစ္စဝဇ္ဇေန၊ ဟောတု မေ ဇယမင်္ဂလံ။
ဟောတု မေ အာယုဝဍ္ဎနံ၊ ဟောတု မေ သုခဝဍ္ဎနံ။

၇။ န ရသ္မိအန္တရာယောပိ၊ ကာတုံ ဗုဒ္ဓဿ ကေနစိ။
ဧတေန သစ္စဝဇ္ဇေန၊ ဟောတု မေ ဇယမင်္ဂလံ။
ဟောတု မေ အာယုဝဍ္ဎနံ၊ ဟောတု မေ သုခဝဍ္ဎနံ။

၈။ ဗုဒ္ဓေါ အဘိဇ္ဇကာယောပိ၊ နတ္ထိ လောဟိတဒူဒနံ။
ဧတေန သစ္စဝဇ္ဇေန၊ ဟောတု မေ ဇယမင်္ဂလံ။
ဟောတု မေ အာယုဝဍ္ဎနံ၊ ဟောတု မေ သုခဝဍ္ဎနံ။

၉။ သစ္စံ မေ ဗုဒ္ဓသေဋ္ဌမှိ၊ သံသယော နတ္ထိ သဗ္ဗဒါ။
ဧတေန သစ္စဝဇ္ဇေန၊ ဟောတု မေ ဇယမင်္ဂလံ။
ဟောတု မေ အာယုဝဍ္ဎနံ၊ ဟောတု မေ သုခဝဍ္ဎနံ။

၁၀။ သစ္စံ မေ ဓမ္မသေဋ္ဌမှိ၊ သံသယော နတ္ထိ သဗ္ဗဒါ။
ဧတေန သစ္စဝဇ္ဇေန၊ ဟောတု မေ ဇယမင်္ဂလံ။
ဟောတု မေ အာယုဝဍ္ဎနံ၊ ဟောတု မေ သုခဝဍ္ဎနံ။

၁၁။ သစ္စံ မေ သံဃသေဋ္ဌမှိ၊ သံသယော နတ္ထိ သဗ္ဗဒါ။
ဧတေန သစ္စဝဇ္ဇေန၊ ဟောတု မေ ဇယမင်္ဂလံ။
ဟောတု မေ အာယုဝဍ္ဎနံ၊ ဟောတု မေ သုခဝဍ္ဎနံ။

၁၂။ နတ္ထိ မေ သရဏံ အညံ၊ ဗုဒ္ဓေါ မေ သရဏံ ဝရံ။
ဧတေန သစ္စဝဇ္ဇေန၊ ပဝဿန္တု ဘဝန္တု မေ။
ဧတေန သစ္စဝဇ္ဇေန၊ ပဝဿန္တု သတ္တရတနာ။

နတ္ထိ မေ သရဏံ အညံ၊ ဓမ္မော မေ သရဏံ ဝရံ။
ဧတံ သရဏံ ဥပေမိ၊ မယိ ကာဠီ န ဝိဇ္ဇတိ။
ဧတေန သစ္စဝဇ္ဇေန၊ ပဝဿန္တု သတ္တရတနာ။

နတ္ထိ မေ သရဏံ အညံ၊ သံဃော မေ သရဏံ ဝရံ။
ဧတံ သရဏံ ဥပေမိ၊ မယိ ကာဠီ န ဝိဇ္ဇတိ။
ဧတေန သစ္စဝဇ္ဇေန၊ ပဝဿန္တု သတ္တရတနာ။

ဤမဟာဝေဒပ္ပမန္တန်သည် ငါးရာ့ငါးဆယ်နိပါတ် ဝေဒပ္ပဇာတ်တော်မှ တိုက်ရိုက်မလာရှိပါ၊ ဇာတ်လမ်းမျှသာ လာရှိပါသည်။ ယခု ဖော်ပြသည့် မဟာဝေဒပ္ပမန္တန်ပါဠိများသည် လောကီ, လောကုတ္တရာ ပညာဗဟုသုတ စွယ်စုံရတော်မူကြသော ရှေးဆရာတော်ကြီးများ စီစဉ်တော်မူခဲ့ကြသည်ဟု ယူဆရပေသည်။

သို့ရာတွင် ဤမဟာဝေဒပ္ပမန္တန်သည် ဘုရားဟော ပိဋကတ်၌ တိုက်ရိုက်မလာသော်လည်း ရတနာသုံးပါး ဂုဏ်တော်ကျေးဇူးတော်များကို ထုတ်ဖော်ရွတ်ဆို၍ သစ္စာပြုပုံ၊ ဆုတောင်းပုံများကို ဖွဲ့ဆိုထားသော ဂါထာမန္တန်များဖြစ်၍ လေးစားထိုက်, အားကိုးထိုက်သော မန္တန်တော်ဖြစ်ပေသည်။

ဤမန္တန်ကို ရွတ်ဖတ်ခြင်းဖြင့် ဇာတ်တော်လာအတိုင်း ရွှေမိုး, ငွေမိုး, ရတနာမိုး ရွာသွန်းဖြိုးသကဲ့သို့ စည်းစိမ်ဥစ္စာ ရတနာများ တိုးတက်ကြီးပွားစေနိုင်သည်။ ရှေးဆရာကြီးများက တစ်နေ့ (၂၇)ကြိမ် ရွတ်ဆိုရမည်ဟု ဆိုထားရာ နိဗဒ္ဓစိတ်ထား၍ အမြဲရွတ်ဆိုပါက မုချထူးခြားသော အကျိုးကို ရရှိနိုင်ပေသည်။

၃၀။ စူဠဝေဒပ္ပ သစ္စမန္တန်တော်

၁။ ပဌမာရေ ဇိတော နာထော၊ ပတ္တော သမ္ဗောဓိမုတ္တမံ။
ဧတေန သစ္စဝဇ္ဇေန၊ သောတ္ထိ မေ ဟောတု သဗ္ဗဒါ။
ဧတေန သစ္စဝဇ္ဇေန၊ ဇယော မေ ဟောတု သဗ္ဗဒါ။

၂။ ဗုဒ္ဓေါ ဓမ္မော စ သံဃော စ၊ သေဋ္ဌော လောကတော သဗ္ဗဒါ။
ဧတေန သစ္စဝဇ္ဇေန၊ သောတ္ထိ မေ ဟောတု သဗ္ဗဒါ။
ဧတေန သစ္စဝဇ္ဇေန၊ ဇယော မေ ဟောတု သဗ္ဗဒါ။

၃။ ဗုဒ္ဓါ ပစ္စေကဗုဒ္ဓါ စ၊ အရဟာ အဂ္ဂသာဝကာ။
.သုသုခံ ဝတ နိဗ္ဗာနံ၊ လဒ္ဓါ ပရိနိဗ္ဗာယန္တိ။
တေန သစ္စဝဇ္ဇေန၊ သောတ္ထိ မေ ဟောတု သဗ္ဗဒါ။
တေန သစ္စဝဇ္ဇေန၊ ဇယော မေ ဟောတု သက်ပွေါ်။

၄။ ဗုဒ္ဓေါ မေ သရဏံ ဝရံ၊ ဓမ္မော မေ သရဏံ ဝရံ။
သံဃော မေ သရဏံ ဝရံ၊ နတ္ထိ မေ သရဏံ အညံ။
တေန သစ္စဝဇ္ဇေန၊ သောတ္ထိ မေ ဟောတု သဗ္ဗဒါ။
တေန 'သစ္စဝဇ္ဇေန၊ ဇယော မေ ဟောတု သက်ပွေါ်။

၅။ ဗုဒ္ဓါဒိံ သရဏံ ဂတာ၊ တေ ဇာနန္တိ သစ္စဓမ္မံ။
တေန သစ္စဝဇ္ဇေန၊ သောတ္ထိ မေ ဟောတု သဗ္ဗဒါ။
တေန သစ္စဝဇ္ဇေန၊ ဇယော မေ ဟောတု သက်ပွေါ်။

၆။ နက္ခတ္တာ ဒိသာ စရန္တိ၊ တထာ စန္ဒိမသူရိယာ။
ဝုဝံ စရန္တိ ဝိဒိသာ၊ ဘဏန္တိ ကာမာဝစရာ။
တေန သစ္စဝဇ္ဇေန၊ သောတ္ထိ မေ ဟောတု သဗ္ဗဒါ။
တေန သစ္စဝဇ္ဇေန၊ ဇယော မေ ဟောတု သက်ပွေါ်။

၇။ နဒီ နဒီ မဟာဂင်္ဂါ၊ နိန္နဋ္ဌာနံ စ သဗ္ဗဒါ၊ သဝန္တိ စ သဗ္ဗဒကာ။
တေန သစ္စဝဇ္ဇေန၊ သောတ္ထိ မေ ဟောတု သဗ္ဗဒါ။
တေန သစ္စဝဇ္ဇေန၊ ဇယော မေ ဟောတု သက်ပွေါ်။

၈။ သရ သရ မဟာသီတာ၊ နီရယာ မဟာဥဏှတာ။
တေန သစ္စဝဇ္ဇေန၊ သောတ္ထိ မေ ဟောတု သဗ္ဗဒါ။
တေန သစ္စဝဇ္ဇေန၊ ဇယော မေ ဟောတု သက်ပွေါ်။

၉။ ဝိတ္တာသာ စ ပုထုဇ္ဇနာ၊ အရိယာ စ ယထာဓမ္မံ၊ ဝသံ ယန္တိ သုခတ္ထိကာ။
တေန သစ္စဝဇ္ဇေန၊ သောတ္ထိ မေ ဟောတု သဗ္ဗဒါ။
တေန သစ္စဝဇ္ဇေန၊ ဇယော မေ ဟောတု သက်ပွေါ်။

၁၀။ အာဟာရေန ဌိတာ သတ္တာ၊ နိဿတ္တာ အဝိညာဏတာ။
တေန သစ္စဝဇ္ဇေန၊ သောတ္ထိ မေ ဟောတု သဗ္ဗဒါ။
တေန သစ္စဝဇ္ဇေန၊ ဇယော မေ ဟောတု သက်ပွေါ်။

၁၁။ ယာတ္တ သာခံ စ ယေ ကာမာ၊ မာ ဒုက္ခာ တေ စ သမ္ဗဒါ။
ဧတေန သစ္စဝဇ္ဇေန၊ သောတ္ထိ မေ ဟောတု သဗ္ဗဒါ။
ဧတေန သစ္စဝဇ္ဇေန၊ ဇယော မေ ဟောတု သဗ္ဗဒါ။

၁၂။ ပထဗျာ သတ္တရတ္တာဒီ၊ နသော ရေန္တိ ပထဝီ၊ ဒကံ ဝါယု ပရံ ပရာ။
ဧတေန သစ္စဝဇ္ဇေန၊ သောတ္ထိ မေ ဟောတု သဗ္ဗဒါ။
ဧတေန သစ္စဝဇ္ဇေန၊ ဇယော မေ ဟောတု သဗ္ဗဒါ။

၁၃။ ဇာတိဇရာဒိဓမ္မေဟိ၊ အဘိဘူတေဝ ယေ သဒါ။
အနာရဒ္ဓါ ဓမ္မဒွယံ၊ န တေ လဘန္တိ နိဗ္ဗာနံ။
ဧတေန သစ္စဝဇ္ဇေန၊ သောတ္ထိ မေ ဟောတု သဗ္ဗဒါ။
ဧတေန သစ္စဝဇ္ဇေန၊ ဇယော မေ ဟောတု သဗ္ဗဒါ။

၁၄။ ဓမ္မဒွယံ အနာရဒ္ဓါ၊ ဂိဟိကမ္မာဒိကေ ရတာ။
စတ္တာရိယေဝ သစ္စာနိ၊ န ပဋိဝိဇ္ဈန္တိ ယေ သဒါ။
န တေ လဘန္တိ နိဗ္ဗာနံ။
ဧတေန သစ္စဝဇ္ဇေန၊ သောတ္ထိ မေ ဟောတု သဗ္ဗဒါ။
ဧတေန သစ္စဝဇ္ဇေန၊ ဇယော မေ ဟောတု သဗ္ဗဒါ။

၁၅။ ရတနာ ကာနိစိဒေဝ၊ မဟောဒဓိံ ဩသရန္တိ။
ရတနာ ကာနိစိဒေဝ၊ ပတိဋ္ဌိတာစ သဒါပိစ။
ဧတေန သစ္စဝဇ္ဇေန၊ သောတ္ထိ မေ ဟောတု သဗ္ဗဒါ။
ဧတေန သစ္စဝဇ္ဇေန၊ ဇယော မေ ဟောတု သဗ္ဗဒါ။

ဤစူဠဝေဒဗ္ဗသစ္စမန္တန်တော်သည် ဘုရား တရား သံဃာ့ဂုဏ်တော်စသည်ကို ရွတ်ဆို၍ သစ္စာပြုဆုတောင်းပုံကို ဖော်ပြထားသော မန္တန်တော်ဖြစ်သည်။ ရွတ်ဖတ်ခြင်းဖြင့် အန္တရာယ်ကင်းသည်။ ရန်ကို အောင်မြင်နိုင်သည်။ စည်းစိမ် ဥစ္စာရတနာများ တစ်နေ့တခြား တိုးပွားနိုင်သည်ဟု ရှေးလူကြီးသူမတို့ ပြောဆို မှတ်တမ်းတင်ခဲ့ကြသည်။

ဘုရားဟောဖော် ပိဋကတ် နိကာယ်ပါဠိတော်ကြီးများ၌ သတ္တဝါအကြိုက် စရိုက်အထွေထွေနှင့် ဆီလျော်အောင် ဟောကြားထားသည့် အန္တရာယ်ကင်း ဂါထာမန္တန်များကား များပြားလှပါ၏။ ဤဗုဒ္ဓဘာသာလက်စွဲကျမ်း၌ကား မိမိတို့ နေ့စဉ် ဆောင်ရွက်နေကြရသော လူမှုကိစ္စ အဝဝနှင့် တိုင်းကျိုး, ပြည်ကျိုး, သာသနာတော်အကျိုး ဆောင်ရွက်ကြရင်း အလွယ်တကူ ရွတ်ဖတ် ပူဇော်နိုင်ကြရန် အသုံးများသည့် ဂါထာမန္တန်လောက်ကိုသာ ထုတ်နုတ်ဖော်ပြ ထားပါသည်။

ဘုရားဟောဖော် ပိဋကတ်ပါဠိတော်များကို ရွတ်ဖတ် ပူဇော်ခြင်းသည် အန္တရာယ်ကင်းခြင်း၊ ကြောက်ရွံ့ထိတ်လန့်မှုကင်းခြင်းစသော လက်ငင်းအကျိုးများသာမက အရဟတ္တဖိုလ် ဆိုက်ရောက်သည်အထိ အကျိုးများနိုင်သည်။ သဂါထာဝဂ္ဂသံယုတ်ပါဠိတော်၌ "စာအံရင်း မိမိအသံကို အာရုံပြု ဆင်ခြင်၍ ရဟန္တာဖြစ်သွားသော=သဇ္ဈာယကမထေရ်"ဟု ရှိခဲ့ဖူး၏။ မဟာဂုတ္တိဂမိယ-တိဿဒတ္တထေရ်လည်း ပဋ္ဌာန်းကျမ်းကြီး သင်အံပို့ချ၍ ရဟန္တာဖြစ်တော်မူခဲ့သည်။

ထို့ကြောင့် "နှုတ်ဖြင့် ရွတ်ဆိုခြင်းသည် စိတ်ဖြင့် ရွတ်ဆို နှလုံးသွင်းခြင်းအား ကျေးဇူးပြု၏။ စိတ်ဖြင့် ရွတ်ဆိုနှလုံးသွင်းခြင်းသည် လက္ခဏာရေးသုံးပါးကို ထိုးထွင်း သိမြင်ကြောင်း ဖြစ်၏။ လက္ခဏာရေးသုံးပါးကို ထိုးထွင်း သိမြင်ခြင်းသည် နိဗ္ဗာန်ရကြောင်း ဖြစ်၏"ဟု ဝိသုဒ္ဓိမဂ်နှင့် သမ္မောဟဝိနောဒနီ အဋ္ဌကထာတို့၌ ဖွင့်ဆိုတော်မူကြ၏။

သို့ဖြစ်၍ ဗုဒ္ဓမန္တန်ဂါထာပါဠိတော်များကို ရွတ်ဖတ်ပူဇော်ခြင်းသည် လက်ငင်းစားဝတ်နေမှု လောကီကိစ္စအဝဝ အောင်မြင်မှုအပြင် ဗုဒ္ဓဘာသာဝင် အားလုံးတို့၏ ပန်းတိုင်ဖြစ်သော မဂ်,ဖိုလ်,နိဗ္ဗာန်အထိ ပေါက်ရောက်အောင်မြင်နိုင်သည်။ စာပေ သင်အံပို့ချရင်း ရဟန္တာဖြစ်တော်မူသွားကြသည့် မထေရ်ကြီးများကို အားကျကြည်ညိုလျက် အထူးကြိုးစား၍ ရွတ်ဖတ်ပူဇော်ကြရန် တိုက်တွန်းရင်း ဗုဒ္ဓမန္တန်တော်များအခန်းကို နိဂုံးကမွတ် အဆုံးသတ်အပ်ပါသတည်း။

ဤတွင် အပိုင်း-(၅) ပြီး၏။

# အပိုင်း (၆)

## ဘဝသံသရာနှင့် ကံကြမ္မာ

## အခန်း (၂၂)

### ဘဝသံသရာ

**ဘဝ**

ဘဝဆိုသည်မှာ သတ္တဝါတစ်ဦးတစ်ယောက်၏ဖြစ်စဉ်၊ သို့မဟုတ် ဖြစ်မှုပျက်မှု ပြောင်းလဲမှု ဖြစ်စဉ်တစ်ရပ်ကို ဘဝဟု ခေါ်ဆိုနိုင်သည်။

ငယ်စဉ်အခါ ကလေးဘဝ၊ ထို့နောက် ကျောင်းသားဘဝ၊ အိမ်ထောင်သည် ဘဝ စသည်ဖြင့် အမျိုးမျိုးဆက်ကာဆက်ကာ ပြောင်းလဲနေသော ဖြစ်စဉ်တစ်ရပ် ဖြစ်ပေသည်။ ထို့ထက်ပို၍ အနုစိတ်ပါက မိမိဘဝဖြစ်ပျက်နေပုံကို စက္ကန့်တိုင်း စက္ကန့်တိုင်း အာရုံစူးစိုက် လေ့လာ သုံးသပ် ကြည့်ပါက ဘဝအဓိပ္ပာယ်ကို အသေးစိတ် ထိထိကျကျ သိရှိလာနိုင်ပေသည်။

အရောင်အဆင်းနှင့် ပုံပန်းသဏ္ဌာန်များ၊ လှုပ်ရှား ငြိမ်သက်မှုများကို မြင်နေရသည်။ အသံမျိုးစုံကို ကြားနေရသည်။ အနံ့မျိုးစုံကို နံနေရသည်။ အရသာ အမျိုးစုံကို စားနေရသည်၊ လျက်နေရသည်၊ အတွေ့အထိမျိုးစုံကို ထိသိမှုဖြစ်နေရသည်။ ကြံစည်တွေးတောမှုများ အဆက်မပြတ် ဖြစ်ပေါ်နေသည်။ ဤအခြေအနေ ဤအဖြစ်အပျက်များကို စုပေါင်း၍ သတ္တဝါတစ်ယောက်အတွက် ဘဝ တစ်ခုဟု သတ်မှတ်ခဲ့ရသည်။

**အာရုံ သုံးမျိုး**

ရွံရှာစက်ဆုပ်ဖွယ်သော အဆင်းသဏ္ဌာန်များကို မမြင်လို၊ ချောမော လှပသော အဆင်းသဏ္ဌာန်များကိုသာ မြင်လိုသည်။ ကြောက်လန့်ဖွယ်ရာ ကြမ်းတမ်းသော အသံများကို မကြားလို၊ သိမ်မွေ့နူးညံ့သော ချစ်ခင်ဖွယ်ရာ အသံများကိုသာ ကြားလိုကြသည်။ ရွံရှာစက်ဆုပ်ဖွယ် အနံ့များကို မနမ်းလိုကြ၊ မွှေးကြိုင်သင်းပျံ့သောအနံ့များကိုသာ နမ်းလိုကြသည်။ ချိုမြိန်သောအရသာကို ခံစားလိုကြသည်။ ခါးစပ်သော အရသာကို မခံစားလိုကြပေ။ သာယာ

ကြည်နူးဖွယ် စိတ်ကူး အကြံအစည်များကိုသာ ဖြစ်လိုကြသည်။ စိတ်မချမ်းသာစရာ စိတ်ကူးအကြံအစည်များ မဖြစ်လိုကြပေ။ ဤသို့အားဖြင့် သတ္တဝါများသည် ကောင်းသော အာရုံများကိုသာလျှင် တွေ့ကြုံလိုကြ၍ မကောင်းသော အာရုံများနှင့် ကင်းဝေးလိုကြသည်။

သတ္တဝါများ လိုလား နှစ်သက်ဖွယ်ကောင်းသော အာရုံများကို ဣဋ္ဌာရုံဟု ခေါ်ကြ၍ မလိုလား မနှစ်သက်ဖွယ် အာရုံများကို အနိဋ္ဌာရုံဟု ခေါ်ဆိုကြသည်။ (ဣဋ္ဌာရုံ=ဣဋ္ဌ+အာရုံ၊ ဣဋ္ဌ=အလိုရှိအပ် နှစ်သက်အပ်သော+အာရုံ=စိတ်၏ မွေ့လျော်ရာ။ အနိဋ္ဌာရုံ=န+ဣဋ္ဌာရုံ၊ န=မဟုတ်=လိုလားနှစ်သက်အပ်သော အာရုံမဟုတ်။) ယင်းဣဋ္ဌာရုံနှင့် အနိဋ္ဌာရုံတို့၏အကြား၌ အလိုရှိအပ်သည်လည်း မဟုတ်၊အလိုမရှိအပ်သည်လည်း မဟုတ်သော အာရုံတစ်မျိုးကို ဣဋ္ဌမဇ္ဈတ္တာရုံဟု ခေါ်သည်။ (မဇ္ဈတ္တ=အလယ်အလတ်သဘော။)

**အာရုံက လွှမ်းမိုးခြင်း**

သတ္တဝါတို့၏ စိတ်သည် ပြင်ပမှ လာရောက် ထင်ဟပ်ရိုက်ခတ်လာသောအခါ အာရုံကိုစွဲမှီ၍ဖြစ်ကြရသည်။ အာရုံပူက စိတ်ပူ၍ အာရုံအေးက စိတ်အေးသည်။ မိမိထက် လက်နက်စွမ်းအား သာလွန်သော ရန်သူကို တွေ့မြင်ရပါက ထိတ်လန့်တုန်လှုပ်ကြောက်ရွံ့မှု ဖြစ်ရသည်။ တောကြီးမျက်မည်း၌ ခြင်္သေ့ သစ် ကျားနှင့် ရင်ဆိုင်တွေ့ရပါက အသက်ထွက်မတတ် ကြောက်ရွံ့ တုန်လှုပ်မှု ဖြစ်ရသည်။ သို့ရာတွင် တိရစ္ဆာန်ရုံ လှောင်အိမ်ထဲ၌ ရှိသော ခြင်္သေ့ သစ် ကျားများကို တွေ့ရသောအခါ ကြောက်ရွံ့ခြင်းမဖြစ်ချေ။ ဆူပူအော်ဟစ်သံများကြားရသည့် အခါ စိတ်ခတ်တုန်လှုပ်ချောက်ချားမှု ဖြစ်ရသည်။ အလားတူပင် ပုပ်ညှီသော အနံ့ဆိုးများ, နံသည့်အခါ, ခါးစပ်သော အရသာများ စားရသည့်အခါ, အပူဒဏ် အအေးဒဏ် စူးရှနာကျင်မှုဒဏ် ခံရသောအခါတို့၌ စိတ်ဆင်းရဲမှု စိတ်မချမ်းသာမှု ဖြစ်ကြရသည်။ ဤသို့အားဖြင့် အာရုံပူက စိတ်ပူသည်ကို တွေ့ရှိနေရပေသည်။

စိမ်းလန်းစိုပြည်သော ရှုမျှော်ခင်း၊ လှပသော လုလင်ပျို လုံမပျိုတို့ကို တွေ့မြင်ရသည့်အခါ စိတ်တွင် ကြည်နူး အေးမြလေသည်။ ငြိမ့်ညောင်းသာယာသော တေးဂီတသံများနှင့် ကျေးငှက်သာရကာတို့၏ တွန်ကျူးသံများကို ကြားရသောအခါ စိတ်တွင် နှစ်သိမ့်ကြည်နူးမှုဖြစ်ရသည်။

မွှေးကြိုင်သော ပန်းရနံ့နှင့် ရေမွှေးနံ့ ပေါင်ဒါနံ့များကို ရရှိသည့်အခါ စိတ်တွင် ကြည်လင်အေးမြနေသည်။ ချိုမြိန်ကောင်းမြတ်သော စားကောင်းသောက်ဖွယ်များကို စားသောက်ရသည့်အခါ ကြည်လင်ရွှင်ပျ စိတ်ချမ်းသာမှု

ရလေသည်။ ပူအိုက်သည့်အခါ အေးမြသော အတွေ့အထိ ချမ်းအေးသည့်အခါ နွေးထွေးသော အတွေ့အထိနှင့် နူးညံ့သော အတွေ့အထိများကို ရရှိသည့်အခါ နှစ်သိမ့်ကြည်နူး ရွှင်မြူးနေတတ်သည်။

ထို့ကြောင့် ကျွန်ုပ်တို့၏ နေ့စဉ် ဘဝစိတ်ဆင်းရဲမှု စိတ်ချမ်းသာမှုသည် အာရုံအားလျော်စွာ ဖြစ်ပေါ် ခံစားနေကြရသည်။ ကောင်းသော အာရုံများ ရရှိဖို့ရန် ကြိုးပမ်းအားထုတ်နေကြရသည်။ မကောင်းသောအာရုံများ ဝေးကွာသွားစေရန် လွတ်ကင်းသွားစေရန် လုံ့လ ကြိုးကုတ် အားထုတ်နေကြရသည်။ သာယာဖွယ် မြင်ကွင်းကို ရရှိရန်အတွက် ရုပ်ရှင်ဖန်တီးထားရသည်။ ရုပ်မြင်သံကြားစက် ဝယ်ကြရသည်။ သာယာဖွယ် အသံကို ရရှိစေရန် ရေဒီယို ကက်ဆက် အသံချဲ့စက်များ ဝယ်ယူ ငှားရမ်း ဖန်တီးကြသည်။ မွှေးကြိုင်သော ရနံ့ကို ရရှိရန် ပန်းမျိုးစုံ၊ ရေမွှေး ပေါင်ဒါမျိုးစုံကို ဆောင်ထားကြရသည်။ ကောင်းသော အရသာများ ရရှိရန် ပျော်ပွဲစားရုံနှင့် ထမင်းဆိုင်များ ဖန်တီးထားရသည်။ နေ့စဉ် ချက်ပြုတ်စီမံကြရသည်။ အတွေ့အထိ အရသာကို ခံစားနိုင်ရန် ပိုးဖဲ ကတ္တီပါ အဝတ်အထည်များနှင့် မွေ့ရာ ခေါင်းအုံး ကူရှင် ဆိုဖာများ ဖန်တီးကြရသည်။

ဤကဲ့သို့ သာယာချမ်းမြေ့သောစိတ် ရွှင်မြူးကြည်လင်သော စိတ်များ ဖြစ်ပေါ်စေရန် နေ့စဉ် ဘဝ၌ အထက်ဖော်ပြပါ အာရုံဝတ္ထုအစုစုတို့ ရရှိမှုအတွက် အပတ်တကုတ် ကြိုးစား အားထုတ်နေကြရသည်။ တ္တဝါတို့၏ လိုလားချက်အကျဉ်းချုပ်မှာ ဒုက္ခဆင်းရဲ ကင်းဝေးရေးနှင့် ချမ်းသာသုခ ပြည့်စုံရေးပင် ဖြစ်တော့သည်။ ဤအာရုံဝတ္ထုများသည် မမြဲခြင်းသဘော ရှိ၍ အဟောင်းအဟောင်းတို့ ပျက်စီးကွယ်ပျောက်သွားခဲ့ရာ အသစ်အသစ်တို့ဖြင့် အစားထိုးရလေသည်။ သခါရသဘောကို မလွန်ဆန်နိုင်၍ ပြုပြင် မွမ်းမံနေကြရသည်။ နွမ်းလျှင် လျှော်ဖွပ်ရသည်။ ပေကျံလျှင် ဆေးကြောရသည်။ စုတ်လျှင် ချုပ်ရသည်။ ကျိုးပဲ့ဟောင်းနွမ်း ပျက်စီးလျှင် အသစ်ဖန်တီးရပြန်သည်။ ဆုံးနိုင်သည် မရှိ၊ ပြည့်စုံနိုင်သည် မရှိ။ အမြဲတမ်း လိုနေသည်။ ဤအာရုံဝတ္ထုများ ဖန်တီးနိုင်စွမ်း ရှာဖွေရယူနိုင်စွမ်း ရှိအောင် အသိပညာ အတတ်ပညာများ သင်ယူကျက်မှတ် လေ့လာဆည်းပူးကြရသည်။ စီးပွားဥစ္စာရှာကြရသည်၊ ချွေတာစုဆောင်းကြရသည်။ တိရစ္ဆာန်များမှာလည်း သဘာဝအလျောက် နေ့စဉ် အစာရှာဖွေကြရသည်၊ ဘေးရန်မှ တိမ်းရှောင်နေကြရသည်။ ဤကား ဘဝ၏ အဓိပ္ပာယ်ကို အကျဉ်းချုပ် ဖွဲ့ဆိုခြင်း ဖြစ်သည်။

**ဘုံဘဝများ**

ကောင်းသောအာရုံ (ဣဋ္ဌာရုံ) များကို တွေ့ထိခံစားရယူနိုင်သော ဘဝကို သုဂတိဘဝဟု ခေါ်ရ၏။(သုဂတိ=သု+ဂတိ၊ သု=ကောင်းမွန်မြင့်မြတ်သော +ဂတိ=လားရာ။)

ဆိုးဝါးယုတ်ညံ့ မကောင်းသော အာရုံ (အနိဋ္ဌာရုံ)များကို တွေ့ထိရယူခံစားနေရသော ဘဝကို ဒုဂ္ဂတိဘဝဟု ခေါ်ရ၏။ ( ဒုဂ္ဂတိ=ဒု+ဂတိ၊ ဒု=ဆိုးဝါးယုတ်ညံ့မကောင်းသော+ဂတိ=လားရာ။)

လူ့ဘုံ လူ့ဘဝ၊ နတ်ဘုံ နတ်ဘဝ၊ ဗြဟ္မာဘုံ ဗြဟ္မာဘဝတို့သည် သုဂတိဘုံ သုဂတိဘဝများ ဖြစ်ကြ၍ ငရဲ,တိရစ္ဆာန်, ပြိတ္တာ, အသူရကာယ် ဘုံဘဝတို့သည် ဒုဂ္ဂတိဘုံ ဒုဂ္ဂတိဘဝများဖြစ်ကြသည်။ သုဂတိဘုံဘဝတွင် လူ့ဘုံ လူ့ဘဝထက် နတ်ဘုံ နတ်ဘဝတွင် ပိုမိုကောင်းမြတ်သော အာရုံများကို ရရှိခံစားနိုင်သည်။ နတ်ဘုံမှာထက် ဗြဟ္မာဘုံတွင် ပိုမိုကောင်းမွန် မြင့်မြတ်သောအာရုံကို ရရှိခံစား နိုင်သည်။

**အပါယ်လေးဘုံ**

လူ့ဘုံ လူ့ဘဝမှာထက် တိရစ္ဆာန်ဘုံ တိရစ္ဆာန်ဘဝတွင် မကောင်းဆိုးဝါး ယုတ်ညံ့သောအာရုံများကို ရရှိခံစားကြရသည်။ တိရစ္ဆာန်လောကတွင် "ငါးနိုင် ငါးစား၊ ဖားနိုင် ဖားစား" နိုင်ရာစားဖြစ်၍ ဘေးရန်အန္တရာယ် ထူပြောလှသည်။ ဘေးရန်အန္တရာယ်ကို ခုခံကာကွယ်နိုင်သည့် အသိဉာဏ်နှင့်စွမ်းရည်နည်းပါးခြင်း၊ ပြုပြင်ဖန်တီးနိုင်သည့် အသိဉာဏ်နှင့် စွမ်းရည်နည်းပါးခြင်းတို့ကြောင့် တိရစ္ဆာန် ဘုံဘပတွင် ချမ်းသာသုခ နည်းပါးလှ၍ ဆင်းရဲဒုက္ခ ပြည့်လျှမ်းနေသည်။ ကျီးလန့်စာစား အမြဲထိတ်လန့်တုန်လှုပ် ကြောက်ရွံ့နေရသည်။

**ပြိတ္တာဘုံ**

ပြိတ္တာဘုံဘဝမှာမူ အတိတ်ဘဝကံကြမ္မာ နှိပ်စက်မှုကြောင့် အမြဲဆာလောင် မွတ်သိပ်နေကြရသည်။ ရေကို တွေ့ပါလျက် ရေမသောက်နိုင်၊ ၎င်းတို့အတွက် ရေသည် သံပူရည်ဖြစ်နေသည်။ သောက်၍ မရနိုင်ဖြစ်သွားသည်။ ဝမ်းဗိုက်မှ ဆာလောင်နေသော်လည်း ပါးစပ်ပေါက်မှာ အပ်နဖားပေါက်မျှသာ ရှိ၍ စား၍ မရ သောက်၍ မရ ဖြစ်နေရှာသည်။ အငတ်မပြေ အဆာမပြေ ဖြစ်နေရသည်။ အချို့ပြိတ္တာများမှာ မိမိအသားကို ပြန်လည်ဖဲ့ယူစားသောက်နေရသည်။ အချို့ ပြိတ္တာများ၏ ဦးခေါင်းပေါ်တွင် ရဲရဲတောက်ပူလောင်သည့် မီးအိုးကင်းကြီးက စွဲကပ်လိုက်ပါနေသည်။ ဆင်းရဲဒုက္ခဝေဒနာကို အမြဲမပြတ် ခံစားနေကြရသည်။

**အသူရကာယ်ဘုံ**

အသူရကာယ်၏ ဘဝမှာလည်း ပြိတ္တာဘဝကဲ့သို့ပင် အမြဲတမ်း ဆာလောင်ငတ်မွတ်နေသည်။ ဒုက္ခဝေဒနာကို ခံစားနေရသည်။ ကြောက်ရွံ့အားငယ်သော သဘောရှိသည်။ အသူရကာယ်၏ ဘဝသည် ပြိတ္တာဘဝထက် အဆင့်အတန်း နိမ့်၍ ဆင်းရဲဒုက္ခ ပိုမိုခံစားရသည်။ အဆိုပါ ပြိတ္တာနှင့် အသူရကာယ်များကို လူတို့၏ သာမန်မျက်စိဖြင့် မမြင်နိုင်ချေ။ ယင်းတို့၏ ရုပ်ခန္ဓာများသည် သိမ်မွေ့သော အဏုမြူများနှင့် ဖွဲ့စည်းထားသောကြောင့် ဖြစ်သည်။

ဥပမာအားဖြင့် ကျွန်ုပ်တို့ပတ်ဝန်းကျင်ရှိ လေထုခေါ်သော ရုပ်မှုန်များကို ကျွန်ုပ်တို့၏ မျက်စိဖြင့် မမြင်နိုင်ကြချေ။ ထို့အတူ ဖော်ပြပါ ပြိတ္တာနှင့် အသူရကာယ်များသည် ကျွန်ုပ်တို့၏ ပတ်ဝန်းကျင်၌ ရှိနေသော်လည်း ကျွန်ုပ်တို့၏ သာမန်မျက်စိဖြင့် မမြင်နိုင်ကြချေ။ ၎င်းတို့၏ အသံကို သာမန်နားဖြင့် မကြားနိုင်ကြချေ။ ထူးခြားသော သမာဓိကို ရရှိသော ပုဂ္ဂိုလ်များသာလျှင် မြင်နိုင် ကြားနိုင်ကြသည်။ သို့မဟုတ် ကျွန်ုပ်တို့ ကုသိုလ်ကံ နိမ့်ပါး၍ သွေးလေ ချောက်ချား စိတ်လွင့်ပါးသည့် အခါများတွင် ယင်းပြိတ္တာ အသူရကာယ် များကို မြင်ရ ကြားရလေ့ရှိတတ်သည်။ ထိုအခါ ကျွန်ုပ်တို့က တစ္ဆေချောက် ခံရသည်ဟု ပြောလေ့ပြောထရှိကြသည်။

**ငရဲဘုံ**

ငရဲကို ပါဠိဘာသာအားဖြင့် နိရယဟု ခေါ်သည်။ (နိ+အယ၊ နိ=မရှိသော ကောင်းသော+အယ=ချမ်းသာ။)

ယင်း နိရယဟူသောပါဠိကို မြန်မာအသံပြောင်းသောအခါ နိရယ်=နိရဲဟု ဖြစ်လာသည်။ နိရဲမှ နရဲဖြစ်လာသည်။ နငယ်ကို င-အက္ခရာဖြင့် အသံဖလှယ် သည့်အခါ နရဲမှ ငရဲဖြစ်လာသည်။ ထို့ကြောင့် ငရဲဟူသည် ချမ်းသာကင်းသော ဘုံဘဝဟု ဆိုလိုသည်။ ငရဲထိန်းနှင့် ငရဲခွေးတို့၏ နှိပ်စက်မှုကို အမြဲခံနေ ကြရသည်။ ငရဲမီးလောင်မှုကို အမြဲခံစားနေရသည်။ ဤကဲ့သို့ ပြင်းထန်သော ဒုက္ခဝေဒနာကို ခံစားနေရသော်လည်း အသက်မသေနိုင်၊ ဆင်းရဲကံ မကုန်သ၍ အသက်ရှင်လျက် ဆက်လက် တည်နေသည်။ ဆင်းရဲကံ ကုန်ဆုံးသည့်အခါမှ သာလျှင် ငရဲသားဘဝမှ သေဆုံး၍ အခြားဘဝသို့ ကူးပြောင်းနိုင်သည်။

## ငရဲကြီး ရှစ်ထပ်

ငရဲကြီးရှစ်ထပ်သည် ဇမ္ဗူဒီပါမြေကြီးအတွင်း၌ အထက်အောက်အဆင့်ဆင့် တည်လျက်ရှိသည်။ အထက်မှ အောက်သို့ ဖော်ပြပါအတိုင်း အဆင့်ဆင့် တည်ရှိနေကြသည်—

(၁) သိဉ္ဇိုဝ်း (သဉ္ဇီဝ) ငရဲ၊

(၂) ကာလသုတ် (ကာလသုတ္တ) ငရဲ၊

(၃) သင်္ဃာတငရဲ၊

(၄) ရောရုဝငရဲ၊

(၅) မဟာရောရုဝငရဲ၊

(၆) တာပနငရဲ၊

(၇) မဟာတာပနငရဲ၊

(၈) အဝီစိငရဲ။

## သိဉ္ဇိုဝ်းငရဲ

ဤငရဲထို၌ ငရဲသားသည် အဖန်ဖန်အထပ်ထပ် အသတ်ခံရပြီး အဖန်ဖန် အသက်ပြန်ရှင်ရသောကြောင့် သဉ္ဇိုဝ်းငရဲဟု ခေါ်သည်။ (သံ+ဇီဝ၊ သံ= အဖန်ဖန်+ဇီဝ=အသက်ရှင်ခြင်း။)

သိဉ္ဇိုဝ်းငရဲသည် အလျှံတပြောင်ပြောင် တောက်လောင်နေသော သံမြေအပြင်ရှိ၏။ မရေမတွက်နိုင်သော ငရဲသားသတ္တဝါတို့ဖြင့် ပြည့်နှက်နေသည်။ ငရဲထိန်းတို့က အလျှံတပြောင်ပြောင် တောက်လောင်နေသည့် ထက်လှစွာသော ဓား, လှံစသည့် လက်နက်ကြီးများဖြင့် သတ်ပုတ် ရိုက်နှက် ထိုးပစ်နေကြသည်။ ငရဲသားတို့၏ ဦးခေါင်း, လက်, ခြေတို့ကို အပိုင်းပိုင်း ဖြတ်ပစ်ကြ၏။ သံပူမြေပြင်၌ လူးလှိမ့်နေကြသော ငရဲသားတို့ကို ကြီးစွာသော သံတင်းပုတ်ကြီးတို့ဖြင့် အသား, အရေ, အရိုး, အကြောတို့ ကြေမွအောင် အတင်းထိုးနှက်ကြသည်။ သွေးတို့သည် လှိုင်းတံပိုးဖြစ်၍ ပြင်းထန်စွာ စီးကျန်၏။ ထိုအသွေးအသား အလုံးစုံတို့သည် သံမြေပြင်မှ ထ၍ မီးလုံးကြီးဟပ်လိုက်လျှင် အကြွင်းအကျန် မရှိအောင် လောင်ကျွမ်းခံကြရသည်။ ထိုသို့ပင် လောင်ကျွမ်းသွားသော်လည်း ငရဲသားတို့မှာ မကျွတ်မလွတ်ကြရသေးဘဲ အကုသိုလ်ကံ စီမံမှုကြောင့် တဖန် ငရဲသားခန္ဓာကိုယ် ပြန်၍ ဖြစ်ကြရသည်။ အကုသိုလ်ကံ

မကုန်အရွေ မကျွဲသီမလွတ်ကြရဘဲ အဖနီဖနီ ပြန်ဖြစ်၍ ငရဲခံကြရသည်။ နှစ်ပေါင်း ကုဋေကုဋာကြာသော်လည်း အကုသိုလ်ကံမကုန်သမျှ ခံကြရသည်။ ထိုငရဲသည် ရန်သူအနန္တကို ခုတ်စဉ်းသတ်ဖြတ်ရာ မဟာသချိုင်းကြီးနှင့်လည်း တူ၏။ များစွာသော သား, ငှက်, တိရစ္ဆာန်တို့ကို သတ်ဖြတ်ရာ သားသတ်ရုံ နွားသတ်ရုံကြီးနှင့်လည်း တူ၏။

## ကာလသုတ်ငရဲ

ဤငရဲဘုံ၌ ဖြစ်ကြသော သတ္တဝါတို့ကို မျဉ်းနက်ကြောင်းကြီးချ၍ ပဲခွပ်ဓားမ, လွှစသည်တို့ဖြင့် ရွေခုတ် တိုက်ခွဲအပ်သောကြောင့် ကာလသုတ်ငရဲဟု ခေါ်သည်။ (ကာလ+သုတ္တ၊ ကာလ=မဲနက်သော +သုတ္တ=မျဉ်းကြောင်း။)

ဤကာလသုတ်ငရဲ၌လည်း အလျှံတခြောင်းခြောင်း တောက်လောင်နေသော သံမြေပြင်ဝယ် များပြားလှစွာသော ငရဲသားတို့ဖြင့် ပြည့်နှက်လျက် ရှိသည်။

ငရဲထိန်းတို့သည် အလျှံပြောင်ပြောင်တောက်သော လက်နက်အမျိုးမျိုးတို့ဖြင့် ငရဲသားတို့အား ပစ်ခတ်ပြီး သံမြေပြင်၌ လဲစေကုန်၏။ ငရဲသားများ လဲနေသောအခါ ငရဲထိန်းတိုက ထန်းလုံးပမာဏရှိသော သံမှို(သံမယ်န)ကြီးတို့ဖြင့် မလှုပ်မယှက်နိုင်အောင် သံမြေ၌ ခိုင်မြဲစွာ စိုက်နှက်ပြီး လွှသမားများ သစ်တုံးကို လွှတိုက်ရန် မျဉ်းသားသကဲ့သို့ ငရဲသားတို့ကိုယ်ကို မည်းနက်သော တမျဉ်းကြိုးကို ကိုင်၍ မျဉ်းသားကြသည်။ ငရဲထိန်းတို့သည် အိမ်မိုးတစ်ခြမ်း ပမာဏရှိ ဓားမကြီးတို့ဖြင့် လည်းကောင်း၊ တစ်ခြမ်းပဲ့နေသော ကျောက်တောင် ပမာဏရှိ ပဲခွပ် ပုဆိန်တို့ဖြင့် လည်းကောင်း မျဉ်းကြောင်းအတိုင်း လိုက်၍ အလှာလိုက် ကွာကျအောင် ခုတ်ရွေခွဲစိတ် မြှောင့်ပစ်ကြသည်။ ကြီးမား ထက်မြက်သည့် အစွယ်ကြီးများ ရှိသော ငရဲလွှကြီးတို့ဖြင့်လည်း တိုက်ခွဲကြသည်။ ငရဲကောင်တို့၏ ခန္ဓာကိုယ်သည် ဖျဉ်ချပ်များပမာ အပြားလိုက် အချပ်လိုက် အစိတ်စိတ်အမြွာမြွာ ဖြစ်ကုန်၏။

အကြမ်းခွဲခြင်း အနုစိတ်ခွဲခြင်း စသည်တို့ဖြင့် အမျိုးမျိုး တိုက်ခွဲခြင်း၊ အကြမ်းရွေခြင်း၊ အနုရွေခြင်း စသည်ဖြင့် အမျိုးမျိုး ရွေခြင်းတို့ကို အဆင့်ဆင့် ပြုလုပ်ကြသည်။ ငရဲထိန်းတို့ ပြုလုပ်သည့်အတိုင်း ငရဲသားတို့မှာ သစ်တုံးများ ပမာ စင်းစင်းပက်လက်လဲကာ ခံနေကြရသည်။ ထိုသို့ ခုတ်, ရွေ, စင်း, စိတ်, တိုက်ခွဲ၍ အစိတ်စိတ် အမြွာမြွာ အလှာလှာ အချပ်ချပ် ဖြစ်နေသော ငရဲသားတို့၏ အသွေးအသားများသည် သံမြေမှ ထတောက်သော ငရဲမီးလုံးကြီး များ၏ ဝါးမျိုမှုကြောင့် အားလုံး လောင်ကျွမ်းပျက်စီးသွားကြရသည်။

ငရဲသား သတ္တဝါတို့သည် အကုသိုလ်ကံ မကုန်သမျှ ထိုငရဲဘုံ၌ပင် ငရဲ စန္ဒာကိုယ် ထပ်ကာထပ်ကာ ပြန်ဖြစ်၍ ဆင်းရဲစွာခံစားကြရသည်။ ထိုကာလဘုတ် ငရဲသည် ရန်သူအများကို ဓားမကြီးတို့ဖြင့် ရွှေ၍ ပဲခွပ်တို့ဖြင့် ခုတ်လှီးပြီး လှကြီးတို့ဖြင့် တိုက်ခွဲကာ သတ်ရာ ဖြတ်ရာ မဟာသချိုင်းကြီးနှင့်လည်း တူ၏။ သစ်သားများကို အမျိုးမျိုး ခွဲစိတ်ရာ လွှစက်ရုံကြီးနှင့်လည်း တူ၏။

**သဃာ်တငရဲ**

ဤငရဲ၌ ဖြစ်ကြသော သတ္တဝါတို့ကို ကြီးကျယ် မြင့်မားပြီး အလျှံ တပြောင်ပြောင် တောက်လောင်နေသော သံခတောင်ကြီးတို့သည် ဒလိမ့်တုံးကြီး များသဖွယ် လိမ့်ဆင်းလာ၍ မုန့်မုန့်ညက်ညက် ကြိတ်ချေကြသောကြောင့် သဃာ်တငရဲဟု ခေါ်သည်။ (သံ+ဃာတ၊ သံ=ပြင်းထန်စွာ+ဃာတ= ကြိတ်ချေခြင်း။)

ဤသဃာ်တငရဲ၌ အလျှံ တပြောင်ပြောင် တောက်လောင်နေသော သံမြေပြင်ပေါ်ဝယ် ထန်းပင်ကြီးများပမာ မတ်မတ်ရပ်လျက် နေကြသော ငရဲသားသတ္တဝါတို့ဖြင့် ပြည့်နှက်နေသည်။ ထိုငရဲသားတို့သည် သုံးဂါဝုတ် မျှလောက်ကြီးမားသော ကိုယ်ရှိကြ၏။ အောက်သံမြေအတွင်း၌ ခါးတိုင်အောင် နှစ်မြှုပ်ခံနေကြရသဖြင့် လှုပ်ရှားသွားလာ၍ မရကြပေ။ ထန်းတော ပေတော ကွမ်းသီးပင်တော အုန်းပင်တောကြီးများပမာ အထက်သို့ မတ်မတ်ထောင် နေသောကိုယ် ရှိကြ၏။

အရပ်လေးမျက်နှာမှ ကြီးကျယ် မြင့်မားပြီး မီးလျှံပြောင်ပြောင် ထိန်ထိန် လောင်နေသော သံမီးတောင်ကြီးများသည် အလှည့်ကျ ကြီးမားသော အသံများကို မြည်ဟည်းလျက် သံဒလိမ့်တုံးကြီးများ၊ လမ်းကြိတ်စက်ကြီးများ ပမာ ငရဲသားသတ္တဝါတို့အား အလှည့်ကျ ရက်စက်စွာ ကြိတ်နင်းလျက် တဟုန်ထည်း လိမ့်သွားကြသည်။

အရှေ့အရပ်မှ သံမီးတောင်ကြီးသည် မုန်ယစ်သော ဆင်ကြီးကဲ့သို့ ကျယ်လောင်စွာ မြည်ဟည်းလျက် ငရဲသားတို့ကို အတင်းနင်းနယ် ကြိတ်ဝါးပြီး အနောက်အရပ်သို့ လိမ့်သွားလေသည်။ ထိုအခါ သွေးဝနေသော မြှောများကို ပြင်းထန်စွာ ဖိနှိပ် ညှစ်ပစ်လိုက်သည့်အခါ သွေးများ အဟုန်ပြင်းစွာ ပန်းထွက်လာသကဲ့သို့ ငရဲသားတို့ကိုယ်မှ သွေးရေအလျှဉ်သည် သမုဒ္ဒရာ လှိုင်းလုံးကြီးများလောက်မက တဟုန်ထည်း ထ၍ ငရဲအိုးတံတိုင်းကို ရိုက်ခတ် လေသည်။ ငရဲသားတို့ ညက်ညက်ကြေကြရသည်။ ထိုအချိန်တွင် ငရဲမီး လျှံသည် သွေးလှိုင်းကြီးများကို အတင်းလောင်မြိုက်ကြသည်။ ထို့နောက်

ငရဲသတ္တဝါတို့သည် မိမိတို့ အကုသိုလ်ကံ မကုန်သေးသမျှ မူလငရဲခန္ဓာကိုယ် အတိုင်း ဖြစ်ပေါ်ကြရပြန်သည်။

အရှေ့အရပ်မှ သံတောင်ကြီးသည် ငရဲသားတို့အား ကြိတ်ချေလျက် အနောက်အရပ်သို့ သွားသည်၊ တောင်အရပ်မှ သံမီးတောင်သည် မြောက် အရပ်သို့၊ အနောက်အရပ်မှ သံမီးတောင်သည် အရှေ့အရပ်သို့၊ မြောက်အရပ်မှ သံမီးတောင်သည် တောင်အရပ်သို့ အလှည့်ကျစီ ကမ္ဘာတည်သည်မှ စ၍ ကမ္ဘာပျက်သည့်တိုင်အောင် ကြိတ်ဝါးနင်းနယ်လျက် ရှိသည်။ ငရဲသားတို့သည် အကုသိုလ်ကံ မကုန်မချင်း အဖန်ဖန် ကြိတ်ချေခံကြရသည်။

## ရောရုဝငရဲ

ဤငရဲ၌ ဖြစ်ကြရသော သတ္တဝါတို့သည် ကြီးကျယ် ပြင်းထန်လှသော အသံတို့ဖြင့် အမြဲမပြတ် ငိုကြွေးမြည်တမ်း နေကြရသောကြောင့် ရောရုဝငရဲဟု ခေါ်သည်။ (ရောရုဝ=အမြဲငိုကြွေးရခြင်း။)

ရောရုဝငရဲသည် အလျှံပြောင်ပြောင် တောက်လောင်နေသော သံမြေပြင် ရှိပြီး ကမ္ဘာပတ်လုံး တည်သော အလွန် ငန်ယား စပ်ခါး ခြစ်တူးပြီး အထူး ပူလောင်သော အခိုးအငွေ့တို့ဖြင့် ပြည့်လျှံနေသည်။ ထို့ကြောင့် ၎င်းငရဲကို ဓူမရောရုဝငရဲဟုလည်း ခေါ်သည်။ (ဓူမ+ရောရုဝ၊ ဓူမ=အခိုးအငွေ့ရှိသော+ ရောရုဝ=ရောရုဝငရဲ)။

ဤငရဲသို့ ကျရောက်ကြသည့် များစွာသော ငရဲသားတို့၏ ကိုယ်သည် သုံးဂါဝုတ်မျှကြီးမား၏။ စပ်ငန်ခြစ်တူးအထူးပူလောင်သော အခိုးအငွေ့တို့သည် ငရဲသားတို့၏ ကိုယ်တွင်းသို့ ဒွါရကိုးပေါက်မှ လျှောက်၍ အတင်းဝင်ရောက် ကြသည်။ မွေးညင်းပေါက် စသည်တို့မှလည်း အတင်းဝင်ရောက်ကြသည်။ ငရဲသား တစ်ကိုယ်လုံးရှိ အသား၊ အရိုး၊ ရိုးတွင်းခြင်ဆီပါမကျန် အားလုံးပျံ့နှံ့၍ မွှန်နှောက်ချောက်ချားကြသည်။ အလွန်ပူပြင်းသော သံအိုးကင်းထဲ၌ ဖုတ်လှော် အပ်သော အမဲသားတစ်မှ အခိုးတချောင်းချောင်း ထသကဲ့သို့ ငရဲသားတို့၏ တစ်ကိုယ်လုံးမှ အခိုးတချောင်းချောင်း ထကုန်၏။ ပြင်းထန်သော အဆိပ်နံ့ကို ရှူရှိုက်မိသူသည် သေလုနီးအခါတွင် တလိမ်လိမ် တလွန့်လွန့် နေရသကဲ့သို့ ငရဲသားတို့သည် အခိုးတချောင်းချောင်း ထွက်သော ကိုယ်ဖြင့် တဖျတ်ဖျတ် လူးလွန့် တွန့်လိမ်နေကြရသည်။ မခံမရပ်နိုင်အောင် ပူလောင်ကျိန်းစပ်လှသဖြင့် ပြင်းထန်ကျယ်လောင်စွာ အော်ဟစ် ငိုကြွေးကြရသည်။

ဤရောရုဝငရဲသည် ရန်သူတို့ကို အဆိပ်ခတ်၍ အကျမြူ ဖိုးတို့ဖြင့် သတ်ဖြတ်သုတ်သင်ရာ မဟာသ ချိုင်းကြီးနှင့် တူလှပေသည်။

**မဟာရောရုဝငရဲ**

ရောရုဝငရဲထက် ကြီးလေးပြင်းထန်သောကြောင့် မဟာရောရုဝငရဲဟု ခေါ်သည်။ ဇာလရောရုဝဟုလည်း ခေါ်သေးသည်။ (မဟာ+ရောရုဝ၊ မဟာ=ကြီးလေးပြင်းထန်သော+ရောရုဝ=ရောရုဝငရဲ၊ဇာလ=မီးတောက်မီးလျှံရှိသော+ရောရုဝ= ရောရုဝငရဲ။)

မဟာရောရုဝငရဲသည် အလျှံပြောင်ပြောင်တောက်နေသော သံမြေပြင်ရှိ၏။ ငရဲသားတို့၏ ကိုယ်သည်လည်း သုံးဂါဝုတ်မျှကြီးမား၏။ အဆိပ်နှင့်တကွသော မီးလျှံတို့သည် ငရဲသားတို့၏ ခန္ဓာကိုယ်အတွင်းသို့ အတင်းဝင်ရောက်လောင်မြိုက်နေကြသည်။ငရဲသားတို့၏ခန္ဓာကိုယ်သည်လည်း မီးကျီးခဲကြီးများသဖွယ် ဖြစ်နေကြသည်။ မဟာရောရုဝငရဲသည်လည်း မီးကျီးခဲကြီးများ သိုလှောင်ထားသော ဂိုဒေါင်ကြီးသဖွယ် ဖြစ်နေသည်။ ရပ်တည်ရာ မရနိုင်အောင် လွန်စွာ ပူလောင်ဆင်းရဲလှသဖြင့် ပြင်းထန်ကျယ်လောင်စွာ အော်ဟစ် ငိုကြွေးနေကြရသည်။ အကုသိုလ်ကံ မကုန်သမျှ မလွတ်နိုင်ကြကုန်။

ဤမဟာရောရုဝငရဲသည် ရန်သူတို့အား မီးလောင်တိုက်သွင်း၍ သတ်ဖြတ်ရာ မဟာသချိုင်းကြီးနှင့် တူလှသည်၊

**တာပနငရဲ**

ဤငရဲ၌ ကျရောက်ရသော သတ္တဝါတို့ကို အလျှံပြောင်ပြောင် ထွက်နေသော သံတံကျင်ကြီး၌ မလှုပ်မယှက် ထိုင်နေစေလျက် တစ်ကိုယ်လုံး ကို ပြင်းထန်စွာ ပူလောင်စေသောကြောင့် တာပနငရဲဟု ခေါ်သည်။ (တပ=တာပန=ပူလောင်စေခြင်း။)

ဤငရဲသည် အလျှံပြောင်ပြောင် တောက်လောင်သော သံမြေပြင်ဝယ် မရေမတွက်နိုင်အောင် ပြည့်နှက်နေသော ငရဲသားတို့ကို သံမြေမှ ပေါ်ပေါက်လာသော အလျှံပြောင်ပြောင်တောက်သည့် သံတံကျင်တို့ဖြင့် ထိုးလျှိုကုန်လျက် တည်နေ၏။ သံတံကျင်တို့သည် အောက်ဒွါရ(စအို)မှသည် အထက်ဦးခေါင်းသို့ ပေါက်စေ၏။ ငါးကို ပါးစပ်ပေါက်မှ နေ၍ တံစို့ ထိုးထားသကဲ့သို့ ဖြစ်၏။ ရဲရဲညီးသော သံမြေ၌ ထောက်ရပ်ထားသည့် ခြေနှစ်ဖက်တို့ကို သံမှိုတို့ဖြင့် တွယ်နှက်ထားသည်။ လက်ယာလက်မောင်းဘက်မှ ထိုးလျှိုလိုက်သော သံတံကျင်

သည် လက်ဝဲလက်မောင်းဘက်ဆီသို့ ထုတ်ချင်းပေါက်သွား၏။ သံတံကျင်တို့မှာလည်း မီး ကုန်းဟုန်းထနေသည်။ သံတံကျင်များ ထိုးလျှိုထားသဖြင့် မရွှေ့မယှက်နိုင်သော ငရဲသားတို့အား ကောက်နယ်တလင်းခန့်ရှိ ရဲရဲညီးသော သံပူပြားကြီးတို့ဖြင့် လာ၍ လာ၍ ကပ်ကြသေးသည်။ ယင်းသို့ ကပ်လိုက်သောအခါ ပန်းပဲဖိုမှ ထုတ်၍ ရေသို့ ချသော သံပြားကြီးကဲ့သို့ တရှဲရှဲမြည်နေကြသည်။ လွန်စွာ ပူပြင်းလှ၍ ရုန်းကန်လှုပ်ရှား လိုသော်လည်း ထိုးလျှိုရိုက်နက်ထားသော သံတံကျင်၊ သံမှိုတို့ကြောင့် လှုပ်ရှား၍မရဘဲ အတင်းကြဲ၍သာ ခံကြရရှာသည်။ အကုသိုလ်ကံ မကုန်သမျှ လွတ်ခွင့်မရကြချေ။ ဤတာပနငရဲသည် သံတံကျင် ထိုးလျက် ကားစင်တင်၍ သတ်ရာ၊ သံပူကပ်၍ သတ်ရာ မဟာသချိုင်းကြီးနှင့် တူလှပေသည်။

**မဟာတာပနငရဲ**

တာပနငရဲထက် ဆင်းရဲဒုက္ခ အင်းအားကြီးမား ပြင်းထန်သောကြောင့် မဟာတာပနငရဲဟု ခေါ်သည်။(မဟာ+တာပန၊ မဟာ=ကြီးမားပြင်းထန်သော တာပန=တာပနငရဲ။)

မဟာတာပနငရဲ၌လည်း အလျှံညီးညီး အရှိန်ကြီးသော သံမြေပြင်ရှိ၏။ ကြီးမားသော သံမီးတောင်ကြီးများလည်း ရှိ၏။ သံမီးတောင်ကြီးများ၏ ဝန်းကျင်၌ ထူထပ်များပြားလှသည့် အဖျားချွန်ထက်သော မီးသံတံကျင်တောကြီး ရှိ၏။

နွားကျောင်းသားသည် မိမိနွားအုပ်ကို မြက်ပေါက်သော တောင်ပေါ်သို့ အတင်းမောင်းနှင်သကဲ့သို့ ငရဲထိန်းတို့သည်ကြီးမားထက်မြက်သောမီးလက်နက်အမျိုးမျိုးတို့ဖြင့် ရိုက်နှက်လျက် ငရဲသားအုပ်ကြီးကို မီးသံတောင်ကြီးပေါ်သို့ အတင်းမောင်းနှင်ကြသည်။ ငရဲသားတို့သည် မီးသံတောင်ကြီးပေါ်သို့ တက်ကြရသည်။ တောင်ခုလတ်၌ ရှိနေကြသော ငရဲဆူးပင်ကြီးများက ငရဲသားတို့၏ ဝမ်းဗိုက်ကို ဖောက်လျက် အူ အသည်း မျက်လုံးတို့ကို စူးဝင်ကုန်၏။ အဖျားကောက်သော ဆူးတို့က အူ အသည်း မျက်လုံးတို့ကို ချိတ်ဆွဲကုန်၏။

ငရဲသားတို့သည် မီးတောင်ထိပ်သို့ ရောက်သောအခါ အငွေ့ပြင်းထန်စပ်ငန် ပူလောင်သည့် အဆိပ်အခိုးတို့နှင့် ရောနှောနေသော ငရဲလေပြင်းတိုက်သဖြင့် ငရဲသားတို့မှာ သံမီးတောင်ထိပ်မှ လွင့်၍ သံတံကျင်တောပေါ်သို့ ကျရောက်ရလေသည်။ ထိုအခါ ကိုယ်၌ သံတံကျင်များ စူးဝင်လျက် ကြီးမားပြင်းထန်လှသော ဆင်းရဲကို ခံကြရပြန်သည်။

ငရဲထိန်းတို့သည် သံတံကျင်ထိပ်ဖျားတွင် စူးဝင်စွပ်မိလျက် မမြင်ဝံ့ မရှုဝံ့ လွန်ကာ လွန်ကာ ခံနေကြရသော ငရဲသားတို့အား ရဲရဲညီးသော သံတွေခဲတို့ဖြင့် ပစ်ခတ်လျက် သံမှိန်း သံခက်ရင်းတို့ဖြင့် သံမြေပြင်ပေါ်သို့ ထိုးချကြပြန်သည်။ မီးသံမြေပြင်မှ တဖန် မီးသံတောင်ပေါ်သို့ အတင်းအတက်ခိုင်းကြပြန်သည်။

ဤမဟာတာပနငရဲသည်မိမိတို့၏ လင်ယောကျ်ားအပေါ်တွင် မထီလေးစား စော်ကားနိုင်နင်းသော မိန်းမဖျင်းတို့ ကျခံရာ၊ လင်ယောကျ်ားအပေါ် နိုင်လိုမင်းထက် ရက်စက်ကြမ်းကြုတ် မိန်းမယုတ်တို့ ကျရောက်ရာ ငရဲ ဖြစ်ကြောင်း သံကိစ္စဇာတ်၌ ဟောကြားထားသည်။ ထို့အတူပင် မိမိ ဇနီးမယားအား မတရားစော်ကားနှိပ်စက် အကြမ်းဖက် အနိုင်အထက်ပြုလုပ်သော ယောကျ်ားယုတ်များလည်း ထိုငရဲ၌ ကျရောက်နိုင်လေသည်။

**အဝီစိငရဲ**

ငရဲသတ္တဝါ ငရဲမီးလျှံ ဆင်းရဲဒုက္ခအားဖြင့် အကြားအလပ် မရှိသောကြောင့် အဝီစိငရဲဟု ခေါ်သည်။ (န+ဝီစိ၊ န=မရှိခြင်း+ဝီစိ=အကြားအလတ်=လဲ့လပ်သောနေရာ။) ထိုငရဲကိုပင် ကြီးမားသောအပြစ် ကျူးလွန်သူတို့ ခံရသောကြောင့် မဟာအဝီစိငရဲဟု ခေါ်သည်။ သံသေတ္တာကြီး အတွင်း၌ မုန့်ညင်းစေ့ကို သိပ်၍ ထည့်ထားသကဲ့သို့ တခဲနက် ပြည့်ကျပ်ပြီး နေရာလပ် ကြားလပ်မရှိပေ။

ထိုအဝီစိအငရဲ၏ အလယ်တည့်တည့်တွင် ငရဲမကြီးခေါ် ငရဲနေပြည်တော်ကြီး ရှိပြီး ထုထည်ကိုးယူဇနာရှိသော သံတံဘိုင်းဘို့ဖြင့် ဝိုင်းရံထားသည်။ အထက်နှင့် အောက်၊ တောင်နှင့် မြောက်၊ အရှေ့နှင့် အနောက်၊ အထက်မျက်နှာပြင်၊ အောက်မျက်နှာပြင် ယူဇနာတစ်ရာစီ ရှိ၏။ ၎င်းကို ထုကိုးယူဇနာရှိသော သံပြားကြီးတို့ဖြင့် ပိတ်ထား၏။ အဝီစိငရဲမကြီးသည် လေးထောင့်စပ်စပ်ရှိသော သံသေတ္တာကြီးနှင့် တူသည်။

အဝီစိငရဲ၌ ကံကြီးထိုက်၍ နှစ်ပေါင်းရှည်ကြာ ခံကြရမည့် နှစ်ကြီးသမားငရဲသားများ ကျရောက်ကြသည်။ အဝီစိငရဲမကြီး၌ အရပ်လေးမျက်နှာတွင် သံတံခါးကြီး လေးခုရှိပြီး အကုသိုလ်ကံကုန်၍ ကျွတ်လွတ်ခွင့်ရသော သတ္တဝါ ရှိခဲ့လျှင် ထိုတံခါးကြီးများ အလိုလို ပွင့်သွားပြီး ထိုသတ္တဝါတို့ ထွက်ကြရသည်။ ယင်းသို့ ပွင့်သွားသော်လည်း အကုသိုလ်ကံ မကုန်သေးသော သတ္တဝါတို့မှာ ထွက်၍ မရကြပေ။

အငီစီငရဲ၌ အောက်သံမြေမှ ထလောင်သော မီးလျှံသည် ယူဇနာတစ်ရာရှိ အထက်သံဇမိုးပြင်သို့တိုင်အောင် တက်သည်။ အထက်သံဇမိုးကြီးမှ ဆင်း၍ ဖြာထွက်သော မီးလျှံတို့သည်လည်း အောက်သံမြေပြင်သို့ ရောက်၏။ ငရဲမီးလျှံတို့သည် ထိုမှသည် ငရဲတံတိုင်းဆီသို့ ထုတ်ချင်းခတ် ပျံ့နှံ့နေသည်။

ပိန်းပိတ်နေသော ငရဲမီးလုံးကြီးထဲ၌ ငရဲသားတို့သည် ချမ်းသာဟူ၍ စိုးစိမျှ မရှိ၊ စက္ကန့်ဝက်မျှ ချမ်းသာသည်ဟူ၍ မရှိ၊ နှစ်ပေါင်း အသင်္ချေအနန္တအတွင်း လျှပ်တပြက်မျှ ဆင်းရဲဒုက္ခမှ မလွတ်ရဘဲ ဒုက္ခကြားမလပ်အောင် ခံစားခဲ့ကြရသည်။

အငီစီငရဲကြီး၌ ငရဲသားသတ္တဝါ လိုနေသော ကွက်လပ် မရှိခြင်းကြောင့် နေရာကွက်လပ် စောင့်နေရသော ငရဲသားဟူ၍ မရှိ။ ကြားကွက်လပ်မရှိသော်လည်း လာသမျှ ရောက်သမျှ ငရဲသားအားလုံး ဝင်ဆန့်လေသည်။ လာလာသမျှ ငရဲသားတို့ကို မပယ်မလှန် အားလုံး လက်ခံနိုင်သော သတ္တိရှိပေသည်။

**ငရဲငယ်များ**

ငရဲကြီး ရှစ်ထပ်တွင် တစ်ထပ်လျှင် တစ်မျက်နှာစီ၌ ဥဿဒငရဲ(ငရဲငယ်) လေးထပ်စီ ခြံရံထားသဖြင့် ငရဲကြီးတစ်ထပ်လျှင် ငရဲငယ်ပေါင်း ၁၆-ထပ် ရှိသည်။ ၎င်းတို့မှာ—

(၁) ဘင်ပုပ်ငရဲ၊

(၂) ပြာပူငရဲ၊

(၃) လက်ပံတောငရဲ၊

(၄) သန်လျက်တောငရဲ—

တို့ဖြစ်သည်။

**ဘင်ပုပ်ငရဲ**

ဘင်ပုပ်ငရဲသည် အတွင်းပိုင်းအကျဆုံး ငရဲ ဖြစ်ပြီး အနက်ယူဇနာတစ်ရာရှိ၍ မစင်ဘင်ပုပ်တို့ဖြင့် ပြည့်လျှံနေသည်။ မစင်နံ့သည် ယူဇနာတစ်ရာတိုင်အောင် အနံ့ နံစေသည်။ မစင်ဘင်ပုပ်ငရဲတွင်းထဲ၌ မိန်းကောလေ့ ပမာဏရှိသောပိုးလောက်တို့သည် နှုတ်သီးတငေါ်ငေါ်ဖြင့် လူးလွန့်ပျော်ပါးနေကြသည်။

ငရဲမကြီး၌ ကျရောက်ကြသောသူတို့သည် ကံအားလျော်စွာ ကျွတ်လွတ်ခွင့် ရလာပြီးနောက် ငရဲငယ်၌ ကျခံရန် အကုသိုလ်ကံကြွင်း ကျန်ရှိသေးလျှင် ဤဘင်ပုပ်ငရဲသို့ ကျရောက်ကြ၏။ ထိုအခါ ပိုးလောက်ကြီးတို့က အတင်းဝိုင်းအုံ ထိုးဆိတ်ကိုက်စားကြသည်။

## ပြာပူငရဲ

ပြာပူငရဲသည် ရဲရဲညီးသော ပြာပူတို့ဖြင့် ပြည့်နှက်နေသည်။ ၎င်း ပြာပူချိန်သည် ယူဇနာတစ်ရာထိ ပျံ့နှံ့လသည်။ ငရဲသားသည် ပြာပူအတွင်း နစ်မြုပ်ကာ ရွှေလျား သွားလာနေရသည်၊ ဘင်ပုပ်ငရဲမှ လွတ်ပြီးနောက် အကုသိုလ်ကံကြွင်း ရှိသေးလျှင် ဤပြာပူငရဲသို့ ကျရောက်ခံစားကြရပြန်သည်။

## လက်ပံတောငရဲ

လက်ပံတောငရဲသည် ပြာပူငရဲ၏ အရပ်ရှစ်မျက်နှာ၌ ဓိုက်ပတ်၍ တည်နေသည်။ လက်ပံပင်များမှာ သံအတိဖြစ်၍ ရဲရဲတောက်ပူလောင်နေ၏။ ဆူးတို့မှာ အလွန်ထက်မြက်၍ အရွက်များမှာ သန်လျက်ကြီးများနှင့် တူ၍ အောက်ခြေ မြေပြင်၌ သင်တုန်းဓားသွားများ စီခင်းထား၏။ ပြာပူငရဲမှ ကျွတ်လွတ်လာပြီး အကုသိုလ်ကံကျန်နေသေးလျှင် လက်ပံတောငရဲသို့ ဝင်ရောက်ကြရပြန်သည်။ ငရဲသားရောက်လာသည်နှင့် တပြိုင်နက် သန်လျက်သဖွယ်ဖြစ်သော လက်ပံရွက် တို့သည် မိုးရွာသကဲ့သို့ ကြွေကျကြ၍ ခန္ဓာကိုယ်ထဲ၌ စူးဝင်နေစဉ် ငရဲခွေး၊ ငရဲကျီး ငရဲလင်းဘတို့က အရှင်လတ်လတ် ကိုက်ဆွဲဆိတ်ပေါက် စားသောက် ကြသည်၊ ဆင်ကောင်တမျှကြီးသော ခွေးနက်ကြီးများက လိုက်လံကိုက်ခဲသည့် အခါ လက်ပံပင်ပေါ်သို့ ပြေးတက်၏၊ လက်ပံဆူးများသည် အထက်တွင် အောက်ဖက်သို့ အဖျားလှည့်နေ၍ ဆင်းလျှင် အဖျားအပေါ်ထောင်နေ၏။ လက်ပံပင်ပေါ် ရောက်ပြန်လျှင် ကျီးနှင့်လင်းတတို့က ထိုးဆိတ်ကြ၏။ အောက်သို့ လိမ့်ကျလာလျှင်လည်း ခွေးစားခံရပြန်၏။

## သန်လျက်တောငရဲ

လက်ပံတောငရဲ၏ အပြင်ဘက် အရပ်ရှစ်မျက်နှာ၌ အနံတစ်ယူဇနာ အမြင့် တစ်ယူဇနာရှိသော သန်လျက်နှင့်တူသော အရွက်ရှိသည့် "အသိပတ္တ"မည်သော သန်လျက်သစ်တောကြီး ရှိသည်၊ လက်ပံတောငရဲမှ လွတ်မြောက်လာပြီး အကုသိုလ်ကံ ကျန်သေးလျှင် ဤသန်လျက်တောငရဲသို့ ဝင်ရောက်ကြရသည်။ ခံရပုံမှာ လက်ပံတောငရဲနှင့် အတူတူပင် ဖြစ်၏။ သို့သော် လက်ပံတောငရဲမှာ ဆူးရှိ၍ သန်လျက်တောငရဲမှာ ဆူးမရှိပေ။

**အခြားရေငယ်များ**

ဤဖော်ပြပါ ရေငယ် (၄)မျိုးအပြင် ကြိမ်ပိုက်ချောင်း(ဝေတ္တရဏီ)ရေ၊ ကြေးအိုး(လောဟကုမ္ဘီ)ရေ စသည်အားဖြင့်လည်း ရှိသေးပေသည်။

ဒေဝဒူတသုတ်လာ ကြိမ်ပိုက်ချောင်းရေသည် သန်လျက်တောငရဲ၏ အပြင်ဘက် အရပ်ရှစ်မျက်နှာ ပတ်ပတ်လည်၌ တည်ရှိသည်။ အလွန်နံစပ်သော ရေရှိသည်။ ကြေးနီရေပူဟူ၍လည်း ဆိုကြသည်။ ထိုရေသည်အဟုန်ဖြင့် စီးဆင်းလျက်ရှိသည်။ ရေပြင်အထက်၌ အလွန်ချွန်ထက်သည့် သံဆူး သံချွန်တို့ဖြင့် ပြည့်နေသော ထန်းလုံးပမာဏရှိ ကြိမ်နွယ်တို့ ကမ်းနှစ်ဖက်ကူးယှက်လျက် ပိုက်ကွန်ကြီးပမာ ရှုပ်ထွေးမြွေးယှက်နေသည်။

ကြိမ်နွယ်တို့အောက်၌ ထန်းပင်လုံး ပမာဏရှိ အဖျားချွန်ထက်သော သံတံကျင်များ အပြည့်အနှက် စိုက်ထူလျက် ရှိသည်။ ဝဲယာကမ်းတစ်လျှောက်၌လည်း သံချွန်သံဆူးများ စိုက်ထားသကဲ့သို့ အလွန် အဖျားချွန်ထက်သော သမန်းမြက်တော၊ ဖောင်းကားမြက်တော၊ ကြိမ်ပင်တော၊ ကလိမ်ပင်တောများ ရှိသည်။ သန်လျက်တောငရဲမှ လွတ်လာသော ငရဲသားသည် အကုသိုလ်ကံ ကျန်သေးလျှင် ဤကြိမ်ပိုက်ချောင်းငရဲ၌ ကျရောက်ရပြန်သည်။ ချောင်းရေ အဟုန်၌ မျောပါနေစဉ် ကြိမ်ဆူးများ သံတံကျင်များ သမန်းမြက်များ စူးရှ ကုတ်ခြစ်မှု ခံကြရ၏။

လောဟကုမ္ဘီ ငရဲကား ကြေးရည်ပူ သံရည်ပူတို့ဖြင့် ပြည့်နှက်နေသော ရေအိုးကြီး ဖြစ်သည်။ ငရဲသားသည် ငရဲအိုးအတွင်း၌ ငုပ်ချီ ပေါ်ချီ ခံစားနေရသည်။ ရာဇဂြိုဟ်ပြည်အနီး အောက်မှာပင် ရှိသည်ဟု ဆိုသည်။ ရာဇဂြိုဟ်ပြည်အနီးက တပေါဒါမြစ် ခေါ်သော ရေပူမြစ်သည် ကြိမ်ပိုက်ချောင်း ငရဲနှင့် လောဟကုမ္ဘီငရဲ နှစ်ခုစပ်ကြားမှ စီးဆင်းလာသော မြစ်ဟု ဆိုသည်။ "ဒု-သ-န-သော" ဟု အော်ဟစ်နေကြသော သူဌေးသား လေးယောက်တို့သည် ထိုလောဟကုမ္ဘီငရဲ၌ ကျရောက်နေကြရသည်။

ဤဆိုသော ငရဲဒုက္ခများကို အဖန်ဖန် စဉ်းစားမိသူတို့သည် အကုသိုလ်အမှုမပြုမိအောင် သတိဖြင့် ရှောင်ကြဉ်သင့်ကြသည်။ ပြုမိသော အကုသိုလ်များအတွက်လည်း နောင်တ အဖန် မပူပန်တော့ဘဲ အသစ်မပြုလုပ်မိအောင် သတိထားရှောင်ရှားလျက် ကုသိုလ်တရားများကို ပွားများအားထုတ်သင့်ကြပေသည်။

**ငရဲသက်တမ်း**

ငရဲသားတို့၏ သက်တမ်းကို နှစ်, လ, ရက်တို့ဖြင့် ရေတွက်ရာ၌ အောက်ဖော်ပြပါအတိုင်း ဇိနာလင်္ကာရဋီကာ၌ ပြဆိုထား၏—

- လူတို့၏ အနှစ် ၉-သန်းသည် သိဉ္ဇိုဝ်းငရဲ၌ ၁-ရက် ဖြစ်၏။ သိဉ္ဇိုဝ်းငရဲသည် ထို ရက်, လ, နှစ်အားဖြင့် အနှစ်ငါးရာ သက်တမ်း ရှိ၏။

- လူတို့၏ အနှစ် ၁-ကုဋေ ၆-သန်းသည် ကာလသုတ်ငရဲ၌ ၁-ရက် ဖြစ်၏။ ကာလသုတ်ငရဲသည် ထို ရက်, လ, နှစ်အားဖြင့် အနှစ်တစ်ထောင် သက်တမ်း ရှိ၏။

- လူတို့၏ အနှစ် ၁၃-ကုဋေ ၄-သန်းသည် သဃာတငရဲ၌ ၁-ရက် ဖြစ်၏။ သဃာတငရဲသည် ထို ရက်, လ, နှစ်အားဖြင့် အနှစ်လေးထောင် သက်တမ်း ရှိ၏။

- လူတို့၏ အနှစ် ၅၇-ကုဋေ ၆-သန်းသည် ရောရုဝငရဲ၌ ၁-ရက် ဖြစ်၏။ ရောရုဝငရဲသည် ထို ရက်, လ, နှစ်အားဖြင့် အနှစ်လေးထောင် သက်တမ်း ရှိ၏။

- လူတို့၏ အနှစ် ၂၃၀-ကုဋေ ၄-သန်းသည် မဟာရောရုဝငရဲ၌ ၁-ရက် ဖြစ်၏။ မဟာရောရုဝငရဲသည် ထို ရက်, လ, နှစ်အားဖြင့် အနှစ်ရှစ်ထောင် သက်တမ်း ရှိ၏။

- လူတို့၏ အနှစ် ၈၂၃-ကုဋေ ၆-သန်းသည် တာပနငရဲ၌ ၁-ရက် ဖြစ်၏။ တာပနငရဲသည် ထို ရက်, လ, နှစ်အားဖြင့် တစ်သောင်း ခြောက်ထောင် သက်တမ်း ရှိ၏။

- လူတို့၏ အနှစ် ၃၆၈၆-ကုဋေ ၄-သန်းသည် မဟာတာပနငရဲ၌ ၁-ရက် ဖြစ်၏။ မဟာတာပနငရဲသည် ထို ရက်, လ, နှစ်အားဖြင့် သုံးသောင်းနှစ်ထောင် (အန္တရကပ်ထက်ဝက်)သက်တမ်း ရှိ၏။

- လူတို့၏ အနှစ် ၁၄၇၄၅-ကုဋေ ၆-သန်းသည် အဝီစိငရဲ၌ ၁-ရက် ဖြစ်၏။ အဝီစိငရဲသည် ထို ရက်, လ, နှစ်အားဖြင့် ခြောက်သောင်း လေးထောင် (အန္တရကပ် တစ်ကပ်) သက်တမ်း ရှိ၏။

### ကာမသုဂတိ ၇-ဘုံ

ထိုက်သည်အားလျော်စွာ စည်းစိမ်ခံစားရသော ဘုံဘဝကို သုဂတိဘုံဟု ခေါ်သည်။ ကာမတဏှာ၏ ကျက်စားရာ (အာရုံပြုရာ)နယ်ပယ် ဖြစ်သော ကြောင့် ကာမဘုံဟုလည်း ခေါ်သည်။

ကာမသုဂတိ ၇-ဘုံသည် ဖော်ပြပါ အစဉ်အတိုင်း အောက်မှအထက် အဆင့်ဆင့် တည်လျက် ရှိသည်—

(၁) လူ့ဘုံ၊
(၂) စတုမဟာရာဇ်နတ်ဘုံ၊
(၃) တာဝတိံသာနတ်ဘုံ
(၄) ယာမာနတ်ဘုံ၊
(၅) တုသိတာနတ်ဘုံ၊
(၆) နိမ္မာနရတိနတ်ဘုံ၊
(၇) ပရနိမ္မိတဝသဝတ္တီနတ်ဘုံ။

(၂)–(၇) နတ်ပြည် ၆-ထပ်

### လူ့ဘုံ

ဤကမ္ဘာမြေအပြင်ရှိ စကြဝဠာအနန္တသည် လူ့ဘုံ မည်၏။ စကြဝဠာ အနန္တရှိ လူတို့သည် နတ်စသော အခြားဘုံသားတို့ထက် ထက်မြက်သောစိတ်, ရဲရင့်သောစိတ်, ဆန်းကြယ်သောစိတ် ရှိကုန်၏။

ဤလူ့ဘုံတွင် ကုသိုလ်အရာ၌ ကုသိုလ်ဖြစ်ပွားရန် အခွင့်အလမ်းရှိသကဲ့သို့ အကုသိုလ်အရာ၌လည်း အကုသိုလ် ဖြစ်ပွားရန် အခွင့်အလမ်းများ ရှိ၏။ အခြားဘုံတို့၌ ဤကဲ့သို့ စုံလင်စွာ မရှိကြပေ။ လူ့ပြည်၌သာ ဘုရားပွင့်နိုင်၏။ လူသားမှသာလျှင် ဘုရားဖြစ်နိုင်၏။ အလောင်းတော်ကြီးများသည် လူ့ဘုံ၌သာ ပါရမီဖြည့်ဆည်းပူးခွင့် ရကြသည်။ ထို့ကြောင့် ကုသိုလ် အကုသိုလ် အရာ၌ မြင့်သောစိတ်, ထက်သောစိတ်, ရဲရင့်သောစိတ်, ဆန်းကြယ်သောစိတ် ရှိကုန်၏။ အလွန်မြင့်သော စိတ်နှလုံး ရှိသောကြောင့် လူဟူ၍ ခေါ်သည်။

### စတုမဟာရာဇ်နတ်ဘုံ

ဓတရဋ္ဌ, ဝိရူဠှက, ဝိရူပက္ခ, ကုဝေရ-ဟူသော နတ်မင်းကြီး လေးယောက်ကို စတုမဟာရာဇာဟု ခေါ်သည်။ (စတု+မဟာ+ရာဇာ၊ စတု=၄-ယောက်+ မဟာ=ကြီးသော+ရာဇာ=မင်း။)

ထိုနတ်မင်းကြီးလေးယောက်တို့ အုပ်စိုးရာ, ထိုနတ်မင်းကြီးလေးယောက်တို့အား ဆည်းကပ်ခစားရာ ဘုံဌာန ဖြစ်သောကြောင့် စတုမဟာရာဇ်ဘုံဟု ခေါ်သည်။ ၎င်းဘုံ၏ ကည်ရာမှာ မြင်းမိုရ်တောင် အလယ်လောက်မှ စ၍ ဤမြေပြင်အထိ ဖြစ်၏။

ထိုနတ်မင်းကြီးလေးယောက်တို့သည် မြင်းမိုရ်တောင်၏ အလယ်ခုလတ်မှ နေ၍ အုပ်ချုပ်ကြသည်။ ဓတရဋ္ဌ နတ်မင်းကြီးက မြင်းမိုရ်တောင်၏ အရှေ့ဘက်နံပါး၌ နေလျက် ဂန္ဓဗ္ဗနတ်တို့ကို အုပ်ချုပ်မင်းလုပ်သည်။ ဝိရူဠ္ဟက နတ်မင်းကြီးက မြင်းမိုရ်တောင်၏ တောင်ဘက်နံပါး၌ နေလျက် ကုမ္ဘဏ်နတ်တို့ကို အုပ်ချုပ်မင်းလုပ်သည်။ ဝိရူပက္ခ နတ်မင်းကြီးက မြင်းမိုရ်တောင်၏ အနောက်ဘက်နံပါး၌ နေလျက် နတ်နဂါးတို့ကို အုပ်ချုပ်မင်းလုပ်၏။ ကုဝေရနတ်မင်းကြီးက မြင်းမိုရ်တောင်၏ မြောက်ဘက်နံပါး၌ နေလျက် နတ်ဘီလူးတို့ကို အုပ်ချုပ်မင်းလုပ်၏။

**စတုမဟာရာဇ်နတ်မျိုးများ**

ဤလူ့ပြည်ဝယ် မြေကြီးနှင့် ဆက်နွယ်လျက် ရှိသော တော တောင် သစ်ပင်တို့၌ နေသော နတ်အားလုံးနှင့် တောစောင့်နတ်, တောင်စောင့်နတ်, သစ်ပင်၌နေသောနတ် (ရုက္ခဒေဝ=ရုက္ခစိုးနတ်) များသည် ဘုမ္မဒေဝ (ဘုမ္မစိုးနတ်) များ ဖြစ်ကြသည်။ ကိုယ်စောင့်နတ်စသည်များ၊ နတ်ဘီလူး, ကုမ္ဘဏ်, ရက္ခိုုသ်, ဂန္ဓဗ္ဗ စသော နတ်များ၊ ဇော်ဂနီ, စုန်း စသည်များ၊ ဝိနိပါတိကအသုရာ, ဝေမာနိက ပြိတ္တာ စသည်တို့သည် စတုမဟာရာဇ်နတ်မင်းကြီးများ၏ လက်အောက်ခံဖြစ်၍ စတုမဟာရာဇ်နတ်ဘုံစာရင်း၌ ပါဝင်ကြသည်။

နံ့သာပင် (သနပ်ခါးပင်) စသည်တို့၌ သန္ဓေတွယ်၍ နံ့သာပင်၌ နေသော နတ်တို့ကို ဂန္ဓဗ္ဗနတ်ဟု ခေါ်သည်။ အိုးစရည်းကြီးတမျှ ကြီးမားသော ဝမ်းဗိုက်နှင့် ကြီးမားသော ဝှေးဥရှိသော ဒါနဝရက္ခိုုသ်တို့ကို ကုမ္ဘဏ်ဟု ခေါ်သည်။

မိန်းမတို့ကိုယ်၌ ပူးဝင်လျက် ထိုမိန်းမတို့ ခိုင်းစေရာ ဂန္ဓဗ္ဗနတ်မများလည်း ရှိသေး၏။ ၎င်းကို ဝေဒကျမ်းက ယောဂိနီဟု ခေါ်ပြီး မြန်မာတို့က ဇော်ဂနီဟု ခေါ်ကြသည်။ လရောင်လာရာ လပြည့်နေ့အခါ စသည်တို့၌ ဟိုဟိုဒီဒီ သွားလာရာတွင် အရောင်ထွက်သောကြောင့် ပါဠိလို ဇုဏှ၊ မြန်မာလို ဇုဏ်း=စုန်းဟု ခေါ်သည်။

ဥစ္စာ, ရေကန် စသည်တို့၌ စောင့်ရှောက်လျက် လာရောက်သူတို့ကို ဖမ်းစားတတ်သော နတ်မျိုးကို "ရက္ခသ=ရက္ခိုသ်"ဟု ခေါ်သည်။ ဥစ္စာစောင့်များလည်း ရက္ခိုသ်တွင် ပါဝင်ဟန်ရှိသည်။

ထိုကုမ္ဘဏ်, ရက္ခိုသ်, နတ်ဘီလူးတို့သည် ငရဲထိန်းဟန်, ခွေးနက်ကြီးဟန် ဖန်ဆင်းလျက် ငရဲသားတို့အား သွားရောက်ကိုက်စားကြသည်။

### တာဝတိံသာနတ်ဘုံ

မာဃလုလင် အမှူးပြုသော အတူတကွ ကုသိုလ်ပြုဖော် ပြုဖက် ကောင်းမှုရှင် (၃၃)ယောက်တို့၏ ဖြစ်ရာ ဖြစ်သောကြောင့် "တေတ္တိံသဘုံ"ဟု ခေါ်သည်။ (တေ=တိ+တိံသ၊ တေ=တိ=၃+တိံသ=၃၀။) သဒ္ဒါနည်းဖြင့် "တေ"ကို "တာဝ"ပြုလုပ်၍ "တ"ကို ချေဖျက်လိုက်ပြီး "တာဝတိံသာ"ဟု ဖြစ်လာသည်။ တာဝတိံသာနတ်ဘုံသည် မာဃလုလင်တို့အုပ်စု မရောက်ခင်ကတည်းက ရှိပြီးသား ဖြစ်၏။ မာဃလုလင်တို့၏ ကောင်းမှု အရှိန်ကြောင့် အခြားအမည် ပျောက်၍ တာဝတိံသာအမည် ရောက်ခဲ့ရသည်။ မာဃသည် နတ်တို့ကို အစိုးရသော သိကြားမင်း ဖြစ်သည်။ တည်နေရာမှာ မြင်းမိုရ်တောင်ထိပ်၌ ဖြစ်သည်။ တာဝတိံသာဘုံ၌ ဝေဇယန္တာပြာသာဒ်, ပင်လယ်ကသစ်ပင်, ပဏ္ဍုကမ္ဗလာ, နန္ဒဝန်ဥယျာဉ်, စိတ္တလတာဥယျာဉ်, မဟာနန္ဒာကန် စသည်တို့ရှိသည်။

စတုမဟာရာဇ်, တာဝတိံသာ နတ်ဘုံတို့သည် မြင်းမိုရ်တောင်မြေနှင့် ဆက်သွယ်တည်ရှိနေကြသောကြောင့် ထိုနတ်ဘုံတို့၌ ဘူမဋ္ဌကဗိမာန်(မြေပေါက်ဗိမာန်)များအပြင် အာကာသဋ္ဌ(ကောင်းကင်၌တည်သော) ဗိမာန်များလည်း ရှိကြသည်။ ယာမာ စသော အထက်နတ်ဘုံတို့၌ကား ကောင်းကင်ဗိမာန်သာ ရှိကြသည်။

### ယာမာနတ်ဘုံ

ယာမာမည်သော နတ်မင်းကြီး နတ်ဘုရင်ကြီး၏ တည်ရာဌာန ဖြစ်သောကြောင့် ယာမာဘုံဟု ခေါ်သည်။ ထိုနတ်မင်းကြီးကို သုယာမနတ်မင်းဟုလည်း ခေါ်သည်။ ၎င်းနတ်မင်းသည် သိကြားမင်း ရာထူးကိုလည်း ရသည်။ တနည်းအားဖြင့် နတ်ချမ်းသာသို့ ကောင်းစွာ ရောက်သော နတ်တို့၏ နေရာဖြစ်သောကြောင့် ယာမာဘုံဟု ခေါ်သည်။ တည်နေရာမှာ ကောင်းကင်ဖြစ်သည်။

### တုသိတာနတ်ဘုံ

နှစ်သက်ရွှင်မြူးဖွယ်ရာကောင်းသော ဘုံဌာန ဖြစ်သောကြောင့် တုသိတာဘုံဟု ခေါ်သည်။ ထိုနတ်ဘုံ၌ ကြီးကျယ် မြင့်မြတ်သော စည်းစိမ် ကျက်သရေ

ထို့ပြင် ပြည့်စုံသောကြောင့် ထိုဘုံ၌ ဖြစ်ကြရသော နတ်တို့မှာ အမြဲမပြတ် ရွှင်မြူးနှစ်သက် ဝမ်းမြောက်နေကြသည်။ ဘုရားအလောင်းတော်များသည် နတ်ဘုံ၌ ဖြစ်လေ့ရှိသည်။ အရိမေတ္တေယျ ဘုရားလောင်းသည် ဤဘုံ၌ ရှိနေသည်။

**နိမ္မာနရတိနတ်ဘုံ**

အလိုရှိတိုင်းသော စည်းစိမ်ချမ်းသာ အမျိုးမျိုးတို့ကို ကိုယ်တိုင် ဖန်ဆင်း၍ ပျော်မွေ့ကြရာဘုံဌာနဖြစ်သောကြောင့် နိမ္မာနရတိဘုံဟု ခေါ်သည်။ (နိမ္မာန +ရတိ၊ နိမ္မာန=ဖန်ဆင်းအပ်သော စည်းစိမ်+ရတိ=မွေ့လျော်ခြင်း။)

ထိုနတ်တို့သည် ပင်ကိုရှိပြီးသား စည်းစိမ်ထက်ပို၍ အလွန်အကဲ ခံစားလိုစိတ် ပေါ်သောအခါ စိတ်တိုင်းကျ ဖန်ဆင်း၍ စည်းစိမ်ခံ မွေ့လျော်ကြသည်။ မိမိလိုရာ အဆင်း အသံ စသည်တို့ကို ကိုယ်တိုင် ဖန်ဆင်းကြသည်။

စတုမဟာရာဇ်၊ တာဝတိံသာ၊ ယာမာ၊ တုသိတာဟူသော အောက်နတ်ပြည် လေးဘုံတို့၌ ကိုယ်ပိုင်ဇနီးမောင်နှံရှိကြသည်။ နိမ္မာနရတိနှင့် ပရနိမ္မိတ ဝသဝတ္တီ ဘုံတို့၌ကား အမြဲမရှိကြပေ။

**ပရနိမ္မိတဝသဝတ္တီနတ်ဘုံ**

သူတပါးတို့ ဖန်ဆင်းထားသော အာရုံတို့၌ မိမိအလိုဆန္ဒသို့ လိုက်ပါ စေနိုင်သောကြောင့် ပရနိမ္မိတဝသဝတ္တီဘုံဟု ခေါ်သည်။ နိမ္မာနရတိနတ်တို့ ကဲ့သို့ ကိုယ်တိုင်မဖန်ဆင်းဘဲ အစေအပါးနတ်များက အလိုက်သိစွာ စိတ်တိုင်း ကျအောင် ဖန်ဆင်းပေးအပ်သော ကာမဂုဏ်အာရုံတို့ကို မိမိအလိုသို့ လိုက်ပါ စေနိုင်သည်။ မာရ်နတ်မင်းသည် ဤနတ်ဘုံကို အုပ်စိုးသူဖြစ်သည်။ (ပရ+နိမ္မိတ +ဝသ+ဝတ္တီ၊ ပရ=သူတပါး+နိမ္မိတ=ဖန်ဆင်းအပ်သည်+ဝသ=အလိုဆန္ဒ+ ဝတ္တီ=ဖြစ်စေနိုင်ခြင်း။)

**နတ်စည်းစိမ်**

နတ်စည်းစိမ်ကား လူ့စည်းစိမ်နှင့် အလွန်ပင် ကွာခြားလှသည်။ ဥပမာ အားဖြင့် မြက်ပင်ဖျားက ဆီးနှင်းပေါက်နှင့် သမုဒ္ဒရာရေပမာပင်။ သို့သော် စတုမဟာရာဇ်နတ်၌ ပါဝင်သော နတ်စုတ် နတ်မွဲ နတ်သရဲတို့၏ စည်းစိမ်နှင့် အစာအာဟာရများကား သာယာနှစ်သက်ဖွယ် မရှိပေ။

နတ်ပြည်၌ မိမိတို့၏ လူ့ဘဝက ပြုလုပ်ခဲ့သော ရှေးကုသိုလ်ကံကြောင့် ကိုယ်ပိုင် ရရှိသော ဘုံဗိမာန်များကလည်း ဆန်းကြယ်လွန်းလှ၏။ နတ်သား

များမှာ အသက် ၂၀-အရွယ်၌သာ တည်ရှိပြီး နတ်သမီးတို့မှာ ၁၆-နှစ် အရွယ်၌ပင် ပကတိအလှမပျက် တသက်လုံး တည်ကြသည်။ သွားကျိုး ဆံဖြူ နားအူ မျက်မှုံ အရေးကျဲ အရည်တွန့်ခြင်းများကား လုံးဝမရှိပေ။

နတ်ဩဇာ အဆီအနှစ်တို့ကိုသာ စားသောက်ကြရသဖြင့် ခန္ဓာကိုယ်တွင်း၌ အပေါ့အလေး အညစ်အကြေး စသည့် မကောင်းသော အနိဋ္ဌာရုံတို့ လုံးဝ မရှိကြပေ။

နတ်သမီးတို့မှာလည်း ဓမ္မတာ လာခြင်း စသော အညစ်အကြေးတို့ မရှိပေ။ နတ်သားနတ်သမီး ဇနီးမောင်နှံတို့ ရှိသော်လည်း လူကဲ့သို့ ကိုယ်ဝန်လွယ်ခြင်း မွေးဖွားခြင်းတို့မရှိပေ။ သားသမီးဖြစ်ထိုက်သော နတ်သား နတ်သမီးတို့သည် ၎င်းတို့၏ ရင်ခွင့်ပေါ် အိပ်ရာပေါ်၌ ရောက်လာကြသည်။ နတ်ပြည် ၆-ထပ်လုံး မှာပင် ကာမဂုဏ်ချမ်းသာ ခံစားကြရာ၌ လူတို့နှင့် မထူးသော်လည်း သုက်စသည့် အညစ်အကြေး မဖြစ်ပေါ်ဘဲ သွေးသားလှုပ်ရှား တွေ့ထိရုံမျှဖြင့် ကာမဂုဏ်ကိစ္စ ပြီးစီးကြသည်။

နတ်တူရိယာ, နတ်အဆိုကျော်, နတ်ကချေသည်, နတ်အငြိမ့်သည်, နတ်တေးဂီတတို့ဖြင့်လည်း စည်းစိမ်ခံကြသည်။ နတ်သမီး နတ်သားတို့သည် နန္ဒဝန်ဥယျာဉ်၌ လှည့်လည် ပျော်ပါးကြပြီး မဟာနန္ဒာကန်တော်ကြီး၌လည်း ရေကစားကြသည်။ နတ်တို့၏ စည်းစိမ်ကား လူတို့အနေဖြင့် ရေးပြပြောပြ၍ အားရဖွယ် ကုန်နိုင်ဖွယ် မရှိပေ။ နတ်စည်းစိမ်ကို သိရှိခံစားလိုလျှင် အကုသိုလ် ရှောင်၍ ကုသိုလ်ကောင်းမှု များများ ပြုကြရပေမည်။ နတ်ဘုံများကား ကုသိုလ်ရှင်တို့၏ ခံစားစံစားရာ ဘုံဌာန ဖြစ်ပေသည်။

## နတ်တို့၏ သက်တမ်း

လူတို့၏အနှစ် ၅၀ သည် စတုမဟာရာဇ်နတ်ပြည်၌ ၁-ရက်ဖြစ်၏။ ထိုရက်ဖြင့် ရက်ပေါင်း ၃၀-သည် ၁-လ၊ ထိုလဖြင့် လပေါင်း ၁၂-လသည် စတုမဟာရာဇ် နတ်ပြည်၌ ၁-နှစ်ဖြစ်၏။ ထိုနှစ်ဖြင့် နှစ်ပေါင်း ငါးရာသည် စတုမဟာရာဇ် နတ်တို့၏သက်တမ်း ဖြစ်၏။ လူတို့၏ နှစ်အရေအတွက်အားဖြင့် အနှစ် ၉-သန်း ရှိသည်။

စတုမဟာရာဇ်နတ်သက်တမ်း ငါးရာဟူသည် များရာကို လိုက်၍ သတ်မှတ် ထားသော ယေဘုယျနည်းအရ ဖြစ်လေသည်။ အချို့သော အာကာသဋ္ဌ (ကောင်းကင်နေ) စတုမဟာရာဇ်နတ်တို့၏ သက်တမ်းသည် အပိုင်းအခြား မရှိပေ။

လူတို့၏အနှစ် ၁၀၀ သည် တာဝတိံသာဘုံ၌ ၁-ရက်ဖြစ်၏။ ထို ရက်၊ လ၊ နှစ်တို့ဖြင့် နှစ်ပေါင်းတစ်ထောင်သည် တာဝတိံသာနတ်တို့၏ သက်တမ်းဖြစ်၏။ လူ့အရေအတွက်အားဖြင့် နှစ်ပေါင်း ၃-ကုဋေ ၆-သန်း ဖြစ်၏။

လူတို့၏အနှစ် ၂၀၀ သည် ယာမာဘုံ၌ ၁-ရက်ဖြစ်၏။ ထို ရက်၊ လ၊ နှစ်တို့ဖြင့် နှစ်ပေါင်းနှစ်ထောင်သည် ယာမာနတ်တို့၏ သက်တမ်းဖြစ်၏။ လူ့အရေအတွက်အားဖြင့် နှစ်ပေါင်း ၁၄-ကုဋေ ၄-သန်း ဖြစ်၏။

လူတို့၏အနှစ် ၄၀၀ သည် တုသိတာဘုံ၌ ၁-ရက်ဖြစ်၏။ ထို ရက်၊ လ၊ နှစ်တို့ဖြင့် နှစ်ပေါင်းလေးထောင်သည် တုသိတာနတ်တို့၏ သက်တမ်းဖြစ်၏။ လူ့အရေအတွက်အားဖြင့် ၅၇-ကုဋေ ၆-သန်းဖြစ်၏။

လူတို့၏ အနှစ် ၈၀၀ သည် နိမ္မာနရတိဘုံ၌ ၁-ရက်ဖြစ်၏။ ထို ရက်၊ လ၊ နှစ်တို့ဖြင့် နှစ်ပေါင်းရှစ်ထောင်သည် နိမ္မာနရတိနတ်တို့၏ သက်တမ်းဖြစ်၏။ လူ့အရေအတွက်အားဖြင့် ၂၃၀-ကုဋေ ၄-သန်းဖြစ်၏။

လူတို့၏အနှစ် ၁၆၀၀ သည် ပရနိမ္မိတဝသဝတ္တီဘုံ၌ ၁-ရက်ဖြစ်၏။ ထို ရက်၊ လ၊ နှစ်တို့ဖြင့် နှစ်ပေါင်း တစ်သောင်းခြောက်ထောင်သည် ပရနိမ္မိတဝသဝတ္တီနတ်တို့၏ သက်တမ်းဖြစ်၏။ လူ့အရေအတွက်အားဖြင့် ၉၂၁-ကုဋေ ၆-သန်း ဖြစ်၏။

ပြဆိုခဲ့ပြီးသော အပါယ်လေးဘုံနှင့် လူ့ပြည်၊ နတ်ပြည် ၆-[illegible] ကာမသုဂတိခုနစ်ဘုံအားဖြင့် ပေါင်း ၁၁-ဘုံကို ကာမ ၁၁-ဘုံဟု ခေါ် [illegible]။ ကာမကုသိုလ်နှင့် အကုသိုလ်တို့ကို ပြုလုပ်ကြလျှင် ထိုကာမ ၁၁-ဘုံ၌ ထိုက်သည့် အားလျော်စွာ ဖြစ်ကြရလေသည်။

**နတ်သက်တမ်း ဇယားအကျဉ်းချုပ်**

| နတ်ဘုံ | လူ့ အရေအတွက် | နတ် အရေအတွက် | လူ့ပြည် နှစ် | နတ်ပြည် ရက် |
|---|---|---|---|---|
| စတုမဟာရာဇ် | (နှစ်) ၉၀၀၀၀၀၀ | (နှစ်) ၅၀၀ | (နှစ်) ၅၀ | ၁-ရက် |
| တာဝတိံသာ | ၃၆၀၀၀၀၀၀ | ၁၀၀၀ | ၁၀၀ | ၁ ။ |
| ယာမာ | ၁၄၄၀၀၀၀၀၀ | ၂၀၀၀ | ၂၀၀ | ၁ ။ |
| တုသိတာ | ၅၇၆၀၀၀၀၀၀ | ၄၀၀၀ | ၄၀၀ | ၁ ။ |
| နိမ္မာနရတိ | ၂၃၀၄၀၀၀၀၀၀ | ၈၀၀၀ | ၈၀၀ | ၁ ။ |
| ပရနိမ္မိတဝသဝတ္တီ | ၉၂၁၆၀၀၀၀၀၀ | ၁၆၀၀၀ | ၁၆၀၀ | ၁ ။ |

ဗြဟ္မာ (၂၀)

အလွန် မွန်မြတ်ကုန်သော စျာန်အစရှိသော ဂုဏ်တို့ဖြင့် ကြီးပွားကြသောကြောင့် ဗြဟ္မာဟု ခေါ်သည်။ (ဗြဟ္မ=ကြီးပွားခြင်း။) ရူပဗြဟ္မာဘုံ ၁၆-ဘုံနှင့် အရူပဗြဟ္မာဘုံ ၄-ဘုံ စုစုပေါင်း ဗြဟ္မာဘုံ(၂၀) ရှိသည်။

ရူပဗြဟ္မာဘုံ ၁၆-ဘုံ

ရူပဗြဟ္မာ ၁၆-ဘုံကို ပထမစျာန်ဘုံ စသည်ဖြင့် ခွဲခြားထား၏။ ၎င်းတို့မှာ ပထမစျာန် ၃-ဘုံ၊ ဒုတိယစျာန် ၃-ဘုံ၊ တတိယစျာန် ၃-ဘုံ၊ စတုတ္ထစျာန် ၇-ဘုံတို့ ဖြစ်သည်။ ရူပဗြဟ္မာတို့မှာ ခန္ဓာကိုယ်အင်္ဂါ အစိတ်အပိုင်း အပြည့်အစုံ ပါရှိသော်လည်း အနံ့၊ အရသာ၊ အတွေ့အထိကို သိနိုင်သည့် အာရုံခံရုပ်(ပသာဒရုပ်) များ မပါရှိချေ။ ဃာနပသာဒ, ဇိဝှါပသာဒ, ကာယပသာဒ မရှိသဖြင့် အနံ့ကို မသိ၊ အရသာကို မသိ၊ အတွေ့အထိကို မသိကြချေ။ ထိုတွင် ပထမစျာန် ၃-ဘုံမှာ—

(က) ဗြဟ္မပါရိသဇ္ဇာဘုံ၊

(ခ) ဗြဟ္မပုရောဟိတာဘုံ၊

(ဂ) မဟာဗြဟ္မာဘုံ—

တို့ဖြစ်သည်။

(က) ဗြဟ္မပါရိသဇ္ဇာဘုံ

မဟာဗြဟ္မာမင်းကြီး၏ အခြွေအရံ အလုပ်အကျွေးဖြစ်ကုန်သော ဗြဟ္မာငယ်တို့ကို ဗြဟ္မပါရိသဇ္ဇာဗြဟ္မာဟု ခေါ်သည်။ ၎င်းတို့ နေထိုင်ရာဘုံကိုလည်း ဗြဟ္မပါရိသဇ္ဇာဘုံဟု ခေါ်သည်။ (ဗြဟ္မ=မဟာဗြဟ္မာတို့၏ + ပါရိသဇ္ဇာ=အလုပ်အကျွေး ပရိသတ်။) ပထမစျာန်ကို ပွားများအားထုတ်ရာ၌ ဆန္ဒ, စိတ္တ, ဝီရိယ, ပညာတို့ အားနည်းလျှင် ဗြဟ္မပါရိသဇ္ဇာဘုံသို့ ရောက်ရသည်။

(ခ) ဗြဟ္မပုရောဟိတာဘုံ

မဟာဗြဟ္မာတို့၏ ပုရောဟိတ်ပညာရှိကြီးများအသဖွယ် ဖြစ်ကုန်သော ဗြဟ္မာတို့ကို ဗြဟ္မပုရောဟိတာဗြဟ္မာဟု ခေါ်သည်။ (ဗြဟ္မ=မဟာဗြဟ္မာတို့၏ + ပုရောဟိတ=ရှေ့မှ စီမံဘတ်သော ပုရောဟိတ်ဆရာ။) ပထမစျာန်ကို ပွားများအားထုတ်ရာ၌ ဆန္ဒ, စိတ္တ, ဝီရိယ, ပညာတို့ အလယ်အလတ် ဖြစ်နေလျှင် ဗြဟ္မပုရောဟိတာဘုံသို့ ရောက်သည်။

### (ဂ) မဟာဗြဟ္မာဘုံ

ဖော်ပြပြီး ဗြဟ္မာတို့ထက် မြင့်မြတ်သော ဗြဟ္မာမင်းကို မဟာဗြဟ္မာဟု ခေါ်သည်။ (မဟာ=ကြီးမြတ်မြင့်မြတ်သော+ဗြဟ္မာ=ဗြဟ္မာမင်း။) ပဌမဈာန်ကို မွန်မွန်မြတ်မြတ် ထက်ထက်သန်သန် ပွားများအားထုတ်လျှင် မဟာဗြဟ္မာဘုံသို့ ရောက်၏။ ဤပဌမဈာန်ဗြဟ္မာ သုံးဘုံတို့သည် တစ်ပြင်တည်း၌ တစ်ပြေးတည်း နေကုန်၏။ အလွန်တန်ဖိုးကြီးမားသော ဤမဟာဗြဟ္မာကို ဘုရားအဖြစ် ထင်မှတ် ကိုးကွယ်ကြသည်။

အောက်အဆင့်နိမ့်သော ဗြဟ္မာတို့သည် အထက်အဆင့်မြင့် ဗြဟ္မာတို့ကို မမြင်ရ၊ မသိရကုန်။ အထက်အထက် ဗြဟ္မာတို့သည် မိမိကိုယ်ကို ရုပ်ကြမ်း ဖန်ဆင်း၍ ပြမှသာ,အောက်ဗြဟ္မာငယ်တို့ မြင်တွေ့ကြရသည်။ အောက်အောက် ဗြဟ္မာတို့ကိုကား အထက်ဗြဟ္မာတို့က မြင်တွေ့နိုင်ကြသည်။

### ဒုတိယဈာန် ၃-ဘုံ

ဒုတိယဈာန်ဘုံသည် အောက်ပါအတိုင်း ၃-ဘုံရှိ၏—

(က) ပရိတ္တာဘာဘုံ၊

(ခ) အပ္ပမာဏာဘာဘုံ၊

(ဂ) အာဘဿရာဘုံ။

### (က) ပရိတ္တာဘာဘုံ

သေးငယ်မှုန်မွှားသော အရောင်ရှိသောကြောင့် ပရိတ္တာဘာဘုံဟု ခေါ်သည်။ (ပရိတ္တ+ အာဘာ၊ ပရိတ္တ=သေးငယ်သော+အာဘာ=အရောင်။) ဒုတိယဈာန်နှင့် တတိယဈာန်ကို ပွားများအားထုတ်ရာ၌ ဆန္ဒ, စိတ္တ, ဝီရိယ, ပညာတို့ အားနည်းလျှင် ပရိတ္တာဘာဗြဟ္မာဘုံသို့ ရောက်ရသည်။

### (ခ) အပ္ပမာဏာဘာဘုံ

အတိုင်းအဆ ပမာဏ မရှိသော ကိုယ်ရောင် ကိုယ်ဝါ ရှိသောကြောင့် အပ္ပမာဏာဘာဘုံဟု ခေါ်သည်။ (အပ္ပမာဏ+အာဘာ၊ အပ္ပမာဏ=အတိုင်းအဆ ပမာဏမရှိ+အာဘာ=အရောင်။) ဒုတိယဈာန်နှင့် တတိယဈာန်ကို ပွားများ အားထုတ်ရာ၌ ဆန္ဒ, စိတ္တ, ဝီရိယ, ပညာတို့ အလယ်အလတ် ဖြစ်လျှင်အပ္ပမာဏာဘာဘုံသို့ ရောက်ရသည်။

(ဂ) အာဘဿရဘုံ

ကိုယ်မှ ရွှန်းရွှန်းစက်စက် တလက်လက် ထွက်သောအရောင် ရှိသောကြောင့် အာဘဿရာဘုံဟု ခေါ်သည်။ ၎င်းဗြဟ္မာတို့၏ ကိုယ်ရောင်ကိုယ်ဝါသည် တိမ်တိုက်မှ လျှပ်စစ်များ ကွန့်မြူးနေသကဲ့သို့ ခန္ဓာကိုယ်မှ တလျှပ်လျှပ် တရစပ် ထွက်နေကြသည်။ (အာဘာ+သရ၊ အာဘာ=အရောင်+သရ=တလက်လက် ထွက်ခြင်း။)မီးဖျက်သော ကမ္ဘာ၌ ဤအာဘဿရာဘုံမှ အောက်ရှိ ဘုံအားလုံး မီးလောင်ကျွမ်း ပျက်စီးသည်။ အာဘဿရာဘုံမှ စ၍ အထက်ဗြဟ္မာဘုံများ ကျန်ရစ်သည်။ ဒုတိယစျာန်နှင့် တတိယစျာန်ကိုပင် ပွားများ အားထုတ်ရာ၌ ဆန္ဒ, စိတ္တ, ဝီရိယ, ပညာတို့ ထက်သန်အားကောင်းလျှင် အာဘဿရာဗြဟ္မာ ဘုံသို့ ရောက်ရ၏။

တတိယစျာန် ၃-ဘုံ

တတိယစျာန်ဘုံသည် အောက်ပါအတိုင်း ၃-ဘုံရှိ၏—

(က) ပရိတ္တသုဘာဘုံ၊

(ခ) အပ္ပမာဏသုဘာဘုံ၊

(ဂ) သုဘကိဏှာဘုံ။

(က) ပရိတ္တသုဘာဘုံ

အနည်းငယ် တင့်တယ်သော ကိုယ်ရောင်ကိုယ်ဝါ ရှိသောကြောင့် ပရိတ္တသုဘာဘုံဟု ခေါ်သည်။(ပရိတ္တ+သု+ဘာ၊ ပရိတ္တ=နည်းသော၊ သု=တင့်တယ်သော+ဘာ=အရောင်။) စတုတ္ထစျာန်ကို ပွားများအားထုတ်ရာ၌ ဆန္ဒ, စိတ္တ, ဝီရိယ, ပညာတို့ အားနည်းလျှင် ပရိတ္တသုဘာဘုံသို့ ရောက်၏။

(ခ) အပ္ပမာဏသုဘာဘုံ

အတိုင်းအဆမရှိ တင့်တယ်သော ကိုယ်ရောင်ကိုယ်ဝါ ရှိသောကြောင့် အပ္ပမာဏသုဘာဘုံဟု ခေါ်သည်။ (အပ္ပမာဏ+သု+ဘာ၊ အပ္ပမာဏ=အတိုင်း အဆမရှိသော + သု=တင့်တယ်သော+ဘာ=အရောင်။) စတုတ္ထစျာန်ကို ပွားများအားထုတ်ရာ၌ ဆန္ဒ, စိတ္တ, ဝီရိယ, ပညာတို့ အလယ်အလတ် ဖြစ်လျှင် အပ္ပမာဏသုဘာဘုံသို့ ရောက်၏။

(ဂ) သုဘကိဏှာဘုံ

တင့်တယ် တောက်ပသော အရောင်မျိုးစုံ ရောပြွမ်းနေသောကြောင့် သုဘကိဏှာဘုံဟု ခေါ်သည်။ (သုဘ+ကိဏှ၊ သုဘ=တင့်တယ်သော+ကိဏှ=

ရောပြွမ်းသောအရောင်။) စတုတ္ထစျာန်ကို ပွားများအားထုတ်ရာ၌ ဆန္ဒ, စိတ္တ, ဝီရိယ, ပညာတို့ ထက်မြက်လျှင် သုဘကိဏှာဘုံသို့ ရောက်သည်။ ရေဖျက်သော ကမ္ဘာ၌ ဤသုဘကိဏှာဘုံမှ အောက်ဘုံများ ရေတွင် ကြေမွ ပျက်စီး၍ သုဘကိဏှာဘုံမှ စ၍ အထက်ဗြဟ္မာဘုံများ ကျန်ရစ်သည်။

**စတုတ္ထစျာန် ၇-ဘုံ**

စတုတ္ထစျာန်ဘုံသည် အောက်ပါအတိုင်း ၇-ဘုံရှိ၏—

(က) ဝေဟပ္ဖိုလ်ဘုံ၊

(ခ) အသညသတ်ဘုံ၊

(ဂ) သုဒ္ဓါဝါသ ၅-ဘုံ။

**(က) ဝေဟပ္ဖိုလ်ဘုံ**

ပြန့်ပြော များမြတ်သော အကျိုး ရှိသောကြောင့် ဝေဟပ္ဖိုလ်ဘုံဟု ခေါ်သည်။ (ဝိပုလ + ဖလ၊ ဝိပုလ = ပြန့်ပြောသော + ဖလ = အကျိုး။) ဝိပုလဖလဟုနေလိုလျက် ဝိပုလကို ဝေဟဟု သဒ္ဒါနည်းဖြင့် ပြောင်းလဲထားသည်။

ဖော်ပြခဲ့ပြီးသော ပထမစျာန်ဘုံ, ဒုတိယစျာန်ဘုံ, တတိယစျာန်ဘုံတို့သည် ဤကမ္ဘာမြေကြီးကို မီး, ရေ, လေတို့ ဖျက်ဆီးသောအခါ သတ္တဝါများသည် သက်တမ်းမစေ့မီ ယက်တမ်းမကုန်မီ သေဆုံးကြရသည်။ ထို့ကြောင့် အောက်ဗြဟ္မာ့ဘုံတို့၌ ကောင်းမှု၏ အကျိုးသည် ထာဝရခိုင်မြဲ တည်တံ့ခြင်း မရှိပေ။ လှုပ်ရှားယိမ်းယိုင်နိုင်၏။

လေဖျက်သော ကမ္ဘာ၌ ဤဝေဟပ္ဖိုလ်ဘုံမှ အောက်ဘုံများ ကြေမွ ပျက်စီးကြ၏။ ဤဝေဟပ္ဖိုလ်ဘုံမှ စ၍ အထက်ဘုံတို့မှာ ကမ္ဘာဖျက် မီး, ရေ, လေတို့ကြောင့် မပျက်စီးနိုင်ပေ။ သက်တမ်းပြည့်လည်း နေကြရသည်။ ကံ၏အကျိုး တရားလည်း လှုပ်ရှားယိမ်းယိုင်ခြင်းမရှိ တည်တံ့ခိုင်ခံ့၏။

**(ခ) အသညသတ်ဘုံ**

စတုတ္ထစျာန်ကိုပင် သိမှတ်မှု(သညာ)ကင်းအောင် ပွားများ အားထုတ်လျှင် အသညသတ်ဘုံသို့ ရောက်ရ၏။ သညာကင်းအောင်ဟု သညာကို ခေါင်းတပ်၍ ဆိုထားသော်လည်း အခြားသော စိတ်စေတသိက်များလည်း ကင်းအောင် အားထုတ်သည်။

ရုပ်တရားကို နှစ်သက်ပြီး နာမ်တရားကို အပြစ်မြင်လျက် စတုတ္ထစျာန် ဖြစ်အောင် အားထုတ်သော ယောဂီပုဂ္ဂိုလ်သည် ကွယ်လွန်သည်နှင့် တပြိုင်နက် အသညသတ်ဘုံ၌ ဇရုတ်ကြီးပမာ နာမ်တရား ကင်းမဲ့သော ရုပ်ခန္ဓာဖြင့် ဘဝခန်း ဖြစ်မပေါ် ရတော့သည်။ နာမ်ခန္ဓာ ကင်းမဲ့လျက် ရုပ်ခန္ဓာချည်းသက်သက် ဖြစ်နေသဖြင့် မလှုပ်မယှက်ငြိမ်သက်နေသောကြောင့် သတ္တဝါမှ ဟုတ်ပါရဲ့လားဟု မှားဖွယ်ရှိ၍ သတ္တဝါစစ်စစ် ဖြစ်ကြောင်း ပေါ်လွင်သိသာစေရန် "သတ္တ" ဟု အထူးပြု၍ အသညသတ္တဟု ခေါ်ရသည်။ (အ+သညာ+သတ္တ၊ အ=မရှိ+ သညာ = သိမှတ်မှု+သတ္တ = သတ္တဝါ။) ၎င်းဘုံ၌ ရုပ်ခန္ဓာတစ်ခုတည်းသာ ရှိသောကြောင့် "ဧကဝေါကာရဘုံ" ဟုလည်း ခေါ်သည်။ (ဧက+ဝေါကာရ၊ ဧက=တစ်ခု+ဝေါကာရ=ခန္ဓာ။)

(ဂ) သုဒ္ဓါဝါသ ၅-ဘုံ

ကိလေသာ များစွာ စင်ကြယ်သော အနာဂါမ်ဗြဟ္မာများနှင့် ကိလေသာ လုံးဝစင်ကြယ်ပြီးသော ရဟန္တာဗြဟ္မာတို့ဖြစ်ရာဌာနဖြစ်သောကြောင့် သုဒ္ဓါဝါသ ဘုံဟု ခေါ်သည်။ ထိုဘုံ၌ အနာဂါမ်နှင့် ရဟန္တာတို့သာ ဖြစ်နိုင်ကြသည်။ (သုဒ္ဓ+အာဝါသ၊ သုဒ္ဓ=ကိလေသာစင်ကြယ်သူတို့၏+အာဝါသ=နေထိုင်ရာ။)

လူ့ပြည်တွင် အနာဂါမ်ဖြစ်ပြီးသော အရိယာသူတော်စင် ပုဂ္ဂိုလ်တို့သည် ဤဘဝ၌ ရဟန္တာဖြစ်ပြီး ပရိနိဗ္ဗာန်မစံရသည် ရှိသော် ကွယ်လွန်သောအခါ အခြားဘုံများမှာ မဖြစ်ကြတော့ဘဲ သုဒ္ဓါဝါသ ပထမဘုံ၌ အနာဂါမ် ဗြဟ္မာကြီးများ သွားရောက်ဖြစ်ကြရသည်။ ထို့နောက် အထက်သုဒ္ဓါဝါသဘုံတို့၌ ဘုံစဉ်စီ၍ နောက်ဆုံးဖြစ်သော အကနိဋ္ဌဘုံ၌ ရဟန္တာ ဖြစ်ကာ သက်တမ်း ပြည့်သောအခါ ပရိနိဗ္ဗာန်ပြုတော်မူကြသည်။

သုဒ္ဓါဝါသ ၅-ဘုံသည် အခြားပထမစျာန်ဘုံ စသည်တို့ကဲ့သို့ တစ်ပြင်တည်း တည်ကြသည် မဟုတ်ပေ။ ဖော်ပြပါအတိုင်း အောက်မှ အထက် အဆင့်ဆင့် တည်နေကြသည်။ သုဒ္ဓါဝါသ ၅-ဘုံမှာ—

(က) အဝိဟာဘုံ၊

(ခ) အတပ္ပါဘုံ၊

(ဂ) သုဒဿာဘုံ၊

(ဃ) သုဒဿီဘုံ၊

(င) အကနိဋ္ဌဘုံ—

တို့ ဖြစ်ကြသည်။

(က) အဝိဟာဘုံ

မိမိတို့၏ဘုံဌာနကို အချိန်အနည်းငယ်ဖြင့် စွန့်ခွါမသွားကြရဘဲ ကမ္ဘာပေါင်းများစွာ ကြာအောင် တည်နေကြရသောကြောင့် အဝိဟာဘုံဟု ခေါ်သည်။ (အ=မ+ဝိဟာ=စွန့်ခွါခြင်း။)

(ခ) အတပ္ပါဘုံ

မည်သည့် အကြောင်းကြောင့်မျှ မပူပန်ရဘဲ အလွန် အေးမြသောဘုံဖြစ်သောကြောင့် အတပ္ပါဘုံဟု ခေါ်သည်။ (အ=မ+တပ္ပ=ပူပန်ခြင်း။)

(ဂ) သုဒဿာဘုံ

အလွန်စင်ကြယ်သော ပသာဒစက္ခု (ပကတိမျက်စိ), ဒိဗ္ဗစက္ခု (နတ်မျက်စိ), ဓမ္မစက္ခု (တရားမျက်စိ), ပညာစက္ခု (အသိဉာဏ်မျက်စိ)တို့နှင့် ပြည့်စုံကြ၍ အရာရာကို ကောင်းစွာ မြင်နိုင်စွမ်းရှိသောကြောင့် သုဒဿာဘုံဟု ခေါ်သည်။ (သု=ကောင်းစွာ+ဒိဿ=ဒဿ=မြင်နိုင်ခြင်း။)

(ဃ) သုဒဿီဘုံ

သုဒဿာဗြဟ္မာတို့ထက် ပကတိမျက်စိ စသည့်တို့ဖြင့် လွန်ကဲစွာ မြင်နိုင်စွမ်းရှိသောကြောင့် သုဒဿီဘုံဟု ခေါ်သည်။ (သု+ဒဿီ၊ သု=လွန်ကဲစွာ+ဒဿီ=မြင်နိုင်ခြင်း။)

(င) အကနိဋ္ဌဘုံ

ရူပဗြဟ္မာဘုံ ၁၆-ဘုံတွင် ထိပ်ဆုံး ဖြစ်၍ ရူပဗြဟ္မာတို့၏ အလယ်ဝယ် တစ်စုံတစ်ခုသော ဂုဏ်ဖြင့် ငယ်သည့်, သေးသိမ်သည်၏အဖြစ် မရှိသောကြောင့် အကနိဋ္ဌဘုံဟု ခေါ်သည်။ (အ+ကနိဋ္ဌ၊ အ=မရှိ+ကနိဋ္ဌ=ငယ်ခြင်း၊ သေးသိမ်ခြင်း။)

ပဉ္စဝေါကာရဘုံ

ရူပဗြဟ္မာဘုံ ၁၆-ဘုံရှိသည့်အနက် အသညသတ်ဘုံမှတပါး ကျန် ၁၅-ဘုံတို့၌ ခန္ဓာငါးပါးရုပ်နာမ်တရား အပြည့်အစုံရှိ၏။ ယင်းသို့ ခန္ဓာငါးပါးအပြည့်အစုံရှိသောကြောင့် ရူပ ၁၅-ဘုံကို ပဉ္စဝေါကာရဘုံဟု ခေါ်သည်။ (ပဉ္စ+ဝေါကာရ၊ ပဉ္စ=ငါးပါး + ဝေါကာရ=ခန္ဓာ။) အပါယ်လေးဘုံ, ကာမသုဂတိ ခုနစ်ဘုံနှင့် အသညသတ် ကြဉ်သော ရူပ ၁၅-ဘုံ စုစုပေါင်း ၂၆-ဘုံကို ပဉ္စဝေါကာရဘုံဟု ခေါ်ကြသည်။ ရုပ်ခန္ဓာ တစ်ပါး နာမ်ခန္ဓာ လေးပါး စုစုပေါင်း ခန္ဓာငါးပါး ရှိသော ဘုံများဟု ဆိုလိုသည်။

## သဟာမ္ပတိဗြဟ္မာ

သဟာမ္ပတိဗြဟ္မာမင်းသည် ကဿပဘုရားရှင် သာသနာတော်၌ "သဟက" အမည်ရှိသော ရဟန်းတစ်ပါး ဖြစ်ခဲ့သည်။ ရူပါဝစရပထမဈာန်ကို ရ၍ ဈာန်မလျှောတဲ့ ကွယ်လွန်ခဲ့ရာ ပထမဈာန်ဘုံ၌ "သဟမ္ပတိ" အမည်ရှိ မဟာဗြဟ္မာကြီး ဖြစ်လေသည်။ မြတ်စွာဘုရားရှင်သည် ဘုရားဖြစ်တော်မူပြီးစတွင် သတ္တဝါတို့ ကိလေသာထူပြောခြင်း တရားတော်၏ အလွန်နက်နဲခြင်းကြောင့် သတ္တဝါတို့အား လောလောဆယ် တရားမဟောသေးဘဲ နေရန် စိတ်တော် ညွတ်လျက် နေတော်မူသည်။ ထိုစဉ် သဟမ္ပတိ ဗြဟ္မာကြီးသည် မဟာဗြဟ္မာ တစ်သောင်းကို စုရုံးဦးဆောင်ကာ ဘုရားရှင်ထံ လာရောက်၍ သတ္တဝါတို့အား တရားဟောတော်မူပါရန် တောင်းပန် လျှောက်ထားခဲ့သည်။

သဟမ္ပတိ ဗြဟ္မာမင်း၏ တောင်းပန်မှုကြောင့် ဘုရားရှင်သည် ဓမ္မစကြာ တရားကို ရှေးဦးစွာ ဟောကြားတော်မူခဲ့လေသည်။

## ဗကဗြဟ္မာ

ဗကဗြဟ္မာကြီးသည် "ဗြဟ္မာဘဝ ဗြဟ္မာလောကသည် မြဲမြံခိုင်ခံ့တည်တံ့၏၊ ဗြဟ္မာလောက၌ ပဋိသန္ဓေ, အို, နာ, သေ မရှိ၊ ဗြဟ္မာလောကမှတပါး လွတ်မြောက်ရာ နိဗ္ဗာန်မရှိ" ဟု သဿတဝါဒကို တရားသေ စွဲကိုင်ထားသည်။ တန်ခိုးလည်း ကြီး၍ မာနလည်း ကြီးသည်။

ဗကဗြဟ္မာကြီးသည် တစ်ခုသော ဘဝ၌ စတုတ္ထဈာန်ရသည့် ကေသဝ အမည်ရှိသော ရသေ့ဖြစ်ခဲ့ဖူးသည်။ ထိုရသေ့သည် ခန္ဓာကြွေခဲ့သော် ဝေဟပ္ဖိုလ် စတုတ္ထဈာန်ဘုံ၌ ဝေဟပ္ဖိုလ်ဗြဟ္မာ ဖြစ်လေသည်။ ထိုဘုံ၌ သက်တမ်းစေ့ ဗြဟ္မာ့ချမ်းသာကို ခံစားပြီးနောက် သုဘကိဏှာ တတိယဈာန်ဘုံ၌ ဖြစ်ပြန်သည်။ ထိုမှတဖန် အာဘဿရာ ဒုတိယဈာန်ဘုံ၌ ဖြစ်ပြန်သည်။ ထိုမှတဖန် မဟာဗြဟ္မာ ပထမဈာန်ဘုံ၌ "ဗက" အမည်ဖြင့် မဟာဗြဟ္မာကြီး ဖြစ်ပြန်သည်။

ဤကဲ့သို့ ဗြဟ္မာ့ဘုံတလွှား၌ တစ်ဘဝမှ တစ်ဘဝ၊ တစ်ဘုံမှ တစ်ဘုံသို့ ဘဝ ကူးပြောင်းရာ၌ ဘဝကူးမှန်း မသိလိုက်၊ သေမှန်း မသိလိုက်ချေ၊ သေသည့် အခါ အလောင်းကောင် မကျန်ရစ်ဘဲ ရုပ်အလောင်း ပျောက်ကွယ်သွားသည်။ ဘဝသစ်ဖြစ်ရာ၌ ကိုးလလွယ် ဆယ်လမွား ပြုလုပ်မနေရဘဲ ချက်ချင်း ဖြုန်းခနဲ

ဘွားခနဲ ကိုယ်အင်္ဂါ အပြည့်အစုံ တပြိုင်နက် ဖြစ်ပေါ်သည်။ ထို့ကြောင့် ပဋိသန္ဓေနေမှု သေမှုတို့ကို မသိတော့ဘဲ မူလအတိုင်းပင် တည်ရှိနေသည်ဟု စွဲယူ မှတ်ထင်နေတော့သည်။

ဘုရားရှင်သည် ဗကဗြဟ္မာကြီးကို ဆုံးမရန် ဤလူ့ပြည်မှ ပထမဈာန် ဗြဟ္မာ့ဘုံသို့ ကြွသွားတော်မူသည်။ ဘုံသုံးပါး၌ ဖြစ်သမျှ ဘဝအားလုံး အနိစ္စ, ဒုက္ခ, အနတ္တ ချည်းသာ ဖြစ်သည်ဟု မှန်သောစကား (သစ္စကထာ) မိန့်ကြား တော်မူသည်။

ဗကဗြဟ္မာသည် ဘုရားရှင်အား ဝါဒစစ်ပွဲ ဆင်နွှဲရန် သူနှင့်ဝါဒတူ ဗြဟ္မာ ပေါင်း တစ်သောင်းကို ခေါင်းဆောင်လျက် ဘုရားရှင်ထံ ချဉ်းကပ်လာသည်။

ဘုရားရှင်က ဗကဗြဟ္မာကြီး၏ တရားသေဝါဒကို အပြစ်အမျိုးမျိုး ပြကာ ပယ်စွန့်စေသည်။ ဗကဗြဟ္မာသည် ဝါဒချင်း ပြိုင်၍ နိုင်ပုံမရသောအခါ တန်ခိုး ပြိုင်ပွဲဆီသို့ ဦးတည်ပြန်သည်။ ကိုယ်ဖျောက်တမ်း ပြုလုပ်ရန် အဆိုပြုလာသည်။

ဗကဗြဟ္မာသည် ဘုရားရှင်၏ ရှေ့မှောက်၌ ဖန်ဆင်းထားသည့် ခန္ဓာကိုယ်မှ ပကတိဗြဟ္မာခန္ဓာသို့ ရောက်ရန် ကြိုးစား၏။ သို့သော် ဘုရားရှင် တန်ခိုးတော် ကြောင့် မအောင်မြင်။ တဖန် ပကတိခန္ဓာကိုယ် ကွယ်ပျောက်စေရန် အမှောင် ထုကြီး ဖန်ဆင်းပြန်သည်။ သို့သော် ဘုရားရှင်၏ ကိုယ်တော်ရောင်ကြောင့် အမှောင်ထု ဖြစ်ပေါ်မလာပေ။ ဘယ်လို လုပ်လုပ် ဘယ်လို ပုန်းပုန်း မရဘဲ ဖြစ်နေသည်။

ထိုအခါ ဘုရားရှင်က "ဗကဗြဟ္မာ.... သင် မပုန်းကွယ်နိုင်လျှင် ငါဘုရား ပုန်းကွယ်မည်"ဟု မိန့်တော်မူပြီး "ဗြဟ္မာအများ ငါဘုရား၏ အသံတော်ကိုသာ ကြား၍ ငါဘုရားကိုကား မမြင်ကြစေသတည်း"ဟု အဓိဋ္ဌာန် ပြုတော်မူလိုက် သည်။ ဘုရားရှင်သည် ထိုနေရာ၌ပင် တရားဟောနေသော်လည်း အသံတော် ကိုသာ ကြားရ၍ ဘုရားရှင်ကိုကား မည်သည့် ဗြဟ္မာမျှ မမြင်ကြရပေ။

ဒေသနာအဆုံး၌ ဗြဟ္မာအပေါင်း သောတာပန် တည်သွားကြသည်၊ သို့သော် ဗကဗြဟ္မာကြီးကား သောတာပန် မတည်ချေ။ ဒိဋ္ဌိအယူကိုမူ စွန့်ရ မေသည်။

## ဗြဟ္မာ့စည်းစိမ်

အသညသတ်မှတပါးသော ရူပဗြဟ္မာ ၁၅-ဘုံ၌ ဥယျာဉ်, ဗိမာန်, ပဒေသာပင် စသော အသုံးအဆောင်များမှာ နတ်ပြည်ထက်ပင် ခမ်းနားကြီးကျယ်သည်။ ဗြဟ္မာတို့လည်း မိမိတို့၏ ဥယျာဉ်ဗိမာန် စသည်ကို သာယာနှစ်သက်ကြသည်။ ထိုဥယျာဉ် ဗိမာန် စသည်တို့၌ ပျော်ရွှင်ချမ်းမြေ့စွာ နေကြသည်။ သို့သော် လူ့ပြည်ဝယ် ဈာန်တရားများကို ပွားများ အားထုတ်စဉ်ကကည်းက လောကီ ကာမဂုဏ်ကို စက်ဆုပ် ရွံမုန်းခဲ့ကြသဖြင့် ကာမဘုံသား နတ်များကဲ့သို့ ကာမချမ်းသာကို မခံစားကြတော့ပေ။ ဗြဟ္မာတို့၌ မိန်းမ ယောကျ်ား အင်္ဂါများ မရှိချေ။ ပုံသဏ္ဌာန်အားဖြင့် အားလုံး ယောကျ်ားပုံသဏ္ဌာန်များ ဖြစ်ကြသည်။

ဗြဟ္မာတို့၏ နေပုံမှာ အကျင့်မြတ်ကို ကျင့်နေသော ယောဂီပုဂ္ဂိုလ်တို့ နေပုံ ကဲ့သို့ အလွန် သန့်ရှင်းစင်ကြယ်သည်။ မေတ္တာ, ကရုဏာ, မုဒိတာ, ဥပေက္ခာ ဟူသော ဗြဟ္မစိုရ်တရား လေးပါးကို အမြဲပွားလျက် နေကြသည်။ ဈာန်ပီတိ သာလျှင် အစားအစာ ရှိသည်။ အချို့ပုထုဇဉ် ဗြဟ္မာတို့မှာ လောကီဈာန် သမာပတ်ကို ဝင်စားပြီး အချို့ အရိယာဗြဟ္မာတို့မှာ ဖလသမာပတ်ကို ဝင်စားလျက် ချမ်းသာအေးမြစွာ နေထိုင်ကြသည်။

အသညသတ်ဗြဟ္မာတို့ကား အခြားဗြဟ္မာတို့ကဲ့သို့ ဥယျာဉ်ဗိမာန် ခံစားမှု၊ ဈာန်ပီတိခံစားမှု၊ ဈာန်သမာပတ် ဝင်စားမှုမရှိကြပေ။ လူ့ပြည်မှ ထိုင်လျက် သေလျှင် အသညသတ်ဘုံ၌လည်း ထိုင်လျက်သား,လူ့ပြည်မှ လဲလျောင်းလျက် သေလျှင် အသညသတ်ဘုံ၌လည်း လဲလျောင်းလျက်သား ရွှေချထားသော သစ်တုံးကြီးပမာ ဖြစ်နေကြရသည်။ နာမ်တရားမရှိသဖြင့် ဘုရားလည်း မကြည်ညိုနိုင်၊ တရားလည်း မနာနိုင်ပေ။ ထို့ကြောင့် အသညသတ်ဘုံကို မဖြစ်သင့် ရာသော ရပ်ပြစ်ရှစ်ပါးထဲတွင် ထည့်သွင်းထားလေသည်။

## အရူပဗြဟ္မာ ၄-ဘုံ

ရူပဗြဟ္မာ အကနိဋ္ဌဘုံအထက်၌ အရူပဗြဟ္မာဘုံ ၄-ဘုံအဆင့်ဆင့် တည်နေကြသည်။ အရူပဗြဟ္မာတို့သည် ရုပ်ခန္ဓာမရှိဘဲ နာမ်ခန္ဓာ (ဝိညာဉ်)သက်သက် ဖြစ်ကြရသည်။ လူ့ပြည်ဝယ် ရုပ်တရားကို အပြစ်မြင်၍ နာမ်တရားကို နှစ်သက်ကာ နာမ်ကို ဦးစားပေး၍ အရူပကုသိုလ်ဈာန်များကို ပွားများ အားထုတ်သော ယောဂီတို့သည် အရူပဘုံသို့ ရောက်ကြရသည်။

အရူပဘုံ၌ ဘုံဟု ဆိုသော်လည်း တကယ့် ဘုံဗိမာန်ရှိသည် မဟုတ်ပေ။ အဆက်ဆက်ဖြစ်ပွားသော နာမ်ခန္ဓာ အစဉ်၏ ဖြစ်တည်ရာကောင်းကင်ပြင်ကိုပင် ဘုံဟု ခေါ်သည်။ ရုပ်ဟူသမျှကို စက်ဆုပ်ရွံမုန်းလှ၍ နာမ်သက်သက်ရအောင် အားထုတ်ခဲ့သော ဘာဝနာအစွမ်းကြောင့် ဘုံဗိမာန်တည်းဟူသော အကျိုး ရုပ်တရားများမရှိ မပေါ်ပေါက်သည်မှာ ထိုပုဂ္ဂိုလ်တို့၏ အလိုကျအတိုင်း ဖြစ်လေသည်။

ကောင်းကင်ပညတ်ကို နှလုံးသွင်းလျက် "အနန္တော အာကာသော= ကောင်းကင်သည် အဆုံးအပိုင်းအခြား မရှိ"ဟု ပွားများ အားထုတ်သော ပုဂ္ဂိုလ်သည် အာကာသာနဉ္စာယတနစျာန်ကို ရ၍ အာကာသာနဉ္စာယတန အရူပဘုံ၌ ဖြစ်ရ၏။ (အာကာသ=ကောင်းကင်+အာနဉ္စ=အဆုံးအပိုင်းအခြား မရှိ+အာယတန=တည်ရာ။)

ကောင်းကင် ပညတ်ကို အာရုံ မပြုတော့ဘဲ ထိုကောင်းကင်ပညတ်ကို နှလုံးသွင်း အာရုံပြုသည့်စိတ် (ပဌမာရုပ္ပဝိညာဏ်)ကို အာရုံပြုကာ "အနန္တံ ဝိညာဏံ=ဝိညာဏ်သည် အဆုံးအပိုင်းအခြားမရှိ"ဟု ပွားများအားထုတ်သော ပုဂ္ဂိုလ်သည် ဝိညာဏဉ္စာယတနစျာန်ကို ရ၍ ဝိညာဏဉ္စာယတန အရူပဘုံ၌ ဖြစ်ရ၏။ (ဝိညာဏ=ပဌမာရုပ္ပဝိညာဏ၊ ပဌမ+အာရုပ္ပ+ဝိညာဏ၊ ပဌမ= ရှေးဦးစွာ+အာရုပ္ပ=အရူပစျာန်+ဝိညာဏ=ဝိညာဏ်။)

တစ်စုံတစ်ရာ ဘာမျှမရှိသည့်အရာ (နတ္ထိဘောပညတ်)ကို အာရုံမှန်းပြီး "နတ္ထိ ကိဉ္စိ, နတ္ထိ ကိဉ္စိ=နည်းနည်းမျှမရှိ၊ ဘာမျှမရှိ"ဟု ပွားများအားထုတ်သော ပုဂ္ဂိုလ်သည် အာကိဉ္စညာယတနစျာန်ကို ရ၍ အာကိဉ္စညာယတန အရူပဘုံ၌ ဖြစ်ရသည်။ (နတ္ထိဘောပညတ်=နတ္ထိဘော+ပညတ်၊ နတ္ထိဘော=နတ္ထိ ဘာဝ+မရှိသည်၏အဖြစ်+ပညတ်=ပညတ္တိ+အပြားအားဖြင့် သိစေအပ်သော သဘော။ အာကိဉ္စည+အာယတန၊ အာကိဉ္စည=အနည်းငယ်, စိုးစဉ်းမျှ မရှိသည်၏အဖြစ် နတ္ထိဘောပညတ်+အာယတန=တည်ရာ။)

နတ္ထိဘောပညတ်ကို အာရုံ မပြုတော့ဘဲ တတိယာရုပ္ပစျာန် (အာကိဉ္စညာယတနစျာန်) ကို "သန္တမေတံ, ပဏီတမေတံ=ဤတတိယာရုပ္ပစျာန်သည် ငြိမ်သက်ပေစွ၊ မွန်မြတ်လေစွ"ဟု အာရုံပြုချီးမွမ်းကာ ပွားများအားထုတ်သော ပုဂ္ဂိုလ်သည် နေဝသညာနာသညာယတနစျာန်ကို ရ၍ နေဝသညာနာသညာယ- တနအရူပဘုံ၌ ဖြစ်ရသည်။ (နေဝသညာနာသညာယတန=နေဝ +သညာ+န +အ+သညာ+အာယတန၊ နေဝ=မဟုတ်+သညာ=သိမှတ်မှု+န=မဟုတ်+ အ=မ+သညာ = သိမှတ်မှု+အာယတန = တည်ရာ။ နေဝသညာ=သညာရှိ သည်လည်း မဟုတ်၊ နာသညာ=သညာ မရှိသည်လည်း မဟုတ်။)

နေဝသညာနာသညာယတနဘုံသည် ဘုံဘဝတို့၏အထွတ်အဖျား နောက်ဆုံး အထက် အမြင့်ဆုံး ဖြစ်သောကြောင့် ၎င်းကို အထက်ဘဝဂ်ဟု ခေါ်သည်။ (ဘဝဂ်=ဘဝဂ္ဂ=ဘဝ+အဂ္ဂ၊ဘဝ=ဘုံဘဝ+အဂ္ဂ=အထွတ်အဖျားအမြင့်ဆုံး။)

## ဗြဟ္မာတို့၏ သက်တမ်း

ဗြဟ္မာတို့၏ သက်တမ်းကို ရေတွက်ရာ၌ လူ့ပြည်၌ လူတို့၏ နှစ်, လ, ရက် တို့ဖြင့် ရေတွက်၍ မရနိုင်။ အသင်္ချေကပ်၊ သို့မဟုတ် မဟာကပ်ဖြင့် ရေတွက် ရသည်။

အသင်္ချေယျကပ်မှာ ကမ္ဘာပျက်နေဆဲ အချိန်အခါ သံဝဋ္ဋအသင်္ချေ၊ ကမ္ဘာ ပျက်ပြီးသည့်နောက် အပျက်အတိုင်း တည်နေသော အချိန်အခါ သံဝဋ္ဋဋ္ဌာယီ အသင်္ချေ၊ ကမ္ဘာအသစ် ပြန်လည်တည်နေဆဲ အချိန်အခါ ဝိဝဋ္ဋအသင်္ချေ၊ ကမ္ဘာတည်ပြီးနောက် သတ္တဝါများ နေထိုင်သည့် အချိန်အခါ ဝိဝဋ္ဋဋ္ဌာယီ အသင်္ချေဟူ၍ အသင်္ချေယျကပ် ၄-မျိုးရှိသည်။ ယင်းအသင်္ချေယျကပ် ၄-ခုပေါင်း အချိန်ကာလကို မဟာကပ်တစ်ခုဟု ခေါ်သည်၊ တစ်ကမ္ဘာဟုလည်း ခေါ်သည်။

ပထမစျာန်ဗြဟ္မာဘုံသည် ကမ္ဘာပျက်သည့်အခါ တပါတည်း ပျက်စီး သောကြောင့် ပထမစျာန်ဘုံ၏ သက်တမ်းသည် ဝိဝဋ္ဋဋ္ဌာယီအသင်္ချေယျကပ် တစ်ခုစာမျှသာ တည်ရှိသည်။ ထို့ကြောင့် ပထမစျာန်ဘုံ ဗြဟ္မာတို့၏ သက်တမ်းကို ရေတွက်ရာ၌ အသင်္ချေယျကပ်ဖြင့် တိုင်းတာရေတွက်ရသည်။ ဒုတိယစျာန်ဘုံ စသော အထက်ဗြဟ္မာဘုံများရှိ ဗြဟ္မာတို့၏ သက်တမ်းကို မဟာကပ်ဖြင့် ရေတွက်ရသည်။ ထို့ကြောင့် ဗြဟ္မာတို့၏ သက်တမ်းကို ရေတွက်ပါက အောက်ပါအတိုင်း တွေ့ရှိရမည် ဖြစ်သည်—

| | | | |
|---|---|---|---|
| ပထမစျာန် ၃-ဘုံ | ဗြဟ္မပါရိသဇ္ဇာဘုံ | အသင်္ချေယျကပ် | ၁/၃ |
| | ဗြဟ္မပုရောဟိတာဘုံ | ။ | ၁/၂ |
| | မဟာဗြဟ္မာဘုံ | အသင်္ချေယျကပ် | ၁ |
| ဒုတိယစျာန် ၃-ဘုံ | ပရိတ္တာဘာဘုံ | မဟာကပ် (ကမ္ဘာ) | ၂ |
| | အပ္ပမာဏာဘာဘုံ | ။ | ၄ |
| | အာဘဿရာဘုံ | ။ | ၈ |
| တတိယစျာန် ၃-ဘုံ | ပရိတ္တသုဘာဘုံ | မဟာကပ် (ကမ္ဘာ) | ၁၆ |
| | အပ္ပမာဏသုဘာဘုံ | ။ | ၃၂ |
| | သုဘကိဏှာဘုံ | ။ | ၆၄ |

| | | | |
|---|---|---|---|
| စတုတ္ထဈာန် ၇-ဘုံ | ဝေဟပ္ဖိုလ်ဘုံ | မဟာကပ် (ကမ္ဘာ) | ၅၀၀ |
| | အသညသတ်ဘုံ | ။ | ၅၀၀ |
| | အဝိဟာဘုံ | ။ | ၁၀၀၀ |
| | အတပ္ပါဘုံ | ။ | ၂၀၀၀ |
| | သုဒဿာဘုံ | ။ | ၄၀၀၀ |
| | သုဒဿီဘုံ | ။ | ၈၀၀၀ |
| | အကနိဋ္ဌဘုံ | ။ | ၁၆၀၀၀ |

| | | | |
|---|---|---|---|
| အရူပ ၄-ဘုံ | အာကာသာနဉ္စာယတနဘုံ | မဟာကပ်(ကမ္ဘာ) | ၂၀၀၀၀ |
| | ဝိညာဏဉ္စာယတနဘုံ | ။ | ၄၀၀၀၀ |
| | အာကိဉ္စညာယတနဘုံ | ။ | ၆၀၀၀၀ |
| | နေဝသညာနာသညာယတနဘုံ | ။ | ၈၄၀၀၀ |

**၃၁-ဘုံအကျဉ်း**

| | | | |
|---|---|---|---|
| အပါယ် | ၄-ဘုံ | ကာမ | ၁၁-ဘုံ |
| ကာမသုဂတိ | ၇-ဘုံ | | |
| ရူပ | ၁၆-ဘုံ | ဗြဟ္မာ့ဘုံ | ၂၀-ဘုံ |
| အရူပ | ၄-ဘုံ | | |
| | | ပေါင်း | ၃၁-ဘုံ |

**၃၁-ဘုံ အထက်မှအောက် တည်နေပုံ**

၃၁-နေဝသညာနာသညာယတနဘုံ (အထက်ဘဝဂ်)
၃၀-အာကိဉ္စညာယတနဘုံ
၂၉-ဝိညာဏဉ္စာယတနဘုံ
၂၈-အာကာသာနဉ္စာယတနဘုံ
၂၇-အကနိဋ္ဌဘုံ
၂၆-သုဒဿီဘုံ
၂၅-သုဒဿာဘုံ
၂၄-အတပ္ပါဘုံ
၂၃-အဝိဟာဘုံ
၂၂-အသညသတ်ဘုံ } တစ်ပြင်တည်း
၂၁-ဝေဟပ္ဖိုလ်ဘုံ }

| | |
|---|---|
| ၂၀-သုဘကိဏှာဘုံ<br>၁၉-အပ္ပမာဏာသုဘာဘုံ<br>၁၈-ပရိတ္တာသုဘာဘုံ | } တတိယဈာန် ၃-ဘုံ တစ်ပြင်ဟည်း |
| ၁၇-အာဘဿရာဘုံ<br>၁၆-အပ္ပမာဏာဘာဘုံ<br>၁၅-ပရိတ္တာဘာဘုံ | } ဒုတိယဈာန် ၃-ဘုံ တစ်ပြင်တည်း |
| ၁၄-မဟာဗြဟ္မာဘုံ<br>၁၃-ဗြဟ္မပုရောဟိတာဘုံ<br>၁၂-ဗြဟ္မပါရိသဇ္ဇာဘုံ | } ပထမဈာန် ၃-ဘုံ တစ်ပြင်တည်း |
| ၁၁-ပရနိမ္မိတဝသဝတ္တီဘုံ<br>၁၀-နိမ္မာနရတိဘုံ<br>၉-တုသိတာဘုံ<br>၈-ယာမာဘုံ<br>၇-တာဝတိံသာဘုံ<br>၆-စတုမဟာရာဇ်ဘုံ | |
| ၅-လူ့ဘုံ<br>၄-တိရစ္ဆာန်ဘုံ<br>၃-ပြိတ္တာဘုံ<br>၂-အသူရကာယ်ဘုံ<br>၁-ငရဲဘုံ | } လူ့ဘုံနှင့် တစ်ပြင်တည်း |

ပုဂ္ဂိုလ် ၁၂-မျိုး

ယင်း ၃၁-ဘုံ၌ဖြစ်သော ပုဂ္ဂိုလ်များကို အကျဉ်းချုပ်အားဖြင့် ရေတွက်ပါက ပုထုဇဉ် ၄-ယောက်၊ အရိယာ ၈-ယောက် စုစုပေါင်း ပုဂ္ဂိုလ် ၁၂-ယောက် ဖြစ်သည်။ ယင်းပုဂ္ဂိုလ် ၁၂-ယောက်တို့မှာ—

ပုထုဇဉ် ၄-ယောက်

(၁) ဒုဂ္ဂတိအဟိတ်ပုဂ္ဂိုလ်=ကျွဲ, နွား စသော တိရစ္ဆာန်များ (ဒု+ဂတိ+အဟိတ်၊ ဒု=မကောင်းသော+ ဂတိ=လားရာ+အဟိတ်=အဟိတ်စိတ်ဖြင့် ပဋိသန္ဓေနေရသူ)၊

(၂) သုဂတိအဟိတ်ပုဂ္ဂိုလ်= အမိဝမ်းတွင်းမှ ဆွံ့အ, နား မကြားလာသူများ၊

(၃) ဒွိဟိတ်ပုဂ္ဂိုလ်= လူသာမန်များ၊

(၄) တိဟိတ်ပုဂ္ဂိုလ်= ထက်ထက်မြက်မြက် ပုဂ္ဂိုလ်များ (ထိုပုဂ္ဂိုလ်များသည် အကုသိုလ်လုပ်ရာ၌ဖြစ်စေ, ကုသိုလ်လုပ်ရာ၌ဖြစ်စေ တွန့်ဆုတ်မနေဘဲ ဇွဲနပဲကြီးစွာ ထက်ထက်မြက်မြက်ပြုလုပ်တတ်ကြသည်)။

**အရိယာ ၈-ယောက်**

(၁) သောတာပတ္တိမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်၊
(၂) သောတာပတ္တိဖလဋ္ဌာန်ပုဂ္ဂိုလ်၊
(၃) သကဒါဂါမိမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်၊
(၄) သကဒါဂါမိဖလဋ္ဌာန်ပုဂ္ဂိုလ်၊
(၅) အနာဂါမိမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်၊
(၆) အနာဂါမိဖလဋ္ဌာန်ပုဂ္ဂိုလ်၊
(၇) အရဟတ္တမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်၊
(၈) အရဟတ္တဖလဋ္ဌာန်ပုဂ္ဂိုလ်။

**ပုဂ္ဂိုလ် ၂၁၄-ယောက်**

အဆိုပါ ပုဂ္ဂိုလ် ၁၂-ယောက်ကို ၃၁-ဘုံ၌ ဖြန့်လိုက်လျှင် အောက်ပါအတိုင်း ပုဂ္ဂိုလ်ပေါင်း ၂၁၄-ယောက် ဖြစ်သည်—

| စဉ် | ဘုံ | ပုဂ္ဂိုလ် | ပေါင်း |
|---|---|---|---|
| (က) | အပါယ် (၄)ဘုံ | × ဒုဂ္ဂတိအဟိတ်ပုဂ္ဂိုလ် (၁)ယောက် | ၄ |
| (ခ) | လူ့ဘုံ | × ဒုဂ္ဂတိအဟိတ်မှတပါး (၁၁)ယောက် | ၁၁ |
| (ဂ) | စတုမဟာရာဇ်ဘုံ | × ဒုဂ္ဂတိအဟိတ်မှတပါး (၁၁)ယောက် | ၁၁ |

| စဉ် | ဘုံ | | ပုဂ္ဂိုလ် | ပေါင်း |
|---|---|---|---|---|
| (ဃ) | အထက်နတ်ပြည် (၅)ထပ် | × | အဟိတ်ပုထုဇဉ်(၂)ယောက်မှတပါး (၁၀)ယောက် | ၅၀ |
| (င) | ဝေဟပ္ဖိုလ်အထိ ရူပဗြဟ္မာ (၁၀)ဘုံ | × | တိဟိတ်ပုထုဇဉ်(၁)+ အရိယာ(၈) ပေါင်း (၉)ယောက် | ၉၀ |
| (စ) | အသညသတ်ဘုံ | × | သုဂတိအဟိတ် (၁)ယောက် | ၁ |
| (ဆ) | သုဒ္ဓါဝါသ (၅)ဘုံ | × | အနာဂါမိဖလဋ္ဌာန်+ အရဟတ္တမဂ္ဂဋ္ဌာန်+ အရဟတ္တဖလဋ္ဌာန်၊ ပေါင်း(၃)ယောက် | ၁၅ |
| (ဇ) | အရူပ (၄)ဘုံ | × | တိဟိတ်ပုထုဇဉ် (၁)+ သောတာပတ္တိမဂ္ဂဋ္ဌာန်မှတပါး အရိယာ (၇)ယောက် ပေါင်း (၈)ယောက် | ၃၂ |
| | | | စုစုပေါင်း ပုဂ္ဂိုလ် | ၂၁၄-ယောက် |

ထိုထိုဘုံတို့၌ ဖြစ်ကြသော ပုဂ္ဂိုလ်များအနက် သောတာပန်ပုဂ္ဂိုလ်တို့သည် လူ့ဘုံ၊ နတ်ဘုံတို့၌ အများဆုံး ၇-ကြိမ်ဖြစ်နိုင်သေးသည်။ ၇-ကြိမ်ထက် ပို၍ မဖြစ်တော့ပေ။ တစ်ဘဝတည်းဖြင့်လည်း အထက်မဂ်သို့ အဆင့်ဆင့် တက်၍ နိဗ္ဗာန်ရောက်နိုင်သည်။အထက်နတ်ဘုံ ဗြဟ္မာ့ဘုံတို့၌ ဘုံစဉ်စံ၍လည်း နိဗ္ဗာန်ဝင်နိုင်ကြသည်။

သကဒါဂါမ်ပုဂ္ဂိုလ်များကား လူ့ဘုံ၊ သို့မဟုတ် နတ်ဘုံတို့၌ တစ်ကြိမ်သာ ဖြစ်ကြရတော့သည်။ ထိုဘဝမှာပင် အထက်မဂ်သို့ အဆင့်ဆင့် တက်၍လည်း နိဗ္ဗာန်ရောက်နိုင်သည်။ အထက်နတ်ဘုံ၊ ဗြဟ္မာ့ဘုံတို့၌လည်း ဘုံစဉ်စံ၍ နိဗ္ဗာန်ဝင်နိုင်သည်။

အနာဂါမ်ပုဂ္ဂိုလ်တို့ကား ဤလူ့ပြည်မှ အနာဂါမ်ဘဝဖြင့် ကွယ်လွန်သွားပါက သုဒ္ဓါဝါသဘုံ၌ ဗြဟ္မာဖြစ်ပြီး ဘုံစဉ်စံ၍ နိဗ္ဗာန်ဝင်ကြရလေသည်။

ရဟန္တာ ပုဂ္ဂိုလ်တို့ကား ကိလေသာ အားလုံးကို အကြွင်းမဲ့ ပယ်ပြီး ဖြစ်သောကြောင့် ရဟန္တာဖြစ်သော ဘဝမှာပင် ပရိနိဗ္ဗာန်စံဝင်ကြရလေသည်။

တိဟိတ်ပုထုဇဉ်ပုဂ္ဂိုလ်တို့ကား မိမိတို့ဖြစ်ရာ ဘုံဘဝ၌ တရားဓမ္မကို ပါရမီအလိုက် ကြိုးစားအားထုတ်၍ သောတာပန်မှသည် ရဟန္တာတိုင်အောင် ဖြစ်နိုင်ကြသည်။ တရားဓမ္မကို ကြိုးစားအားထုတ်မှုမရှိဘဲ သာမန်ကုသိုလ်မျှသာ ပြုလျှင်၊ သို့မဟုတ် အကုသိုလ်ပြုလုပ်ကြလျှင် ၂၆-ဘုံ၌ စုန်ကာ ဆန်ကာ၊ ဆန်ကာ စုန်ကာ သံသရာလည်ရဦးမည် ဖြစ်သည်။

ဒွိဟိတ်၊ သုဂတိအဟိတ်နှင့် ဒုဂ္ဂတိအဟိတ် ပုထုဇဉ်ပုဂ္ဂိုလ်တို့ကား ကာမ ၁၁-ဘုံ၌ တဝဲလည်လည် ဖြစ်နေကြရပေမည်။

## ဗြဟ္မာ့ပြည်တဝင်းဝင်း ဝက်စားကျင်း တရှုတ်ရှုတ်

"ဗြဟ္မာ့ပြည် တဝင်းဝင်း၊ ဝက်စားကျင်း တရှုတ်ရှုတ်" ဟူသောဤစကားပုံကို ဗုဒ္ဓဘာသာ မြန်မာလူမျိုးတိုင်း ကြားဖူးနေကြသည်။ ဤစကားဆိုရိုးအရ ဗြဟ္မာ့ပြည်မှ ဗြဟ္မာကြီးများပင် ကံကုန်၍ ဈာန်ဘုံမှ လျှောကျရသောအခါ တိရစ္ဆာန်ဘုံဘဝသို့ တိုက်ရိုက် ရောက်ကြရသည်ဟု အချို့က အမှတ်မှားနေကြသည်။

ထိုသို့ မဟုတ်ပါ၊ ဗြဟ္မာဘဝမှ တိရစ္ဆာန်ဘဝသို့ တိုက်ရိုက် မရောက်နိုင်ပါ။ ဗကဗြဟ္မာကြီးကဲ့သို့ပင် အထက်ဗြဟ္မာ့ပြည်မှ အောက်ဗြဟ္မာ့ပြည်သို့ ကူးပြောင်းလာပြီး ထိုမှတဆင့် နတ်ဘဝ၊ လူ့ဘဝသို့ ရောက်ကြရသည်။ သို့မဟုတ်လည်း ဗြဟ္မာဘဝမှ နတ်ဘဝ၊ လူ့ဘဝများသို့ ကူးပြောင်းလာကြပြီးမှ နောက်တဆင့် အပါယ်ဘုံသို့ ရောက်ကြရလေသည်။

## ဘဝကူးပုံ

ဤဘဝနှင့် နောက်ဘဝ ဘဝနှစ်ခုကို ကြောင်းကျိုး ဆက်စပ်ပေးခြင်းကို ပဋိသန္ဓေဟု ခေါ်သည်။ (ပဋိ=တဖန်+သန္ဓေ=ဆက်စပ်ခြင်း။) ဤဘဝ၌ ရှိသော စိတ်စေတသိက် နာမ်တရားများသည် ဤဘဝ၌ပင် ချုပ်ပျက်ပျောက်ကွယ်ခဲ့ကြသည်။ နောက်ဘဝတွင် ဖြစ်မည့် စိတ်၊ စေတသိက် နာမ်တရားများသည် အသစ်ဖြစ်ပေါ်လာကြခြင်း ဖြစ်သည်။ သို့ရာတွင် ဤဘဝမှ နာမ်တရားနှင့် နောက်ဘဝရှိ နာမ်တရားများသည် လုံးဝ အဆက်အသွယ်မရှိမဟုတ်၊ အကြောင်းအကျိုးအားဖြင့်ကား ဆက်စပ်မှု ရှိနေသည်။ ဤဘဝက နာမ်တရားကို အကြောင်းရင်းခံပြီးနောက် နောက်ဘဝတွင် အကျိုးတရားအဖြစ် နာမ်တရားများဖြစ်ပေါ်ရခြင်း ဖြစ်သည်။ ဤနေရာတွင် ဆီမီး ဥပမာ၊ ပုံထင်သံ ဥပမာ၊ တံဆိပ်တုံးဥပမာများနှင့် ရှင်းပြလေ့ရှိကြသည်။

ဆီမီးခွက်တစ်ခုမှ မီးကို အခြားဆီမီးခွက်တစ်ခုသို့ ကူးပြောင်းထွန်းညှိသည့်အခါ ပထမဆီမီးခွက်တစ်ခုမှ မီးတောက်သည် ဒုတိယဆီမီးခွက်သို့ ကူးပြောင်းလိုက်ပါသွားသည်ဟု မဆိုနိုင်၊ ဒုတိယဆီမီးခွက်မှာရှိသည့်မီးတောက်သည် ပထမဆီမီးခွက်မှ မီးတောက်နှင့် အကြောင်းမဆက်ဘဲ အလိုလို မီးထတောက်သည်ဟုလည်း မဆိုနိုင်၊ ပထမဆီမီးခွက်နှင့် ဒုတိယဆီမီးခွက်တွင် ရှိသည့် မီးတောက်မီးလျှံ နှစ်ခုသည် တစ်ခုတည်းဟု ဆိုလျှင်လည်း မမှန်နိုင်ပါ။ ထိုမီးတောက်နှစ်ခုသည် အချင်းချင်း မည်သို့မျှ ဆက်စပ်မှုမရှိ၊ မပတ်သက်ဟု ဆိုလျှင်လည်း မမှန်နိုင်ပါ။ အမှန်စင်စစ်အားဖြင့် မီးတောက်နှစ်ခုသည် သီးခြား တစ်ခုစီဖြစ်နေသော်လည်း အချင်းချင်း အကြောင်းအကျိုး ဆက်စပ်မှုရှိသည်ဟု ဆိုရပါမည်။ ဤဥပမာအတိုင်း ဘဝဟောင်းသည် မူလဆီမီးတောက်နှင့် တူပြီး ဘဝသစ်သည် ဒုတိယဆီမီးတောက်နှင့် တူသည်။

ပဲ့တင်သံ ဥပမာ၌လည်း မူလအသံနှင့် ပဲ့တင်သံ တစ်ခုတည်းဟု ဆိုလျှင် မှားပေမည်၊ ဘာမျှဆက်စပ်မှုမရှိ၊ တခြားစီဟု ဆိုလျှင်လည်း မမှန်နိုင်၊ အမှန်စင်စစ်အားဖြင့် မူလအသံနှင့် ပဲ့တင်သံသည် အကြောင်းအကျိုး ဆက်စပ်မှုရှိနေသည်။ မူလအသံကို အကြောင်းခံပြီး ပဲ့တင်သံ ဖြစ်ပေါ်လာရသည်။ ဤဥပမာအတိုင်း ဘဝဟောင်းသည် မူလအသံနှင့် တူပြီး ဘဝသစ်သည် ပဲ့တင်သံနှင့် တူပေသည်။

တံဆိပ်တုံး ဥပမာ၌လည်း လိုအပ်သည့် စာလုံးများကို တံဆိပ်တုံးအပေါ်၌ ပြောင်းပြန်ထွင်းထားသည်။ တံဆိပ်ရိုက်နှိပ်လိုက်သည့်အခါ စာရွက်ပေါ်တွင် ထင်ကျန်နေရစ်ခဲ့သည်။ စာရွက်ပေါ်က စာလုံးများသည် တံဆိပ်တုံးမှ စာလုံးများကဲ့သို့ ပြောင်းပြန်မဟုတ်ဘဲ ဖတ်သည့်အတိုင်း ထင်ရစ်သည်။ ထို့ကြောင့် မူလတံဆိပ်တုံးနှင့် စက္ကူပေါ်တွင် ထင်နေသည့် တံဆိပ်တုံးသည် တစ်ခုတည်းလည်း မဟုတ်၊ လုံးဝဆက်စပ်မှုမရှိသည့် အရာဝတ္ထုများလည်း မဟုတ်။ တစ်ခုနှင့်တစ်ခု အကြောင်းအကျိုးဆက်နွယ်မှုရှိနေကြသည်။ တံဆိပ်တုံးကို အကြောင်းခံပြီး စက္ကူပေါ်၌ တံဆိပ်တုံးရာ ထင်ကျန်ရစ်ခြင်းဖြစ်သည်။ ဤဥပမာ၌ တံဆိပ်တုံးသည် ဤဘက်ဘဝဟောင်းနှင့် တူ၍ စက္ကူပေါ် ထင်ကျန်ရစ်သည့် တံဆိပ်အရာသည် ဟိုဘက်ဘဝနှင့် တူသည်။

လောက်လမ်းသဖွယ် ဝိညာဉ်တွယ်

ဘဝကူးပြောင်းမှုနှင့် ပတ်သက်၍ မြန်မာတို့၏ ရှေးရိုးစဉ်လာ ပြောဆိုသုံးနှုန်းကြသည်မှာ "လောက်လမ်းသဖွယ် ဝိညာဉ်တွယ်" ဟူ၍ ဖြစ်သည်။ ယင်းအယူဝါဒအရ ပိုးလောက်လမ်းသည် အမြီးပိုင်းဖြင့် တစ်နေရာကို တွယ်ကပ်

သွားပြီ၊ ခေါင်းပိုင်းဖြင့် အခြား တစ်နေရာကို ရှာဖွေသည်။ နေရာသစ်ကို မတွယ်ကပ်နိုင်သေးပါက အမြီးပိုင်းသည် လက်ရှိနေရာကို မလွှတ်သေးဘဲ တွယ်ကပ်ထားသည်။ နေရာတစ်ခုကို ခေါင်းပိုင်းဖြင့် အသေအချာ တွယ်ကပ်ပြီးပါက ခန္ဓာကိုယ်နောက်ပိုင်းသည် လက်ရှိနေရာကို စွန့်လွှတ်၍ ဤနေရာသစ်သို့ ပြောင်းရွှေ့လိုက်သည်။ ဤနည်းတူပင် သတ္တဝါတစ်ယောက်သည် သေခါနီး အချိန်တွင် အသက်ဝိညာဉ်သည် ဘဝသစ် တစ်ခုကို လိုက်လံ ရှာဖွေသည်။ ဘဝသစ်ကို မတွယ်ကပ်ရသေးသမျှ ဘဝဟောင်းကို စွန့်လွှတ်ခြင်းမရှိ။ ဘဝသစ်တစ်ခုကို တွယ်ကပ်မိသော အခါတွင်မှ ဘဝဟောင်းကို စွန့်ခွါသွားတော့သည်။ ဥပမာအားဖြင့် သေခါနီး လူမမာတစ်ဦးသည် မကြာခဏ သတိလစ်မေ့မြောလိုက် ပြန်လည်သတိရလိုက် ဖြစ်တတ်သည်။ ထိုသို့သတိလစ် မေ့မြောနေသည့် အချိန်ကို အသက်ဝိညာဉ်သည် နောက်ဘဝသစ် တစ်ခုကို မှီတွယ်ရန်အတွက် လိုက်လံရှာဖွေနေခြင်း ဖြစ်သည်။ သေချာသည့် မှီတွယ်ရာ ဘဝသစ်မတွေ့ရှိရသေးသဖြင့် အသက်ဝိညာဉ်သည် လူမမာထံသို့ ပြန်လာသောအခါ သတိပြန်လည်လာခြင်း ဖြစ်သည်ဟု ဆိုကြသည်။

အမှန်စင်စစ် ထိုကဲ့သို့ သတိမေ့မြောနေခြင်းသည် နှလုံးသွေးခေါ် ဟဒယရုပ်ဝတ္ထု အားနည်းနေသဖြင့် စိတ်ဝိညာဏ် မနောဓာတ် အားနည်းနေခြင်းဖြစ်သည်။ ထိုသို့ အားနည်းနေချိန်၌ မျက်စိအသိ နားအသိ ကိုယ်ကာယအသိ (ပဉ္စဝိညာဏ်စိတ်)များ ဖြစ်ပေါ်နိုင်စွမ်းမရှိဘဲ မနောဓာတ်အတွင်းမှာသာလျှင် အသိသဘောဖြစ်ပေါ်နေသည်။ ထို့ကြောင့် အမြင်အာရုံ, အကြားအာရုံ အစရှိသော ပြင်ပမတ်ဝန်းကျင်နှင့် အဆက်အသွယ် ပြတ်နေသည်ကို သတိမေ့မြောနေသည်ဟု ခေါ်ဆိုရသည်။

မနောဓာတ်အတွင်း၌ အတိတ်ကာလက ဖြစ်ခဲ့ဖူးသိခဲ့ဖူးသော အာရုံများကို ပြန်လည် သိရှိနေခြင်း ဖြစ်သည်။ ဤသို့ မနောဓာတ်အတွင်း၌ ရှိသော အာရုံကို ပြန်လည်သိရှိနေခြင်းကို နားမလည်သဖြင့် အသက်ဝိညာဉ်သည် အပြင်သို့ ထွက်ခွါ လျှောက်သွားနေသည်ဟု ယူဆကြခြင်းဖြစ်သည်။ အသက်၊ သို့မဟုတ် ဝိညာဉ်သည် ခန္ဓာကိုယ်အပြင်ပသို့ ထွက်ခွါသွားခြင်း မရှိချေ။ ထိုသို့ သွားနိုင်ရန် အကောင်အထည်လည်း မဟုတ်ချေ။

ထို့ကြောင့် ပိုးလောက်လမ်းအကောင်ကဲ့သို့ ဝိညာဉ်သည် ဘဝနှစ်ခုကို ခွသျက် တွယ်ကပ်နိုင်ခြင်း မရှိချေ။ အဘိဓမ္မာသဘောအရ ရှေ့စိတ်တစ်ခု ချုပ်ငြိမ်းပြီးသောအခါမှ နောက်စိတ်တစ်ခု အသစ်ဖြစ်ပေါ်လေ့ရှိသည်။ ဤသို့ အဆက်မပြတ် ဆက်ကာ ဆက်ကာ ဖြစ်ပျက်နေသော စိတ်အစဉ်အတန်းဖြစ်စဉ်

တစ်ခုမျှသာ ရှိသည်။ စိတ်ဝိညာဏ်၏ သက်တမ်းကာလမှာ တစ်စက္ကန့်၏ အပုံ ကုဋေတစ်သိန်းပုံ တစ်ပုံမျှသာ ရှိကြောင်း မြတ်စွာဘုရားဟောကြားထားသည်။ ဤမျှ သက်တမ်းတိုသည့် စိတ်ဝိညာဏ်သည် ဘဝနှစ်ခုကို ခွထားရန် တစ်ခုမှ တစ်ခုသို့ လှမ်းကူးရန် အချိန်မရှိ၊ ဖြစ်ပြီးနောက် ကာလမဆိုင်းဘဲ ချုပ်ပျက် သွားလေသည်။ ဘဝသစ်ကို လှမ်းတွယ်ပြီးမှ ဘဝဟောင်းကို စွန့်လွှတ်သည်ဟု ဆိုလျှင် သတ္တဝါတစ်ဦးသည် ဘဝနှစ်ခု၌ တပြိုင်နက် ပူးတွဲရပ်တည်နိုင်သည်ဟု ဆိုရာရောက်၏။ ထိုသို့ မဖြစ်ကောင်းချေ။ ထို့ကြောင့် "လောက်လမ်းသဖွယ် ဝိညာဉ်တွယ်"ဟူသောစကားကို အနှစ်သာရအားဖြင့် မမှတ်ယူဘဲ ဘဝဟောင်း စိတ်ဝိညာဏ်ချုပ်ပျက်ပြီးမှသာလျှင် ဘဝသစ်၌ စိတ်ဝိညာဏ်အသစ် ဖြစ်ပေါ်ခွင့် ရှိသည်။ ဘဝသစ်ဝိညဉ်ဖြစ်ပြီးမှ ဘဝဟောင်းဝိညာဉ်ချုပ်သည်ဟု ယူဆပါက သဿတဒိဋ္ဌိသို့ သက်ဝင်သည်။

**ဘဝသံသရာ**

သတ္တဝါတစ်ဦးသည် အတိတ်ဘဝဟောင်း များစွာ ဖြစ်ခဲ့ဖူး၍ ယခုပစ္စုပ္ပန် ဘဝ၌ ရှိနေသည်။ နောင်အနာဂတ်တွင်လည်း ဘဝပေါင်းများစွာ ဆက်လက် ဖြစ်နေဦးမည်ဖြစ်သည်။ သတ္တဝါတစ်ဦးအတွက် မည်သည့် အချိန်က စတင်ဖြစ် ပေါ်ခဲ့သည်ကို မသိနိုင် မသိအပ်၊ အစမထင်သည့် (အနမတဂ္ဂ) သံသရာဟု ခေါ်ဆိုကြသည်။ ထို့ကြောင့် သတ္တဝါတစ်ဦးအတွက် သံသရာသည် အစမရှိ၊ သို့ရာတွင် အဆုံးရှိသည်။ အာသဝေါကုန်ခန်း ရဟန္တာဖြစ်သည့်အခါ ပရိနိဗ္ဗာန် စံရ၍ ထိုသတ္တဝါအတွက် သံသရာအဆုံးသတ်တော့သည်။ ထို့ကြောင့် သံသရာ သည် အစမရှိသော်လည်း အဆုံးရှိသည်။ ဤအာကာသကောင်းကင်ကြီးမှာမူ အစကို ကြိုက်သည့် နေရာမှ စနိုင်သည်။ သို့ရာတွင် အဆုံးမရှိ။

ထို့ကြောင့် အစမရှိသော်လည်း အဆုံးရှိသော သံသရာ၌ မိမိအတွက် သံသရာဝဋ်ဒုက္ခတိုအောင် ကြိုးစားအားထုတ်ကြရမည် ဖြစ်သည်။

# အခန်း (၂၇)

## ကံကြမ္မာ

ကောင်းသော ကံကိုလည်းကောင်း၊ မကောင်းသော ကံကို လည်းကောင်း ကံဟု ခေါ်ကြသည်။ ကြမ္မာဟူသောစကားကိုမူ မကောင်းသည့် ဘက်၌ သုံးနှုန်းကြသည်။ မကောင်းသောကံ၊ ဆိုးသောကံကိုကြမ္မာဟု သုံးနှုန်းကြသည်။ ဒုက္ခရောက်အောင် ပြောမှားဆိုမှား အလုပ်အကိုင်မှားခြင်းကို ကြမ္မာငင်သည်ဟု ဆိုကြသည်။

ယင်းသို့ ကံကြမ္မာ အဆိုးအကောင်း ရှိရာတွင် ကောင်းသော ကံကိုသာ ပြုလုပ်မိရန် သမ္မာဒိဋ္ဌိဖြောင့်မှန်သော အယူဝါဒ ရှိရန် လိုအပ်ပေသည်။ မှားယွင်းသော မိစ္ဆာဒိဋ္ဌိအယူရှိနေပါက ကံဆိုးကြမ္မာဆိုးကို ပြုလုပ်မိပေလိမ့်မည်။ ထို့ကြောင့် မိစ္ဆာဒိဋ္ဌိအဖြစ်မှ လွတ်မြောက်၍ သမ္မာဒိဋ္ဌိဖြစ်နိုင်ရန် ရှင်းပြပါဦးမည်။

### သမ္မာဒိဋ္ဌိနှင့် မိစ္ဆာဒိဋ္ဌိ

လူသည် စဉ်းစားတွေးခေါ် မြော်မြင်တတ်သော အလေ့အထရှိသဖြင့် နောက်ဘဝ ရှိ၊မရှိ ပြဿနာနှင့် ပတ်သက်၍လည်းကောင်း၊ ငရဲပြည် နတ်ပြည်များ ရှိ၊ မရှိ ပြဿနာနှင့် ပတ်သက်၍လည်းကောင်း၊ ကောင်းမှုကုသိုလ်နှင့် မကောင်းမှုအကုသိုလ် ရှိ၊မရှိ ပြဿနာနှင့် ပတ်သက်၍လည်းကောင်း အမျိုးမျိုးတွေးခေါ် ယူဆကြသည်။ အချို့က သတ္တဝါသေလျှင် ပြတ်စဲသွားပြီးနောက်ဘဝမရှိ၊ ဤဘဝတွင် ပြုလုပ်ခဲ့သော အမှုများအတွက် ကောင်းကျိုးဆိုးပြစ်များ ခံရန် စံရန် မလိုတော့ချေ။ တဖန် အချို့က ဆိုကြပြန်သည်။ နောက်ဘဝ ရှိသည်။ ဤဘဝတွင် သူတပါး၏ ကောင်းကျိုးကို သယ်ပိုးခဲ့ကြသော သတ္တဝါများသည် သေဆုံးပြီးနောက် ကောင်းကင်ဘုံ (ဝါ) ချမ်းသာသုခနှင့်ပြည့်နေသော သုခဝတီဘုံ (ဝါ) နတ်ပြည်သို့ ရောက်၍ ချမ်းသာသုခ ခံစားကြရသည်။ ဘယ်သောအခါမျှ မသေနိုင်သည့် ထာဝရအသက်ကို ရရှိကြသည်။ သူတပါးကို နှိပ်စက်ညှဉ်းပန်း အကျိုးမဲ့ ပြုခဲ့ကြသူများသည် သေဆုံးပြီးနောက် ငရဲဘုံသို့ ရောက်၍ ဆင်းရဲဒုက္ခများကို အဆုံးအပိုင်းအခြား မရှိသော ကာလပတ်လုံး ဒုက္ခခံစားနေကြရသည်ဟု ယုံကြည်ယူဆကြသည်။ တဖန် အချို့က ယခုဘဝနှင့် နောက်ဘဝ နှစ်ဘဝသာ ရှိသည်ဟု ယူဆကြသည်။ အချို့ကမူ ယခုဘဝသို့ မရောက်လာမီ ရှေးယခင်ဘဝပေါင်း များစွာ

သို့သော် သေနေ့စေ့သူအတွက်ကား ဆေးလည်း မရှိ၊ ဆရာလည်း မရှိ။ သေအံ့သောမှ ရှောင်ကြသူများသည် ရှောင်ရင်းဖြင့် သေကြရသည်။

ပညာအမြော်အမြင်ရှိသော ဗုဒ္ဓဘာသာလူမျိုးတို့ကား သေရမည့် ဘေးကို အထူးမရှောင်ဘဲ သေလျှင် ကောင်းရာသုဂတိ ရောက်ဖို့အတွက် အမြဲတမ်း ပြင်ဆင်ထားကြသည်။ ခရီးသွားလာရင်း ဘုရား တရား သံဃာ ဂုဏ်တော်များကို အာရုံပြု ရွတ်ပွားနေကြသည်။ အိပ်နေရင်း ထိုင်နေရင်းလည်း ဘုရားရှိခိုးကြ ပုတီးစိပ်ကြသည်။ ထိုသူတို့သည် ထိုအာရုံများဖြင့် ရုတ်တရက် သေသွားရသော် ဖားယော်ကလေးကဲ့သို့ နတ်ပြည် နတ်ဘဝ၌ ဖြစ်ကြရမည်။

အချို့သော သက်ကြီးရွယ်အို ဗုဒ္ဓဘာသာဝင်တို့သည် ရှေးက ဘာပဲ လုပ်ခဲ့လုပ်ခဲ့ မိမိတို့ဘဝ နေဝင်ချိန်ရောက်ပြီဟု သိလာသောအခါ ဘဝကူးကောင်းရန် ကြိုးစားကြသည်။ "သေဖို့ရန် ပြင်ပေတော့"ဟူသော မြန်မာ့ စကားပုံအတိုင်း သေဖို့ရန် ပြင်ဆင်ကြသည်။ ထိုပုဂ္ဂိုလ်များအနက် မြန်မာပညာရှိ ယောမင်းကြီး ဦးဘိုးလှိုင်၏ သေဖို့ရန် ပြင်ဆင်ပုံမှာ လွန်စွာ အတုယူဖွယ် မှတ်သားလိုက်နာဖွယ် ကောင်းလှပေသည်။ "ယောမင်းကြီး"ဟု ပြောလိုက်လျှင် မြန်မာ့ရာဇဝင်တွင် မသိသူ မရှိသလောက် ထင်ပေါ်ကျော်ကြားသည့် နှုတ်ခမ်းမွေး ကားကား ခေါင်းပေါင်းဖြူ ဖော့လုံးသျှောင်တစောင်းနှင့် ဦးဘိုးလှိုင်၏ ရုပ်ပုံလွှာကို မြင်ယောင်လာကြပေမည်။

ဦးဘိုးလှိုင်သည် အသက်ငယ်စဉ် ကျွန်းမာ သန်စွမ်းစဉ်က မကောင်းမှု အကုသိုလ်များကိုလည်း အနည်းနှင့်အများဆိုသလို ပြုလုပ်ကောင်း ပြုလုပ်မိခဲ့ပေမည်။ အုပ်ချုပ်ရေးလမ်းကြောင်းပေါ်မှ တရားစီရင်ထုံးများအရ အပြစ်ရှိသူများကိုလည်း အပြစ်အလျောက် စီရင်ခဲ့ပေမည်။ ကုသိုလ် ကောင်းမှုများကိုလည်း မိမိဘဝနှင့် ထိုက်တန်သလောက် ပြုလုပ်ခဲ့ပေမည်။ ဘဝခရီးတစ်လျှောက်၌ ပြုလုပ်ခဲ့သော ကုသိုလ် အကုသိုလ်များသည် အလွန်များလှသဖြင့် မိမိဘာလုပ်ခဲ့သည်ကို အမှတ်ရဖို့ရန် အလွန်ခဲယဉ်းပေသည်။ သို့သော် သေခါနီးကာလ၌ကား အသေးအဖွဲ့ကလေးပင် ဖြစ်စေကာမူ ကုသိုလ်၊ သို့မဟုတ် အကုသိုလ်တစ်ခုခုက နိမိတ်အာရုံ ထင်လာတတ်သည်။ ကုသိုလ်အာရုံ ထင်လာလျှင်ကား ကောင်းပါ၏၊ အကုသိုလ်အာရုံ ထင်လာလျှင်ကား အပါယ်သို့ မုချ ကျရောက်ရပေမည်။

ဤသဘောတရားကို သိသော ယောမင်းကြီး ဦးဘိုးလှိုင်သည် မသေမီ တစ်လလောက်က ကြိုတင်၍ သေရန် ပြင်ဆင်ခဲ့သည်။ အချို့ အသက်အရွယ်ကြီးရင့်ပြီး သတိတရား ကောင်းမွန်သူတို့သည် မိမိသေရတော့မည်ကို၊ သေနိုင်

သည်ကို ခန့်မှန်းသိရှိနိုင်ဟန် ရှိလေသည်။ ဦးဘိုးလှိုင်သည် မိမိသေနိုင်သည်ကို သိသဖြင့် သေရမည်ကို မကြောက်ဘဲ အသေကောင်းရန် ဘဝကူးကောင်းရန် ပြင်ဆင်လေသည်။

ဦးဘိုးလှိုင်၏ ကျောင်းနေဖက် သူငယ်ချင်း ဦးတူဆိုသူသည် စစ်ကိုင်းမြို့တွင် နေထိုင်လျက် ရှိသည်။ ဦးဘိုးလှိုင်သည် ဦးတူကို မိမိအိမ်သို့ ခေါ်၍ ဤသို့ တိုင်ပင်ပြောပြလေသည်—

> မောင်တူရေ– မင်းနှင့် ငါဟာ ငယ်သူငယ်ချင်း၊ မျိုးစွာ ချစ်ကျွမ်းဝင်သူများ ဖြစ်ကြတယ်၊ ငါ့ကို မင်းကြီးလို့ စိတ်က စွဲပြီး ရှိသေခြင်း ဘုရားထူးခြင်း မပြုနှင့်၊ ကျောင်းမှာ နေတုန်းက လို ဘိုးလှိုင်လို့ပဲခေါ်၊ မင်းကိုလဲ မောင်တူလို့ပဲ ခေါ်မယ်သူငယ်ချင်း၊ ကျောင်းသားစိတ်မျိုးနှင့် စကားပြောပြီး ငါ့အနားမှာ တစ်လလောက် နေပါကွာ၊ မင်း သားမယားစားသုံးဖို့ငွေဒင်္ဂါး ၂၀၀/-ကို လူကြုံနှင့်ပို့ပေးလိုက်၊ ငါ့ကို မင်း ကျွေးချင်တာနှင့်ကျွေး၊ ငါ့ကို ဘာစားမလဲ မမေးနှင့်၊ မင်း ကျွေးတာ ငါစားမယ်၊ မင်းပြောတာ ငါနားထောင်မယ်၊ ဒီအခန်းထဲကို ဝန်ကတော်မှအစ ဘယ်သူမှ မဝင်စေနှင့်။

ဦးဘိုးလှိုင်နှင့် ဦးတူ သူငယ်ချင်းနှစ်ယောက်သည် ဘုန်းကြီးကျောင်းမှာ နေစဉ်ကကဲ့သို့ ဘုရားစာများကို တစ်ယောက်တလှည့် ရွတ်ဆိုကြသည်။ ရံခါ ရယ်စရာများ ပြောကြသည်။ နေ့စဉ် ညအိပ်ခါနီး၌ ဘုန်းကြီးကျောင်းမှာ တုန်းကလို အပြိုင်ဆို၍ ဘုရားဝတ်တက်ကြသည်။ ဦးတူအား မဟာသတိပဋ္ဌာန်သုတ်တော်ကို ရွတ်ခိုင်းပြီး နာယူသည်။ ပြီးလျှင် သာဓုခေါ်၍ အိပ်သည်။ ယင်းသို့ နေလာခဲ့ရာ တစ်လပြည့်မြောက်သည့်ည ကျရောက်သော အခါ မြန်မာနာရီ လေးချက်တီးကျော် အချိန်တွင်—

> "မောင်တူရေ–ယနေ့ ငါစောစော အိပ်မယ်ကွယ်၊ မင်း ငါ့ကို သတိပဋ္ဌာန်တရားတော်နှင့် ရွတ်ဆိုသိပ်ပါကွယ်၊ ငါတရားနာရင်း အိပ်ပါရစေ၊ သုံးချက်တီးကျော်သောအခါ ငါ့ကို နိုးပါကွယ်"ဟု—

မှာထား ပြောကြား၍ အိပ်လေသည်။ ဦးတူကလည်း ပြောသည့်အတိုင်း သတိပဋ္ဌာန်တရားတော်ကို အသံမပြတ်ရွတ်ဖတ်နေသည်။ သုံးချက်တီးကျော်၍ နိုးသောအခါ ဦးဘိုးလှိုင်မှာ မနိုးတော့ပြီ၊ လက်နှင့် ကိုင်ကြည့်ရာ ဦးဘိုးလှိုင်၏ ကိုယ်မှာ တောင့်တင်းအေးစက်လျက် ဝိညာဉ်ချုပ်နေလေပြီ။ ဤကား ရှေးမြန်မာ ဗုဒ္ဓဘာသာလူကြီးများ၏ ဘဝကူးကောင်းရန် ကြိုတင်ပြင်ဆင်ပြီး

သေမင်းနှင့် ရင်ဆိုင်ခဲ့ကြပုံ ဖြစ်သည်။ သေခါနီး စိတ်နေစိတ်ထား အရေးကြီး ပုံကို ပြန်းအထူးရှင် နတ်သမီးဝတ္ထုကို လေ့လာသင့်သည်။

နတ်သမီး တစ်ယောက်သည် ရွှေဝါရောင် အဝတ်ကို ဝတ်၍ ရွှေဝါရောင် တန်ဆာကို ဆင်ပြီး ရွှေဝါရောင် စန္ဒကူးကို လိမ်းကျံလျက် ရွှေဝါရောင်ထန်ခွန်ကို ကိုင်ထား၏။ ရွှေဝါရောင် ကြာပန်းကို ဆင်မြန်းထားပြီး ရွှေဝါရောင် ပြာသာဒ်နှင့် ရွှေဝါရောင် အိပ်ရာလည်း ရှိ၏။ ရွှေဝါရောင်ခွက်, ရွှေဝါရောင်ထီး, ရွှေဝါရောင်ရထား, ရွှေဝါရောင်မြင်း, ရွှေဝါရောင် သားမြီးယပ်ရှိ၏။

ထိုနတ်သမီးအား သိကြားမင်းက "ရှေးလူ့ဘဝတုန်းက အဘယ်ကုသိုလ် ထူးကို ပြုခဲ့ပါသနည်း"ဟု မေး၏၊ ထိုအခါ နတ်သမီးက—

"အရှင်သိကြားမင်း....ခါးသည့်ဖြစ်၍ လူတို့အလိုမရှိသောသပွတ်ခါး နွယ်ပင် ရှိပါ၏။ ကျွန်ုပ်သည် မြတ်စွာဘုရား၏ သရီရဓာတ်တော်ကို ရည်မှတ်၍ အထူးကြည်လင်သော စိတ်ဖြင့် ထိုသပွတ်ခါးနွယ်ပန်း လေးပွင့်တို့ကို စေတီတော်အား လှူဒါန်းရန် ဆောင်ယူလာခဲ့ပါသည်။ ကျွန်ုပ်သည် ရန်သူ နွားမကို သတိမထားမိ၊ နွားအုပ်လာရာ လမ်းကို မျှော်မကြည့်မိပါ။ ထိုနွားအုပ်ထဲမှ ဆွားငယ်ရှိသော နွားမသည် ကျွန်ုပ် စေတီတော်သို့ မရောက်မီ ကျွန်ုပ်အား ဝှေ့သတ်လိုက်ပါ၏။ ကျွန်ုပ် သည် စေတီတော်သို့ ကိုယ်တိုင် ရောက်၍ အလိုဆန္ဒအတိုင်း ပန်းကို ပူဇော်ရပါမူ ဤစည်းစိမ်ထက် သာလွန်၍ ဖြစ်ရပါ၏"ဟု–

ဖြေကြားလေသည် (ပီတဝိမာနဝတ္ထု။၆၅–၆။)

တမ္ဗဒါဌိကသည် ခိုးသားများစွာတို့ကို နေ့စဉ် သတ်ဖြတ်၍ နှစ်ပေါင်း ၅၀ တိုင်တိုင် ဘုရင့်အမှုတော် ထမ်းရွက်ခဲ့သည်။ အသက်အရွယ်ကြီးရင့်လာသော အခါ ခိုးသူသတ် ရာထူးမှ အနားယူလိုက်သည်။ ယင်းသို့ အနားယူပြီးနောက် တစ်နေ့တွင် တမ္ဗဒါဌိကသည် မိမိအတွက် အလုပ်အကျွေးများက စီစဉ်ထားသော ဆီဦးထောပတ်တို့ဖြင့် ပြုလုပ်သည့် နို့ယာဂုကို သုံးဆောင်ရန် ပြင်ဆင်နေသည်။

ထိုအချိန်တွင် အရှင်သာရိပုတ္တရာသည် နိရောဓသမာပတ်မှ ထ၍ ချီးမြှောက် ရမည့် သူကို ကြည့်ရှုရာ တမ္ဗဒါဌိကကို မြင်တော်မူသဖြင့် သူ၏ အိမ်သို့ ဆွမ်းခံ ကြွတော်မူသည်။ တမ္ဗဒါဌိကသည် အရှင်မြတ်ကို ရှုမြင်သောအခါ အိမ်တွင်းသို့ ပင့်ဆောင်၍ မိမိစားတော့မည့် နို့ယာဂုကို ဆက်ကပ်လှူဒါန်းပြီး အရှင် မြတ်အား ယပ်လေခတ်လျက် ထိုင်နေလေသည်။ အရှင်မြတ်သည် ယာဂုဆွမ်း ဘုဉ်းပေးပြီးနောက် တမ္ဗဒါဌိကအား အနုမောဒနာတရား ဟောကြားတော် မူသည်။

အရှင်မြတ်သည် တရားနာယူနေသော တမ္ဗဒါဌိက မိမိတရားတော်အပေါ် စိတ်မဝင်စားဘဲ ဖြစ်နေသည်ကို သိ၍ ဟောလက်စ တရားကို ခေတ္တရပ်ပြီး တမ္ဗဒါဌိကအား မေးတော်မူသည်။ ထိုအခါ တမ္ဗဒါဌိက-က ခိုးသူပေါင်း မျှားစွာတို့ကို အနှစ် ၅၀-တိုင်တိုင် သတ်ခဲ့မိသော အကုသိုလ်ကို သတိရနေသောကြောင့် အရှင်မြတ်၏ တရား နားထဲသို့ မဝင်ဘဲ ဖြစ်နေကြောင်း လျှောက်ထားလေသည်။

ထိုအခါ အရှင်မြတ်က ဤဒကာကို ဥပါယ်တံမျဉ်သုံး၍ တရားဟောမှ အာရုံစိုက်ကာ နာယူနိုင်မည်ဟု သိသဖြင့် ဤသို့ မေးတော်မူသည်—

"ဒကာ....သင်သည် မိမိဆန္ဒဖြင့် သတ်သလော၊ သူတပါးခိုင်း၍ သတ်သလော"

"အရှင်ဘုရား... ဘုရင့်အမိန့်တော်အရ သတ်ပါသည်ဘုရား"

"ဒကာ.... သူတပါးခိုင်း၍ ပြုလုပ်ရသော သင့်အား အကုသိုလ် ဖြစ်သလော"

အရှင်မြတ်က ဤသို့ မေးမြန်းလိုက်သောအခါ တမ္ဗဒါဌိက၏ စိတ်ထဲတွင် ဘုရင်ခိုင်း၍ သတ်ရသည်၊ ငါ့မှာ အကုသိုလ် မရှိ"ဟု ယုံကြည်စိတ်ချသွားလေသည်။ ထို့နောက် တရားတော်ကို ဆက်လက်ဟောကြားပါရန် လျှောက်ထား၍ တရားတော်ကို စူးစိုက် နာယူလေရာ ဝိပဿနာဉာဏ်စဉ် အဆင့်မြင့်သို့ ရောက်အောင် သဘောပေါက်သွားလေသည်။

တမ္ဗဒါဌိကသည် အရှင်မြတ်ပြန်ကြွသောအခါ လိုက်ပို့၍ အပြန်တွင် နွားငှေ့ ခံရသောဒဏ်ကြောင့် ချက်ချင်း သေဆုံးလေသည်။ ထိုကုသိုလ်စိတ်အာရုံဖြင့် ကွယ်လွန်ခြင်းဖြစ်ရကား တမ္ဗဒါဌိကသည် တုသိတာနတ်ပြည်၌ ဖြစ်လေသည် (ဓမ္မ၊ဋ္ဌ၊၁၊၄၀၅)။

**သေခါနီး အာရုံနိမိတ်ထင်မှု**

သေခါနီးတွင် ထင်မြင်လာသော အာရုံကို အောက်ပါအတိုင်း သုံးမျိုး သုံးစား ခွဲခြားရသည်—

(က) ကံအာရုံ၊

(ခ) ကမ္မနိမိတ်အာရုံ၊

(ဂ) ဂတိနိမိတ်အာရုံ။

## (က) ကံအာရုံ ထင်လာပုံ

ရှေးယခင်က ပြုလုပ်ခဲ့သော ကုသိုလ်ကံအမှုများ၊ ကျူးလွန်ခဲ့သော အကုသိုလ်ကံ အမှုများကို သေခါနီးဆဲဆဲအခါ၌ ယခုပင် ပြုလုပ်နေရဘိသကဲ့သို့ ထင်လာမြင်လာခြင်း ဖြစ်သည်။ ကုသိုလ်အရာ၌ ဆွမ်းကပ်လှူ ရေစက်ချနေရဟန်၊ သင်္ကန်းကပ်လှူ ရေစက်ချနေရဟန်၊ သားရှင်ပြု ရှင်လောင်း လှည့်နေရဟန်များ ပေါ်လာလျက် ယခုလောလောဆယ် ကိုယ်တိုင်ပါဝင် ပြုလုပ်နေရဟန် ထင်လာမြင်လာသည်။ အကုသိုလ်အရာ၌ အမဲလိုက် ခွေးများနှင့် အမဲလိုက်နေဟန်၊ သားကောင်ကို ချောင်းမြောင်းချိန်ရွယ် ပစ်ခတ်နေရဟန်၊ လူယက်တိုက်ခိုက် သတ်ဖြတ်နေရဟန်များ ပေါ်လာလျက် စိတ်တွင် ယခုလောလောဆယ် ကျူးလွန်နေရဘိသကဲ့သို့ စိတ်တွင် ထင်လာမြင်လာသည်။ ဤကံအာရုံကို ကြည့်၍ ကုသိုလ်အမှုကို ပြုနေရဘိသကဲ့သို့ ထင်လာမြင်လာသူမှာ လူ့ပြည် နတ်ပြည် (သုဂတိဘုံ)သို့ ရောက်ရန် သေချာပေသည်။ အကုသိုလ်အမှုကို ပြုနေရဘိသကဲ့သို့ ထင်လာမြင်လာသူမှာ ငရဲ တိရစ္ဆာန် ပြိတ္တာ အသုရကာယ် အပါယ်လေးဘုံ (ဒုဂ္ဂတိဘုံ)သို့ ရောက်ရန် သေချာလှပေသည်။

## (ခ) ကမ္မနိမိတ်အာရုံ ထင်လာပုံ

ရှေးယခင်က ကုသိုလ်အမှု အကုသိုလ်အမှုများ ပြုရာတွင် ပါဝင်သော အဆောက်အအုံ၊ ပစ္စည်း၊ လက်နက်ကိရိယာများကို ထင်လာမြင်လာလျှင် ယင်း အာရုံမျိုးကို ကမ္မနိမိတ်အာရုံဟု ခေါ်သည်။ ဥပမာအားဖြင့် အလှူလှူရာ၌ အလှူမဏ္ဍပ်နှင့် လှူဖွယ်ဝတ္ထုပစ္စည်း တစ်ခုခု ထင်လာမြင်လာသည်။ ဇရပ် တန်ဆောင်း ကျောင်း ကန် ဘုရား စေတီ ရေတွင်း တံတား စသည် ဆောက်လုပ် လှူဖူးသူသည် ထိုအလှူဝတ္ထု တစ်ခုခုကို စိတ်ထဲ၌ ထင်လာမြင်လာသည်။ အကုသိုလ်မှု ပြုခဲ့ဖူးသူသည် လေး မြား သေနတ် ဓားသော လက်နက်ကိရိယာတစ်ခုခု၊ အမဲလိုက်ခွေး၊ သို့မဟုတ် သတ်ဖြတ်ခံထားရသော သားကောင်အာရုံတစ်ခုခု ထင်လာမှုကို ကမ္မနိမိတ်အာရုံဟု ခေါ်သည်။ ကုသိုလ် ကမ္မနိမိတ် အာရုံထင်လာလျှင် သုဂတိဘုံသာသို့ ရောက်မည်။ အကုသိုလ် ကမ္မနိမိတ် ထင်လာလျှင် ငရဲကို အပါယ်ဘုံသို့ ရောက်မည်မှာ သေချာလှပေသည်။

## (ဂ) ဂတိနိမိတ်အာရုံ ထင်လာပုံ

အကုသိုလ်အမှုများစွာ ပြုလုပ်ခဲ့သူသည် သေခါနီးအခါ အကုသိုလ်ကံ ဖိစီးနှိပ်စက်လာ၍ ငရဲဘုံရောက်မည့်သူသည် ငရဲမီးတောက်မီးလျှံ များ၊ ငရဲထိန်းများ ငရဲခွေးများ စသည်ဖြင့် မိမိရောက်ရမည့်ဘဝ ပတ်ဝန်းကျင်အာရုံများ ထင်လာ

မြင်လာတတ်သည်။ အသူရကာယ် ပြိတ္တာဖြစ်မည့် သူများမှာ တောတောင် ချောက်ကမ်းပါးနှင့် ပင်လယ်ကမ်းရိုးတန်းများ၊ မိမိနှင့် အပေါင်းအသင်း ဖြစ်ရမည့် အသူရကာယ်ပြိတ္တာများ၊ အပုပ်နံ့များ ထင်လာမြင်လာသည်။ တိရစ္ဆာန်ဖြစ်ရမည့်သူမှာ တိရစ္ဆာန်အဆင်း ပုံသဏ္ဌာန်အသံ အနံ့စသည်တို့ ထင်လာမြင်လာသည်။ နတ်ပြည်ရောက်မည့် သူမှာ ဘုံဗိမာန်များ နတ်သား နတ်သမီးများ၊ နတ်ဥယျာဉ်ပန်းခြံများ ထင်မြင်လာသည်။ ထို့ပြင် မွှေးကြိုင်သော ရနံ့များ ထင်လာသည်။ ဗြဟ္မာပြည်သို့ ရောက်မည့် သူများသည် ဗြဟ္မာတို့၏ ဘုံဗိမာန်နှင့် အပေါင်းအဖော် ဗြဟ္မာများ အာရုံထင်လာတတ်သည်။ လူပြည် ရောက်မည့် သူသည် အမိဝမ်းရေ၊ သို့မဟုတ် အမိ၏ အဆင်းသဏ္ဌာန်များ ထင်မြင်လာသည်။

အကျဉ်းချုပ်အားဖြင့် ပြန်ဆိုရပါက ယခင်ပြုခဲ့သော အမှုများသည် သေခါနီးတွင် ယခု လောလောဆယ် ပြုလုပ်နေရဘိသကဲ့သို့ ထင်မြင်လာလျှင် ကံအာရုံ ထင်လာသည်ဟု မှတ်ယူရမည်။ ထိုထိုကုသိုလ်အမှု အကုသိုလ်အမှုများပြုစဉ်က ပါရှိခဲ့သော အခြံအရံ၊ အဆောက်အအုံ၊ လက်နက်ကိရိယာများ ထင်မြင်လာလျှင် ကမ္မနိမိတ်အာရုံ ထင်လာသည်ဟု မှတ်ယူရမည်။ မိမိလားရောက်ရမည့် ဘုံဘဝနှင့် စပ်ဆိုင်သည့် အဆင်း အသံ အနံ့ အာရုံများ ထင်မြင်လာလျှင် ဂတိနိမိတ် အာရုံထင်လာသည်ဟု မှတ်ရမည်။

## သေပြီးနောက် သုဂတိဘဝရောက်စေရန်

အထက်တွင် ဖော်ပြခဲ့ပြီးသော ဝဏ္ဏုသက်သေ သာဓကများကို ထောက်ရှု ပါက သေခါနီးအချိန်၌ အာရုံထင်လာမှုသည် လွန်စွာ အရေးကြီးကြောင်း တွေ့ရပေသည်။ ဘဝတစ်လျှောက်လုံး ကုသိုလ်အမှု၊ ထုထည်ကြီးမားစွာပြုခဲ့သော သိရိမ္ဗောသောကမင်းကြီး သေခါနီး အာရုံတစ်ချက် လွဲမှားရုံဖြင့် ပေါးကြီးမြွေ ပြိတ္တာဖြစ်ရရှာသည်။ တမ္ဗဒါဌိကာ နီးသူကြီးသည် အနှစ် ၅၀ သူသတ်ယောကျ်ား ပြုလုပ်လာခဲ့သော်လည်း သေခါနီးတွင် အရှင်သာရိပုတ္တရာအား ဆွမ်းတစ်နပ် ကပ်လှူပြီး တရားနာရခြင်းကြောင့် ကုသိုလ်အာရုံဖြင့် နတ်ပြည်ရောက်ရသည်။ ရဟန္တာအရှင်သောဏ၏ ဖခမည်းတော် တောထွက်ရဟန်းကြီးမှာမူ ငရဲသား ရောက်ရန် ဂတိနိမိတ်ထင်လာပြီးမှ သားဖြစ်သူ ရဟန္တာပုဂ္ဂိုလ်၏ ကူညီ ကယ်မ မှုကြောင့် နတ်ပြည် ဂတိနိမိတ်အဖြစ် နတ်သမီးများ ထင်မြင်လာ၍ နတ်ပြည်သို့ ရောက်ရသည်။ ယောမင်းကြီးဦးဘိုးလှိုင်၏ ကြိုတင်ပြင်ဆင်မှုများကို လေ့လာ ကြည့်ပါက မိမိရောက်လိုသော သုဂတိဘဝသို့ မိမိဆန္ဒရှိသလို ရောက်နိုင်သည့် နည်းလမ်းကို တွေ့မြင်ရပေမည်။

သေခါနီးရောက်မှ ပြုပြင်ရသည်ထက် မသေခင် ကျန်းကျန်းမာမာရှိစဉ်ကပင် အချိန်ယူ၍ ဒါနမှု၊ သီလမှု၊ ဘာဝနာမှုဖြင့် မှမ်းထုံထားရပေမည်။ နေ့စဉ် ဘုရားရှိခိုးခြင်း၊ ဖူးတီးစိပ်ခြင်း၊ မြတ်စွာဘုရားအား ပန်း ရေချမ်း ဆွမ်း ဆီမီးကပ်လှူခြင်းများ၊ နေ့စဉ် ဆွမ်းလောင်းခြင်းစသော နိဗဒ္ဓကုသိုလ်ဝတ်ကို ပြုရမည်။ ဤသို့ နေ့စဉ်ရက်ဆက် ပြုနေသော ကုသိုလ်ကို ကုသိုလ်အာစိဏ္ဏကံ ခေါ်သည်။ (အာစိဏ္ဏ=ဆည်းပူးစုဆောင်းခြင်း။) ကုသိုလ်အာစိဏ္ဏကံ ရှိသူသည် သေခါနီးတွင် အခြားအကြောင်းထူး တစ်စုံတစ်ခုမရှိပါက ကုသိုလ်နှင့် စပ်သည့် အာရုံနိမိတ်များ ထင်လာမြင်လာပေမည်။ အလားတူပင် အကုသိုလ်ဒုစရိုက် အမှုကို နေ့စဉ် ပြုနေသောဒုစရိုက်သမားတစ်ယောက်အတွက် သေခါနီးအခါတွင် အခြားအကြောင်းထူးတစ်စုံတစ်ခုမရှိပါက အကုသိုလ်အာစိဏ္ဏကံ၏အစွမ်းကြောင့် အကုသိုလ်အာရုံနိမိတ်ဆိုးများ ထင်လာမြင်လာပေမည်။ နေဝင်ခါနီးအချိန်တွင် အနောက်အရပ်မှ တောရိပ် တောင်ရိပ် အရိပ်မဲကြီးများက လွှမ်းမိုးလာ၍ တစ်လောကလုံး အမှောင်ထုက ဝါးမျိုသွားသကဲ့သို့ အကုသိုလ် အာစိဏ္ဏကံ ရှိသူအား အကုသိုလ် အာရုံနိမိတ် အမှောင်ထုကြီးက လွှမ်းခြုံ ဖိစီးသွား တော့သည်။

သေခါနီးလူမမာသည် မျက်စိအကြည်(စက္ခုပသာဒ)ရုပ်စသော ရုပ်အကြည် ဓာတ်များ အားနည်းလာ၏။ လျှာမှာ အရသာမတွေ့၊ နှာခေါင်းမှာလည်း အနံ့မရတော့၊ နှာခေါင်းလန်နေပြီ၊ အချိုမှာ ခေါ်မကြား အော်မကြား နား (သောတ)ရုပ် ချုပ်နေလေပြီ၊ နားရွက်လန်နေပြီ၊ မျက်စိမှာလည်း အမြင်ဓာတ် ချုပ်ငြိမ်းနေလေပြီ၊ အသက်ရှင်သေးသည်ဟု ဆိုရရုံမျှ နှလုံးသွေး ခုန်နေသည်၊ အသက်ဝိညာဉ်သည် လွန်စွာ အားနည်းနေပြီဖြစ်သော နှလုံးသား(ဟဒယဝတ္ထု ရုပ်)ကို အမှီပြုနေရ၍ ဝိညာဉ်၏ အစွမ်းအားလည်း လွန်စွာ အားနည်းနေပြီ၊ ထို့ကြောင့် သေခါနီးသူ၏ ဝိညာဉ်သည် ကိုယ်သိချင်ရာကို သိနိုင်စွမ်းမရှိချေ။ လိုချင်သည့်အာရုံကို ကိုယ်ပိုင်ရွေးချယ်နိုင်ခွင့် မရှိတော့ချေ။ အတိတ်ကာလက ပြုခဲ့သည့် ကံအရှိန်အဟုန်က ချမှတ်ပေးသည့် အာရုံကိုသာ သိနိုင်စွမ်းရှိတော့ သည်။ ဥပမာအားဖြင့် ေ ျာ်မြောင်းဝမှ ထွက်သွားသော ကျည်ဆံသည် ပစ်မှတ်မရောက်မီ အကြား တစ်စုံတစ်ရာ အနှောင့်အယှက် အတားအဆီး မရှိပါက မူလချိန်ရွယ်ထားသည့် အတိုင်းသာ သွားပေမည်။ လမ်းကြောင်း ပြောင်းစေရန် လိုက်လံပြုပြင်၍ မရနိုင်တော့ချေ။ ကြားခံ တစ်ခုခု ထိခိုက်မှတ် တိုက်ပါမှ လမ်းေြ ာင်းပြောင်းနိုင်ပေလိမ့်မည်။ ထို့ကြောင့် သေခါနီးသူ၏ စိတ်ဝိညာဏ်သည် ကိုယ်ပိုင်စွမ်းအား နည်းပါးလာပြီဖြစ်၍ လွန်ခဲ့သောအခါက ပြုခဲ့သည့်ကုသိုလ် အကုသိုလ်ကံ အရှိန်အဟုန်အတိုင်း ဖြစ်ရန်သာ ရှိတော့သည်။

သို့ဖြစ်၍ သေခါနီးမှ ကံကို ပြုပြင်ရယူရန် ကိစ္စမှာ အလွန်ခက်ခဲလှသဖြင့် အစက ကြိုတင်၍ အာစိဏ္ဏကံကုသိုလ်ကို နေ့စဉ် ဆည်းပူးသင့်ကြသည်။

ယခင်က ပြဆိုခဲ့သည့်အတိုင်း အလွန်အားပြစ်ကြီးလေးသော အကုသိုလ်ကံ (ပဉ္စာနန္တရိယကံ)နှင့် ရူပ အရူပဈာန်ကုသိုလ်ကံများ (ဂရုကံ)ရှိလျှင် ဂရုကံသာလျှင် အကျိုးပေးခွင့်ရှိသည်။ ဂရုကံမရှိပါက အာစိဏ္ဏကံအကျိုးပေးသည်။ အာစိဏ္ဏကံမရှိပါမှ အာသန္နကံ အကျိုးပေးခွင့်ရမည်။ သာမန်လူများမှာ ကုသိုလ်ဂရုကံလည်း မရှိကြ၊ အကုသိုလ်ဂရုကံလည်း မရှိကြသဖြင့် အာစိဏ္ဏကံ ရှိလျှင် အာစိဏ္ဏကံသာလျှင် အကျိုးပေးခွင့် ရမည် ဖြစ်ပါသည်။ ထို့ကြောင့် ကုသိုလ် အာစိဏ္ဏကံကို အမြဲတစေ ဆည်းပူးကြရမည်။ အရှေ့ဘက်သို့ ကိုင်းညွှတ်နေသော ယိုင်နေသော သစ်ပင်ကို ခုတ်လှဲလိုက်ပါက အရှေ့ဘက်သို့ သေချာပေါက် လဲမည် ဖြစ်သည်။ အလားတူပင် ကုသိုလ်စိတ် အမြဲထုံမွှမ်းနေသူမှာ သေခါနီးအချိန်တွင်လည်း ကုသိုလ်စိတ် ကုသိုလ်ဇောများပင် ဖြစ်ဖို့များပါသည်။ သေခါနီးမှ ကပ်ဖြီး ကြားဖြတ်ကံများ ဝင်မလာနိုင်စေရန် မသေမီကပင် ကြိုတင်ပြင်ဆင်၍ သေခြင်းတရားကို ရင်ဆိုင်ကြ[illegible]ည်ဖြစ်သည်။ သေခါနီးတွင် ကလေးငိုသံ ခွေးသံ ဝက်သံ ကြက်သံများ မကြားရစေဘဲ ဘုရားရှိခိုးသံ မေတ္တာဘာဝနာ ပွားသံများ [illegible]ဘားသံများသာ ကြားရန် စီစဉ်သင့်ပါသည်။ ဤသို့ အာရုံ နိမိတ် အလွဲ[illegible]များ ကြားဖြတ်ဝင်မလာစေရန် သေခါနီး ပုဂ္ဂိုလ်အား စိတ် အနှောင့်အယှ[illegible]က် ဖြစ်စေသည့် အပြောအဆို အပြုအမူများ မပြုလုပ်သင့် ရှောင်ရှားသင့်[illegible]သည်။ ဘဝတစ်ခု ကူးပြောင်းရတော့မည်ဖြစ်၍ လွန်စွာအရေးကြီးသော အချိန်ပိုင်း ဖြစ်သည်။

ထို့ကြောင့် သေပြီးနောက် သုဂတိဘဝရောက်လိုသော လူတိုင်းသည် ကုသိုလ် အာစိဏ္ဏကံကို ဆည်းပူးထားကြ၍ သေခါနီးတွင် အကုသိုလ်ကံ ကြားဖြတ်မဝင်နိုင်စေရန် မိတ်ဆွေ သားချင်းများက ပြုစု စောင့်ရှောက်သင့်ကြပေသတည်း။

---

# အခန်း (၂၅)

## အထွေထွေ

### ဩကာသ မူကွဲများ

ဗုဒ္ဓဘာသာဝင်မှန်သမျှ ဩကာသဆိုရိုးကို ရနေကြသည်၊ ကလေးသူငယ်များကို လူကြီးမိဘများက ညပတ်တက်သည့်အခါ ဖြစ်စေ၊ အားလပ်သည့်အခါဖြစ်စေ ဩကာသကန်တော့ချိုးကို ချပေးလေ့ရှိကြသဖြင့် စာမဖတ်တတ်မီကပင် ရနေကြသည်။ လူကြီးမိဘများသည် မိမိတို့၏ သား သမီး မြေး မြစ်များကို မိမိတို့ ယုံကြည်ကိုးကွယ်သော ဗုဒ္ဓဘာသာ တရားအပေါ်၌ လေးလေးနက်နက် သက်ဝင် ယုံကြည်လာအောင် မိမိတို့ ရရှိလာသော ဩကာသကန်တော့ချိုးများကို စဉ်ဆက်မပြတ် နှုတ်တက်အာဂုံ ရရှိအောင် သင်ကြားပေးခဲ့ကြသည်။

မြန်မာနိုင်ငံ ပုဂံခေတ် ရှင်အရဟံလက်ထက်က စ၍ ပေါ်ပေါက်ခဲ့သော ဩကာသကန်တော့ချိုးသည် "တစ်ကျောင်းတစ်ဂါထာ ကစ်ရွာတစ်ပုဒ်ဆန်း" ဆိုသကဲ့သို့ နေရာဒေသတစ်ခုနှင့်တစ်ခု မတူကွဲပြား ဖြစ်နေသည်များကို တွေ့ရှိရပါသည်။ ယင်းသို့ တွေ့ရှိရသော ဩကာသ အမျိုးမျိုးကို မဖော်ပြမီ ဩကာသနှင့် ပတ်သက်၍ ဗုဒ္ဓဘာသာဝင်များ ရဟန်းသံဃာတော်မြတ်တို့ထံ သီလသီတင်း ဆောက်တည်ခံယူခြင်းစသော အခါကာလတို့၌ ဩကာသစသော စကားကို ရှေးရှေး သူတော်ကောင်းတို့သည် ဘိုးဘွားဘီဘင်တို့၏ အစဉ်အဆက်အားဖြင့် အလေ့အထပြုကျင့်၍ လာခဲ့ကြသည်မှာ ပူဇော်ခြင်း, ကန်တော့ခြင်းဟူ၍ နှစ်ပါးအပြားရှိ၏။

ထိုနှစ်ပါးတို့တွင် ပူဇော်ခြင်း ဆိုသည်မှာ အရဟံအစ ဘဂဝါအဆုံးရှိသော ကိုးပါးသောဂုဏ်တော်မြတ်ကို ဟုတ်မှန်သောအလျောက် ချီးမြှောက်ကော်ရော်ပူဇော်သက္ကာရကို ပြုကြခြင်းသည် ပူဇော်သည် မည်၏။ ကန်တော့ခြင်းဆိုသည်မှာလည်း နှစ်ပါးအပြား ရှိပြန်၏။ ထိုနှစ်ပါးကား—

(က) ပုထုဇဉ်တို့၏ ဂတိအားလျော်စွာ မပြစ်မှား မကျူးလွန်ထိုက်သော ရတနာသုံးပါး ဆရာမိဘစသော သူတို့ကို ပြစ်မှားကျူးလွန်မိသော ကံကို သည်းခံစေလို၍ ကန်တော့ဝန်ချခြင်း၊

(ခ) အိမ်ထောင်ဦး စသည်တို့၌ သက်ကြီးရွယ်ရင့်သော သူတို့ကို ပဋိသန္ထာရ အစေ့အစပ် လောကဝတ်ကို ငဲ့သောအားဖြင့် ကန်တော့ခြင်း—

တို့ဖြစ်ပါသည်။

ယခုဖြစ်စေ၊ ရှေးရှေးက ဖြစ်စေ ကျူးလွန်မိသည့် အပြစ်ကံကို သည်းခံစေလို၍ ပဝေဏီစဉ်ဆက်က ဆရာများ နည်းပေးချက်အရ မိဘဘိုးဘွားမှဆင်းသက်သဖြင့် ယခုထက်တိုင်အောင် သားသမီး မြေးမြစ်တို့ ဆက်လက်၍ မပျက်စေရန် ကန်တော့ကြသည့် နည်းနာနယဟု မြဲမြဲစွဲစွဲ မိမိရရ မှတ်သားကြလေ။

ရှေးရှေးက ပြစ်မှားကျူးလွန်မိခဲ့သော သူသည် ယခုပင် မရှိသော်လည်း ရတနာသုံးပါးတို့ထံမှာ ကန်တော့ဝန်ချပြန်လျှင် အပြစ်ဒဏ် ပြေငြိမ်းပြီဟု ကျမ်းဂန်တို့၌ လာသော သာဓကမှာ—

ဘုရား သက်တော်ထင်ရှား ရှိတော်မူစဉ်ကာလက ဝသဘဂေါတ္တမည်သော ရဟန်းကို အာဂန္တုက ရဟန်းတို့ တရားလမ်း မသက်သော ဥက္ခေပနီယကံဖြင့် ပြစ်မှားကျူးလွန်မိသည်ကို ဘုရားရှင်ထံ ကန်တော့ဝန်ချခြင်း၊ ခမည်းတော် ဗိမ္ဗိသာရမင်းကြီးကို သားတော် အဇာတသတ်မင်း ပြစ်မှားကျူးလွန်မိသည်ကို ဘုရားရှင်ထံ ကန်တော့ဝန်ချခြင်း၊ ပုဏ္ဏအမည်ရှိသော သူဌေး၏ သမီး ဥတ္တရာကို ဇီဝကဆေးဆရာ၏ နှမ သီရိမာသည် ပြစ်မှားကျူးလွန်မိသည်ကို ဘုရားရှင်ထံ ကန်တော့ဝန်ချခြင်းတို့ ဖြစ်ပါသည်။

ထို့ကြောင့် ရှေးရှေးသော ဆရာကြီးတို့သည် သတ္တဝါတို့အား သနားကရုဏာမေတ္တာသက်၍ ဆယ်ရေးတစ်ရေး ကိုးရေးတစ်ရာ ပြစ်မှားကျူးလွန်မိသည့်ကံ ရှိပါလျှင်လည်း ပစ္စုပ္ပန်သံသရာဘေးမှ ကင်းဝေး လွတ်ကွာကြပါစေတော့ဟု ရဟန်းသံဃာတော်တို့ထံ ချဉ်းကပ်၍ သီလသီဆင်း ခံယူဆောက်တည်ခြင်း စသော ကာလတို့၌ ဒါယကာ ဒါယိကာမတို့ကို ရှေးဦးစွာ ဩကာသ စသော ပဏာမ ကန်တော့ခန်းကို ပြုကြစေသည့် ပဝေဏီ အဆက်ဆက်က ဆရာတို့ နည်းပေး၍ ကန်တော့ဝန်ချခြင်းဟု စွဲစွဲမြဲမြဲ သံကြိုးအုတ်ခတ် တံဆိပ်အပ်ဘိ သကဲ့သို့ ကြပ်ကြပ်စိစိ ပိပိရရ မှတ်သားကြလေ (ဝိနယပကိဏ္ဏကဝိနိစ္ဆယကျမ်း)။

မြန်မာနိုင်ငံ အနှံ့အပြား မှီတင်းနေထိုင်ကြသော ဗုဒ္ဓဘာသာဝင်များသည် မိမိတို့၏ ဒေသအလိုက် ဆရာစဉ်ဆက်မှ ရရှိခဲ့သော ဩကာသကန်တော့ချိုးပုံကွဲ အမျိုးမျိုးသည် မှားသည်ဟု မယူဆပါ၊ အချိန်အခါလိုက်၍ ပြောင်းလဲ

လာသော်လည်း မိမိတို့ ရရှိသော ဩကာသကန်တော့ချီးများဖြင့် ရတနာ သုံးပါးအား ရှေးဦးစွာ ကန်တော့ကြခြင်းသည် ကောင်းမြတ်သော အစဉ်အလာ တစ်ရပ်ဖြစ်သည်။ ယင်းဩကာသမှာ မူကွဲအမျိုးမျိုးရှိရာ ရှေးဦးစွာ ပုဂံခေတ်မှ စ၍ အစဉ်အလာ အသုံးပြုခဲ့သော ဩကာသကန်တော့နည်းကို ပြဆိုပါမည်။

မူလဩကာသ

ဩကာသ ဩကာသ ဩကာသ ကာယကံ ဝစီကံ မနောကံ တည်းဟူသော ကံသုံးပါးတို့ဖြင့် ပထမ ဒုတိယ တတိယ တစ်ကြိမ် နှစ်ကြိမ် သုံးကြိမ်မြောက်အောင် ဘုရားရတနာ တရားရတနာ သံဃာရတနာ တည်းဟူသော ရတနာမြတ်သုံးပါးတို့အား အရိုအသေ အလေးအမြတ်ပြု၍ ရှိခိုး ပူဇော် ဖူးမြော်မာန်လျှော့ ကန်တော့ပါ၏အရှင်ဘုရား။

ဤသို့ အရိုအသေ အလေးအမြတ် ပြု၍ ရှိခိုးပူဇော် ဖူးမြော်မာန်လျှော့ ကန်တော့ပါရသော အကျိုးအားဖြင့် အပါယ်လေးပါး ကပ်သုံးပါး ရပ်ပြစ် ရှစ်ပါး ရန်သူမျိုးငါးပါးတို့မှ ကင်းလွတ်သည်သာ ဖြစ်၍ မဂ်တရား ဖိုလ်တရား နိဗ္ဗာန်တရားတော်မြတ်ကို ရပါလို၏အရှင်ဘုရား။

ယင်း ကန်တော့ခန်း၌ ကံဖြင့် ရှိခိုးခြင်းသည် အဋ္ဌသာလိနီအဋ္ဌကထာနှင့် မညီဟု ဆို၍ ဒွါရဂိုဏ်းကြီးကို တည်ထောင်သည့် အုတ်ဖိုဆရာတော် အရှင် ဥက္ကံဝံသမာလာ-က အောက်ဖော်ပြပါအတိုင်း ဩကာသ ကန်တော့ခန်းကို ပြင်ဆင်ရေးသားတော်မူခဲ့သည်——

ဒွါရဩကာသ

ဩကာသ ဩကာသ ဩကာသ ကာယဒွါရ ဝစီဒွါရ မနောဒွါရ တည်းဟူသော သုံးပါးသော ဒွါရတို့ဖြင့် ပထမ ဒုတိယ တတိယ တစ်ကြိမ် နှစ်ကြိမ် သုံးကြိမ်မြောက်အောင် ဘုရားရတနာ တရားရတနာ သံဃာရတနာ ရတနာမြတ်သုံးပါးတို့အား အရိုအသေ အလေးအမြတ် လက်အုပ်မိုး၍ ရှိခိုးပူဇော် ဖူးမြော်မာန်လျှော့ ကန်တော့ပါ၏ အရှင်ဘုရား။

ဤသို့ ကန်တော့ရသော ကုသိုလ်ကံစေတနာတို့ကြောင့် အပါယ်လေးပါး ကပ်သုံးပါး ရပ်ပြစ်ရှစ်ပါး ရန်သူမျိုးငါးပါး အနာမျိုး ကိုးဆယ့်ခြောက်ပါး ဝိပတ္တိတရားလေးပါး ဗျသနတရား ငါးပါးတို့မှ အခါခပ်သိမ်း ကင်းလွတ် ငြိမ်းသည်ဖြစ်၍ အဆုံးစွန်သောဘဝ၌ ဈာန်တရား မဂ်တရား ဖိုလ်တရား နိဗ္ဗာန် တရားတော်မြတ်ကို ရပါလို၏ အရှင်ဘုရား။

မူလလက်ဟောင်းကံဖြင့် ရှိခိုးသူများကို ကံကိုကားဟု ခေါ်ကြ၍ ဒွါရဖြင့် ရှိခိုးသူများကို ဒွါရကိုကားဟု ခေါ်ကြသည်။ ကံ ဒွါရ အငြင်းပွား၍ အချို့သော သူများက နှစ်ခုလုံး မှန်ကန်သည်ဟု လက်ခံကာ ဩကာသကန်တော့ခန်း နှစ်မျိုးကို အောက်ပါအတိုင်း ပေါင်းစပ်ရှိခိုးကြသည်—

နှစ်မူပေါင်းစပ် ဩကာသ

ဩကာသ ဩကာသ ဩကာသ ကာယကံ ဝစီကံ မနောကံတည်းဟူသော ကံသုံးပါး, ကာယဒွါရ ဝစီဒွါရ မနောဒွါရတည်းဟူသော သုံးပါးသောဒွါရတို့ဖြင့် ပဌမ ဒုတိယ တတိယ တစ်ကြိမ် နှစ်ကြိမ် သုံးကြိမ်မြောက်အောင် ဘုရားရတနာ တရားရတနာ သံဃာရတနာ တည်းဟူသော ရတနာမြတ်သုံးပါးတို့အား အရိုအသေ အလေးအမြတ် ပြု၍ ရှိခိုးပူဇော် ဖူးမြော်မာန်လျှော့ ကန်တော့ပါ၏ အရှင်ဘုရား။

ဤသို့ အရိုအသေ အလေးအမြတ် ပြု၍ ရှိခိုးပူဇော် ဖူးမြော်မာန်လျှော့ ကန်တော့ရသော အကျိုးအားဖြင့် အပါယ်လေးပါး ကပ်သုံးပါး ရပ်ပြစ်ရှစ်ပါး ရန်သူမျိုး ငါးပါး ဝိပတ္တိတရား လေးပါး ဗျသနတရား ငါးပါးတို့မှ အခါခပ်သိမ်း ကင်းလွတ်ငြိမ်းသည် ဖြစ်၍ မဂ်တရား ဖိုလ်တရား နိဗ္ဗာန် တရားတော်မြတ်ကို ရပါလို၏ အရှင်ဘုရား။

အချို့က ယင်းအငြင်းပွားမှု နှစ်မျိုးကို ရှောင်လွှဲသည့်သဘောဖြင့် ပဏာမဖြင့် ရှိခိုးကြသည်။

ပဏာမ ဩကာသ

ဩကာသ ဩကာသ ဩကာသ ကာယပဏာမ ဝစီပဏာမ မနောပဏာမ သုံးပါးသော ပဏာမတို့ဖြင့် ပဌမ ဒုတိယ တတိယ တစ်ကြိမ် နှစ်ကြိမ် သုံးကြိမ်မြောက်အောင် ဘုရားရတနာ တရားရတနာ သံဃာရတနာ တည်းဟူသော ရတနာမြတ် သုံးပါးတို့အား အရိုအသေ အလေးအမြတ် ပြု၍ ရှိခိုးပူဇော် ဖူးမြော်မာန်လျှော့ ကန်တော့ပါ၏ အရှင်ဘုရား။

ဤသို့ အရိုအသေ အလေးအမြတ် ပြု၍ ရှိခိုးပူဇော် ဖူးမြော်မာန်လျှော့ ကန်တော့ရသော အကျိုးအားဖြင့် အပါယ်လေးပါး ကပ်သုံးပါး ရပ်ပြစ်ရှစ်ပါး ရန်သူမျိုး ငါးပါး ဝိပတ္တိတရားလေးပါး ဗျသနတရားငါးပါးတို့မှ အခါခပ်သိမ်း ကင်းလွတ်ငြိမ်းသည် ဖြစ်၍ မဂ်တရား ဖိုလ်တရား နိဗ္ဗာန်တရားတော်မြတ်ကို ရပါလို၏ အရှင်ဘုရား။

ထို့ပြင် ကံကို စေတနာဟု အမည်တင်၍ ဒွါရပဏ္ဏာမဖြင့် ရှိခိုးနည်းကို ရေးသားကြပြန်သည်။

ဩကာသ ဩကာသ ဩကာသ ကာယဝစီ မနောချီလျက် သုံးလီစေတနာ သုံးဖြာဒွါရ ပဏ္ဏာမဖြင့် ဘုရားရတနာ တရားရတနာ သံဃာရတနာ ရတနာမြတ် သုံးပါး ဆရာသမားတို့အား ဘုရားတပည့်တော် ရိုသေမြတ်နိုး လက်အုပ်မိုး၍ ရှိခိုးပူဇော် ဖူးမြော်မာန်လျှော့ ကန်တော့ပါ၏ အရှင်ဘုရား။

ဤသို့ ရိုသေမြတ်နိုး လက်အုပ်မိုး၍ ရှိခိုးပူဇော် ဖူးမြော်မာန်လျှော့ ကန်တော့ရသော ကောင်းမှုကုသိုလ်ကံ စေတနာတို့ကြောင့် အပါယ်လေးပါး ကပ်သုံးပါး ရပ်ပြစ်ရှစ်ပါး ရန်သူမျိုးငါးပါး ဝိပတ္တိတရားလေးပါး ဗျသနတရား ငါးပါးတို့မှ အခါခပ်သိမ်း ကင်းလွတ်ငြိမ်းသည်သာ ဖြစ်၍ အာသံးစွန်သော ဘဝ၌ မဂ်တရား ဖိုလ်တရား နိဗ္ဗာန်ချမ်းသာ တရားတော်မြတ်ကို ရပါလို၏ အရှင်ဘုရား။

မှတ်ချက်။ ။ရှိခိုးရာ၌ အင်္ဂုတ္တိုရ်ပါဠိတော်တွင် ဒွါရသုံးပါးဖြင့် ကရိုဏ်းထားပုံကို ဟောတော်မူသည်။ ထိုထို အဋ္ဌကထာ၊ ဋီကာတို၌ ကံစေတနာ ပဏ္ဏာမတို့ဖြင့် ကရိုဏ်းထားပုံကိုလည်း ဖွင့်ပြကြသည်။ ကုသိုလ်ဖြစ်ကြောင်းသာဟူ၍ ယူဆအပ်၏။

တဖန် ကံဖြင့် ရှိခိုးခြင်း၊ ဒွါရဖြင့် ရှိခိုးခြင်း၊ ပဏ္ဏာမဖြင့် ရှိခိုးခြင်းတို့ကို ရှောင်ရှားလိုသဖြင့် ကာယကံ ဝစီကံ မနောကံတို့ကို ပြစ်မှားမိသော ကံအဖြစ် ပြုပြင်ရေးသား၍ ဩကာသမူသစ်တစ်ရပ် ပေါ်ထွန်းခဲ့ပါသည်။

## ဩကာသမူသစ်

ဩကာသ ဩကာသ ဩကာသ ကာယကံ ဝစီကံ မနောကံ ကံသုံးပါး တို့တွင် တစ်ပါးပါးသောကံကို ပြစ်မှားကျူးလွန်မိသည် ရှိသော် ထိုအပြစ်တို့ကို ပျောက်ပါစေခြင်းအကျိုးငှါ ပထမ ဒုတိယ တတိယ တစ်ကြိမ် နှစ်ကြိမ် သုံးကြိမ် မြောက်အောင် ဘုရားရတနာ တရားရတနာ သံဃာရတနာ ဤရတနာမြတ် သုံးပါးအပေါင်းကို အရိုအသေ အလေးအမြတ် လက်အုပ်မိုး၍ ရှိခိုးပူဇော် ဖူးမြော်မာန်လျှော့ ကန်တော့ပါ၏ အရှင်ဘုရား။

ဤသို့ ရှိခိုးပူဇော် ဖူးမြော်မာန်လျှော့ ကန်တော့ရသော ကုသိုလ်ကံစေတနာ တို့ကြောင့် အပါယ်လေးပါး ကပ်သုံးပါး ရပ်ပြစ်ရှစ်ပါး ရန်သူမျိုးငါးပါး

ဝိပတ္တိတရား လေးပါး ဗျသနတရား ငါးပါးတို့မှ အခါခပ်သိမ်း ကင်းလွတ်ငြိမ်းသည် ဖြစ်၍ မဂ်ဉာဏ် ဖိုလ်ဉာဏ် နိဗ္ဗာန် တရားတော်မြတ်ကို ရပါလို၏ အရှင်ဘုရား (ဗုဒ္ဓဘာသာသင်ခန်းစာ ဆရာလက်စွဲ ၁၉၅၂)။

ယင်းသြကာသမူသစ်ကိုပင် ထပ်မံအဓိပ္ပါယ်ဖွင့်ဆိုသည့် အနေဖြင့် အောက်ဖော်ပြပါ အများသုံး သြကာသမူသစ်ကို ပြုပြင်ရေးသားခဲ့ကြပြန်သည်—

**အများသုံး သြကာသ**

သြကာသ သြကာသ သြကာသ ကာယကံ ဝစီကံ မနောကံ သဗ္ဗဒေါသ ခပ်သိမ်းသော အပြစ်တို့ကို ပျောက်ပါစေခြင်း အကျိုးငှါ ပထမ ဒုတိယ တတိယ တစ်ကြိမ် နှစ်ကြိမ် သုံးကြိမ်မြောက်အောင် ဘုရားရတနာ တရားရတနာ သံဃာရတနာ ရတနာမြတ်သုံးပါးတို့ကို အရိုအသေ အလေးအမြတ် လက်အုပ်မိုး၍ ရှိခိုးပူဇော် ဖူးမြော်မာန်လျော့ ကန်တော့ပါ၏ အရှင်ဘုရား။

ကန်တော့ရသော အကျိုးအားကြောင့် အပါယ်လေးပါး ကပ်သုံးပါး ရပ်ပြစ်ရှစ်ပါး ရန်သူမျိုးငါးပါး ဝိပတ္တိတရားလေးပါး ဗျသနတရားငါးပါးတို့မှ အခါခပ်သိမ်း ကင်းလွတ်ငြိမ်းသည်ဖြစ်၍ မဂ်တရား ဖိုလ်တရား နိဗ္ဗာန်တရားတော်မြတ်ကို ရပါလို၏ အရှင်ဘုရား။

ထို့နောက် မဟာစည်ဆရာတော်ဘုရားကြီးသည် ပိုမိုပြည့်စုံသော သြကာသ ကန်တော့ခန်းကို ရေးသားခဲ့ပြန်သည်။

**မဟာစည် သြကာသ**

သြကာသ သြကာသ သြကာသ ကာယကံ ဝစီကံ မနောကံတည်းဟူသော အပြစ်ခပ်သိမ်း ပပျောက်ငြိမ်း၍ အသက်ရှည်စွာ အနာမဲ့ရေး ရန်ဘေးကင်းကြောင်း ကောင်းမှုမဂ်လာ ဖြစ်ပါစေခြင်း အကျိုးငှါ ဘုရားရတနာ တရားရတနာ သံဃာရတနာ တည်းဟူသော ရတနာမြတ်သုံးပါး ဆရာသမားတို့ကို အရိုအသေ လက်အုပ်မိုး၍ ရှိခိုးပူဇော် ဖူးမြော်မာန်လျော့ ကန်တော့ပါ၏ အရှင်ဘုရား။

ကန်တော့ရသော ဤကောင်းမှုကံ စေတနာတို့ကြောင့် အပါယ်လေးပါး ကပ်သုံးပါး ရပ်ပြစ်ရှစ်ပါး ရန်သူမျိုးငါးပါး ဝိပတ္တိတရားလေးပါး ဗျသနတရား ငါးပါး အနာမျိုး ကိုးဆယ့်ခြောက်ပါး မိစ္ဆာဒိဋ္ဌိခြောက်ဆယ့်နှစ်ပါးတို့မှ အခါခပ်သိမ်း ကင်းလွတ်ငြိမ်းသည် ဖြစ်၍ မဂ်တရား ဖိုလ်တရား နိဗ္ဗာန်တရားတော်မြတ်ကို လျင်မြန်စွာ ရပါလို၏ အရှင်ဘုရား။

မွန်လူမျိုးတို့သည် ရတနာသုံးပါး ဆရာသမား မိဘတို့အား ကန်တော့ရာ၌ ပါဠိဘာသာဖြင့် ရွတ်ဆိုကန်တော့ကြသည်။

**မွန်ဩကာသ ကန်တော့ခန်း**

ဩကာသ ဩကာသ ဩကာသ ယော ဒေါသော မောဟာစိတ္တေန ဗုဒ္ဓသ္မိံ ဓမ္မသ္မိံ သံဃသ္မိံ အာစရိယသ္မိံ ပကာတော မယာ၊ ခမထ မေ ကတံ ဒေါသံ၊ သမ္မုချ် ဝိနဿတု။

ဒုတိယမ္ပိ ....စသည် ဆက်ဆိုပါ။

တတိယမ္ပိ....စသည် ဆက်ဆိုပါ။

ဩကာသ၊ ခွင့်ပေးတော်မူပါဘုရား။ ဩကာသ၊ ခွင့်ပေးတော်မူပါဘုရား။ ဩကာသ၊ ခွင့်ပေးတော်မူပါဘုရား။ မယာ၊ တပည့်တော်သည်။ မောဟာစိတ္တေန၊ တွေဝေမိုက်မဲသော စိတ်ဖြင့်။ ဗုဒ္ဓသ္မိံ၊ ဘုရားအပေါ်၌လည်းကောင်း။ ဓမ္မသ္မိံ၊ တရားအပေါ်၌လည်းကောင်း။ သံဃသ္မိံ၊ သံဃာအပေါ်၌လည်းကောင်း။ အာစရိယသ္မိံ၊ ဆရာသမားအပေါ်၌လည်းကောင်း။ ယော ဒေါသော၊ အကြင်အပြစ်ကို။ ပကာတော၊ ပြစ်မှားကျူးလွန်မိပါပြီ။ မေ၊ တပည့်တော်၏။ ကတံ၊ ပြစ်မှားကျူးလွန်မိသော။ တံ ဒေါသံ၊ ထိုအပြစ်ကို။ ခမထ၊ သည်းခံတော်မူကြပါကုန်ဘုရား။ သဗ္ဗပါပံ၊ အလုံးစုံသော မကောင်းမှုဟူသမျှသည်။ ဝိနဿတု၊ ပျောက်ပျက်ချုပ်ငြိမ်းပါစေသတည်း။

ဒုတိယမ္ပိ၊ နှစ်ကြိမ်မြောက်လည်း ....စသည် ဆက်ဆိုပါ။

တတိယမ္ပိ၊ သုံးကြိမ်မြောက်လည်း....စသည် ဆက်ဆိုပါ။

မှတ်ချက်။ ။မြန်မာတို့၏ မူလဩကာသကန်တော့ခန်းမှာ မွန်တို့၏ ပါဠိဘာသာ ဩကာသကန်တော့ခန်းကို ဘာသာပြန်၍ ပြုပြင် စီမံထားခြင်း ဖြစ်နိုင်ပါသည်။ အကြောင်းမူ ပုဂံခေတ် အနော်ရထာမင်းကြီး လက်ထက်တွင် ထေရဝါဒ ဗုဒ္ဓသာသနာတော်ကို ရှင်အရဟံအမှူး ပြုသည့် မွန်ရဟန်းတော်များက ဦးစီးဦးဆောင်ပြု၍ သင်ကြား ပို့ချပေးခြင်း၊ ဖြန့်ချိခြင်း ပြုခဲ့ကြရသောကြောင့် ဖြစ်ပါသည်။

# အခန်း (၂၆)

## ပါဠိပါဠ်ဆင့် ရေးနည်း ဖတ်နည်း

ပါဠိပါဠ်ဆင့် ရေးနည်းဖတ်နည်း ကျွမ်းကျင် နားလည်စေရန် ရှေးဦးစွာ ပါဠိဘာသာ အက္ခရာ ၄၁-လုံးနှင့် ယင်း ၄၁-လုံးမှ သရ, ဗျည်း ခွဲခြားခြင်း၊ သရကို သံတို သံရှည်ခွဲခြားခြင်း၊ ဗျည်းကိုလည်း ဌာန်တူရာ စုပေါင်း၍ အုပ်စုဖွဲ့ခြင်းများကို နားလည်ရန် လိုအပ်ပါသည်။

**အက္ခရာ ၄၁-လုံး**

သရ ၈-လုံးနှင့် ဗျည်း ၃၃-လုံးကို ပေါင်းလျှင် အက္ခရာ ၄၁-လုံး ဖြစ်သည်။

သရ ၈-လုံး= အ၊ အာ၊ ဣ၊ ဤ၊ ဥ၊ ဦ၊ ဧ၊ ဩ

ယင်း သရ ၈-လုံးကို အသံတို (ရဿ) သရ ၃-လုံး၊ အသံရှည် (ဒီဃ)သရ ၅-လုံး အောက်ပါ ဇယားအတိုင်း ခွဲခြားနိုင်ပါသည်—

| အသံတို ရဿ | အသံရှည် ဒီဃ | အသံတို ရဿ | အသံရှည် ဒီဃ | အသံတို ရဿ | အသံရှည် ဒီဃ | အသံရှည် ဒီဃ | အသံရှည် ဒီဃ |
|---|---|---|---|---|---|---|---|
| အ | အာ | ဣ | ဤ | ဥ | ဦ | ဧ | ဩ |

ဗျည်း ၃၃-လုံးကို ဌာန်နီးစပ်ရာ ဌာန်တူရာ အုပ်စုဖွဲ့ထားသော ယင်းအုပ်စုကို ဝဂ်ဟု ခေါ်သည်။ ဌာန်မတူသော ဗျည်းများကို အုပ်စုဖွဲ့၍ မရသဖြင့် အဝဂ်ဟု ခေါ်သည်။ ဝဂ်ဗျည်း ၂၅-လုံးကို ဒေါင်လိုက်ဇယားအရ ပထမအက္ခရာ၊ ဒုတိယအက္ခရာ၊ တတိယအက္ခရာ၊ စတုတ္ထအက္ခရာ၊ ပဉ္စမအက္ခရာဟု ခေါ်ဆိုလေ့ရှိသည်။

ထိုတွင် ပထမအက္ခရာ၊ တတိယအက္ခရာနှင့် ပဉ္စမအက္ခရာတို့သည် မိမိတို့ အချင်းချင်း ဆင့်နိုင်သည်။ ထို့အပြင် ပထမအက္ခရာသည် ဒုတိယအက္ခရာ အပေါ်၌ ဆင့်နိုင်သည်။ တတိယအက္ခရာသည် စတုတ္ထအက္ခရာအပေါ်၌ ဆင့်နိုင်သည်။ ပဉ္စမအက္ခရာသည် ရှေ့ဗျည်း ၄-လုံးအပေါ်၌ ဆင့်နိုင်သည်။

အဝဂ်ဗျည်း ၈-လုံးတို့တွင် "ယ"သည် မိမိတို့ အချင်းချင်း ဆင့်နိုင်၍ "ယ"အပေါ်သို့ အခြားဗျည်း ၁၈-လုံး ဆင့်နိုင်သည်။

"ရ"သည် အချင်းချင်း မဆင့်နိုင်ဘဲ အခြားဗျည်း ၇-လုံးတို့က လာရောက် ဆင့်နိုင်သည်။

"လ"သည် အချင်းချင်း ဆင့်နိုင်၍ လပေါ်၌ "က" ဗျည်းနှင့် "ပ" ဗျည်းတို့ ဆင့်နိုင်သည်။ ထို့ပြင် "လ"သည် "ယ"ပေါ်၌ ဆင့်နိုင်သည်။

"ဝ"သည် အချင်းချင်း ဆင့်နိုင်၍ "ဝ"ပေါ်သို့ က၊ ခ၊ တ၊ ဒ၊ ဓ၊ န၊ ယ၊ သ၊ ဟ ဗျည်း ၉-လုံးဆင့်နိုင်သည်။

"သ"သည် အချင်းချင်း ဆင့်နိုင်၍ န၊ မ အက္ခရာတို့အပေါ်၌ ဆင့်နိုင်သည်။

ဝဂ်၏ အဆုံးဖြစ်သော ဉ၊ ဏ၊ န၊ မ အက္ခရာတို့သည် "ဟ" အပေါ်၌ ဆင့်နိုင်သည်။ ယ၊ ဝ၊ ဠ အက္ခရာတို့သည်လည်း "ဟ" အပေါ် ဆင့်နိုင်သည်။ ထိုအခါ အက္ခရာရေးသားရာ၌ ဟထိုးအဖြစ် ရှိနေမည်ဖြစ်သည်။

| | ဖို | မ | ဖို | မ | ဖို |
|---|---|---|---|---|---|
| | ပဌမ | ဒုတိယ | တတိယ | စတုတ္ထ | ပဉ္စမ |
| ကဝဂ် | က | ခ | ဂ | ဃ | င |
| စဝဂ် | စ | ဆ | ဇ | ဈ | ဉ |
| ဋဝဂ် | ဋ | ဌ | ဍ | ဎ | ဏ |
| တဝဂ် | တ | ထ | ဒ | ဓ | န |
| ပဝဂ် | ပ | ဖ | ဗ | ဘ | မ |

| အဝဂ် | ယ | ရ | လ | ဝ | သ |
|---|---|---|---|---|---|
| | | ဟ | ဠ | အံ | |

အက္ခရာတူဆင့်ခြင်းကို သဒိသဒ္ွေဘော်ဟု ခေါ်၍ အက္ခရာမတူ ဆင့်ခြင်းကို အသဒိသဒ္ွေဘော်ဟု ခေါ်သည်။ (သဒိသ=တူသော။ အသဒိသ=မတူသော။ ဒ္ွေဘော်=နှစ်လုံး ထပ်ဆင့်ပြုခြင်း။)

သဒ္ဒါသဒ္ဒေတော်=အက္ခရာတူဆင့်ခြင်း

(၁) ပထမအက္ခရာချင်း ဆင့်ပုံ

(အပေါ်စာလုံးကို အသတ်ဟု မှတ်ထား၍ အသံမထွက်ရ၊ အောက်စာလုံးကိုသာ အသံထွက်ရမည်။)

က+က=က္က (သက္က=သိကြားမင်း) (သက်က)

စ+စ=စ္စ (သစ္စ=အမှန်တရား) (သစ်စ)

ဋ+ဋ=ဋ္ဋ (ဝဋ္ဋ=ဝဋ်ဆင်းရဲ) (ဝတ်ဋ)

တ+တ=တ္တ (သတ္တ=သတ္တဝါ) (သတ်တ)

ပ+ပ=ပ္ပ (သပ္ပ=မြွေ) (သပ်ပ)

(၂) တတိယအက္ခရာချင်း ဆင့်ပုံ

ဂ+ဂ=ဂ္ဂ (အဂ္ဂ=အမြတ်) (အက်ဂ)

ဇ+ဇ=ဇ္ဇ (ဇဇ္ဇ=ယနေ့) (အစ်ဇ)

ဍ+ဍ=ဍ္ဍ (အဍ္ဍ=တရားဆိုးဖြတ်ခြင်း) (အတ်ဍ)

ဒ+ဒ=ဒ္ဒ (သဒ္ဒ=အသံ) (သတ်ဒ)

ဗ+ဗ=ဗ္ဗ (သဗ္ဗ=အလုံးစုံ) (သပ်ဗ)

(၃) ပဉ္စမအက္ခရာချင်း ဆင့်ပုံ

ဉ+ဉ=ည (အညမည=အချင်းချင်း) (အင်ဉ မင်ဉ)

ပါဠိဘာသာ၌ "ည"သည် ဉ နှစ်လုံးဆင့်ဖြစ်သည်၊ မြန်မာဘာသာ၌မူ "ည"သည် တစ်လုံးတည်း ဖြစ်သည်။

ဏ+ဏ=ဏ္ဏ (ကဏ္ဏ=နား၊ နားရွက်) (ကန်ဏ)

န+န=န္န (ဆန္န=အဖုံး၊ အမိုး) (ဆန်န)

မ+မ=မ္မ (ကမ္မ=ကံ၊ အမှုကိစ္စ) (ကမ်မ)

(၄) အဝဂ်အက္ခရာတူချင်း ဆင့်ပုံ

ယ+ယ=ယျ (သေယျ=အိပ်ရာ) (သေယ)

လ+လ=လ္လ (ကလ္လ=ခံ့ကျန်း) (ကန်လ)

ဝ+ဝ=ဝွ (ကုဗ္ဗတော=ပြုလုပ်သူအား။ ဝွ-ကို ဗ္ဗ-ပြု)
(ကုပ်ဗတော)

သ+သ=သ္သ (ကဿက=လယ်သမား) (ကတ်သက)

အသဒိသဒွေဘော်=အက္ခရာမတူဆင့်ခြင်း

(၁) ပထမအက္ခရာက ဒုတိယအက္ခရာအပေါ်သို့ ဆင့်ခြင်း

က+ခ=က္ခ (ယက္ခ=ဘီလူး) (ယက်ခ)

စ+ဆ=စ္ဆ (အစ္ဆ=ဝံ) (အစ်ဆ)

ဋ+ဌ=ဋ္ဌ (အဋ္ဌ=ရှစ်)(အတ်ဌ)

ဤဝမ်းဘဲကို လည်ရစ်ထည့်လျှင် နှစ်လုံးဆင့်ဟု မှတ်ရမည်။

တ+ထ=တ္ထ (သတ္ထ=လှည်းကုန်သည်) (သတ်ထ)

ပ+ဖ=ပ္ဖ (ပုပ္ဖ=ပန်း) (ပုပ်ဖ)

(၂) တတိယအက္ခရာက စတုတ္ထအက္ခရာအပေါ်သို့ ဆင့်ခြင်း

ဂ+ဃ=ဂ္ဃ (ဗျဂ္ဃ=ကျား) (ဗျက်ဃ)

ဇ+ဈ=ဇ္ဈ (မဇ္ဈ=အလယ်) (မစ်ဈ)

ဍ+ဎ=ဍ္ဎ (အာကဍ္ဎန=ဆွဲငင်ခြင်း) (အာကတ်ဎန)

ဒ+ဓ=ဒ္ဓ (သဒ္ဓါ=ယုံကြည်ခြင်း) (သတ်ဓါ)

ဗ+ဘ=ဗ္ဘ (လဗ္ဘတိ=ရအပ်၏) (လပ်ဘတိ)

(၃) ပဉ္စမအက္ခရာက ရှေ့လေးလုံးပေါ်သို့ ဆင့်ခြင်း

င+က=င်္က (ဝင်္က=ကောက်ခြင်း) (ဝင်က)

င+ခ=င်္ခ (ကင်္ခါ=ယုံမှားခြင်း) (ကင်ခါ)

င+ဂ=င်္ဂ (မင်္ဂလ=မင်္ဂလာ) (မင်ဂလ)

င+ဃ=င်္ဃ (သင်္ဃ=သံဃာ) (သင်ဃာ)

ဉ+စ=ဉ္စ (ပဉ္စ=ငါးခု) (ပဉ်စ)

ဉ+ဆ=ဉ္ဆ (ဉုဉ္ဆ=ရှာမှီးခြင်း) (ဉုံဆ)

ဉ+ဇ=ဉ္ဇ (အဉ္ဇန=မျက်စဉ်း) (အင်ဇန)

ဉ+ဈ=ဉ္ဈ (ဝဉ္ဈာ=အမြုံမ) (ဝင်ဈာ)

ဏ+ဍ=ဏ္ဍ (ကဏ္ဍက=ဆူး) (ကန်ဍက)

ဏ+ဌ=ဏ္ဌ (ကဏ္ဌ=လည်ချောင်း) (ကန်ဌ)

ဏ+ဍ=ဏ္ဍ (ကဏ္ဍ=အပိုင်း) (ကန်ဍ)

န+တ=န္တ (အနန္တ=အဆုံးမရှိ) (အနန်တ)

န+ထ=န္ထ (ဂန္ထ=ကျမ်းစာ) (ဂန်ထ)

န+ဒ=န္ဒ (ဆန္ဒ=အလို) (ဆန်ဒ)

န+ဓ=န္ဓ (ဂန္ဓ=အနံ့) (ဂန်ဓ)

မ+ပ=မ္ပ (ကမ္ပတိ=တုန်လှုပ်၏) (ကမ်ပတိ)

မ+ဖ=မ္ဖ (သမ္ဖပ္ပလာပ=ပြိန်ဖျင်းသောစကား)
(သမ်ဖပ်ပလာပ)

မ+ဗ=မ္ဗ (အမ္ဗ=သရက်ပင်) (အမ်ဗ)

မ+ဘ=မ္ဘ (သမ္ဘူုလ=မိဖုရား) (သမ်ဘူလ)

(၄) ယအပေါ်သို့ ဆင့်ခြင်း

က+ယ=ကျ (သကျမုနိ=မြတ်စွာဘုရား) (သက်ကျမုနိ)

ခ+ယ=ချ (အာချာတ=အာချာတ်) (အာချာတ)

ဂ+ယ=ဂျ (အာရောဂျ=ကျန်းမာခြင်း) (အာရောက်ဂျ)

ဃ+ယ=ဃျ (မာဃျ=သင်းခွေပန်း) (မာဃယ)

စ+ယ=စျ (သဉ္ဈာ=ဆည်းဆာ) (သင်စယာ)

ဍ+ယ=ဍျ (ကဍျာဒီဟိ ကော) (ကဍယာဒီဟိ)

ဏ+ယ=ဏျ (အာနဏျ=ကြွေးကင်းသူဘဝ) (အာနဏယ)

တ+ယ=တျ (တျာဟံ=တေ+အဟံ) (တယာဟံ)

ဒ+ယ=ဒျ (အဒျ=ယနေ့) (အဒယ)

ဓ+ယ=ဓျ (မဓျ=အလယ်)(မဓယ)

နှ+ယ=နျ (ကနျာ=ကညာ) (ကနယာ)

ပ+ယ=ပျ (လိပျ=ရေးသား၍) (လိပျ)

ဗ+ယ=ဗျ (ဗျာဓိ=အနာရောဂါ) (ဗျာဓိ)

ဘ+ယ=ဘျ (ဘျာဒိဟိ) (ဘယာဒိဟိ)

မ+ယ=မျ (မျာယံ=မေ+အယံ) (မျာယံ)

လ+ယ=လျ (ကလျာဏ=ကောင်းသောသူ) (ကလယာဏ)

သ+ယ=သျ (နိသျ=နိတ်သယ)

ဟ+ယ=ဟျ (ဂါဟျ=အယူခံရသည့်ပစ္စည်း) (ဂါဟယ)

မှတ်ချက်။ ။ယပေါ် သို့ က၊ ခ၊ ဂ၊ ပ၊ ဗ၊ ဘ၊ မ တို့ကို ဆင့်ရာ၌ မြန်မာအသံထွက်နည်းအရ တစ်သံတည်းဖြစ်အောင် ပူးတွဲသွားသည်၊ အခြားလူမျိုးများမှာမူ အသံနှစ်ခု နီးကပ်ရုံမျှသာ ဖြစ်၍ တစ်သံတည်းအဖြစ် ပူးပေါင်းသွားခြင်း မရှိချေ၊ ထို့ကြောင့် ကျကို (ကယ)၊ ချကို (ခယ)၊ ဂျကို (ဂယ)၊ ပျကို (ပယ)၊ ဗျကို (ဗယ)၊ မျကို (မယ)ဟု အသံချင်း နီးကပ်စွာ ထွက်ကြသည်။

(၅) "ရ"ပေါ် သို့ ဆင့်ခြင်း

က+ရ=ကြ (စကြ=စကြာ) (စက္ကြ)

ဂ+ရ=ဂြ (ဂြဟ=ဂြိုဟ်) (ဂရဟ)

တ+ရ=တြ (တတြ=ထိုနေရာ၌) (တတ္တရ)

ဒ+ရ=ဒြ (ဒြဝ=အရည်) (ဒရဝ)

ပ+ရ=ပြ (ပြဘာ=အရောင်) (ပရဘာ)

ဗ+ရ=ဗြ (ဗြဟာ=ကြီးကျယ်သော) (ဗရဟာ)

မ+ရ=မြ (အမြိတ=အမတ) (အမရိတ)

(၆) "လ"ပေါ် သို့ ဆင့်ခြင်း

က+လ=က္လ (က္လေသ=ကိလေသာ) (ကလေသ)

ဖ+လ=ဖ္လ (ပရိဖ္လဝ=ပေါ်လွင်သော) (ပရိဖလဝ)

(ဖ္လဝ=မျော) (ဖလဝ)

(ယ၊ ရ၊ လ တို့အပေါ်သို့ ဆင့်ရာ၌ အပေါ်အလုံးသည် အသတ်အဖြစ် လုပ်ဆောင်ရှိမှုမက အသံပါ ထွက်ရသည်၊ ပါဠိဆင့်နှစ်လုံးစလုံး အသံထွက်ရသည်။)

(၇) "ဝ"ပေါ်သို့ ဆင့်ခြင်း

က+ဝ=က္ွ (က္ွတ္ထော=အဘယ်အကျိုးရှိအံ့နည်း)(ကွတ်ထော)
ခ+ဝ=ခ္ွ (အထခ္ွသာ=အထခေါ်+အသာ)(အထခွတ်သာ)
တ+ဝ=တ္ွ (ကတ္ွာ=ပြုလုပ်၍) (ကတ်တဝါ)
ဒ+ဝ=ဒ္ွ (ဒ္ွါရ=တံခါး) (ဒွါရ)
စ+ဝ=စ္ွ (မစ္ွာသဝ=မုဒရက်သီးစိမ်ရည်) (မစ္ွာသဝ)
န+ဝ=န္ွ (အန္ွေတိ=အစဉ်လိုက်၏) (အန္ွေတိ)
ယ+ဝ=ယ္ွ (ယ္ွာဟံ=ယော+အဟံ) (ယွာဟံ)
သ+ဝ=သ္ွ (သ္ွာဟံ=သော+အဟံ) (သ္ွာဟံ)
ဟ+ဝ=ဟ္ွ (ဗဟ္ွာဗာဓော=ဗဟု+အာဗာဓော)
(ဗဟ္ွာဗာဓော)

(၈) "သ" ဆင့်ခြင်း

သ+တ=သ္တ (ဥတ္တသ္တ=ထိတ်လန့်) (အုတ်တသတ)
သ+န=သ္န (သ္နေဟ=အစေး) (သနေဟ)
သ+မ=သ္မ (ကသ္မာ=အဘယ်ကြောင့်) (ကတ်သမာ)
သ+တ+ရ=သ္တြ (ဘသ္တြာ=သားရေအိတ်) (ဘသတ-ရာ)
(ပါဠိဆင့် နှစ်လုံးစလုံး အသံထွက်ရသည်။)

(၉) "ဟ"ပေါ်သို့ ဆင့်ခြင်း

ဉ+ဟ=ဉှ (ပဉှ=ပြဿနာ) (ပင်ညှ)
ဏ+ဟ=ဏှ (ပုဗ္ဗဏှ=နံနက်အခါ)(ပုပ်ဗန်ဏှ)
န+ဟ=နှ (နှာန=ရေချိုးခြင်း) (နှာန=နဟာန)
မ+ဟ=မှ (အမှ=ငါ၊ တုမှ=သင်) (အမ်မှ၊ တုမ်မှ)

ယ+ဟ=ယှ (ပဂ္ဂယှ=ချီးမြှောက်ခြင်း) (ပက်ဂယ်ယှ)

ဝ+ဟ=ဝှ (အဝှါယတိ=ခေါ်၏) (အဝှါယတိ)

ဠ+ဟ=ဠှ (ရုဠှီ=အမည်) (ရုံလှီ)

**မှတ်ရန်။** ။ဍ္ဎ၊ ဏှ၊ နှ၊ မှ၊ ယှ၊ ဠှ ပါဌ်ဆင့်များ၌ ဍ၊ ဏ၊ န၊ မ၊ ယ၊ ဠ တို့သည် ထက်လုံးတည်းသာ ဖြစ်သော်လည်း နှစ်လုံးဆင့်ကဲ့သို့ ဖြစ်၍ တစ်လုံးကို အသတ်သံထွက်၍ တစ်လုံးကို ဟထိုးသံထွက်ရသည်။

**အသတ်အသံ ထွက်နည်း**

ပထမအက္ခရာ (က၊စ၊ဋ၊တ၊ပ၊) ဖြင့် အသတ်ပြုလုပ်ရာ၌ အသံထွက်နည်းကို နားလည်ကြပြီး ဖြစ်ပါသည်။

ဒုတိယ အက္ခရာ (ခ၊ဆ၊ဌ၊ထ၊ဖ), စတုတ္ထအက္ခရာ (ဃ၊ဈ၊ဎ၊ဓ၊ဘ)ကို အသတ်အဖြစ် အသုံးမပြုကြချေ။

တတိယအက္ခရာ (ဂ၊ဇ၊ဍ၊ဒ၊ဗ)တို့ကို အသတ်အဖြစ် အသုံးပြုနိုင်သည်။ ထိုအခါ မိမိသက်ဆိုင်ရာ ပထမအက္ခရာ အသတ်သံအတိုင်း အသံထွက်ရမည်။

ဥပမာ—

အဇ္ဇ=(အစ်ဇ)ဟု (စ်)သတ်သံဖြင့် ထွက်ဆိုရမည်။

သဗ္ဗ=(သပ်ဗ)ဟု (ပ်)သတ်သံဖြင့် ထွက်ဆိုရမည်။

ပဉ္စမအက္ခရာ (င)နှင့် (ဉ)ကို အသတ်အဖြစ် အသုံးပြုရာ၌ (င်)သတ်သံ ထွက်ဆိုရမည်။ ပဉ္စမအက္ခရာ (ဏ၊န၊မ)တို့ကို အသတ်အဖြစ် အသုံးပြုရာ၌ သေးသေးတင် အသံထွက်ရမည်။

ဥပမာ—

အညာ=အင်ဉ

ဝဏ္ဏ=ဝံဏ

အန္န=အံန

ကမ္မ=ကံမ-ဟု—

အသံထွက်ဆိုရမည်။

ယနှစ်လုံးဆင့်ရာ၌ အပေါ်ယကို (ယ်)သတ်အဖြစ် မှတ်ယူရမည်။

ဥပမာ—

အယျ=အယ်ယ-ဟု–

အသံထွက်ဆိုရမည်။

လနှစ်လုံးဆင့်ရာ၌ အပေါ်လကို သေးသေးတင် အသံထွက်ရမည်။

ဥပမာ—

မလ္လ=မံလ-ဟု–

အသံထွက်ဆိုရမည်။

သနှစ်လုံးဆင့်ရာ၌ ရှေ့ သကို (တ်)သတ်သံ ထွက်ရမည်။

ဥပမာ—

ယဿ=ယတ်သ-ဟု-

အသံထွက်ဆိုရမည်။

ဝဂ္ဂသရနှင့် ဥသရကို (က၊ ဂ၊ စ၊ ဇ) သတ်ရာ၌ (တ်)သတ်သံ ထွက်ရမည်။

ဥပမာ—

တိက္ခ = တိတ်ခ

ဒုက္ခ = ဒုတ်ခ

ဥဂ္ဂါ = ဥတ်ဂါ

ကိစ္စ = ကိတ်စ

ဥစ္စ = ဥတ်စ

ဘိဇ္ဇန = ဘိတ်ဇန

ဥဇ္ဇ = ဥတ်ဇ

ဝဂ္ဂသရနှင့် ဥသရကို ပဉ္စမအက္ခရာ (င၊ ဉ၊ န၊ ဏ၊ မ) တို့ဖြင့် သတ်ရာ၌ (န်)သတ်, (မ်)သတ်အသံ ထွက်ရမည်။

ဥပမာ—

လိင်္ဂ = လိန်ဂ

ကိဉ္စန = ကိန်စန

ထိဏ္ဌ = တိန်ဏ

ဘိန္န = ဘိန်န

တုင်္ဂ = တုန်ဂ

ပုဉ္ဆ = ပုန်ဆ

ပုဏ္ဏ = ပုန်ဏ

စုန္ဒ = စုန်ဒ

ဗိမ္ဗ = ဗိမ်ဗ

ကုမ္ဘ = ကုမ်ဘ

ဣ-သရနှင့် ဥ-သရတို့ကို (ယ၊ လ၊ ဠ)သတ်ရာ၌ (န်)သတ်သံ ထွက်ရမည်။

ဥပမာ—

ဘိယျော = ဘိန်ယော

ယောဘုယျ = ယောဘုန်ယ

ဗိလ္လ = ဗိန်လ

ဝေပုလ္လ = ဝေပုန်လ

ဝိရုဠှ = ဝိရုန်လှ

ဣ-သရနှင့် ဥ-သရတို့ကို (သ်) သတ်ရာ၌ (တ်) သတ်သံ ထွက်ရမည်။

ဥပမာ—

တိဿ = တိတ်သ

ဖုဿ = ဖုတ်သ

ဧ-သရကို (က်၊ ဂ်၊ စ်၊ ဇ်၊ ဋ်၊ ဍ်၊ တ်၊ ဒ်၊ ပ်၊ ဗ်၊ သ်)တို့ သတ်ရာ၌ (ဧ)ကို (စ်)သတ်သည့် အသံ (အစ်သံ) ထွက်ရသည်။

ဥပမာ—

ပါဋ္ဋိယေက္ကံ=ပါဋ္ဋိယစ်ကံ

ဖေဂ္ဂု=ဖစ်ဂု

ပေစ္စ=ပစ်စ

ဆေဇ္ဇ=ဆစ်ဇ

သေဋ္ဌ=သစ်ဌ

ဇေဋ္ဌ=ဇစ်ဌ

လေဍ္ဍု=လစ်ဍု

ဧတ္ထ=အစ်ထ

မေတ္တာ=မစ်တာ

ဒေပ္ပ=ဒစ်ပ

ပေဿ=ပစ်သ

ဧ-သရကို (ဉ်)သတ်ရာ၌ (ဧ)ကို (င်)သတ်သည့် အသံ (အင်) ဟု ထွက်ဆိုရသည်။

ဥပမာ—

အာနေဉ္ဇ=အာနင်ဇ

ဩ-သရကို (က်၊ဂ်၊သ်)သတ်ရာ၌ (အောက်)အသံထွက်ရသည်။

ဥပမာ—

ဩက္ကာက=အောက်ကာက

မောက္ခ=မောက်ခ

မောဂ္ဂလ္လာန=မောက်ဂန်လာန

ယောဂ္ဂ=ယောက်ဂ

ဝေါဿ=ဝေါက်သ

ဩ-သရကို (ဇ၊ဋ္ဌ၊တ်၊ဒ်၊ပ်၊ဗ်) သင်္ဂရာ၌ (အွတ်) အသံထွက်ရသည်။

ဥပမာ—

ပါမောဇ္ဇ=ပါမွတ်ဇ

ဖောဋ္ဌဗ္ဗ=ဖွတ်ဌဗ္ဗ

ဖောဋ္ဌဗ္ဗ=ဖွတ်ဌတ်ဗ

ယောတ္တ=ယွတ်တ

သောတ္တာနံ=သွတ်တာနံ

ပေါတ္ထက=ပွတ်ထက

လောဒ္ဒ=လွတ်ဒ

သောပ္ပ=သွတ်ပ

ယောဗ္ဗန=ယွတ်ဗန

ဩ-သရကို (င်)သတ်လျှင် ရိုးရိုး မြန်မာအသံထွက်တိုင်း (အောင်)ဟု အသံထွက်သည်။

ဥပမာ—

ပေါင်္ခ=ပေါင်ခ

ဩ-သရကို (ဉ်၊န်၊ဏ်၊မ်)သတ်ရာ၌ (ဝ)ဆွဲ(န်)သတ်သံ (အွန်) ဟု ထွက်ဆိုရသည်။

ဥပမာ—

ကောဉ္စ=ကွန်စ

ကောဏ္ဍည=ကွန်ဍည

သောဏ္ဍာ=သွန်ဍာ

ဗောန္ဓိ=ဗွန်ဓိ

ဟောန္တု=ဟွန်တု

သောမ္မ=သွန်မ

ဤတွင် အပိုင်း (၆) ပြီး၏။

# အပိုင်း (၅)

## အခန်း (၂၇)

### ဝေါဟာရအဓိပ္ပါယ်

ခက်ဆစ်ဝေါဟာရများမှာ အောက်ပါအတိုင်း (၅)မျိုး ရှိပါသည်—

(၁) ပါဠိခက်ဆစ် (ပါဠိကို တိုက်ရိုက်သုံးသော စကား)၊

(၂) ပါဠိသက်ခက်ဆစ် (ပါဠိသက် ဝေါဟာရ)၊

(၃) ပေါရာဏခက်ဆစ် (ရှေးသူဟောင်းတို့ အသုံးအနှုန်း)၊

(၄) မြန်မာခက်ဆစ် (အဆီခက်သော မြန်မာစကား)

(၅) အခြားခက်ဆစ် (ဘာသန္တရ အသုံးအနှုန်း)။

ယင်းခက်ဆစ်ဝေါဟာရများကို အောက်ပါ အတိုကောက် အမှတ်အသား များဖြင့် ဖော်ပြထားပါသည်—

(ပါ)=ပါဠိခက်ဆစ်။

(သက်)=ပါဠိသက်ခက်ဆစ်။

(ပေါ)=ပေါရာဏခက်ဆစ်။

(မြန်)=မြန်မာခက်ဆစ်။

(အခြား)=အခြားဘာသာစကားခက်ဆစ်။

မှတ်ချက်။ ။ပါဠိသက် မြန်မာ စသည် ရောနှောနေသော ဝေါဟာရအချို့နှင့် သဒ္ဒါသရုပ်ပြများကိုမူ အမှတ်အသား မပြဘဲ ထားပါသည်။

[ အ ]

အစိန္တေယျ(ပါ)=မကြံစည်နိုင်သော။

အတိဋ္ဌာရုံ(သက်)=အတိ + ဣဋ္ဌ + အာရုံ၊ အတိ=အလွန် + ဣဋ္ဌ=အလိုရှိအပ်သော+အာရုံ=စိတ်၏မွေ့လျော်ရာ။

အထမြောက်(ပေါ)=အောင်မြင်ခြင်း၊ ပြီးမြောက်ခြင်း။

အဓိဋ္ဌာန်(သက်)=အဓိဋ္ဌာန=ဆောက်တည်ခြင်း၊ စိတ်ကို ခိုင်မြဲစွာ ထားခြင်း။

အနုပါဒိသေသနိဗ္ဗာန်(သက်)=ဝိပါက်နာမက္ခန္ဓာ ကမ္မဇရုပ် အကြွင်းမရှိ ချုပ်ငြိမ်းသော နိဗ္ဗာန်။

[ အ ]

**အနုမောဒနာ(ပါ)**=ဝမ်းမြောက်ဖွယ်ဖြစ်သော။

**အနုသယသတ္တိ(ပါ)**=အနုသယ+သတ္တိ၊ အနုသယ=သတ္တဝါတို့ သန္တာန်၌ အဖန်ဖန် အစဉ်တစိုက် ကိန်းအောင်းနေသော ကိလေသာ တရား+သတ္တိ=စွမ်းအား။

**အနေကန္တိက(ပါ)**=မုချမဟုတ်၊ မသေချာ။

**အနန္တတွင်**=အပိုင်းအခြား မရှိသော စကြဝဠာတွင်။

**အနန္တောအနန္တ(ပါ)**=ကျေးဇူးဂုဏ်အားဖြင့် အဆုံးအပိုင်းအခြား မရှိခြင်း။

**အနုပ္ပန္နဓမ္မ(ပါ)**=မဖြစ်ဖူးသောတရား။

**အဖ္ဖိဘာဂ**=အဖို့+ဘာဂ၊ ဘာဂ=ဝေစု။

**အဘိညာဉ်ငါးပါး(သက်)**=အလွန်အကျူး အထူးသိတတ်သော ရူပပဉ္စမစျာန်နှင့် ယှဉ်သော ဉာဏ်ငါးပါး။

(၁) **ဣဒ္ဓိဝိဓ**=တန်ခိုးအမျိုးမျိုး ဖန်ဆင်းနိုင်သော အဘိညာဉ်။

(၂) **ဒိဗ္ဗသောတ**=နတ်တို့၏နား (သောတပသာဒ) ကဲ့သို့ ဝေးသောအသံ, တိုးတိုးအသံကိုလည်း ကြားနိုင်သော အဘိညာဉ်။

(၃) **ပရစိတ္တဝိဇာနန**=သူတပါးစိတ်ကို သိနိုင်သော အဘိညာဉ်။

(၄) **ပုဗ္ဗေနိဝါသာနုဿတိ**=ရှေးရှေးဘဝ၌ ဖြစ်ခဲ့သမျှ အကြောင်းကို ပြန်ပြောင်း၍ အောက်မေ့နိုင်သောအဘိညာဉ်။

(၅) **ဒိဗ္ဗစက္ခု**=နတ်မျက်စိကဲ့သို့ ဝေးသောအဆင်း, သေးငယ်သော အဆင်းကိုလည်း မြင်နိုင်သော အဘိညာဉ်။

**အမတ(ပါ)**=နိဗ္ဗာန်။

**အယုတ္တအနတ္တ(သက်)**=အယုတ္တ = မသင့်လျော်သော + အနတ္တ = အကျိုး မရှိသော။

**အလသမျိုး**=အပျင်းမျိုး။

**အလဟဿ**=အချည်းနှီး အလကား။

**အသင်္ချေအနန္တ(ပါ)**=အသင်္ချေ + အနန္တ၊ အသင်္ချေ=မရေမတွက်နိုင်ခြင်း+ အနန္တ=အဆုံးအပိုင်းအခြား မရှိခြင်း။

[ အ၊ ဣ ]

အဇ္ဈုပ္ပတ္တိ(ပါ)=အဇ္ဈ=အကြောင်းအကျိုး+ဥပ္ပတ္တိ=ဖြစ်ပေါ်မှု။

အပ္ပနာ(ပါ)=ဈာန်သို့ သက်ဝင်၍ တည်ခြင်း။

အာကာသစိုးနတ်=ကောင်းကင်၌ အုပ်စိုးသောနတ်

အာကာသနတ်=ကောင်းကင်၌ တည်သောနတ်။

အာဂန္တုက(ပါ)=ဧည့်သည်။

အာပေါ(ပါ)=ရေ။

အာဂုံတုလွတ်=အာဂုံ+တုလွတ်၊ အာဂုံ=အလွတ်ရခြင်း၊အလွတ်ရွတ်ဆိုနိုင်ခြင်း +တုလွတ်=သူတပါး မတုနိုင်အောင် အလွတ်ရွတ်နိုင်ခြင်း။

အာရမ္မဏူ(ပါ)=အာရမ္မဏူပဈာန်=အာရုံကို ကပ်၍ ရှုခြင်း။

အာလယပြတ်=လိုချင်မှု၊ တွယ်တာမှု မရှိတော့ခြင်း။

အာသဝက္ခယဉာဏ်(သက်)=အာသဝေါတရားတို့၏ ကုန်ကြောင်း ဖြစ်သော အရဟတ္တမဂ်ဉာဏ်။

အာသဝေါ(ပါ)=ယိုစီးတတ်သောတရား (အာသဝေါတရား ၄-ပါး)။

ဣဏပရိဘောဂ(ပါ)=အကြွေးခံယူ၍ သုံးဆောင်ခြင်း။

ဣန္ဒဘုမ္မာ(ပါ)=ဣန္ဒ+ဘုမ္မာ၊ ဣန္ဒ=အစိုးရသူ+ဘုမ္မာ=မြေ၌တည်သောနတ်။ ဘုမ္မစိုးနတ်။

ဣဿာ(ပါ)=မနာလိုခြင်း။

[ ဥ ]

ဥတုဇရုပ်(သက်)=အပူအအေး ဥတုကြောင့် ဖြစ်သောရုပ်။

ဥဒါန်းစကား=ဥဒါန်း+စကား၊ ဥဒါန်း=ဥဒါန=လျှံထွက်ခြင်း= ပီတိကြောင့် ပေါ်ထွက်လာသော ဝမ်းမြောက်သော စကား။

ဥပါသကာ(ပါ)=ရတနာ ၃-ပါးတို့ကို ကိုးကွယ်ဆည်းကပ်သောအမျိုးသား။

ဥပါသိကာ(ပါ)=ရတနာ ၃-ပါးကို ကိုးကွယ်ဆည်းကပ်သော အမျိုးသမီး။

ဥပုသ်ပဝါရဏာ=ဥပုသ်+ပဝါရဏာ၊ ဥပုသ်=သံဃာတော်များ ပြုအပ်သော သံဃာ့ဥပုသ်+ပဝါရဏာ = အပြစ်ရှိက ဆိုဆုံးမရန် သံဃာ အချင်းချင်း ဖိတ်ကြားခြင်း။

[ ဉ၊ ဦး၊ ဧ၊ ဩ ]

ဉက္ကေပနီယကံ(သက်)=နှင်ထုတ်ခြင်းအမှု။

ဉစ္ဆေဒဒိဋ္ဌိ(ပါ)=သေလျှင် ဘဝပြတ်၏ဟု ယူခြင်း။

ဦးချ(မြန်)=ဦး+ချ၊ ဦး=ဦးခေါင်း+ချ=မြေ၊ သို့မဟုတ် ကြမ်းပြင်နှင့် ထိအောင် ပြုခြင်း။

ဧကရာဇ်(သက်)=တစ်ပြည်, တစ်နိုင်ငံကို အစိုးရသော မင်း။

ဧကန္တိက(ပါ)=မုချ၊ သေချာပေါက်။

ဩကာသ(ပါ)=အခွင့်(ခွင့်တောင်းခြင်း)=ရှိခိုးခွင့်၊ ကန်တော့ခွင့်၊ ဆွမ်း ယန်း ကပ်လှူခွင့်၊ သီလခံယူခွင့် ပြုတော်မူပါ။

ဩဇာ(ပါ)=အစာအာဟာရ (အဆီ၊ အစေး)။

ဩတ္တပ္ပ(ပါ)=မကောင်းမှုမှ ကြောက်လန့်ခြင်း။

[ က ]

ကတိ(ပါ)=ဝန်ခံချက်။

ကလျာဏပုထုဇဉ်(သက်)=အကျင့်သီလနှင့် ပြည့်စုံသဖြင့် ကောင်းသော ပုထုဇဉ်။

ကာယပဿဒ္ဓိ(ပါ)=ကာယကံမြောက် ရှိခိုးခြင်း၊ ကိုယ်ဖြင့် ရှိခိုးခြင်း။

ကာယကံ(သက်)=ကိုယ်ဖြင့် ပြုအပ်သော အမှု။

ကာယဒွါရ(ပါ)=ကိုယ်ခန္ဓာတံခါးပေါက်။

ကာယဗလမာန်(သက်) = ကာယ=ကိုယ်+ဗလ=အင်အား+မာန်=မာန= တက်ကြွမှု။

ကုသလ(ပါ)=ကုသိုလ်ကောင်းမှု။

ကော်ရော်=မြတ်နိုးခြင်း။

ကန်ဒေါ့(မွန်)=ကလဒ်=ကလော့=အရှိအသေပြုခြင်း။

ကိုယ်စောင့်နတ်=မိမိ၏ ခန္ဓာကိုယ်ကို စောင့်သောနတ်။

[ က၊ ခ၊ ဂ၊ ဃ ]

(၁) သတ္တဘာဂနတ်=ဖွားစာရေးနတ်။

(၂) အူရဿတီနတ်=ပညာပေးနတ်။

(၃) သကျနတ်=ဥစ္စာပေးနတ်။

(၄) မဟိရာဇာနတ်=အိပ်မက်ပေးနတ်။

(၅) ဝါမသူရနတ်=နိမိတ်ပြနတ်။

(၆) ဇနသူရနတ်=အလှူပေးမှတ်တမ်းတင်နတ်။

(၇) ကရဝါနတ်=ကာမဂုဏ်ချမ်းသာပေးနတ်။

(၈) ယာတိကနတ်=သွားလေရာလိုက်၍ စောင့်ရှောက်သောနတ်။

(၉) ကလျာဏမိတ္တနတ်=စကားကောင်းကို မှတ်သားသောနတ်။

(၁၀) စန္ဒာဒေဝီနတ်=ကျက်သရေစောင့်နတ်။

(၁၁) နရိန္ဒာဒေဝီနတ်=အိပ်သောအခါ ဦးခေါင်းရင်းက စောင့်ပေးသောနတ် (သမန္တ။၈၃)။

ကမ္မဇရုပ်(သက်)=ကံကြောင့် ဖြစ်သောရုပ်။

ကမ္မပထဒေသနာ(ပါ)=ကံမြောက်ကြောင်းဟောသောတရား။

ကမ္မပစ္စယ(ပါ)=ကံအကြောင်းရင်းခံသော။

ကြမ္မာ(သက်)=ကုသိုလ်ကံ၊ အကုသိုလ်ကံ ဟူသောအကြောင်းတရား။

ကြမ္မာငင်=ကံကြမ္မာက ဆွဲဆောင်သည်။

ခတ္တိယ(ပါ)=မင်းမျိုး။

ဂါထာ(ပါ)=ပါဠိကဗျာ။

ဂုဏဝုဒ္ဓိ(ပါ)=ဂုဏ်အားဖြင့် ကြီးသူ။

ဂင်္ဂါဝါဠု=ဂင်္ဂါ+ဝါဠု၊ဂင်္ဂါ=ဂင်္ဂါမြစ်+ဝါဠု=သဲ။

ဂန္ဓ(ပါ)=အနံ့။

ဂမ္ဘီရ(ပါ)=နက်နဲခြင်း။

ဃနာ(ပါ)=အခဲ (နို့ဃနာ)။

[ စ၊ ဆ၊ ဇ ]

စတုသမုဋ္ဌာန် (သက်)=စတု+သမုဋ္ဌာန်၊ စတု=လေးပါး+သမုဋ္ဌာန်=ဖြစ်ပေါ်မှု အကြောင်း။

စနည်းနာ(ပေါ)=စနည်းကို နာယူခြင်း၊ သတ်မှတ်ထားသော အရပ်မှ ရှေးဦးစွာ ကြားရသောစကားကို မှတ်သား၍ အစိပ္ပါယ်ကောက်ခြင်း။

စာဂ (ပါ)=ပေးကမ်းလှူဒါန်းခြင်း။

စိတ္တုပ္ပါဒ် (သက်)=စိတ္တ+ဥပ္ပါဒ၊ စိတ္တ=စိတ်+ဥပ္ပါဒ=ဖြစ်ခြင်း။

စုတိမနေ=သေခြင်း။

စုဏ္ဏိယ (ပါ)=ပါဠိစကားပြေ။

ဆည်းကပ်(ပေါ)=ချဉ်းကပ်ခြင်း၊ ဆုံးမခံယူခြင်း၊ ပညာယူခြင်း။

ဇဝနတိက္ခ(ပါ)=ဇဝန+တိက္ခ၊ ဇဝန=လျင်မြန်ခြင်း+တိက္ခ=ထက်မြက်ခြင်း။

ဇာတာခွင်=မွေးဖွားချိန်ရှိ ဂြိုဟ်နေဂြိုဟ်ထားမှတ်တမ်း။

[ ဈ၊ ဉ ]

ဈာနဘာဝနာ(ပါ)=ဈာန်ကို ပွါးများမှု။

ဈာန်(သက်)=ကသိုဏ်းစသော အာရုံကို ကပ်၍ ရှုကြည့်ခြင်း။

ဉာဏဗလမာန်=ဉာဏ+ဗလ+မာန်=မာန၊ ဉာဏ=ဉာဏ် +ဗလ=အင်အား+ မာန်=မာန=တက်ကြွမှု။

ဉာဏသမ္ပယုတ် (သက်) =ဉာဏ=အသိဉာဏ်နှင့် + သမ္ပယုတ္တ=ကောင်းစွာ ယှဉ်တွဲခြင်း။

ဉာဏဝိပ္ပယုတ် (သက်) = ဉာဏ=အသိဉာဏ်နှင့် + ဝိပ္ပယုတ္တ=မယှဉ်ခြင်း၊ ကင်းကွာခြင်း။

[ ဋ၊ တ ]

ဋ္ဌာရသပေါင်း=အတတ်ပညာ ၁၈-ရပ်အားလုံး။

တေဇဗလမာန်=တေဇ+ဗလ+မာန်(မာန)၊ တေဇ=တန်ခိုးအာဏာ+ဗလ အင်အား+မာန=တက်ကြွမှု။

တေဇော (ပါ)=မီး။

တိတ္ထိ (ပါ)=အယူမှားသောသူ၊ တပါးသော အယူရှိသောသူ။

[ ထ၊ ဒ၊ ဓ၊ န ]

ထေယျပရိဘောဂ (ပါ)=ခိုးယူသုံးဆောင်ခြင်း။

ထုလ္လစ္စဉ်းအာပတ် (သက်)=ထုလ္လစ္စယ=ထုလ္လ+အစ္စယ၊ ထုလ္လ=ရှုန့်ရင်းသော
+အစ္စယ=အပြစ်ရှိသော အာပတ်။

ဒသ (ပါ)=တစ်ဆယ်။

ဒါယဇ္ဇပရိဘောဂ (ပါ)=အမွေပစ္စည်းအဖြစ် သုံးဆောင်ခြင်း။

ဒိဋ္ဌိ (ပါ) =အမြင်၊ အယူ၊ အသိဉာဏ်။

ဒုက္ကရစရိယ (ပါ)=ဒုက္ကရ+ စရိယ+ဒုက္ကရ=ခဲယဉ်းစွာ ပြုအပ်သော+စရိယ=
အကျင့်။

ဒုက္ကဋ်အာပတ် (သက်)=မကောင်းသော ကိုယ်, နှုတ် အမူအရာကြောင့်
သင့်သော အပြစ်။

ဒုက္ခိတ (ပါ)=ဆင်းရဲသော သတ္တဝါ။

ဒုဗ္ဘိက္ခ (ပါ)=ငတ်မွတ်ခေါင်းပါးသော။

ဒေဝပုတ္တ (ပါ)=မာရ်နတ်သား။

ဒေဝါယက္ခ (ပါ)=ဒေဝါ+ယက္ခ၊ ဒေဝါ=နတ်+ယက္ခ=ဘီလူး။

ဒေသစာရီ (ပါ)=ဒေသ= အရပ်မျက်နှာ+စာရီ = လှည့်လည်ခြင်း = အရပ်
အသီးသီးသို့ ခရီးလှည့်လည်ခြင်း။

ဒေါသ (ပါ)=ပြစ်မှားခြင်း၊ အမျက်ထွက်ခြင်း။

ဓမ္မက္ခန် (သက်)=ဓမ္မက္ခန္ဓ=တရားအစုအပေါင်း ပိဋကပါဠိတော်များ။

နပုံးပဏ္ဍုက်=ပဋိသန္ဓေက ကျားမအင်္ဂါ ပါမလာသူ (နပုံသကပဏ္ဍုက်)။

(၁) အာသိတ္တပဏ္ဍုက်=သူတပါး၏ အင်္ဂါဇာတ်ကို ခံတွင်းဖြင့် စုပ်သူ၊
ပန်းစုပ် (အာသိတ္တ=သွန်းလောင်းခြင်း)။

(၂) ဥဿူယျပဏ္ဍုက်=သူတပါးတို့ မေထုန် မှီဝဲသည်ကို ချောင်းကြည့်
ရမှ အာသာပြေသူ။

(၃) ဩပက္ကမိကပဏ္ဍုက်=သင်းကွပ် ခံရသူ၊ ငွေးစေ့ထုတ် ခံရသူ။

[ နါ ပ ]

(၄) ပက္ခပစ္စယုက်=ရှေးအကုသိုလ်ကံကြောင့် လဆန်းရက်၌ ရာဂ အလွန် ပြင်းထန်ပြီး လဆုတ်ရက်၌ ရာဂ အားနည်းသူ၊ လဆုတ်ရက်၌ ရာဂ အလွန် ပြင်းထန်ပြီး လဆန်းရက်၌ ရာဂ အားနည်းလာသူ (ပက္ခ=၁၅-ရက်ပတ်)

နာနာလောက (ပါ)=နာနာ+လောက၊ နာနာ=အမျိုးမျိုး+ လောက= သတ္တဝါအပေါင်း။

နာမကရဏ (ပါ)=အမည်မှည့်ခြင်း။

နိရောဓသမာပတ် (သက်)=နိရောဓ=စိတ်စေတသိက် စိတ္တဇရုပ်များ ချုပ်နေမှု+သမာပတ် = ရောက်ရှိဝင်စားခြင်း၊ နာမ်ခန္ဓာ အစဉ်များရပ်စဲလျက် ရုပ်ခန္ဓာသက်သက် အသက် ရှင်နေခြင်း။

နိယတဗျာဒိတ် (သက်)=မည်သည့်အခါ၌ ဘုရားဖြစ်သတ္တဲ့ ဟု တိတိကျကျ မိန့်ကြားသော ဗျာဒိတ်စကား။ [ဗျာဒိတ်သည် "ဗျာကရဏ" ဟူသော ပါဠိနှင့် နီးနွယ်သည်။]

နိဗဒ္ဓဝတ် (သက်)=အမြဲပြုလုပ်အပ်သော ဝတ္တရား။

နိဿျာနိက (ပါ)=ဝဋ်မှ ထွက်မြောက်ကြောင်း။

နည်းနာနယ=နည်း+နာ+နယ၊ နာ=နာနာ= အမျိုးမျိုး+နယ= နည်း၊ နည်းအမျိုးမျိုး။

ပဒေသရာဇ် (သက်)=တစ်စိတ်တစ်ဒေသကို အစိုးရသောမင်း။

ပဓာန (ပါ)=အဓိကထား၍၊ အကြီးအမှူးပြု၍။

ပစ္စက္ခ (ပါ)=မျက်မှောက်၊ လက်ရှိအနေအထား။

ပစ္စဝေက္ခဏာဉာဏ် (သက်)=ဆင်ခြင်သုံးသပ်သောဉာဏ်။

ပညာ (ပါ)=အရာရာ၌ တတ်သိလိမ္မာခြင်း။

ပညာသိက္ခာ (ပါ)=ပညာတည်းဟူသော အကျင့်။

ပဋိပတ် (သက်)=ကျင့်ဝတ်။

ဝေါဟာရအဓိပ္ပါယ်

[ ပ၊ ဖ၊ ဗ ]

ပဋိသမ္ဘိဒါဉာဏ် (သက်)=ခွဲခြမ်းဝေဖန်၍ သိမြင်သောဉာဏ်။

ပဏာမစေတနာ (ပါ)=ရှိခိုးခြင်းစေတနာ။

ပထဝီ (ပါ)=မြေ။

ပဝေဏီ (ပါ)=အစဉ်အဆက်။

ပဝတ္တိအကျိုး (သက်)=ပဋိသန္ဓေခဏနှင့် စုတိခဏတို့၏ အကြား တစ်ဘဝဘဝ အသက်ရှင်နေစဉ် ခံစားရသောအကျိုး။

ပါစိတ်အာပတ် (သက်)=ပါစိတ္တိယ =ကုသိုလ်စိတ်ကို ကျဆုံးစေတတ်သော အပြစ်။

ပါဋိဒေသနီအာပတ်=သီးခြားဒေသနာ ပြောကြားရသော အာပတ်။

ပါရာဇိကအာပတ် (သက်)=ပါရာဇိက+အာပတ်၊ ပါရာဇိက=သာသနာ့ဘောင်မှ ဆုံးရှုံးစေတတ်သော+အာပတ်=အာပတ္တိ=အပြစ်။

ပီတိပဿဒ္ဓိ (ပါ)=နှစ်သက်ငြိမ်းအေးခြင်း။

ပုည (ပါ)=ကောင်းမှုကုသိုလ်။

ပုညတေဇော် (သက်)=ကောင်းမှုတန်ခိုး။

ပုထုဇဉ် (သက်)=ကိလေသာ များစွာ ဖြစ်သူ။

ပူဇော် (သက်)=ရှိသေကိုင်းညွတ်ခြင်း၊ အမြတ်တနိုး ပေးလှူခြင်း၊

ပံသု (ပါ)=မြေမှုန့်၊

ဖဿ (ပါ)=တွေ့ထိမှု။

ဗလဝဝိပဿနာဉာဏ် (သက်)=ဗလဝ+ဝိပဿနာဉာဏ်၊ ဗလဝ=အလွန်ကောင်း သော + ဝိပဿနာဉာဏ် = ရုပ်နာမ်ခန္ဓာကို အထူးရှုမြင်ပွားများသောဉာဏ်။

ဗဟုသုတ (ပါ)=ဗဟု=များပြားသော+သုတ=အကြား (အမြင်)။

ဗုဒ္ဓမန္တန် (သက်)=ဗုဒ္ဓ+မန္တန်၊ ဗုဒ္ဓ=ဘုရားရှင်၏+မန္တန်=ရွတ်ဖတ်ပူဇော်ရန် ဂါထာ ပါဠိများ။

[ ဗ၊ ဘ ]

**ဗုဒ္ဓါနုဿတိဘာဝနာ** (ပါ)=ဗုဒ္ဓ=ဘုရား+အနုဿတိ = အဖန်ဖန်အောက်မေ့မှု၊ ဘာဝနာ = ပွားများခြင်း၊ ဘုရားဂုဏ်တော်ကို ပွားများခြင်း။

**ဗြဟ္မစိုရ်တရား**=မေတ္တာ, ကရုဏာ, မုဒိတာ, ဥပေက္ခာတရား ၄-ပါး (ဗြဟ္မစရိယ=ဗြဟ္မစိုရ်=မြတ်သောအကျင့်)။

**ဗြာဟ္မဏ** (ပါ)=အကျင့်ဖြူစင်သောသူ။

**ဘဝကန္တာရ** (ပါ)=ဘဝတည်းဟူသော ခရီးကြမ်း။

**ဘုရားလျှာ**=ဘုရားလောင်း။

**ဘောဂဗလမာန်**=စည်းစိမ်အင်အားထက်ကြွမှု။

**ဘောဇဉ်** (သက်)=ဘောဇန=စားဖွယ်၊ ထမင်းနှင့် ဟင်းလျာများ။

**ဘတ္တကြိန်း** (သက်)=ဘတ္တ+ကြိန်း၊ ဘတ္တ=ထမင်း(စား)+ကြိန်း=သုံး။

**ဘုန်းသမ္ဘာ**=ဘုန်း=ဘုန်းကံ+သမ္ဘာ=သမ္ဘာရ=အဆောက်အဦ၊ ပါရမီ။

**ဘုမ္မစိုးနတ်**=မြေ၌ တည်သောနတ်။

**ဘုံကိုးဝနှင့်**=ဘုံကိုးပါး၊ ဿတ္တာဝါသ ၉-ပါး။

(၁) **နာနတ္တကာယ, နာနတ္တသညီ**=ကိုယ်သဏ္ဌာန် လည်း အမျိုးမျိုး၊ ပဋိသန္ဓေစိတ်လည်းအမျိုးမျိုးရှိသော ဘုံ (လူ့ဘုံ၊ နတ်ပြည်ခြောက်ထပ်)၊

(၂) **နာနတ္တကာယ, ဧကတ္တသညီ**=ကိုယ်သဏ္ဌာန် အမျိုးမျိုးရှိ၍ ပဋိသန္ဓေစိတ် တစ်မျိုးသာ ရှိသောဘုံ (အပါယ်လေးဘုံ၊ ပဌမဈာန်သုံးဘုံ)။

(၃) **ဧကတ္တကာယ, နာနတ္တသညီ**=ကိုယ်သဏ္ဌာန် အထွေအထူးမရှိ တူ၍ ပဋိသန္ဓေစိတ် နှစ်မျိုး ရှိသောဘုံ (ဒုတိယဈာန်သုံးဘုံ)။

[ ဘ၊ မ ]

(၄) **ဧကတ္တကာယ ဧကတ္တသညီ**=ကိုယ်သဏ္ဍာန်လည်းတူ ပဋိသန္ဓေစိတ်လည်း တစ်မျိုးသာ ရှိသောဘုံ (တတိယဈာန်သုံးဘုံ၊ ဝေဟပ္ဖိုလ်ဘုံ၊ သုဒ္ဓါဝါသဘုံ)။

(၅) **အသညီ အပ္ပဋိသံဝေဒီ**=သညာမရှိ အာရုံခံစားမှု မရှိသော သတ္တဝါတို့၏ နေရာဘုံ(အသညသတ်ဘုံ)။

(၆) **အာကာသာနဉ္စာယတန**=ကောင်းကင်ပညတ်ကို အာရုံပြုသော ဈာန်စိတ်ကြောင့် ရောက်သောသတ္တဝါတို့၏နေရာဘုံ။

(၇) **ဝိညာဏဉ္စာယတန**=ပဌမာရုပ္ပဝိညာဉ်ကို အာရုံပြု၍ ဝိညာဉ်သည် အဆုံးမရှိဟု ပွားများသဖြင့် ရောက်သော သတ္တဝါတို့၏ နေရာဘုံ။

(၈) **အာကိဉ္စညာယတန**=ပဌမာရုပ္ပဝိညာဉ်၏ မရှိခြင်း နတ္ထိဘော ပညတ်ကို အာရုံပြု၍ တစ်စုံတစ်ခုမျှ မရှိဟု ပွားများသဖြင့် ရောက်အပ်သော သတ္တဝါတို့၏ နေရာဘုံ။

(၉) **နေဝသညာနာသညာယတန**=သညာရှိသည်လည်း မဟုတ်၊ မရှိသည်လည်း မဟုတ်ဟု ပွားများသဖြင့် ရောက်သော သတ္တဝါတို့၏ နေရာဘုံ။

**ဘုံသုံးဆယ့်တစ်**=ကာမ ၁၁-ဘုံ၊ ရူပ ၁၆-ဘုံ၊ အရူပ ၄-ဘုံ။

**မနောဓာတ်(သက်)**=မနော+ဓာတ်၊ မနော=စိတ်+ဓာတ်=ဓာတု=တည်ရာ၊ သဘောတရား။

**မနသိကာရ**ဥပါယ်=မနသိ+ဥပါယ်၊ မနသိ=အမြဲ+ဥပါယ်=ဥပါယ=အကြောင်း၊ စီရင်ခြင်း။

**မဟာကရုဏာ** (ပါ)=မဟာ+ကရုဏာ၊ မဟာ=ကြီးမားသော+ကရုဏာ=သနားခြင်း။

**မဟာကုသိုလ်**(သက်)=မဟာ=များသော၊ ကုသိုလ် = ကုသလ=ကောင်းမှု။

[ မ၊ ယ၊ ရ၊ လ ]

**မဟာကန္တာရ** (ပါ)=မဟာ+ကန္တာရ၊ မဟာ = ကြီးစွာသော + ကန္တာရ= ခက်ခဲသောခရီး၊ ခက်ခဲပင်ပန်းစွာ သွားရသောခရီး။

**မုဒိတာ**=ဝမ်းမြောက်ခြင်း။

**မေထုန်** (သက်)=မေထုန်=မေထုန=တပ်မက်ချင်း တူသူနှစ်ဦးတို့၏ ကိစ္စ။

**မာန်မာန**(ပါ)=ထောင်လွှားတက်ကြွဘဝင်မြင့်ခြင်း။

**မစ္ဆရိယ**(ပါ)=နှမြောတွန့်တိုခြင်း။

**မိစ္ဆာဒိဋ္ဌိ**(ပါ)=မိစ္ဆာ+ဒိဋ္ဌိ၊ မိစ္ဆာ=မှားယွင်းသော+ဒိဋ္ဌိ=အမြင် အယူဝါဒ။

**မြို့စုဏ်** =မြို့+စုဏ်=စုဏ္ဏ=အမှုန့်=မြို့မှုန့်။

**ယမရာဇာ**(ပါ)=ယမမင်း၊ လူတို့၏ ကောင်း, မကောင်းကို မှတ်သားသော ငရဲမင်း။

**ယောနိလေးထွေ**(သက်)=ယောနိ=ပဋိသန္ဓေ=ပဋိသန္ဓေလေးမျိုး။

**ယဇ်ပူဇော်**(သက်)=ယဇ်=ပူဇော်၊ ယဇ်=ယဇ=ပူဇော်ပသခြင်း=ပြဟ္မဏ ဝါဒီ စသူတို့အန္တရာယ် ကင်း၍ ကောင်းကျိုးရရန်အတွက် သူ့အသက် သတ်၍ နတ်တို့အား ပူဇော်ခြင်း။

**ရတနာ**= နှစ်သက်မြတ်နိုးဖွယ်ရာဖြစ်သော၊ ရှားပါး၍ အဖိုးတန်သောပစ္စည်း။

**ရသ**(ပါ)=အရသာ။

**နေဝင်ရီတရော**(ပေါ်)=နေဝင်ပြီးခါစ၊ မှောင်စပျိုးချိန်။

**ရှက္ခစိုးနတ်**=သစ်ပင်၌ တည်သောနတ်။

**ရူပကာယ**(ပါ)=ရုပ်အဆင်း၊ ကိုယ်ခန္ဓာ။

**ရူပနိကာယ်**(သက်)=ရူပ+နိကာယ၊ ရူပ= ရုပ်ရည်+နိကာယ်= နိကာယ= အပေါင်း။

**ရန်စပင်း**=ရန်ခပ်သိမ်း၊ ရန်အားလုံး။

**ရှိခိုး**(ပေါ်)=ဦးချခြင်း။

**လက္ခဏာ**(ပါ)=အမှတ်အသား။

**လက္ခဏာယာဉ်** (သက်)=လက္ခဏာ + ယာန၊ လက္ခဏာ=အမှတ်အသား၊ ယာန=ယာဉ်=လမ်းကြောင်း။

[ လ၊ ဝ ]

**လက္ခဏ္ဍူ**(ပါ)=လက္ခဏ္ဍုပချာန်=အာရုံကို ကပ်၍ ရှုခြင်း။

**လိပ်ခွံတံတစ်**=တံတစ်(ပေါ်)=ကွဲသို့ သဖွယ်။

**လုလ္လပယောဂ**=လုလ္လ(ပေါ်)+ပယောဂ(ပါ)၊ လုလ္လ=ကြိုးစားအားထုတ်ခြင်း +ပယောဂ=ကြိုးစားအားထုတ်ခြင်း။

**လောကုတ္တရာ**(ပါ)=လောကထက် မြတ်သော၊ လောကမှ ထွက်မြောက်ရာ ဖြစ်သော။

**လောဘ**(ပါ)=လိုချင်တပ်မက်ခြင်း။

**ဝစီဝိညတ်** (သက်)=နှုတ်ဖြင့် သိစေခြင်း။

**ဝစီပဏာမ**(ပါ)=နှုတ်ဖြင့်ရှိခိုးခြင်း။

**ဝယဝုဍ္ဍိ**(ပါ)=အသက်အရွယ်အားဖြင့် ကြီးသူ။

**ဝသုန္ဓရေ**(ပါ)=ရတနာတို့တည်ရှိရာ မြေကြီး။

**ဝဏ္ဏ**(ပါ)=အဆင်း။

**ဝတ္ထုကိလေ**(ပါ)=ဝတ္ထု+ကိလေ၊ ဝတ္ထု=ဝတ္ထုကာမ=နှစ်သက်ဖွယ် အာရုံ ငါးပါး အသုံးအဆောင်များ၊ ကိလေ=ကိလေသာကာမ=အာရုံ ငါးပါးကို တပ်မက်စွဲလမ်းတတ်သော တဏှာ(လောဘ)။

**ဝါယော**(ပါ)=လေ။

**ဝိသဘာဂ**(ပါ)=သဘောမတူသော။

**ဝိညာဏဋ္ဌိတိ**=ဝိညာဏ+ဌိတိ၊ ဝိညာဏ=ပဋိသန္ဓေဝိညာဉ်၊ ဌိတိ=တည်နေရာ။

**ခုနစ်ပါး**=ပဋိသန္ဓေစိတ်ဝိညာဉ် တည်ရှိရာဘုံ ခုနစ်မျိုး (ဘုံ ၉-ပါးတွင် အသညီအပ္ပဋိသံဝေဒီ=သညာမရှိ အာရုံခံစားမှု မရှိသော သတ္တဝါ တို့၏ နေရာဘုံ(အသညသတ်ဘုံ)နှင့် နေဝသညာနာသညာယတန= သညာရှိသည်လည်း မဟုတ် မရှိသည်လည်းမဟုတ်ဟု ပွားများသဖြင့် ရောက်သောဘုံ ၂-ပါး ချန်၍ ကျန်တုံ ၇-ပါး။

**ဝိပါက်စိတ်**(သက်)=အကျိုးဖြစ်သောစိတ်။

[ ဝ ၊ သ ]

ဝိပါက်ဝိညာဉ်(သက်)=အကျိုးဖြစ်သောစိတ်။
ဝေနေယျ(ပါ)=ဆုံးမထိုက်သူ၊ ကျွတ်ထိုက်သူ။
ဝေဒနာ(ပါ)=ခံစားမှု။
ဝေဒယိတသုခ (ပါ)=ခံစားအပ်သော ချမ်းသာ။
ဝေါဟာရပညတ် (သက်)=ဝေါဟာရ+ပညတ်၊ ဝေါဟာရ=စကား၊ အခေါ် အဝေါ်၊ အမည် + ပညတ် = အပြားအားဖြင့် သိစေခြင်း။
ဝတ်တက်=နေ့စဉ်မပြတ် ဘုရားရှိခိုးခြင်း။
သတိပဋ္ဌာန်ဘာဝနာ=သတိပဋ္ဌာန်တရားကို ပွါးများမှု။
သတိသမ္ပဇဉ် (သက်)=သတိ+သမ္ပဇဉ်၊ သတိ=ကုသိုလ်ကိစ္စကို အမှတ်ရမှု+ သမ္ပဇဉ်=ပညာဖြင့် ဆင်ခြင်ခြင်း။
သဘာဝသတ္တိ (ပါ)=သဘာဝ+သတ္တိ၊ သဘာဝ=ပင်ကိုအတိုင်း အမှန်အတိုင်း ဖြစ်သော+သတ္တိ=စွမ်းရည်စွမ်းအား။
သမသီသီရဟန္တာ (သက်) =အရဟတ္တဖိုလ်လည်း ရ၊ အသက်လည်း ကုန်သော ရဟန္တာ။
သမဏ (ပါ)=ရဟန်း။
သမာဓိသိက္ခာ(ပါ)=သမာဓိ တည်းဟူသော အကျင့်။
သမာပတ် (သက်)=ကောင်းစွာ ရောက်ခြင်း၊ ဝင်စားခြင်း။
သမာပတ် (၈)ပါး (သက်)=ဈာန်တရားရှစ်ပါးသို့ ကောင်းစွာ ရောက်ခြင်း။ ဈာန်ဝင်စားခြင်း၊ (စတုက္ကနည်းအားဖြင့် ရူပဈာန် ၄-ပါးနှင့် အရူပဈာန် ၄-ပါးကို သမာပတ်ရှစ်ပါးဟု ခေါ်သည်။)
သရဏ္ဍာယ်ခြင်း(သက်)=သဇ္ဈာယ (ပါ)=ကိုယ်တိုင် ရွတ်ဆိုခြင်း ၊စီးဖြန်းခြင်း။
သာကီဝင် (သက်)=သာကိယ =ဂေါတမဗုဒ္ဓ၏ ဆွေတော် မျိုးတော်ဖြစ်သော သာကီဝင်မင်းမျိုး မင်းနွယ်များ။
သာမိပရိဘောဂ (ပါ)=ပိုင်ရှင်အဖြစ် သုံးဆောင်ခြင်း။
သာသနာတွင်း=ဗုဒ္ဓသာသနာ ရှိသော ကာလ။

[ သ ]

သာသနာပ = ဗုဒ္ဓသာသနာ ကွယ်သော ကာလ။
သီလာ(ပါ)=ကျောက်ဆိုင်၊ ကျောက်မီး၊ ကျောက်တုံး။
သီလသိက္ခာ=သီလတည်းဟူသော အကျင့်။
သုစရိတ(ပါ)=သုစရိုက်တရား။
သုခိတ(ပါ)=ချမ်းသာသော သတ္တဝါ။
သုတ(ပါ)=အကြားအမြင် ဗဟုသုတရှိခြင်း။
သက္ကာရ(ပါ)=အရိုအသေပြုခြင်း။
သက်မှတ်(မြန်)=မွေးနေ့သက္ကရာဇ်ကို မှတ်သားသည့် စာတမ်းမှတ်စာ။
သတ္တာဝါသ(ပါ)=သတ္တ+အာဝါသ၊သတ္တ=သတ္တဝါ+အာဝါသ=နေရာဌာနဘုံ။
သတ္တော်(သက်)=ခုနစ်ခေါက်။
သန္တိသုခ(ပါ)=ငြိမ်းအေးချမ်းသာခြင်း။
သဒ္ဓါ(ပါ)=ရတနာသုံးပါးနှင့် ကံ၊ကံ၏အကျိုးစသည်ကို ယုံကြည်ခြင်း။
သဒ္ဓမ္မ(ပါ)=သူတော်ကောင်းတရား။
သန္တာန်(သက်)=သန္တာန=အစဉ်(စိတ်အစဉ်)။
သပ္ပါယ်(သက်)=သပ္ပါယ=သင့်လျော်လျောက်ပတ်ခြင်း၊ လျပတင့်တယ်ခြင်း။
သဗ္ဗဓယမင်္ဂလာ(ပါ)=အလုံးစုံအောင်မြင်မှုမင်္ဂလာကို ရရှိနိုင်သော ဂါထာ။
သဗ္ဗတ္ထက(ပါ)=သဗ္ဗ+အတ္ထ+က၊ သဗ္ဗ=အလုံးစုံ+အတ္ထ=အကျိုး+က=ရှိ
အလုံးစုံအကျိုးရှိသော ကမ္မဋ္ဌာန်း။
သဗ္ဗေ သတ္တာ(ပါ) = သဗ္ဗေ+သတ္တာ၊ သဗ္ဗေ=အလုံးစုံကုန်သော+သတ္တာ=
သတ္တဝါများ။
သဗ္ဗညုတဉာဏ်တော်(သက်)=အလုံးစုံကို သိတော်မူသော ဉာဏ်တော်။
သမ္ဘူတ(ပါ)=ကောင်းစွာ ဖြစ်ခြင်း။
သမ္မပ္ပဓာန်(သက်)=လုံ့လဝီရိယ ကြိုးစားအားထုတ်မှု။
သမ္မာအာဇီဝ(ပါ)=ကောင်းစွာ အသက်မွေးမှု။
သမ္မာပဋိပတ်(သက်)=သမ္မာ+ပဋိပတ်၊သမ္မာ=ကောင်းစွာ+ပဋိပတ်= ဆော ကျင့်

